

# GWEN BRISTOW

## DEEP SUMMER, THE HANDSOME ROAD, THIS SIDE OF GLORY

## တင်မောင်မြင့်

နွေကန္တာ၊
မြူကတ္တီပါလမ်းမှသည်
မဟာရံတံတိုင်းဆီသို့

# နွေကန္တာ၊
# မြကတ္တီပါလမ်းမှသည်
# မဟာရံတံတိုင်းဆီသို့


တင်မောင်မြင့်


---

**Deep Summer,**

**The Handsome Road,**

**This Side of Glory**


**Gwen Bristow**



Whisper Of Words

# ပုံနှိပ်မှတ်တမ်း

ထုတ်ဝေသည့်အကြိမ် - ပထမအကြိမ်၊ ၂၀၁၇ ခုနှစ်၊ နိုဝင်ဘာလ၊ ဥတ္တရလမင်းစာပေ။ ဒုတိယအကြိမ်၊ ၂၀၂၄ ခုနှစ်၊ ဇူလိုင်လ၊ လင်းလွန်းခင်စာပေ။

အုပ်ရေ - ၅၀၀

မျက်နှာဖုံးပန်းချီ - ဇော်မောင်

ထုတ်ဝေသူ - ဒေါ်ခင်ဝင်းစိန်၊ လင်းလွန်းခင်စာပေတိုက် (၀၃၃၂၇) တိုက် (10/ D)၊ ပထမထပ်(လယ်)၊ လိပ်ကန်လမ်း၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ ဖုန်း-၀၉ ၂၂၀၁၇၃၀၊ ၀၉၂၅၄၅၅၀၈၆၃

ပုံနှိပ်သူ - ဦးလင်းဇာနည်၊ သီရိဂုဏ်ဝေပုံနှိပ်တိုက် (၀၁၄၃၇) အမှတ် (၁၂- အက်ဖ်)၊ ၅၄ လမ်း၊ ၂ ရပ်ကွက်၊ ပုဇွန်တောင်မြို့နယ်၊ ရန်ကုန်မြို့။ ဖုန်း-၀၉ ၂၅၂၉၃၄၅၆၆၊ ၀၉ ၄၄၃၁၁၃၆၄၇

စာအုပ်ချုပ် - ပြည့်စုံဝင်း (ခ) ကိုအာမက် အမှတ် (၄၄)၊ လမ်း ၉၀၊ ကန်တော်ကလေး၊ မင်္ဂလာတောင်ညွန့်မြို့နယ်၊ ရန်ကုန်မြို့။ ဖုန်း- ၇၈၂၁၂၀၂၁၅၊ ၀၉ ၄၂၀၇၇၅၇၈၂

တန်ဖိုး - ၃၈၀၀၀ ကျပ်။

၈၉၄.၈၅ တင်မောင်မြင့် နွေကန္တာ၊ မြကတ္တီပါလမ်းမှသည် မဟာရံတံတိုင်းဆီသို့/ တင်မောင်မြင့် - ရန်ကုန်၊

လင်းလွန်းခင်စာပေတိုက်၊ ၂၀၂၄။

၉၉၄-စာ၊ ၁၅-၂၅ × ၂၂.၈၅ စင်တီ။

(၁) နွေကန္တာ၊ မြကတ္တီပါလမ်းမှသည် မဟာရံတံတိုင်းဆီသို့

# About Us




ကျွန်တော်တို့အဖွဲ့သည် မြန်မာနိုင်ငံအတွင်းက e-Books Reader အသုံးပြုသူများနှင့် Digital Devices တွေမှာ စာဖတ်သူများ အတွက် မြန်မာစာအုပ်များကို ဖတ်ရှုနိုင်စေရန် ကူညီပေးဖို့ ရည်ရွယ် ဖွဲ့စည်းထားသော အဖွဲ့ ဖြစ်ပါသည်။

တိုးတက်လာသော နည်းပညာများအရ e-books Reader အသုံးပြုသူများလည်း များပြားလာပြီ ဖြစ်သော်လည်း နိုင်ငံတွင်းမှတော့ e-books Reader အသုံးပြုသူများ အတွက် မြန်မာစာအုပ် ဖတ်ရှုနိုင်ရန် အလွန် ခက်ခဲလျက်ရှိသည်။

ထို့ပြင်လက်ရှိမှာလည်း မြန်မာစာအုပ်များကို Digital နည်းဖြင့် ဖြန့်ဝေမှု လုံးဝ မရှိသလောက် ဖြစ်သည်။

ထိုအခက်ခဲများကိုကျနော်တို့တတ်နိုင်သည့်ဘက်မှကူညီပေးနိုင်ရန် ရည်ရွယ်ပြီး ပြုလုပ်ထားခြင်းဖြစ်ပါသည်။

## “စာရေးဆရာများနှင့် စာပေထုတ်လုပ်ရေးများသို့ ပန်ကြားချက်”

စာပေထုတ်ဝေသူတို့နှင့် ဆရာ၊ ဆရာမများ အနေဖြင့် မြန်မာနိုင်ငံအတွင်းက e-Books Market အတွက်ကိုလည်း ဖြည့်ဆည်း ပေးနိုင်ရန် အကြံပြုလိုပါသည်။ eBooks Digital Market ဟာ မြန်မာနိုင်ငံမှာ ကြီးမားစွာ ရှိနေပါပြီ။

Digital Product ဖြစ်သည့်အတွက် ဆရာ၊ ဆရာမများ အတွက်လည်း ပိုမိုအကျိုးများပါသည်။

ကျွန်ုပ်တို့ ယခုကဲ့သို မူပိုင်ခွင့် ချိုးဖေါက်နေမှုများကိုလည်း လိုအပ်ချက်အရဟု နားလည် ခွင့်လွှတ်ပေးပြီး စာချစ်သူ၊ စာဖတ်သူများ ဆီသို့ တစ်နည်းနည်းနှင့် ပို့ပေးနေသည်ဟု နားလည် ပေးကြပါရန် ပန်ကြား တောင်းဆိုအပ်ပါသည်။

## “စာဖတ်သူများသို့ ပန်ကြားချက်”

စာဖတ်သူများသို့ ပန်ကြားလိုသည်မှာ eBook ဖတ်ပြီးလို့ “ကြိုက်နှစ်သက်တယ်” စာရေးသူများအား “အသိမှတ် ပြုသင့်တယ်” လို့ ယူဆပြီး ဖတ်ပြီးသွားလျှင်တောင် လက်လှမ်းမှီပါက မူရင်းစာအုပ်ကို ဝယ်ယူ အားပေးကြပါ။

စာအုပ်များဝယ်ယူမှု မရှိလျှင် မိမိကြိုက်သော ဆရာ၊ ဆရာမတို့ နောက်ထပ် နောက်ထပ်သော ဖန်တီးမှုတို့ ပြုလုပ်ရန် ခက်ခဲပါလိမ့်မည်။ ထိုအခါ စာချစ်သူ၊ စာဖတ်သူများနှင့် မြန်မာနိုင်ငံ စာပေလောက အတွက် အနာဂတ် ကလေးငယ်များ အတွက် များစွာ နစ်နာကြပါလိမ့်မည်။

ကျွန်တော်တို့ အဖွဲ့သားများဆိုလျှင်လည်း (Ebook ရှိလျှင်) Ebook များကို အခိက ဖတ်ကြပါသည်။

ပြီးလျှင် စာရေးဆရာတို့အား “အသိမှတ်ပြုသောအားဖြင့်” တစ်ခုတည်းကို ရည်ရွယ်ပြီး စာအုပ် ဝယ်လိုက်တာတွေ များစွာရှိပါသည်။

ထို့ကြောင့် လက်လှမ်းမှီပါက မိမိကြိုက်နှစ်သက်သော ဆရာ၊ ဆရာမတို့၏ မူရင်းစာအုပ်များကို ဝယ်ယူ အားပေးကြဖို့ တိုက်တွန်းပါသည်။

**အခကြေးငွေဖြင့် ရောင်းချခြင်း မပြုရ**

## About Author



### တင်မောင်မြင့် (စာရေးဆရာ)

ဧရာဝတီတိုင်း ဟင်္သာတခရိုင် စစ်ကျွန်းရွာတွင် အဖဦးမောင်ဒွေး၊ အမိဒေါ်ကျော့စိန်တို့က ၁၉၃၆ ခုနှစ်၊ စက်တင်ဘာလ ၁၉ ရက်နေ့တွင် မွေးဖွားခဲ့သည်။ ရန်ကုန်မြို့၊ ရေကျော်ဦးမောင်မောင် အလွတ်ပညာသင်ကျောင်းတွင် အလယ်တန်းအောင်ပြီး တောင်ကြီးမြို့၊ အစိုးရအထက်တန်းကျောင်း (ယခု အထက-၁)မှ ၁၉၅၈ ခုနှစ်တွင် တက္ကသိုလ်ဝင်တန်းအောင်သည်။

### စာပေလောကသားဘဝ

၁၉၆၁ ခုနှစ်တွင် ဘီအိုစီကုမ္ပဏီ (ယခု MOGE)တွင် အလုပ်ဝင်ပြီး ၁၉၉၄ - ခုနှစ်တွင် ငွေစာရင်းအရာရှိအဖြစ်နှင့် အငြိမ်းစားယူသည်။ ၁၉၈၅ ခုနှစ်တွင် သည်းဦးပန်းမဂ္ဂဇင်းအယ်ဒီတာအဖွဲ့ဝင်၊ ၁၉၈၈ ခုနှစ်တွင် အထောက်တော် လှအောင်၏ သတင်းမဂ္ဂဇင်းတွင် ဒုတိယ အယ်ဒီတာချုပ် တာဝန်များ ထမ်းဆောင်ခဲ့သည်။

### ထုတ်ဝေခဲ့သော စာအုပ်များ

၁၉၈၃ ခုနှစ်တွင် နာမည်ရင်းဖြင့် ငွေကျွန် (World Rapers by Jonathan Black) ကိုမြတ်ငြိမ်းနှင့် တွဲပြီးဘာသာပြန်ခဲ့သည်။

ယနေ့အထိ

- သံယောဇဉ်ကမ်းခြေ(၁၉၈၃) (Man on Fire by A.I. Quinnell)၊
- အချစ်၏အခြားသော မျက်နှာစာ(၁၉၈၃)(Rendezvons by Evelyne Anthony)၊
- ငယ်စာရင်းဝင်ဖို့ (၁၉၈၄) (Not as a Stranger by Morton Thompson)
- သံမဏိလိပ်ပြာ (၁၉၈၇) (Philadeiphian by Richard Powell)
- အရိပ်မဲ့ရုပ်ပုံလွှာ (၁၉၈၅) (Snap Shot by A.J. Quinnell)
- မဟာရံတံတိုင်းကို ဖြတ်ကျော်ခြင်း (၁၉၈၅) (This Side of Glory by Gwan Bristow)
- မေတ္တာရှာပုံတော် (၁၉၈၅) (Where Love has Gone by Herold Robin)
- တမ်းတတက်သည် (၁၉၈၅) (Remenberance by Dannielle Steel)
- အချစ်များစွာနဲ့ဆရာ (၁၉၈၇) (To Sir With Love by E. R. Branthwaite)
- နွေကန္တာ (၁၉၈၈) (Deep Summer by Gwen Bristow)
- မာနမီးလျှံ (၁၉၉၉) (Body of Love by Charles Keats)
- မဒမ်ကျူရီ (၂၀၀၁) (Madame Curie by Eve Curie)
- လေရဟတ်နီ (၂၀၀၄) (Moulin Rouge by Pierre la Mure)
- တောင်ပံမဲ့သင်းကွဲတေးဆိုငှက် (၂၀၀၄) (To Kill a Mocking Bird by Harper Lee)

- စကားလက် (၂၀၀၆) (Scarlett by A Lexandra Ripley)

အပါအဝင် ဘာသာပြန်စာအုပ်ပေါင်း (၄၅) အုပ်ကို ရေးသားခဲ့သည်။

အမျိုးသားစာပေဆုကို (၅)ကြိမ်တိုင်တိုင် ရရှိထားပြီး (၂၀၁၈ ခုနှစ်)အတွက် အမျိုးသားစာပေ တစ်သက်တာဆု ကိုပါ ရရှိထားသူဖြစ်ပါတယ်။

ရရှိထားတဲ့နှစ်အလိုက်အမျိုးသားစာပေဆုရစာအုပ်များမှာ-

- ၂၀၀၁ ခုနှစ် အမျိုးသားစာပေဆု(ဘာသာပြန်၊သုတ)-မဒမ်ကျူရီ
- ၂၀၀၄ ခုနှစ် အမျိုးသားစာပေဆု(ဘာသာပြန်၊ရသ)-တောင်ပံမဲ့သင်းကွဲတေးဆိုငှက်
- ၂၀၀၇ ခုနှစ် အမျိုးသားစာပေဆု(ဘာသာပြန်၊ရသ)-အနက်ရောင်အိပ်မက် စိမ်းမြမေတ္တာ
- ၂၀၁၁ ခုနှစ် အမျိုးသားစာပေဆု(ဘာသာပြန်၊ရသ)-မျှော်
- ၂၀၁၂ ခုနှစ် အမျိုးသားစာပေဆု(ဘာသာပြန်၊ရသ)-ပြစ်မှုနှင့်ပြစ်ဒဏ်

တို့ဖြစ်ကြပါတယ်။

ထ ထ ထ

# မာတိကာ



# GWEN BRISTOW

## DEEP SUMMER,
## THE HANDSOME ROAD,
## THIS SIDE OF GLORY

# တင်မောင်မြင့်

နွေကန္တာ

မြကတ္တိပါလမ်းမှသည်

မပကာရုံတံတိုင်းဆီသို့

# နွေကန္တာ၊ မြကတ္တီပါလမ်း နှင့် မဟာရံုတံတိုင်းကို ဒုတိယအကြိမ် ပရိကံပြုခြင်း

## (၁)

သည်သုံးတွဲပေါင်းကို ပထမအကြိမ် ဥတ္တရလမင်းမှ ထုတ်ဝေစဉ်က တအုပ်ချင်းမှာ အမှာစာတွေ ရေးခဲ့ပါသည်။ ဒုတိယအကြိမ် ထုတ်မည့် လင်းလွန်းခင်က အမှာစာကို ရေးပေးစေချင်ကြောင်း ပြောလာတော့ ပထမအကြိမ် အမှာစာတွေကို ပြန်ဖတ်ရပါသည်။ ကျွန်တော် ထင်တာထက် ပို၍ ပြည့်စုံနေသည့် အမှာတွေဖြစ်ကြောင်း အံ့သြစွာ တွေ့ရပါသည်။ ကျွန်တော် အမျှားကြီး သုတေသနလုပ်ပြီး ရေးထားသည်ပဲ။ အမေရိကန်တောင်ပိုင်း၊ မြောက်ပိုင်း ပြည်တွင်းစစ်၊ အင်္ဂလိပ်နှင့် ပြင်သစ်တို့ပိုင်သည့် ပြည်နယ်တွေကို တိုက်ယူ (တချို့ ဝယ်ယူ)ပြီး ဖက်ဒရယ်ပြည်ထောင်စုကြီး တည်ထောင်ခဲ့ပုံ၊ တောင်ပိုင်းသားတို့၏ မာန်မာန၊ သတ္တိနှင့် ဖွဲ၊ မျိုးဆက်သုံးဆက်၏ အချစ်အမုန်း သံသရာဝဲ။

လူကြီးခြေကျ ဖြစ်နေသော ကျွန်တော် ဒီလိုအမှာစာမျိုး မရေးနိုင်တော့ပါ။ ဤတွင် တသသ ဖြစ်မိပါသည်။ သြော်... ဟိုတုန်းက ထုတ်ဝေသူတွေလို ကိုယ့်တိုက်က ထွက်သည့် စာအုပ်ကို ကိုယ်တိုင် အကြေအညက်ဖတ်ပြီး ကိုယ်တိုင် သုံးသပ်ဝေဖန်သည့်ခေတ် ကုန်သွား လေပြီကော။ ဆရာမြ၏ "စစ်နှင့်ငြိမ်းချမ်းရေး" ၁၂ အုပ် ထွက်တုန်းက ဝတ္ထုကြီးကို စွဲသွား သလို ပုဂံကိုချော၏ သုံးသပ်ချက်များကလည်း ရင်ထဲ ရောက်ခဲ့ပါသည်။ ခုတော့ စာပေဓလေ့ကောင်း၊ စရိုက်ကောင်းများလည်း ပျက်ခဲ့လေပြီ။

## (၂)

ဤသို့ဖြင့် အမှာစာရေးဖို့ ဆက်တွေးသည်။ ဘာရေးရမှန်းကို မသိဘဲ စိတ်ပျက်စရာ ကိုယ့်ရပ်ဌာနီ၊ ချာရာဏသီ အကြောင်း လျှောက်တွေးရင်း စိတ်ဓာတ်တွေ သုညအောက် ရောက်သွားပြီး အမှတ်မထင် အိပ်ရာနံဘေး စာအုပ်စင်မှ "မဟာရံုတံတိုင်းကို ဖြတ်ကျော်ခြင်း" (ပထမအကြိမ်ထုတ်)ကို လှမ်းယူလိုက်မိသည်။ ဤတွင် အတိတ်ကို ဆောင်ရတော့မည်ဟု

သဘောပေါက်လိုက်သည်။ စိတ်ချမ်းမြေ့စရာတော့ မကောင်းပါ။

စာအုပ်အဖုံးက "ခင်ဗျားကို ကျွန်တော် အိမ်မှာချိတ်လို့ရအောင် ရေးပေးမယ်" ဟု ပြောပြီး ရေးပေးသွားသည့် သူငယ်ချင်း ကိုစံတိုး၏ အဖုံး။ (ယခုအထိ ကျွန်တော့်အိမ်မှာ ချိတ်ဆွဲထားသည့် တခုတည်းသော ပန်းချီကား)

အဖုံးတဝက်က တံခါးရွက်ကြီး။ လှန်လိုက်တော့ ကပွဲဆောင်ထဲသို့ ဧရာမအာလိန် လှေကားကြီးမှ ကွေ့ဝိုက်ဆင်းလာသည့် အယ်လီနာနှင့် လှေကားရင်းမှ စောင့်ကြိုနေသည့် ကက်စတာလန်း။ ပြီးတော့ ကပွဲဆောင်ခန်းမကြီး။




သည်တော့ သူ့ကို ပြန်သတိရလာသည်။ နှစ်ယောက်သား ခရီးတွေ ထွက်ကြ၊ လည်ကြပတ်ကြ၊ စားကြ သောက်ကြပုံတွေကို "လွမ်းဖွယ့် စံတိုး"စာအုပ်တွင် ကျွန်တော် ရေးခဲ့ဖူးပါသည်။ ပြီးတော့ သူ၏ မမေ့တဲ့နိုင် နောက်ဆုံးနေ့။ ကျွန်တော်နှင့် အတွဲဆုံး ဖြစ်သည့် သူ၊ တင်မောင်မျိုး၊ မောင်မောင်သိုက်နှင့် ဥက္ကာဋ္ဌကြီး (လင်းယုန်မောင်မောင်) တို့သည် ကျွန်တော့်ကို ထားခဲ့ပြီး အစောကြီး ထွက်ခွာသွားနှင့်ကြပြီ။

ဖေးဖေးဝိုင်ဝိုင်နှင့် စာအုပ်ကို ဖွင့်၍ ပုံနှိပ်မှတ်တမ်းကို ကြည့်လိုက်သည်။ ထုတ်ဝေသူ ငြိမ်းအေးစာစဉ် (မြတ်ငြိမ်း၊ သူလည်း ကျွန်တော့်ကို ကျော်တက်သွားပြီ။)။ ထုတ်ဝေသည့် ခုနှစ် ၁၉၈၅။ အုပ်ရေ ၁၂၀၀။ တန်ဖိုး ၃၅ ကျပ်တဲ့။ ကိုမြတ်ငြိမ်းက ထုတ်ပြီး ထုတ်ဝေသည့် မှတ်ပုံတင်ကတ်က "တောင်တန်းပြာစာပေ" ဦးဌေးဝင်း (၀၃၂၇၄)တဲ့။ ကျွန်တော် ဝန်ထမ်း ဘဝနှင့်မို့ ကျွန်တော့်ညီတော်မောင် အမည်နှင့် ရခဲ့သည့် ထုတ်ဝေခွင့်ကတ်။ ကျွန်တော်လုံးဝ မမှတ်မိတော့။ ၃၉ နှစ်ကြီးများတောင် ကြာခဲ့ပြီကိုး။ နောက်တရွက် လှန်လိုက်သည်။ ကျေးဇူးတင်လွှာ အတိုကလေးကို တွေ့ရ၏။ ထိုစဉ်က ကျွန်တော် အမှာ ရေးလေ့ရေးထ မရှိသေးပါ။ ထို ကြေကွဲဖွယ်ရာ ကျေးဇူးတင်လွှာကလေးဖြင့် အမှာစာကို နိဂုံးချုပ်ပါရစေ။

# (၃)

ဤစာအုပ်ကို ဘာသာပြန်ရာ၌ ကျေးဇူးစကား ဆိုအပ်သူများ ရှိပါသည်။

- This Side of Glory အပါအဝင် စာအုပ်ကောင်းများကို အမြဲပေးလေ့ရှိသည့် ကျွန်တော့်ဌာနမှူး ဆရာဦးအုံးဖေ ညွှန်ကြားရေးမှူး (ဘဏ္ဍာရေး) မြန်မာ့ ရေနံကော်ပိုရေးရှင်း] (ကွယ်လွန်)
- "ဝမ်းနည်းစရာ အခန်းတွေကို ဖတ်နေရင်း မျက်ရည်ကျမိတယ်။ ကြည်နူးစရာ အခန်းတွေ ကျပြန်တော့လည်း ပီတိမျက်ရည် လည်ရတယ်။ ဒီစာအုပ်ရဲ့ ရသက သိပ်ထူးခြားတယ်ကွ။ ဖတ်နေကျ အမေရိကန် ဝတ္ထုတွေနဲ့ တခြားစီပဲ"ဟု အညွှန်း စကား ဆိုကာ အတင်းဖတ်ခိုင်း၊ ပြန်ခိုင်းသည့် ကျွန်တော့်ဆရာ အန်ကယ်ဂျော့ [မစ္စတာနော်တင် (အငြိမ်းစား၊ မြန်မာ့ရေနံကော်ပိုရေးရှင်း)] (ကွယ်လွန်)

- စိုက်ပျိုးရေး ဝေါဟာရများကို ရှာဖွေစုဆောင်းပေးပြီး စာမူကို အချောကိုင်ပေး သည့် သမီးကြီး ထားထားဦး (စိုက်ပျိုးရေးသုတေသန)နှင့်...

- ကျွန်တော့်အား စာရေးချင်စိတ် ရှိလာအောင်နှင့် စာရေးချိန်ရအောင် ဖန်တီးပေးရင်း စာမူကြီးကို အကြိမ်ကြိမ် ဖတ်ရှုပြင်ဆင်ပေးသွားရှာသော ကွယ်လွန်သူ ချစ်ဇနီး မေ[ဆရာမ ခင်မေကြူ၊ တောင်ကြီး] တို့ ဖြစ်ပါသည်။

**ဤမျှနှင့်သာ ကျေနပ်ပါလေတော့ လင်းလွန်းခင်ဆရာများခင်ဗျား။**

**တင်မောင်မြင့်**

၁၇-၅-၂၀၂၄

နံနက် ၉း၄၅

# "နွေကန္တာ၊ မြကတ္တီပါလမ်းမှသည် မဟာရံတံတိုင်းဆီသို့" နှင့် စပ်လျဉ်း၍ . . .

နွေကန္တာ၊ မြကတ္တီပါလမ်းနဲ့ မဟာရံတံတိုင်းကို ဖြတ်ကျော်ခြင်း သုံးအုပ်ပေါင်း ထုတ်မယ် ဆိုတော့ ထုတ်ဝေသူ ဥတ္တရလမင်းကရော၊ အယ်ဒီတာ စာပြင်ဆရာ (ခုတော့ စာဟောဆရာတစ်ပိုင်း ဖြစ်နေပြီ) တက္ကသိုလ် တင်ဟန်ကျော် ကပါ အမှာစာ ရေးသင့်ကြောင်း ဖိအားပေးတော့ အမှာစာရေးပျင်းတဲ့ ကျွန်တော် ဦးနှောက်ခြောက်ခဲ့ရပါတယ်။

အင်း. . . . အလှည့်ကျတော့လည်း မန္တန်စတမ်းရယ်လို့ ရေးဖို့ ကီသွင်းကြည့်တော့ ထပ်ပြီး ဦးနှောက်စားရပြန်ပါတယ်။ အလွန်မတန် မေ့တတ် လျော့တတ်တဲ့ ကျွန်တော် ပြန်စဉ်းစား ရမယ့် အကြောင်းအရာက ဟိုးအဝေးမှာ မှုန်ရေးရေး ပန်းချီကားချပ်များ...။

"မဟာရံတံတိုင်းကို ဖြတ်ကျော်ခြင်း" က သူငယ်ချင်း မြတ်ငြိမ်းရဲ့ "ငြိမ်းအေး" စာပေ က ထွက်ခဲ့တာ ၁၉၈၅ ခုနှစ်ကဆိုတော့ သုံးဆယ့်နှစ်နှစ်ကြီးများတောင် ရှိခဲ့ပြီပဲ။ ခုတော့ ထုတ်ဝေသူ သူငယ်ချင်းလည်း မရှိတော့ပြီ။ အဖုံးအတွက် ထူးထူးဆန်းဆန်း နှစ်ထပ်ဖုံး ပန်းချီကားကြီးကို အိမ်မှာ ချိတ်လို့ရအောင် ရေးပေးမယ်ဆိုပြီး ကြိုးကြိုးစားစား ရေးပေး သွားခဲ့တဲ့ သူငယ်ချင်း ပန်းချီစံတိုးလည်း ကွယ်လွန်သွားရှာပြီ။ (သူပြောတဲ့အတိုင်း သူ့ ပန်းချီကားကြီးကို ယနေ့တိုင် ကျွန်တော့်အိမ်မှာ ချိတ်ထားပါတယ်။)

တကယ်က "မဟာရံတံတိုင်း" ဟာ မျိုးဆက်သုံးဆက် ဝတ္ထုကြီးရဲ့ နောက်ဆုံးအပိုင်း ပါ။ စာအုပ် ရှားပါးငတ်ပြတ်နေတဲ့အချိန်မှာ ဆရာသမားများဆီကရတဲ့ "မဟာရံတံတိုင်း" ကို ကျွန်တော် ကြိုက်လွန်းလို့ ဘာသာပြန်လိုက်တာပါ။ သူ့ရှေ့မှာ နှစ်အုပ်ရှိမှန်း အဲဒီတုန်းက မသိခဲ့ပါ။ နောက်မှ Trilogy ဝတ္ထုကြီးမှန်း ကျွန်တော် သိရတာပါ။ ရရာစာအုပ်ကို ပြန်ရတာမို့ ဝတ္ထုပြည်တည်တဲ့ "နွေကန္တာ" ကို ၁၉၈၈ ခုနှစ်မှာ ရေးဖြစ်ပြီး အလယ်က "မြကတ္တီပါလမ်း" ကို ၂၀၀၇ ခုနှစ်မှာမှ ရာပြည့်က ထွက်ခဲ့ပါတယ်။ (ရှေ့နှစ်အုပ်ကိုလည်း ရာပြည့်ကပဲ ပြန် ထွက်ခဲ့ပါသေးတယ်)

အဲဒီလို ခွတီးခွကျတွေ တောတအုပ်၊ တောင်တအုပ် ထွက်ခဲ့ပေမယ့် တအုပ်ချင်းလည်း ဖတ်လို့ အရသာရှိနေတဲ့ ဝတ္ထုပုံစံမျိုး (Trilogy) မို့ ပြဿနာမရှိပေမယ့် တဝကြီး စေးစေးပိုင်ပိုင် ဖတ်ချင်တဲ့ ပရိသတ်အတွက်

ဘဝင်မကျစရာ ဖြစ်ခဲ့ရပါတယ်။ အဲဒီအထဲမှာ ဥတ္တရလမင်း ဆရာဦးသန်းဆွေ ရှေ့ဆုံးက ပါခဲ့ပါတယ်။ ဒါကြောင့် ရာပြည့်နဲ့ညှိပြီး သုံးအုပ်ပေါင်းထုတ်ဖို့ တိုင်ပင်ကြပါတယ်။ အဲဒီအတွက် အမှတ်တရ ညစာဝိုင်းကလေး လုပ်တဲ့နေ့က ကျွန်တော် တခုပဲ မေတ္တာရပ်ခံခဲ့ပါတယ်။ တခြား မဟုတ်ပါဘူး။ ကိုစံတိုးလက်ရာ "မဟာရံတံတိုင်းကို ဖြတ်ကျော်ခြင်း" မျက်နှာဖုံးကိုပဲ ပြန်သုံးဖို့နဲ့ ကိုလင်းဝဏ္ဏ ဒီဇိုင်းဖွဲ့ပေးဖို့ပါ။

ခုတော့ အရေခွံလန်အောင် အလုပ်လုပ်ခဲ့ကြတဲ့ ရှေးဟောင်းအမေရိကန်တွေ အင်္ဂလိပ် ကို တော်လှန်ပြီး လွတ်လပ်ရေး အရယူကာ ဒီနေ့ အမေရိကန်နိုင်ငံကြီးဖြစ်လာအောင် တည်ဆောက် ခဲ့ပုံများကို သားတော်အစဉ်၊ မြေးတော်အဆက်၊ မြစ်တော်အညွန့် ဆိုသလို တစ်နံတစ်လျား စ၊ လယ်၊ ဆုံး ဖတ်ကြရတော့မှာ ဖြစ်ပါတယ်။

စီးပွားရေးပျက်ကပ်ကြီးနဲ့ အမေရိကန် တောင်ပိုင်း မြောက်ပိုင်း ပြည်တွင်းစစ်ကာလ အတွင်း လူမျိုးရေးပဋိပက္ခတွေ၊ လူတန်းစားတိုက်ပွဲတွေ၊ အချစ်၊ အမုန်း၊ အငြိုးအတေးတွေ... စတဲ့ စတဲ့ မုန်တိုင်းထန်ကာလတွေကို ဖြတ်သန်းပြီး ဒီနေ့ ဖက်ဒရယ်ပြည်ထောင်စုကြီး ဖြစ်လာပုံကို တစ်ဆက်တည်း တသိမ့်သိမ့် ဖတ်ရှုကြရတော့မှာ ဖြစ်ပါတယ်။

"နွေကန္တာ၊ မြကတ္တီပါလမ်းမှသည် မဟာရံတံတိုင်းဆီသို့" စာအုပ်ကြီး တစ်ပေါင်း တည်း ထုတ်ဝေရေးအတွက် ဝိုင်းဝန်းပေးတဲ့ ရာပြည့်နဲ့ ထုတ်ဝေပေးတဲ့ ဥတ္တရလမင်းကို လှိုက်လှဲစွာ ကျေးဇူးတင်ပါကြောင်း။

**တင်မောင်မြင့်**

၁၃၊ ၃၊ ၂၀၁၇။

# အခန်း (၁)

မြစ်ပြင်သည် ညနေဆည်းဆာတွင် ငြိမ့်ငြိမ့်ညင်ညင်ကလေး စီးသွင်းနေ၏။ နေရောင်ခြည်က ဝက်သစ်ချပင် များကို ဖြတ်သန်းပြီး ရွှေရောင်တန်းများ လွှတ်နေလေသည်။ ဝက်သစ်ချပင်ကြီးများတွင် ဟီးလေးခို နေကြသည့် ရေညှိမှော်ပင်များက လေအဝှေ့တွင် တီးတိုးစကားဆိုနေကြ၏။ လှေသမားတို့၏ အော်ဟစ်သံကို ပြန်လည် နှုတ်ခွန်းဆက်နေသည့်အလား။

ကမ်းခြေတွင် လှေထိုးသားတစ်သိုက်က ပိန်းကောလှေကြီးကို ကျောက်ချဖို့ ပြင်ဆင်နေကြ၏။ ဂျူးဒစ် သည် လှေပေါ်တွင် အဖွေ့အဝတ်တွေ လျှော်ရင်း စိတ်ပျက်နေသည်။ ဘယ်လောက်လျှော်လျှော် ဘယ်လောက် ဖွပ်ဖွပ် ဖြူသည်မရှိ။ ဝါကြန့်ကြန့် မြစ်ရေနှင့် လျှော်နေရသည် မဟုတ်လား။

သိပ်စိတ်ညစ်ဖို့ ကောင်းတာပဲ။ သွားမယ့်နေရာ မြန်မြန် ရောက်ပါစေတော့။ ထမင်းဟင်းချက်ဖို့ မီးဖိုကြီးကြီးနဲ့၊ အဝတ်လျှော်ဖို့ ရေတွင်း နဲ့ လူလို သူလို နေချင်လှပါပြီ။

လှေသမားအချို့က ကမ်းနားသစ်ပင်ကြီးများတွင် ဆိုင်းကြိုးများ ချည်နှောင်နေကြ၏။ ဂျူးဒစ်၏အစ်ကို ကာလက် က ကမ်းနဖူးတွင် မီးမွှေးနေသည်။ လှေသမားအချို့ကို အဖေက အမဲရှာ ဖို့ တောထဲ လွှတ်လိုက်သည်။

ပိန်းကော လှေကြီးသည် မြစ်ရေပြင်တွင် မသိမသာ လှုပ်ရှားနေ၏။ ဂျူးဒစ်သည် အဝတ်များကို လှေပေါင်းမိုး နံဘေး အဝတ်တန်းတွင် လှန်းလိုက်သည်။ ညစာအတွက် ချက်ရပြုတ်ရဦးမည်။ သေသေသပ်သပ် ဖြစ်အောင် အဝတ်အစားများကို ဆွဲဆန့်သည်။ ဆံပင်ကို ဖြီးသင်သည်။ ဆံပင်မှာ မြစ်ရေရောင် ပေါက်ကာ နီကြန့်ကြန့် ဖြစ်နေပြီ။ ဆံခွတစ်ချောင်း ကောက်ထိုးပြီး ပဝါကို ခြုံသည်။ အမေက ဖိုခုံလောက် ကိုင်ပြီး ကမ်းပေါ်တက်သွားနှင့်ပြီ။ ထမင်းအိုး၊ ဟင်းအိုးတောင်းကို ပွေ့ကာ နောက်မှ ဂျူးဒစ် လိုက်တက် သွားသည်။

လှေသမား တချို့က ပြောင်းဖူးဆန်၊ ပဲစေ့နှင့် ဒရယ်သားခြောက်တွေ ယူပြီး ဂျူးဒစ်နောက်မှ တက်လိုက် လာကြသည်။ ဂျူးဒစ်က ပဲနှင့် ပြောင်း ရောပြုတ်ဖို့ အိုးကို ဖိုခုံလောက်ပေါ် တင်မည်အပြုတွင် မြစ်ဘက်ဆီမှ အသံတစ်သံ ကြားလိုက်သည်။

“မိတ်ဆွေ ခရီးဖော်များ ခင်ဗျား၊ မင်္ဂလာပါ”

အသံလာရာဆီသို့ ဂျူးဒစ် ဆတ်ခနဲ လှည့်ကြည့်လိုက်သည်။ ရောမ ပိန်းကောကြီးတစ်စင်း ကွေ့ထဲသို့ ချိုးဝင်ကာ ကမ်းကပ်ဖို့ ပြင်ဆင်နေသည်။ ဟစ်အော်နှုတ်ဆက်သည့် ပိန်းကောပေါ်မှ လူရွယ်မှာ အရပ်မြင့်မြင့်၊ ပခုံးကျယ်ကျယ်နှင့် ဘယ်ဘက်ပါးတွင် ကန့်လန့်ဖြတ် ထင်ရှားနေသည့် အမာရွတ်ကြီးမှအပ မျက်နှာ တစ်ခုလုံး နေလောင်ထားသဖြင့် နီရဲနေသည်။ ဝတ်ထားသည့် ကုတ်အင်္ကျီရှည်က အနီရောင် သိုးမွေးအင်္ကျီ။ ကြယ်သီးတွေက ငွေရောင်တဖျတ်ဖျတ်။ ပိုးခြေအိတ်က အရောင်တလက်လက်။ ဂျူးဒစ် ငေးကြည့် နေမိသည်။ မစ္စစ်စပီ ကို စုန်ဆင်းလာသည့် တစ်လမ်းလုံး ရေကြည်ရာ မြက်နုရာ ရှာဖို့ ထွက်လာကြ သည့် လူအများအပြားကို ဂျူးဒစ်တို့ တွေ့ခဲ့ပြီးပြီ။ သူ့လို ကိုယ်ရောင်ကိုယ်ဝါ တောက်ပသည့် လူမျိုး တစ်ယောက် မှ မတွေ့ခဲ့။

"မင်္ဂလာပါဗျား၊ မင်္ဂလာပါ"

ဂျူးဒစ်တို့ အဖေက ကုန်းပေါ်မှ လှမ်းပြီး နှုတ်ဆက်လိုက်သည်။ ဝတ်ကျေဝတ်ကို သဘောမျိုးဖြင့် ဦးညွတ် တုံ့ပြန် လိုက်သည်။ သဘာဝဘေးဒဏ်နှင့် တောရိုင်းမြေတွေကို အနိုင်ယူဖို့ မြစ်ညာက စုန်ဆင်းခဲ့သည့် ထိုလူအား သူ ဝတ်ထားသည့် အဝတ်အစားတွေ ကြည့်ပြီး ဂျူးဒစ် တို့ အဖေ အထင်မကြီးနိုင်အောင် ဖြစ်သွားကြောင်း သူ့လေသံ နှင့် သူ့ အမူအရာတွင် ပေါ်လွင်နေ၏။

သူစိမ်းလူရွယ်က ဣန္ဒြေမပျက် ပြုံးလိုက်သည်။ သူ့ဆံပင်မှာ ရွှေရောင်ဖြစ်၏။ ဝင်လုလု နေရောင်တွင် တလက်လက် တောက်ပလျက်။

"ဦးတို့က လူဝီစီးယားနားအထိ စုန်ကြမှာပါလား ခင်ဗျ"

"ဟုတ်တယ်"

"အဆင်သင့်လိုက်တာ ခင်ဗျာ၊ ကျွန်တော်လည်း အဲဒီအရောက် ဆင်းမှာလေ။ ကျွန်တော့်ကိုယ် ကျွန်တော် မိတ်ဆက်ခွင့်ပြုပါဦး။ ကျွန်တော့် နာမည် ဖီးလစ်လန်းပါ၊ လေးစားပါတယ် ခင်ဗျာ"

"ဝမ်းသာ ပါတယ် မစ္စတာလန်း၊ ကျုပ်နာမည်က မတ်ရှာရမီပါ၊ ဟောဒါက ကျုပ်ဇနီး၊ ဒါက သား ကာလက်၊ ဟိုဘက်က သမီး ဂျူးဒစ်"

"အားလုံးကို လေးစားပါတယ် ခင်ဗျာ၊ လူဝီစီးယားနား ရောက်ရင် ပြန်ဆုံဖို့ ကျွန်တော် မျှော်လင့်ပါတယ်"

မတ်ရှာရမီက လက်ခံသည့် သဘောဖြင့် ဦးညွတ် အသိအမှတ် ပြုလိုက်သည်။ ဖီးလစ်လန်းက လက်ကလေး နှစ်ချောင်းဖြင့် ဦးထုပ်ကို နောက်သို့

ပင့်ဟန်လုပ်သည်။ သူ့ခေါင်းပေါ်တွင် ဦးထုပ် ဆောင်းမထားသဖြင့် ကြောင်တောင်တောင် ဖြစ်သွားမလားဟု အားလုံး ဝိုင်းကြည့်နေကြသည်။ သို့သော် သူက ခပ်တည်တည်ပင်။

အောက်နား မျှောသွားပြီး ကြိမ်တောထဲတွင် သူ့ပိန်းကောလှေကြီးကို ထိုးဆိုက်သည်။ ဖီးလစ်လန်းက ဂျူးဒစ်ကို တစ်ချက် ဝေ့ကြည့်ပြီး ပြုံးပြသည်။ ကြိမ်ရုံတွေထဲသို့ လှေတစ်စင်းလုံး တိုးဝင်သွားသည်အထိ သူ ကြည့်နေဆဲ။ ဂျူးဒစ် ကျောရိုးထဲ စိမ့်သွားသည်။ ဣန္ဒြေပျက်သွားသည်ကို လူကြီးတွေများ ရိပ်မိသွားပြီလား ဟု အထိတ်တလန့် လှမ်းကြည့် လိုက်သည်။ တော်ပါသေး၏။ အဖေက ငုံ့ပြီး မီးဖိုထဲ ထင်းတွေ ထည့်နေသည်။ အမေက လှေသမားတွေ ပစ်ထားသည့် တောကြက်တွေကို အမွေးနုတ်ရင်း အလုပ်ရှုပ်နေသည်။

မြစ်ထဲသို့ ဂျူးဒစ် ရေတစ်အိုး ဆင်းခပ်သည်။ ဖီးလစ်လန်း စောင့်များ ကြည့်နေမလားပဲ။ စောင့်ကြည့် နေတယ်ဆိုရင် လှလို့ နေမှာပေါ့နော်။

ဂျူးဒစ် ၁၅ နှစ်ပြည့်ပြီ။ လှချင်ပချင်သည့်အရွယ် ရောက်နေပြီ။ ဒါပေမဲ့ အဖေက ဒါတွေ စိတ်မကူး ရဘူးတဲ့လေ။ ခုထိ ဂျူးဒစ်တွင် ၆ လက်မခန့် ကြည့်မှန်ကလေး တစ်ချပ်ပဲ ရှိသည်။ ကိုယ့်ကိုယ်ကိုယ် ဘယ်ပုံသဏ္ဍာန် ရှိမှန်း ဂျူးဒစ် အားရပါးရ မကြည့်ဖူးသေးပေ။ ဆံပင်တွေ လှမှန်းတော့ သိတယ်လေ။ အသားရေလည်း လှပါတယ်နော်။ နေလောင်ထားလို့ပါ။ သို့သော် ဝတ်ထားသည့် ချည်ကြမ်း အဝတ်တွေကို ငုံ့ကြည့်ပြီး စိတ်ပျက်သွားသည်။ သည်လို စုတ်စုတ်ပြတ်ပြတ် တစ်ယောက်ကို သိုးမွေးဝတ်စုံနှင့် လူကြီးလူကောင်း တစ်ယောက်က အမြတ်တနိုး ကြည့်ပါ့မလား။

အစ်ကိုလုပ်သူ ကာလက်နှင့် အဖေ့ အဝတ်အစားများကိုပါ ဂျူးဒစ် ငဲ့ကြည့်လိုက်သည်။ အရောင် လွင့်ပြယ် နေပြီဖြစ်သည့် ချည်ထည်တွေ။ ကနက်တီကပ် အိမ်မှာတုန်းက ဒီလို မဟုတ်ကြပါ။

ဖီးလစ်လန်း ဆိုသူ ဘယ်အရပ်က စုန်ဆင်းလာတာပါလိမ့်။ ဂျူးဒစ်က အစီအစဉ် မရှိဘဲ စကား စလိုက်သည်။

"အမေ"

"ဘာလဲ သမီးလေး"

မစ္စက်ရှာရမီ တောကြက် တစ်ကောင်ကို ဘေးချပြီး မော်ကြည့်သည်။

"ဟို ... ဟို ... မစ္စတာလန်းဆိုတဲ့ လူကြီးလေ၊ သူ့ကြည့်ရတာ

တစ်ယောက်တည်း ခရီးထွက်လာသလိုပဲ၊ သမီးတို့ကို စကားပြောချင်လို့ သူမိတ်ဆက်တာ ထင်တယ်။ သူ့လှေက ဟောဟိုအောက်နားက ကြိမ်တောထဲမှာ ဆိုက်ထားတယ်၊ ထမင်းဖိတ်ကျွေးရရင် မကောင်းဘူးလား ဟင်”

“အင်း၊ ကောင်းသားပဲ” ဟု ပြောပြီးမှ မဝေခွဲတတ်သလို ဖြစ်သွားပြီး လင်တော်မောင်ဘက် လှည့်ကာ -

“ရှင် ဘယ်လို သဘောရလဲဟင် မတ်”

မတ် က သေနတ်ကို ထောင်ပြီး မှီရပ်ရင်း ခပ်ဖြည်းဖြည်း ပြန်ပြောသည်။

“မပြောတတ်ဘူးလေကွာ၊ ငါတော့ သူ့ကိုကြည့်ပြီး ပေါင်းလို့သင်းလို့ ရမယ် မထင်ပါဘူး”

“ဘာပြုလို့လဲ ဖေဖေရဲ့၊ သူ့ကြည့်ရတာ မင်းညီမင်းသား ကျနေတာပဲ”

ဂျူးဒစ်က ခပ်သွက်သွက် ဝင်ပြောသည်။

မတ်က ပြုံးပြီး အငေါ်တူးတူး လေသံဖြင့် -

“ဆန်ကုန်မြေလေး မင်းညီမင်းသားမျိုး ဖြစ်မှာပါကွာ။ ဒါမျိုးတွေ ဖေဖေ တွေ့ဖူးပေါင်း များပြီ။ ခေးမဦးချ ကောင်းရောင်း ကောင်းဝယ် လုပ်ကိုင်စားသောက်မယ့် လူတွေကို လိုက်ဒုက္ခပေးနေတဲ့ ကောင်မျိုးတွေ”

ဂျူးဒစ်က အပြုတ်အိုးထဲ ယောက်မထိုးမွှေရင်း -

“ဝတ်ကောင်းစားလှ ဝတ်ထားတာ နဲ့ လူတစ်ယောက်ကို ဒီလို မတရားပြောတာ ဖေဖေ ဘယ်တရားမလဲ”

“ဂျူးဒစ်၊ သမီးနားမလည်ပါဘူး၊ တိတ်တိတ်နေစမ်း”

“ဟုတ်ကဲ့ပါ ဖေဖေ”

ဂျူးဒစ် မကျေမနပ်နှင့် နှုတ်ခမ်းကို ကိုက်ထားသည်။ သို့သော် မမျှော်လင့်သည့် မေမေ့စကားကြောင့် အပျော်ကြီး ပျော်သွားသည်။

“သနားပါတယ် မတ်ရယ်၊ သူ့ခမျာ လှေသမားတွေ ချက်ကျွေးတာချည်း စာနေရမှာ။ တစ်ခါတလေ ကောင်းကောင်း စားချင်ရှာမှာပေါ့၊ ဖိတ်ကျွေးလိုက်ကြရအောင်နော်”

မတ်က ပခုံးတွန့်ပြီး -

"သဘောပဲလေ၊ သမီး သွားဖိတ်လိုက်ပေါ့"

"ဟုတ်ကဲ့ ဖေဖေ"

ကြိမ်ပင်တွေ ကြားက လမ်းကလေးအတိုင်း ဂျူးဒစ် ပြေးချသွားသည်။ နေဝင်စ ပြုနေပြီ။ သို့သော် အလင်းတန်း များ ဖြာထွက်နေဆဲ။ အနားရောက်မှ ရင်တွေတုန်ပြီး ရုက်စိတ် မွှန်လာသည်။ ဖီးလစ်လန်းက သစ်ငုတ်တို တစ်ခုပေါ်တွင် ထိုင်ကာ ကောင်းကင်ကို မော်ကြည့်နေ၏။ အမဲလိုက်ဖို့ အသင့် အနေအထားဖြင့် သေနတ်ကို ပေါင်ပေါ်တင်လျက်။ သူ့လူတွေက မီးမွှေးနေကြသည်။

ဂျူးဒစ် ဘာမှ ပြောမထွက်ဘဲ ကြောင်ပြီး ရပ်နေသည်။ သူက အထက်တန်းစား။ ဖိတ်တာကို လက်ခံပါ့မလား။ တိတ်တိတ်ကလေး ပြန်လှည့်ပြေးရ ကောင်းမလားပဲ။ ဟော သူ မြင်သွားပြီ။ ဒုက္ခပါပဲ။ ဖီးလစ်လန်းက သေနတ်ကို သစ်ငုတ်တိုမှာ ထောင်ပြီး ခုန်ထလိုက်သည်။

"ဟော ... အလှလေး ဂျူးဟစ် ပါလားကွယ်"

ခြေလှမ်းကျဲကြီးဖြင့် လျှောက်လာပြီး ဂျူးဒစ်၏လက်ကို နမ်းသည်။ သည်လို အဖြစ်မျိုးနှင့် ဂျူးဒစ် တစ်ခါမှ မကြုံဖူးသေးပါ။ ရှက်ရှက်နှင့် ဒူးတစ်ဖက် ညွတ်ပြီး အရိုအသေ ပေးလိုက်သည်။

"အနှောင့်အယှက် ဖြစ်နေမလားပဲ၊ ဟို ... ဟိုလေ ... မေမေက ပြောတယ်၊ ညစာစားဖို့ ကြွပါတဲ့"

မိန်းကလေး ကို ဖီးလစ် ခြေဆုံးခေါင်းဆုံး ကြည့်သည်။

"ကျွန်တော် ဂုဏ်ယူပါတယ် ခင်ဗျာ"

သူက လူကြီးလူကောင်း တစ်ယောက်၏ အမူအရာဖြင့် ပြောနေသော်လည်း ပျော်လွန်းသဖြင့် ဂျူးဒစ်၏ နှုတ်ခမ်း များ တဆတ်ဆတ်တုန်နေသည်။

"ဒါ ဒါဆို လာမယ်ပေါ့နော်"

ကတုန်ကယင်ဖြင့် မေးလိုက်၏။ ဖီးလစ်လန်း ရယ်သည်။ ကလေးမ၏ လက်မောင်းကို ကိုင်ပြီး -

"နေပါဦး မစ္စဂျူးဒစ် ... ဘာဖြစ်လို့ မင်း တုန်တုန်ယင်ယင် ဖြစ်နေရတာလဲ၊

ကိုယ်က လူရိုင်းတစ်ယောက် မဟုတ်ပါဘူးကွယ့်၊ မင်းဦးခေါင်းကို ဖြတ်မယူပါဘူး”

“ဟုတ် ... ဟုတ်ကဲ့ရှင့်၊ ကျွန်မ လူစိမ်း သူစိမ်းတွေနဲ့ စကားမပြောဖူးလို့ပါ”

ဖော်ရွေ ရင်းနှီးလှသော သူ့အမူအရာကြောင့် ဂျူးဒစ် ရယ်မောနိုင်လာသည်။

“ကဲ ... ဒါဆို မင်းအတွက် အခွင့်ကောင်းပဲ၊ ခုကစပြီး လှေကျင့်ပေတော့၊ လာထိုင်၊ စကား ပြောကြမယ်၊ နယ်သစ် ပယ်သစ်ကို မင်းရောက်တော့မှာ မဟုတ်လား၊ အားလုံး သူစိမ်းတွေချည်း တွေ့ရတော့မှာလေ”

ဂျူးဒစ် ဇဝေဇဝါ ဖြစ်သွားသည်။

“ကျွန်မနဲ့ တစ်ခါတည်း လိုက်ခဲ့မယ် ထင်နေတာ”

“လိုက်ခဲ့ချင်ပါတယ်ကွယ်၊ ဒါပေမဲ့ ...”

မြစ်ဆိပ်ဘက်သို့လှည့်ပြီး သူ့လှေကြီးကို တစ်ချက် ကြည့်သည်။ ပိန်ကောကြီးမှာ ပေ ၆၀ ရှည်သည့် အကြီးစား လှေမျိုးကြီး ဖြစ်၏။ ရောမပဲ့စင်ကြီးနှင့်။ လှေတစ်စင်းလုံး၏ ပြတင်းပေါက်တွေ အားလုံး ပိတ်ထားသည်။ အိမ်သုံး ပစ္စည်းတွေ အပြည့်အကျပ် တင်လာဟန်တူ၏။ နေစရာအိမ် မရှိသေးဘဲ အိမ်သုံး ပစ္စည်းတွေ ယူလာသည့် လူ။ အိမ်ထောင်လည်း ရှိဟန်မတူ။

“လှေကို ဒီအတိုင်း ထားသွားလို့ မဖြစ်ဘူးကွယ့်”

“လှေသမားတွေ ရှိတယ် မဟုတ်လား၊ သူတို့မှာ သေနတ်တွေ ရှိမှာပေါ့”

“သူတို့က စောင့်ကြည့်နေတုန်းမှာသာ သစ္စာရှိကြတာကွယ့်၊ အဖိုးတန် ပစ္စည်းတွေ တင်လာတော့ ခုလို ရေလမ်း မှာ ပိုပြီး စိတ်မချရဘူး”

“အဖိုးတန်ပစ္စည်းတွေ ဟုတ်လား၊ အစ်ကိုက ကုန်သည်လားဟင်၊ ရောင်းစရာ ပစ္စည်းတွေလား”

ဂျူးဒစ် ၏ လက်မောင်း ကို ဖီးလစ် တင်းတင်း ဆုပ်ကိုင်လိုက်သည်။

“ကိုယ် ... ဘာတွေ ယူလာတယ်လို့ မင်း ထင်သလဲ”

“အို ... ထွန်တွေ၊ ထယ်တွေ၊ ပရိဘောဂတွေ၊ ရက်ကန်းတွေ၊ ရစ်ဘီးတွေ နေမှာပေါ့၊ ကျွန်မတို့လိုလေ”

ဂျူးဒစ် အံ့သြခြင်း တစ်ဝက်၊ ထိတ်လန့်ခြင်း တစ်ဝက်ဖြင့် ပြန်ပြောသည်။ ခုထိ သူက လက်ကို လွှတ်မပေးတော့ ဂျူးဒစ် ကျွဲမြီးတိုလာသည်။

"အစ်ကို ဘာတွေ ယူလာတယ်ဆိုတာ ကျွန်မ မစဉ်းစားတတ်ပါဘူး။ ဒါပေမဲ့ ရဲက လူဆိုးကို ဖမ်းသလို ကိုင်ထား တဲ့ ကျွန်မ လက်မောင်းကို လွှတ်ပေးရင်တော့ သိပ်ကျေးဇူးတင်မိမှာပဲ"

"အို ... ကြည့်စမ်း၊ ကိုယ့်ကို ခွင့်လွှတ်ပါကွာ၊ လုံးဝ သတိမထားမိလိုက်ဘူး၊ မင်းပြောတဲ့ ပစ္စည်းတွေ တစ်ခုမှ ကိုယ့်လှေပေါ်မှာ မပါဘူး။ ကိုယ် ယူလာတာတွေက ..."

သူ စက္ကန့်ဝက်လောက် ဆိုင်းနေသည်။ ပြီး မှ -

"အားလုံး ရောင်းတဲ့ ဝယ်တဲ့ ပစ္စည်းတွေ ချည်းပဲ"

ခပ်ရိုင်းရိုင်းကလေး ပြောလိုက်မိသည့်အတွက် ဂျူးဒစ် အားနာသွားသည်။ ဘာပြုလို့ သူ သွယ်ဝိုက် ပြောနေပါလိမ့်။ ဝီစကီ သေတ္တာတွေ ပါလာတယ် ပြောလိုက်ရင် ပြီးနေတာပဲ။ သူ အလေးအနက် လေသံဖြင့် ထပ်ပြောပြန်သည်။

"ကိုယ် တကယ်ပြောတာ၊ လှေကို ထားသွားလို့ မဖြစ်ဘူး။ ဒါပေမဲ့ ဟောဒီ အဆုံးမရှိတဲ့ ရေလမ်းခရီးကို သွားနေရတာ စိတ်ကုန်နေပြီ၊ သိပ်အထီးကျန်နိုင်တာပဲ၊ ဒီလိုလုပ်၊ မင်း ကိုယ်နဲ့ ညစာစား"

သူက ဂျူးဒစ်၏လက်ကို လှမ်းဆွဲပြီး မီးဖိုဆီသို့ လျှောက်သွားသည်။

"နော်၊ နေမယ် မဟုတ်လား ဟင်"

ဂျူးဒစ် ဆုတ်ကန်ဆုန်ကန်နှင့် ပါသွားရင်း -

"အိုး ... မဟုတ်တာ၊ ကျွန်မ လူကြီးတွေကို ဘယ်လိုပြောရမလဲ"

ဖီးလစ်က ရယ်ပြီး -

"သူတို့ကို ပြောပေါ့၊ ကိုယ်က မင်းကို ပျားရည်နဲ့ ဖုတ်ထားတဲ့ ကိတ်မုန့်တွေ၊ သစ်ကြမ်းပိုး ဆီထဲမှာ စိမ်ထားတဲ့ လိမ္မော်သီးတွေ၊ ဂူလာကမ်းခြေက လာတဲ့ တယ်သီးတွေ ကျွေးနေလို့လို့ ပြောပေါ့"

သစ်မြစ်တစ်ခု ပေါ်တွင် ဂျူးဒစ် ထိုင်ချလိုက်မိသည်။

"မကြားဖူးပါဘူး၊ ဂူလာကမ်းခြေဆိုတာ"

"ကာရိုလိုင်နား တောင်ပိုင်းမှာ ရှိတယ်လေ"

"အစ်ကို က အဲဒီက လာခဲ့တာလား ဟင်"

သူ ခေါင်းညိတ်သည်။ မြက်ခင်းပေါ်တွင် ခြေဆန့်လက်ဆန့် လှဲချပြီး တံတောင်ဆစ်ကို အားပြုကာ ဂျူးဒစ်ကို မော့ကြည့်ရင်း -

"မင်းတို့ကကော၊ နယူးအင်္ဂလန်က မဟုတ်လား"

"ဟုတ်တယ်၊ ကနက်တီကပ်ကပါ၊ ဘယ်လိုလုပ် သိတာလဲဟင်"

ဂျူးဒစ် အမေးကို မဖြေဘဲ သူက -

"မင်းမျက်လုံးတွေ ရှန်ပိန်ရောင်ဆိုတာ မင်းကို ဘယ်သူကမှ မပြောဖူးဘူးလား"

ဂျူးဒစ်မျက်နှာ ဖြန်းခနဲ ဖြစ်သွားသည်။

"ဟင့်အင်း၊ မပြောဖူးဘူး၊ ရှန်ပိန်ဆိုတာ ဘာလဲဟင်"

"ရှန်ပိန်ဆိုတာ ပြင်သစ်ဝိုင် တစ်မျိုးလေ"

"ဟင်၊ ပြင်သစ်ကို အစ်ကို ရောက်ဖူးတယ် ဟုတ်လား"

ဂျူးဒစ် တအံ့တသြ မေးလိုက်သည်။

"အင်း ... ရောက်ဖူးတယ်၊ ကနက်တီကပ်မှာ ရှန်ပိန် မသောက်ကြဘူးလား"

"အသိဘူးလေ၊ ဘယ်သိနိုင်ပါ့မလဲ၊ ကနက်တီကပ်ကို ရောက်ဖူးလားဟင်"

"တစ်ခါ ရောက်ဖူးတယ်၊ ပြင်သစ်နဲ့ စစ်ဖြစ်ကြတုန်းက"

"သြော် အစ်ကိုက စစ်ထဲ လိုက်ဖူးတာကိုး"

ဂျူးဒစ် ကျေးဇူးတင်စွာ တလေးတစား ပြောလိုက်သည်။ ဘုရင့် တပ်မတော် အမှုထမ်းတစ်ဦးမှန်း သိရသဖြင့် ဝမ်းလည်း သာသွားသည်။ ဖေဖေ နှင့် ဆက်ဆံရေး ပြေလည်နိုင်ပြီ မဟုတ်လား။ ဖေဖေလည်း ဒီစစ်ပွဲတွင် ပါဝင် ဆင်နွှဲခဲ့သူလေ။

“သိပ်ဟုတ်တာပေါ့၊ ဗိုလ်ချုပ်ကြီး ဘရက်ဒေါ့နဲ့ ဗာဂျီးနီးယားက မစ္စတာဝါရှင်တန်ငယ်လေးရဲ့ လက်အောက်မှာ အမှုထမ်းခဲ့တာလေ”

သူက ခပ်ရွှင်ရွှင် ပြောနေခြင်းဖြစ်သည်။

“ဟုတ်လား၊ ဒါဆို အစ်ကို ဆုတွေအများကြီး ရခဲ့မှာပေါ့”

ဂျူးဒစ် ဂုဏ်ယူဝင့်ကြွားစွာ ပြောလိုက်သည်။ ဖေဖေ ထင်သလို လူပေါ်ကြော့ မဟုတ်ဘဲ မျိုးချစ် တစ်ယောက် ဖြစ်နေသည့်အတွက် ကျိတ်ဝမ်းသာနေသည်။

“သိပ်ဟုတ်တာပေါ့၊ မင်း ကြည့်မလား”

သူက အော်ရယ်ပြီး ပြောလိုက်ခြင်းဖြစ်၏။ တစ်ပြိုင်တည်းတွင် ခေါက်ရိုး မကျိုးသေးသည့် ရှပ်အင်္ကျီအိတ် ထဲမှ ရောမ စာအိတ်ကြီးတစ်လုံး ဆွဲထုတ်လိုက်သည်။ စာအိတ်ထဲတွင် ပါသည်က တတိယမြောက် ဂျော့ဘုရင်၏ စာချွန်တော်။ ပြင်သစ်တို့အား တိုက်သည့် စစ်ပွဲတွင် ဘုရင့်အမှုတော်ကို ဦးဆွေးဆံမြည့် ထမ်းရွက်ခဲ့သည့်အတွက် ဆုလာဘ်အဖြစ် ဖီးလစ်လန်းအား လူဝီစီးယားနားပြည်နယ် မစ္စစ်စပီ အရှေ့ဘက်ကမ်းတွင် မြေဧက သုံးထောင် အပိုင်စား ပေးသနား လိုက်သည့် စာချွန်တော်။

ဂျူးဒစ်က စာချွန်ကိုဖတ်ပြီး ပြန်ပေးရင်း -

“ကျွန်မ အဖေလည်း ဒီလို စာချွန်မျိုးတွေ ရလာတယ် အစ်ကို၊ နယူးအင်္ဂလန်က မခွာချင်လို့ စောစော မတောင်း ခဲ့တာတဲ့”

မြက်ခင်းပေါ်တွင် ဖီးလစ် ထထိုင်သည်။ ဒူးနှစ်ဖက်ကို လက်နှင့် ပိုက်ကာ -

“ဟုတ်တယ်၊ ဒါ့ကြောင့် သူ့အကဲကို ခတ်နေတာ၊ သူ့ကြည့်ရတာ အခြေမဲ့အနေမဲ့ လူစားမျိုး မဟုတ်ပါဘူးလို့”

“မဟုတ်ပါဘူး အစ်ကို၊ ကျွန်မတို့ စိုက်ခင်းတွေ သုံးနှစ် ဆက်တိုက် ပျက်စီးတယ်လေ။ မနှစ်က ဆောင်းမှာ နို့စား နွားမတွေ တစ်ဝက်လောက် သေကုန်တယ်။ နယူးအင်္ဂလန်မှာ လူတိုင်း လူတိုင်း လူဝီစီယားနားကို သွားဖို့ချည်း ပြောနေကြတယ်။

ဆုအဖြစ်နဲ့ မြေတွေ အများကြီးရတဲ့ အဖေ့ကို စစ်မှုမထမ်းဖူးသူတွေက အားကျကြတယ်။ တစ်နေ့တော့ ကျွန်မတို့ မြို့က ထွက်သွားတဲ့ လူတစ်ယောက်က အဖေ့ဆီကို စာလှမ်းရေးတယ်။ သူ့နာမည်က ဝေါ်လ်တာပါစယ်တဲ့။ သူလည်း

ဆုတွေရတဲ့ စစ်ပြန် တစ်ယောက်ပဲ။ သူ့စာထဲမှာ လူဝီစီးယားနားဟာ မြေဩဇာ ကောင်းတဲ့ ဒေသ ဖြစ်ကြောင်း၊ တချို့နေရာတွေမှာ ဆိုရင် တစ်နှစ်ကို လေးသီးလောက် စိုက်နိုင်ကြောင်းတွေ ပါတယ်"

ဖီးလစ်က ပြုံးပြီး -

"မင်း အဲဒီမှာ ပျော်မယ် ထင်နေသလား"

"အင်း ၊ ပျော်မယ် ထင်ပါတယ်"

ဂျူးဒစ် မရေမရာ ပြောလိုက်သည်။ ပတ်ဝန်းကျင်ကို တစ်ချက် ဝေ့ကြည့်လိုက်၏။ တစ်ဖက်တွင် တောကြီး မျက်မည်း၊ တစ်ဖက်တွင်တော့ နွားရိုင်း သွင်းချိန်မို့ ခရမ်းပြာရောင် ပြေးနေသည့် မစ္စစ်စပီ မြစ်ကြီး။ စီးဆင်းနေပုံက ပျင်းတိပျင်းတွဲ။ ရွှေ့လျားသည်ပင် မထင်ရ။

"တစ်မျိုးပဲနော်၊ ကျွန်မအတွက် အားလုံး အသစ်အဆန်းချည်း ဖြစ်နေတယ်။ တကယ် မဟုတ်သလိုပဲ။ မြေပြင်က ပြန့်လွန်းမက ပြန့်ပြီး သစ်ပင်ကြီးတွေပေါ်မှာ ရေညှိပင်တွေ တွဲနေပုံက ကန့်လန့်ကာ ချထားတဲ့ အတိုင်းပဲ။ အစ်ကို့ အတွက်တော့ ဘယ်ထူးဆန်းမလဲနော်၊ နေရာတွေ အများကြီး ရောက်ဖူးတာကိုး။ ကျွန်မတော့ ကိုယ့်မြို့က အပြီး ထွက်လာခဲ့တဲ့အထိ ဘယ်မှ မရောက်ဖူးဘူး"

"ဒါဆို နယူးအင်္ဂလန်က မင်းအတွက် ကမ္ဘာကြီးပေါ့ ဟုတ်လား" ဖီးလစ်က ညင်ညင်သာသာ မေးလိုက်သည်။

"သေသေချာချာ မသိပါဘူး အစ်ကိုရယ်၊ တစ်ခုပဲ သိတယ်၊ စိတ်ထဲမှာ..."

"ဘာများလဲကွယ်"

ဂျူးဒစ် ရှုံးတိုးရှန့်တန့် ဖြစ်နေသည့်အတွက် ဖီးလစ် ဝင်ထောက်ပေးလိုက်သည်။

"ချက်ချင်း အသက်ပိုကြီးလာသလိုပဲ၊ အစ်ကို ပြင်သစ်ရောက်တုန်းကရော အဲဒီလို ဖြစ်ဖူးလားဟင်"

ဖီးလစ် ခပ်တိုးတိုး ရယ်သည်။ ဂျူးဒစ် ခုမှ သတိရသည်။ သူစိမ်း တစ်ယောက်ကို ဘာလို့ တရင်းတနှီး ယုံယုံကြည်ကြည် ပြောနေမိပါလိမ့်။ သို့သော် သူ သိပ်စိတ်ဝင်စားနေပုံ။ ဖီးလစ်က ဂျူးဒစ်ရှေ့တွင် ဒူးတုပ်ထိုင်ပြီး ကလေးမ၏ လက်နှစ်ဖက်ပေါ်တွင် သူ့လက်တွေကို တင်လိုက်သည်။

“မင်းဟာ ကိုယ်တွေ့ဖူးသမျှထဲမှာ ချစ်ဖို့ အကောင်းဆုံး ကလေးပဲ။ ဒါပေမဲ့ မင်း ကလေး မဟုတ်တော့ပါဘူးကွယ်”

“ကျွန်မ ၁၅ နှစ်ရှိပြီ၊ အဖေကတော့ ကလေးလို့ ခေါ်တုန်း”

“ဒါပေမဲ့ မင်း ကလေး မဟုတ်တော့ဘူး၊ သိပ်လှတဲ့ အမျိုးသမီးကလေး တစ်ယောက် ဖြစ်လာနေပြီ သိလား”

ဂျူးဒစ် အသက်ရှုဖို့ မေ့သွားသည်။ ဖီးလစ်က ထပ်မေးသည်။

“မင်းကို ဘယ် ယောကျ်ားလေးကမှ အဲဒီလို မပြောဖူးဘူးလား”

ဂျူးဒစ် သူ့လက်တွေကို ငုံ့ကြည့်လိုက်သည်။ ပေါင်ပေါ်မှ မိမိလက်ပေါ်တွင် တင်ထားသည့် သူ့ လက်ချောင်း တွေကို သဲသဲကွဲကွဲ မမြင်ရတော့။ မှောင်စပြုပြီ။

“အစ်ကိုက ကျွန်မကို တောသူ အလည်မကလေး အောက်မေ့နေလားဟင်၊ ကျွန်မဘဝမှာ အမျိုးသား တစ်ယောက်နဲ့ ခုလို တစ်ခါမှ စကားမပြောဖူးဘူး”

“ဟော၊ ဒုက္ခပါပဲ”

ဖီးလစ် ခပ်တိုးတိုး ညည်းသည်။

“ကျွန်မ ဘာပြုလို့ ဒါလောက်ကြာအောင် နေမိပါလိမ့်၊ အဖေ လိုက်လာတော့မယ် ထင်တယ်၊ ကျွန်မ သွားမယ်နော် အစ်ကို”

ထိုစဉ် တောထဲမှ ဟိန်းသံတစ်ခု ထွက်လာသည်။ ကြောက်မက်ဖွယ် အသံကြီး။ ဖီးလစ် သေနတ်ကို ဆတ်ခနဲ ကောက်ကိုင်တော့ ဂျူးဒစ် အလန့်တကြား အော်ပြီး ခုန်ထလိုက်သည်။ ခပ်လှမ်းလှမ်းမှ လေ့သမားလည်း အိုးတွေ ခွက်တွေ ချကာ သေနတ်ကိုယ်စီ ပြေးဆွဲကြသည်။ မှောင်နှင့် မည်းမည်း သစ်ပင် တစ်ပင်အောက်ဆီ မှ မျက်လုံး နှစ်လုံးကို ဂျူးဒစ် လှမ်းမြင်လိုက်သည်။ အစိမ်းရောင် မျက်လုံးများက သူ့ကို စိုက်ကြည့်နေသည့်အလား။ မျက်လုံး နှစ်လုံးသာ ပါသည့် ခန္ဓာကိုယ်မဲ့ မကောင်းဆိုးဝါး သတ္တဝါ တစ်ကောင် နှင့် တူနေ၏။

သေနတ်သံ တစ်ချက် နားနားတွင် ကပ်ကြားလိုက်ရသည်။ ဆက်တိုက် နောက်တစ်ချက်။ ကြောက်စရာ မျက်လုံးစိမ်းကြီး နှစ်ခု ပျောက်ကွယ်သွားသည်။ ဖီးလစ်က ဂျူးဒစ်၏ ပခုံးနှစ်ဖက်ကို သိုင်းဖက်ပြီး -

“မကြောက်ပါနဲ့တော့နော်၊ ကိစ္စပြီးသွားပြီ”

ဂျူးဒစ်က အသက်မရှူနိုင်ဘဲ ပြန်မေးသည်။

"အဲဒါ ဘာလဲဟင်၊ ဘာကောင်ကြီးလဲ"

"ကျားသစ်ပါ၊ သူတို့ သွားကောက်လိမ့်မယ်"

"မှန်တာ သေချာရဲ့လား အစ်ကို"

"သေချာပါတယ်"

ကလေးမ အကြောက်ပြေအောင် ဖီးလစ်က ချော့မော့ ပြောနေသေးသည်။ သို့သော် ဂျူးဒစ် မကြားတော့။ ပို၍ ကြောက်စရာကောင်းသည့် အဖြစ်တစ်ခုနှင့် ကြုံလိုက်ရသလို မြစ်ဘက်သို့ ချာခနဲ လှည့်ကြည့် လိုက်သည်။

ပိန်းကောလှေကြီးပေါ်မှ လူသံတွေ ထုနှင့် ထည်နှင့် ထွက်လာသောကြောင့်ဖြစ်သည်။ လှောင်အိမ် နံရံကို တိုက်ခိုက် နေသည့် တိရစ္ဆာန်များ၏ အော်သံမျိုး။

"မင်း ဒီမှာနေ၊ ဘယ်မှ မသွားနဲ့"

ဖီးလစ် ပြောပြောဆိုဆို လှေဆီသို့ ပြေးဆင်းသွားသည်။ ဂျူးဒစ် တစ်ယောက်တည်း မနေခဲ့ရဲသဖြင့် သူ့နောက်မှ ပြေးလိုက်သွား၏။ ဖီးလစ်လှေပေါ်သို့ လွှားခနဲ လွှားခနဲ ပြေးတက်သွားပြီး ပြတင်းပေါက် တစ်ပေါက်ကို ဆွဲဖွင့် လိုက်သည်။

အလင်းရောင် မှိန်မှိန်တွင် သစ်သားတန်းများကြားမှ မည်းမည်းအရိပ်များကို ဂျူးဒစ် လှမ်းမြင် လိုက်သည်။ လှောင်အိမ်နား ကပ်ပြီး ငြိမ်ငြိမ်နေဖို့ ဖီးလစ် အော်ဟစ် အမိန့်ပေးနေသည်။ ဂျူးဒစ် လှေပေါ် တက်လိုက် လာမှန်း သိလိုက်သည်နှင့် ဖီးလစ် တံခါးကို ဆွဲပိတ်လိုက်သည်။ သို့သော် သူ တင်ဆောင်လာသည့် ကုန်တွေကို ဂျူးဒစ် မြင်သွားပြီ။ ကလေးမ အံ့ဩထိတ်လန့်စွာ အော်သည်။

ဖီးလစ် က သူ့ဘက် လှည့်ပြုံးလိုက်၏။ မထီမဲ့မြင် မပြုံးမျိုး။

"ကိုယ် ကျွန်အရောင်းအဝယ် လုပ်တာ တွေ့တော့ မင်းသိပ်အံ့ဩသွားတယ်ပေါ့ ဟုတ်လား"

ဂျူးဒစ်က လက်ကိုင်ပဝါ အဖျားကို ဆွဲလိမ်ရင်း မရေမရာဖြေသည်။

“ဟင့်အင်း၊ ရေလမ်း တစ်လျှောက်မှာ ကျွန်ကုန်သည်တွေ အများကြီးတွေ့ခဲ့သားပဲ”

သို့သော် မသိမသာ နောက်ဆုတ်နေပြီ။ လှေပေါ်မှ ဆင်းပြေးမည်အပြုတွင် သူ အနားရောက်လာပြီး ပခုံးကို သိုင်းဖက်လိုက်သည်။

“ဒါဖြင့် မင်း ဘာလို့ ထွက်ပြေးတာလဲ၊ ကနက်တိကပ် မှာ ကျွန်တွေ မရှိလို့လား”

ဂျူးဒစ် တွေနေသည်။

“ရှိတော့ ရှိပါတယ်၊ ဒါပေမဲ့ သိပ်မများဘူး၊ ဆောင်းတွင်းတွေ ဆိုရင် သူတို့တစ်တွေ သိပ်ဒုက္ခပေးတာ၊ ကျွန်မတို့ မှာတော့ မရှိပါဘူး”

စိတ်ထဲ ဇဝေဇဝါ ဖြစ်နေဆဲ။ တွေ့ခဲ့သည့် ကျွန်ကုန်သည်တွေက သူ့လို မဟုတ်ကြပါ။ သူ့လို အလုံပိတ် ခေါ်လာခြင်းမျိုး မဟုတ်။ သူ့လှေကြီး ကြည့်ရတာ တစ်မျိုးကြီးပဲ။ ခေါင်းထဲကို အလင်းတန်းတစ်ခု ဖျတ်ခနဲ ဝင်လာသည်။ အထိတ်တလန့် နောက်ဆုတ်လိုက်သည်။

“လွှတ်၊ ကျွန်မကို လွှတ်၊ ရှင်ဟာ ပင်လယ်ဓားပြ၊ မှောင်ခိုသမား၊ လွှတ်နော်”

သူ ပြုံးပြန်သည်။

“ကိုယ်က ပင်လယ်ဓားပြနဲ့ တူနေလို့လား၊ မင်း တကယ် အဲဒီလို ထင်နေတယ် ဟုတ်လား”

“ပင်လယ်ဓားပြ ဘာနဲ့ တူတယ်ဆိုတာ ကျွန်မ မသိဘူး။ ဒါပေမဲ့ ဒီကျွန်တွေ ရှင် ဝယ်လာတာ မဟုတ်ဘူး မဟုတ်လား၊ ရှင် ခိုးလာတာ မဟုတ်လား၊ ဒါကြောင့် ရှင် သူတို့ကို ဖွက်လာတာပေါ့၊ လွှတ်ပါ၊ ကျွန်မကို လွှတ်လို့ ပြောနေတယ်နော်”

ဂျူးဒစ် ငိုချလိုက်၏။ မစ္စစ်စပီ မှောင်ခိုဓားပြများ အကြောင်း ကြားဖူးသည်။ သူတို့လှေကို မြင်သွားသူ အားလုံးကို လည်ပင်း ဖြတ်သည်တဲ့။ သို့သော် ကြောက်လွန်းလို့ ငိုခြင်းမဟုတ်။ စိတ်ရှုပ်ဝေခွဲမရခြင်းကြောင့် ငိုမိခြင်း ဖြစ်သည်။ သူက သိပ်ပြီး လူကြီးလူကောင်း ဆန်တဲ့ အထက်တန်းစား မဟုတ်လား။

“ဟော့ အဓိပ္ပာယ် မရှိ မလုပ်စမ်းပါနဲ့ ဂျူးဒစ်ရယ်”

ဂျူးဒစ် က မျက်နှာကို လက်ဝါးနှင့် အုပ်ပြီး ငိုနေဆဲ။ ထိုစဉ် အဖွေ့အသံကို

ကြားလိုက်ရခြင်းဖြစ်သည်။

"သမီး ဂျူးဒစ်၊ ဖျို့ မစ္စတာလန်း၊ သေနတ်သံတွေ ကြားလို့။ ဘာဖြစ်ကြတာလဲ"

ဂျူးဒစ်က နံရံတွင်ကပ်ပြီး မျက်ရည်သုတ်နေသည်။ ဖီးလစ် ပြေးဆင်းသွားပြီး ရှင်းပြသည်။

"အနှောင့်အယှက် ဖြစ်သွားရင် ခွင့်လွှတ်ပါ မစ္စတာရှာရမီ၊ ကျားသစ် တစ်ကောင်လာလို့ ပစ်သတ် လိုက်တာပါ ခင်ဗျာ၊ ကလေးမ အဲဒါကို လန့်ပြီး လှေပေါ် ပြေးတက်သွားတာပါ၊ ကျွန်တော် ခုပဲ ခေါ်ဆင်း ခဲ့ပါ့မယ်"

သူ လှေပေါ် ပြန်ပြေး တက်လာသည်။ ဂျူးဒစ် လက်မောင်းကို ဆွဲပြီး -

"ကဲ ... လာ၊ ဘာမှ အန္တရာယ် မရှိတော့ပါဘူး မစ္စရှာရမီ၊ မင်းအဖေနဲ့ ပြန်လိုက်သွားတော့နော်"

ပြီးမှ ခပ်တိုးတိုးကလေး ကပ်ပြောသည်။

"ကဲ မငိုနဲ့တော့ မချောလေး၊ မင်းလုပ်ပုံနဲ့ ကျုပ် ကြိုးပေးခံရလိမ့်မယ်၊ ကိုယ် အသတ်ခံရတာ မင်း မြင်ချင် လားဟင်"

လုံးဝ မှောင်သွားပြီ။ ကမ်းပေါ်မှာ အဖေရပ်နေပုံကို ဝိုးတဝါးမျှသာ မြင်ရ၏။ နံဘေးတွင် နီးနီးကပ်ကပ် နေရသူက ဖီးလစ်လန်း။ သူ့လေသံက နွေးနွေးထွေးထွေး။

မော်ကြည့်လိုက်တော့ သူ့မျက်နှာက ပြုံးလို့။ ကလေးငယ် တစ်ဦးအား ကျီစယ်နေသလိုလိုနှင့် ကြင်နာခြင်း အပြည့် ပါသည့် အပြုံးမျိုး။

"မငိုတော့ပါဘူး၊ ဘယ်သူ့မှလည်း ပြန်မပြောပါဘူး၊ စိတ်ချပါ"

"ကျေးဇူးတင်ပါတယ်ကွယ်"

သူက ခပ်တိုးတိုးလေး ပြန်ပြောသည်။ သည်ထက်ပိုပြီး ဘာမှ ပြောချိန် မရတော့။ ကမ်းပေါ်သို့ ခေါ်တက်လာခဲ့ ရသည်။ မစ္စတာရှာရမီဆီသို့ လျှောက်သွားပြီး ဦးညွှတ်ကာ -

"ဦးရဲ့ဇနီးကို ကျွန်တော် ကျေးဇူးတင်ကြောင်း တစ်ဆိတ်ပြောပေးပါ ခင်ဗျား၊ လှေမှာ လုပ်စရာ ကလေးတွေ ရှိနေလို့ ညစာ လိုက်မစားနိုင်တဲ့ အကြောင်းလည်း တောင်းပန်ပေးပါ၊ မင်္ဂလာညချမ်းပါ ခင်ဗျာ"

ဂျူးဒစ်ကို လက်ကမ်းပေးသည်။ ဂျူးဒစ်၏ လက်ကလေးကို ဆုပ်ထားရာမှ အညာညှစ်ပြီး လွှတ်ပေး လိုက်သည်။ မစ္စစ္စပီသည် နေရောင်ခြည်အောက်တွင် ပကတိရွှေအဆင်းဖြင့် ဝင်းဝါလျက်ရှိ၏။ ဟိုမှာ ဘက်ကမ်း တွင်ရော သည်မှာဘက် ကမ်းတွင်ပါ လိမ္မော်တွေ ဖွေးဖွေးလှုပ် ပွင့်နေကြပုံမှာ ရင်အေးစရာ ကောင်းလှသည့် မြင်ကွင်းဖြစ်ပါသည်။ ရှုမဆုံးတော့သည့် လိမ္မော်ခင်းကြီးကို ဇာပဝါဖြူဖြင့် လွှမ်းခြုံ ပေးထားသည့် အလား။ မွှေးပျံ့ပျံ့ရနံ့ကလေးသည် လေထုထဲတွင် လွင့်မျောနေလေသည်။

ဂျူးဒစ်သည် ရေစပ်တွင်ထိုင်ကာ ဖီးလစ်ပြောသမျှ နားထောင်လျက်ရှိ၏။ စတွေ့သည့်နေ့မှ ရေတွက်လျှင် ခုနစ်ရက် တိုင်ခဲ့ပြီ။ တစ်နေကုန်လို့ တစ်ထောက်နားသည့် အခါတိုင်း ကမ်းခြေတွင် ပိန်းကောနှစ်စင်း အတူတူ ကပ်ကြသည်။ ဖီးလစ်က ဂျူးဒစ်နှင့် စကားပြောခွင့်ရအောင် အမြဲနည်းလမ်းရှာသည်။

ဂျူးဒစ် ပထမ တင်းခံနေသေးသည်။ ကျွန် အရောင်းအဝယ် လုပ်သည့် မှောင်ခိုသမားနှင့် စကားမပြောလိုဟု ဇွတ်ငြင်းသည်။ သို့သော် ချိုလွန်းသော အပြုံးနှင့် အညင်အသာ တိုးလျှိုး တောင်းပန်မှုဒဏ်ကို ဂျူးဒစ် ကြာရှည် မခံနိုင်ပါ။

သူပြောသမျှ ကို ရင်တမမ နားထောင်နေရ၏။

"... ဘိုနီလက်က ရွက်တိုင်ပေါ် ဖက်တက် လိုက်လာတယ်။ ဓားမြှောင်ကို ပါးစပ်ထဲမှာ ကိုက်လို့၊ ခါးမှာလည်း ခြောက်လုံးပြူး နှစ်လက်နဲ့၊ အစ်ကို ဘဝဆုံးပြီလို့ ထင်လိုက်တယ်။ အဲဒီမှာ သူ့ပါးစပ်ထဲက ဓားကို အစ်ကို လှမ်းမြင်လိုက်တယ်။ ဓားက နှစ်ဖက်သွား ..."

"အင်း ... အင်း ... အဲဒီတော့"

"နောက်ဆုံး ကျည်ဆန်နဲ့ ပစ်ထည့် လိုက်တာပေါ့၊ အစ်ကို့ လက်တွေ သေနတ်ကိုတောင် မနိုင်တော့ဘူးလေ၊ ဒါပေမဲ့ ဘုရားသခင် ကျေးဇူးတော်ကြောင့် သူ့ရင်ဘတ်ကို တည့်တည့်မှန်တယ်၊ အဲဒီမှာ ဘိုနီလက်ဟာ ကြယ်ကြွေသလို ရွက်တိုင်ပေါ်က လွင့်ကျသွားတာပဲ"

"လူစီဖာ" လိုပေါ့နော် အစ်ကို"

"ဘယ်သူ"

"ကျမ်းစာ ထဲကလေ"

“ဩော် ... အင်း ... ဒါပေါ့၊ အဲဒီတော့မှ ကျန်တဲ့ ကောင်တွေကို ထိန်းလို့ရတော့တယ်၊ အဲဒီမှာ တို့တစ်တွေ သူ့သင်္ဘောကို ရလိုက်တာပဲ၊ အင်္ဂလိပ် သင်္ဘောတွေဆီက သူ ရထားတဲ့ ငွေတွေ၊ ပိုးချည် ထုပ်တွေနဲ့ ကျွန်တွေလည်း သင်္ဘော အပြည့်ပဲ”

ဂျူးဒစ်က ပါးစပ်အဟောင်းသားနှင့် -

“အဲဒါတွေ အစ်ကို ဘာလုပ်ပစ်သလဲဟင်”

“ဝေယူကြတာပေါ့၊ အစ်ကို့ဝေစုအားလုံး ဟောဒီ ပိန်းကောလှေကြီးထဲမှာလေ”

“ဟင် ... အဲဒါတွေ အစ်ကိုမှ မပိုင်တာဘဲ” ဂျူးဒစ်က အသံသေးသေး ကလေးဖြင့် အထိတ်တလန့် ကန့်ကွက်သည်။

“ဒါတော့ ဒါပေါ့ ကလေးရယ်၊ ဒါပေမဲ့ ဘိုနီလက်လည်း ဒါတွေ မပိုင်ဘူးလေ”

သူက ရယ်ပြီး စကားဆက်သည်။

“သူ့ကို ရှင်းလိုက်ပြီးတဲ့ နောက်ပိုင်း ကမ်းရိုးတန်းတစ်လျှောက် ဘယ်လောက် အေးချမ်းသွားသလဲ၊ အစ်ကိုတို့ ဒါလောက်တော့ ရသင့်တာပေါ့ကွာ”

“ဒါပေမဲ့ ပင်လယ်ဓားပြ သင်္ဘောတွေအတွက် ဥပဒေ ထုတ်ထားတာ ရှိတယ်လေ၊ သိမ်းရတဲ့ ပစ္စည်းတွေကို ပြည်နယ်ဘုရင်ခံ လက်ထဲအပ်ရမယ်၊ ပြီးမှ ဘုရင်ခံက ဆုလာဘ် ပြန်ပေးမယ်လေ”

ဖီးလစ်က ခပ်ရွှင်ရွှင် ပြန်ပြောသည်။

“အဲဒါတော့ ကျွန်တော်မျိုး မသိဘူးခင်ဗျ၊ ဒါပေမဲ့ နံကြား ဓားနဲ့ အထိုးခံရပြီးမှ သက်စွန့်ဆံဖျား တိုက်ယူ လာခဲ့တဲ့ ပစ္စည်းတွေကို အမိရဲ့ ဘုရင်ခံနဲ့ ဝေမယူနိုင်ပါဘူးဗျာ၊ ပြီးတော့ ကျုပ်က လူဝီစီးယားနားကို လာချင်နေတာ၊ ဧကေ သုံးထောင်ကို တောရှင်းဖို့ ကျုပ်လက်နှစ်ထဲနဲ့ လာလို့ မရဘူးလေ”

“အင်း ... ဒါတော့ ဟုတ်တာပေါ့လေ”

ဂျူးဒစ်က မတ်တတ်ထရပ်သည်။ ထင်းခွေ ထွက်လာခြင်းဖြစ်၏။ ထင်းစည်းကို ပွေ့ပြီး -

“သွားမယ်အစ်ကို၊ လူကြီးတွေ စိတ်ပူနေကြလိမ့်မယ်”

“ဒါထက် အစ်ကို့ကို နောက်ထပ် ဘာလို့ ထမင်းစား မဖိတ်တော့တာလဲ၊ ကြိုသိရင် မလှမ်းမကမ်းမှာ လှေချင်း ယှဉ်ကပ်လို့ ရတာပဲ၊ ဒါဆို အစ်ကိုတို့ လှေကို စားရင်း သောက်ရင်း မျက်ခြည်မပြတ် လှမ်းကြည့် နေနိုင် တာပေါ့”

ထင်းချောင်း တစ်ချောင်းမှ အခေါက်ကလေးကို ဆွဲခွာရင်း ဂျူးဒစ် ခပ်ညိုးညိုးကလေး ပြောသည်။

“အဖေက နောက်ထပ် မဖိတ်ဖို့ အမေ့ကို ပြောထားတယ် အစ်ကို၊ အစ်ကို့ကို အဖေ သိပ်သဘောကျပုံ မရဘူး။ ကျွန်မတို့ မောင်နှမအပေါ် အစ်ကို့သြဇာ လွှမ်းသွားမှာ သူ စိုးတယ်တဲ့”

ဖီးလစ်က ရယ်ပြီး -

“မင်း အစ်ကိုလောက် ခေါင်းမာတဲ့ချာတိတ်က ဘယ်လို လုပ်ပြီး အစ်ကို့သြဇာ ညောင်းမှာလဲ၊ အဲ မင်းနဲ့ ပတ်သက်လို့ ကတော့ ...”

“သွားမယ်နော်”

ပြောပြောဆိုဆို ဂျူးဒစ် လိမ္မော်ပင်တန်းထဲသို့ ပြေးဝင်ပျောက်ကွယ်သွားသည်။

မီးဖိုတွင် ထင်းထိုးနေရင်း ဖီးလစ် နောက်ဆုံးပြောလိုက်သည့် စကားလုံး ကလေးများကို ပြန်စဉ်းစား နေမိ၏။ သူ့လွှမ်းမိုးမှု ခံနေရသည်တော့ အမှန်။ ကြည့်လေ။ အဖေ့အလိုမတူဘဲ သူပြောတာတွေကို တိတ်တိတ် သွားနားထောင် နေမိတယ်။ ပြီးတော့ သွေးသံရဲရဲ ဇာတ်လမ်းတွေကိုလည်း တဖြည်းဖြည်း ကြောက်ရမှန်း မသိတော့ဘူး။ သူနဲ့မတွေ့ခင် လွန်ခဲ့တဲ့ တစ်ပတ်လောက်က ဆိုရင် ဂျူးဒစ်အတွက် ဒါမျိုး တွေဟာ မကြားဝံ့ မနာသာတွေလေ။

ဒါတောင် သူ့အကြောင်း သူ အကုန်ပြောသေးဟန် မတူဘူး။ သိရပြီးသလောက်နဲ့ပဲ သူ့အကြောင်း နားလည် ပါပြီလေ။ ဘုရားသခင်ကိုရော၊ ငရဲကိုရော ကြောက်မယ့်လူ မဟုတ်ပါဘူး။ သူနဲ့ဆိုရင် ကိုယ်တိုင် ဘုရားမေ့၊ တရားမေ့ ဖြစ်နေပြီ မဟုတ်လား။ သူ့အနားရောက်သွားရင် ခန့်ချောချောတဲ့ သူ့မျက်နှာကို ငေးကြည့်ပြီး သူပြောသမျှထဲမှာ မျောပါနေမိသွားရော။ တစ်ပြိုင်တည်းမှာ ကိုယ့်ဘဝကို ငြီးငွေ့လာတာကရော၊ သူနဲ့တွေ့မှ ဖြစ်လာတာ မဟုတ်လား။

လှေသမားများအတွက် ညစာ အဆင်သင့်ဖြစ်ကြောင်း အော်ခေါ်အပြီးတွင် အဖေက လှမ်းခေါ်သည်။ အဖေ့ နံဘေးက မြက်ခင်းပေါ်တွင် ဝင်ထိုင်လိုက်၏။

အဖေက သူ့ပန်းကန်ထဲ ထမင်းထည့်ရင်း -

"သမီး စောစော က မစ္စတာလန်းနဲ့ စကားပြောခဲ့တယ် မဟုတ်လား"

ဂျူးဒစ် မျက်လွှာချသည်။

"ဟုတ်ကဲ့ပါ ဖေဖေ"

"ဒါကြောင့် အသံကြား လိုက်ပါတယ်ထင်တာ၊ ဒီမယ် သမီး နောက်ကိုနှစ်ယောက်ထဲဆိုရင် သူနဲ့ စကား မပြောစေချင်ဘူး။ သူ့အကြောင်းလည်း ဘာမှသိတာ မဟုတ်ဘဲနဲ့"

"ဘာလို့ မသိရမှာလဲ၊ သူ အကုန်ပြောပြတယ် ဖေဖေ၊ သူ့အဖေက ကာရိုလိုင်းနားကမ်းခြေမှာ လယ်ပိုင်ရှင်ကြီးတဲ့"

ဖေဖေ ပခုံးတွန့်သည်။

"အလကားပါ၊ ပေါ့ပေါ့နေ ပေါ့ပေါ့စားတွေ၊ ပြင်သစ်ဝတ္ထုတွေ ဖတ်ပြီး ဘုရားမသိ တရားမသိ လူမျိုးတွေ"

ဂျူးဒစ် က ဆက်လက်ကာကွယ်သည်။

"သူက အင်္ဂလန်မှာ ကျောင်းနေလာတာတဲ့၊ ပြီးတော့ ပြင်သစ်မှာလည်း အဆင့်မြင့် စကားပြော သင်တန်း သွားတက်ခဲ့ သေးတယ်တဲ့"

"အင်း ၊ ပြင်သစ်မှာ အဆင့်မြင့် စကားပြောအပြင် တခြားကိစ္စတွေကလည်း အများကြီး တက်လာမှာပေါ့"

မစ္စက်ရှာရမီ က ဝင်ဟန့်သည်။

"အို ... မက်ကလည်း၊ ကလေးက ၁၅ နှစ်သမီးပဲ ရှိသေးတယ်လေ"

သည်တော့မှ စကားဝိုင်း တိတ်သွားပြီး ငြိမ်ငြိမ်ကလေး ဆက်စားကြသည်။ ဂျူးဒစ်က တဖိတ်ဖိတ် တောက် နေသည့် ရေပြင်ကို ငေးကြည့်နေရင်း သူပြောသွားသည့် စကားတစ်ပိုင်းတစ်စ၏ အဓိပ္ပာယ်ကို ရှာဖွေ နေသည်။

လှေသမားတွေ စားသောက်ပြီးကြတော့ ပန်းကန်ခွက်ယောက်တွေ ဆေးကြောရန် ခပ်လှမ်းလှမ်းရှိ စမ်းချောင်း ကလေးဆီသို့ ဂျူးဒစ် ပွေ့ယူသွားသည်။ ဆေးကြောနေရင်း ဇက်ပိုးတွင် အေးခနဲဖြစ်သွား၏။ ပြီးတော့ အေးစက်စက်

အရာတစ်ခု ရင်ဘတ်ထဲ လျှောကျသွားသည်။ လန့်ပြီး လက်ထဲမှ အိုး လွတ်ကျသွား၏။

စမ်းချောင်းနံ့ဘေး ချုံပုတ်ထဲမှ သူ ဘွားခနဲ ပေါ်လာသည်။ ထုံးစံအတိုင်း စွဲမက်ချင်စရာ ခပ်ရွှင်ရွှင် အပြုံးကို ဆင်မြန်းလျက်။

"လန့်သွားလား၊ အစ်ကို တောင်းပန်ပါတယ်ကွာ"

ပြောပြောဆိုဆို လွတ်ကျသွားသည့် အိုးကို ချောင်းထဲမှ လှမ်းဆယ်ပေးသည်။ ဂျူးဒစ်က ဆောင့်ကြောင့် ထိုင်ရင်း လက်နှစ်ဖက်ကို လိမ်နေသည်။

"သွားပါ အစ်ကိုရယ်၊ အဖေက အစ်ကိုနဲ့ စကားမပြောရဘူးတဲ့"

"အင်း ... ဒီလိုပဲ ဖြစ်ရမှာပေါ့"

သူက ပြောပြောဆိုဆို ဝင်ထိုင်သည်။ သူတို့ နေရာကို ဂျူးဒစ် အလန့်တကြား လှမ်းကြည့်သည်။ ချုံတွေ ကွယ်နေ၍ လုံးဝ မမြင်နိုင်။

"ခုတင်က ဘာလဲဟင်၊ လန့်သွားတာပဲ အစ်ကိုရယ်"

ရင်ဘတ်ထဲမှာ တစ်ခုခု ရှိနေမှန်း သိနေသလိုပဲ။ ရှက်လိုက်တာလေ။

"မင်းကို အစ်ကို မြင်မြင်ချင်း ပေးချင်နေတဲ့ လက်ဆောင်ကလေးပါ၊ ထုတ်ကြည့်လေ"

ဇက်ပိုးကို စမ်းပြီး ဖြုတ်ယူကြည့်သည်။ ရွှေဆွဲကြိုးကလေး၊ ဆွဲသီးကလေးနဲ့။

"အို ... လှလိုက်တာ အစ်ကိုရယ်၊ အဲဒါ ဘာကျောက်လဲဟင်"

"ဥဿဖရား လေ၊ ဒီကျောက် အရောင်မျိုးရှိတဲ့ မျက်လုံးတွေ မင်းဆီမှာပဲ ကိုယ် တွေ့ဖူးတယ်"

ဆွဲသီးကလေးကို နေရောင်တွင် ဂျူးဒစ် ထောင်ကြည့်သည်။ ဟုတ်ကော ဟုတ်ရဲ့လားကွယ်။ ကျောက်ကလေးက ရွှေရောင်တောက်နေတယ်လေ။ ဂျူးဒစ်မျက်လုံးတွေ ဒါလောက်လှလို့လား အစ်ကို ရယ်။ တစ်ပြိုင်တည်း အတွေးတစ်ခု ခေါင်းထဲ ဝင်လာသည်။

"အစ်ကို ဒါ ရိုးရိုးသားသား ပေးတဲ့ လက်ဆောင်လား"

"မင်း မေးလို့ ပြောရရင်တော့ သိပ်မရိုးသားဘူး။ မင်းနဲ့ လိုက်ဖက်လွန်းလို့ အစ်ကိုပေးတာ တစ်ဆိတ် လက်ခံပါနော်။ ဒီမယ် ဂျူးဒစ်၊ အစ်ကို အသက်ရှင်နေသမျှ ကာလပတ်လုံး ဘယ်ပင်လယ် ဓားပြနဲ့မှ မပတ်သက် စေရဘူး။ အစ်ကို ကတိပေးတယ်။ လူဝီစီယားနားမှာ စိုက်ပျိုးရေးသမားအဖြစ် တစ်သက်လုံး လုပ်ကိုင်စားသောက် သွားမယ်။ ပြီးတော့ ..."

ပြောပြောဆိုဆို ဂျူးဒစ်ကို သူ့ရင်ခွင်ထဲ ဆွဲယူပြီး ကလေးမလေး၏ နှုတ်ခမ်းအစုံကို ခပ်ကြမ်းကြမ်း နမ်းလေတော့၏။ ဂျူးဒစ် တစ်ခါတစ်ရံ စဉ်းစားကြည့်ဖူးသည်။ ယောကျ်ားတစ်ယောက်က နမ်းရင် သိပ် ရှက်စရာ ကောင်းမှာပဲလို့။ သို့သော် လက်တွေ့တွင် ထင်သလိုမဟုတ်ဘဲ တိမ်တိုက်တွေထဲ လွင့်မျော လိုက်ပါ သွားရသလို ပါပဲလားကွယ်။

အတန်ကြီးကြာမှ အိပ်မက်က နိုးလာသလို သူ့ရင်ဘတ်ကို အလန့်တကြား တွန်းပြီး -

"အိုး ... ဒီလို မလုပ်ပါနဲ့၊ ဘာပြောပြော ပင်လယ်ဓားပြဟာ ပင်လယ်ဓားပြပဲ၊ ပြီးတော့ အစ်ကိုဟာ လူသတ်သမား"

ဖီးလစ် နောက်ဆုတ် လိုက်သည်။ အလန့်တကြား ဖြစ်သွားခြင်းမျိုး။ နှုတ်ခမ်းပေါ်မှ ပြုံးနေကျအပြုံးတွင် ရွှင်ပျ ကြည်လင်ခြင်းများ ပျောက်ကွယ်သွားကြ၏။ သို့သော် အကြင်နာခိုးတွေ ဝေနေဆဲ။

"မင်းပြောတာ ဟုတ်ပါတယ် ဂျူးဒစ်၊ ဒါပေမဲ့ မင်းကို အစ်ကို ချစ်သလောက် ချစ်တဲ့သူ၊ အစ်ကို့ အချစ်မျိုး နဲ့ ချစ်မယ့် လူတော့ မင်း ဘယ်တော့မှ တွေ့မှာ မဟုတ်ဘူး"

ဂျူးဒစ်ကလေး ၏ မျက်ဝန်းထဲတွင် မျက်ရည်တွေ ပြည့်လျှံလာသည်။

"ဪ ၊ ကလေးရယ်"

ဖီးလစ် က သူ့လက်ကလေးကို ဆွဲယူလိုက်သည်။ ဥဩဖရား ဆွဲကြိုးကလေး တန်းလန်းနှင့်။ ခပ်တိုးတိုး မေးသည်။

"မင်းကော အစ်ကို့ကို မချစ်ဘူးလားဟင်"

"မသိဘူး အစ်ကိုရယ်၊ ဂျူးဒစ် တစ်ခုပဲသိတယ်၊ အစ်ကို့ကို ချစ်မိရင် မှားမှာပဲလို့၊ အစ်ကို လုပ်ခဲ့တာတွေက ကြောက်စရာတွေ ချည်းပဲ၊ အစ်ကိုက ပညတ်တော် ၁၀ ပါးကို အားလုံး ချိုးဖောက်ခဲ့တာ မဟုတ်လား"

“မင်း ပြောတာ မှန်တယ်၊ မင်းအတွက် နောက်ထပ် ကျူးလွန်ဖို့လည်း အစ်ကို ဝန်မလေးဘူး၊ ပြီးတော့ မင်းအတွက်ပဲ အစ်ကို သူတော်ကောင်းဖြစ်အောင် လုပ်ယူနိုင်တယ်၊ အဲဒါက ပိုခက်ပါတယ်၊ ဒါပေမဲ့ အစ်ကို ဖြစ်အောင် လုပ်မယ်၊ အစအဆုံး အစ်ကို ပြောပြပါရစေလား ဂျူးဒစ်ရယ်”

နှစ်ယောက်သား မြက်ခင်းပေါ် ထိုင်ချလိုက်ကြသည်။ ဂျူးဒစ် စဉ်းစားနေ၏။ ဖီလစ်လန်း ဆိုသူကို ဘုရားသခင်က အမွှန်အမြတ် ဖန်ဆင်းပေးပြီးကာမှ ငရဲပြန်ပို့မည် ဆိုလျှင်သည့်ထက် ဝမ်းနည်းစရာ ဆုံးရှုံးမှုမျိုး ရှိတော့မည်မထင်။

“အချစ်ရယ်၊ အစ်ကို မင်းကို လက်ထပ်ပါရစေနော်၊ တော်တော်တော့ ရယ်စရာကောင်းတယ်၊ ဘယ်တုန်းကမှ အစ်ကို မိန်းမယူဖို့ စိတ်မကူးခဲ့ဘူး သိလား။ အစ်ကို ဆက်ပြောရမလားဟင်”

ဂျူးဒစ် ခေါင်းညိတ်သည်။ ဖီးလစ် ဒူးနှစ်ဖက်ပိုက်ပြီး ဆက်ပြောသည်။

“အစ်ကို ဟာ အလကားကောင်ပါ၊ အစ်ကိုတို့မှာ ညီအစ်ကို နှစ်ယောက်ပဲရှိတယ်၊ အစ်ကိုက အငယ်၊ အစ်ကို တို့ အရပ်မှာ ဘုရားရှိခိုးကျောင်းရယ်၊ စစ်တပ်ရယ်၊ ဥပဒေရယ်၊ ဒီသုံးမျိုးပဲရှိတယ်။ အဲဒီသုံးမျိုးထဲက တစ်မျိုးမျိုး နဲ့ မနီးစပ်ရင် ဘာမှ လုပ်စရာ မရှိတော့ဘူး။

“အစ်ကို အလုပ်ချင်ဆုံးက စိုက်ပျိုးရေးပဲ။ ဒါပေမဲ့ အဖေဆုံးတော့ မြေတွေကို အစ်ကို့ရဲ့ အစ်ကိုက ရလိုက်တယ်။ အစ်ကိုတို့ ညီအစ်ကို နှစ်ယောက်က ငယ်ငယ်ကတည်းက မတည့်ကြဘူးလေ။ အဲဒီမှာ အစ်ကို အရက်သမား၊ ဖဲသမား ဖြစ်သွားတာပဲ။ နောက်ဆုံး သူက အစ်ကို့ကို စစ်ဗိုလ်ဖြစ်အောင် လုပ်ပေးပြီး ပြင်သစ်နဲ့ တိုက်နေတဲ့ စစ်မြေပြင်ကို ပို့လိုက်တယ်၊ သူ့အတွက် တစ်ရန်ရှင်းသွားတာပေါ့”

ဂျူးဒစ် ၏ မျက်လုံးများသည် မြစ်ပြင်ဆီတွင် စိုက်နေသည်။ မစ္စစ်စပီသည် သူ့လက်ထဲက ဥသျှဖရား ဆွဲပြားကလေး နှင့် အရောင်တူနေပြန်သည်။ ဖီးလစ်က ပြော၏။

“ပထမတော့ စစ်ထဲမှာ ပျော်သလိုပဲ၊ နောက်တော့ ငြီးငွေ့လာတာပါပဲ။ စစ်ပြီးတော့ ကာရိုလိုင်းနားကိုပဲ ပြန် လာတယ်၊ တစ်ညနေမှာ အရက်မူးကြပြီး ညီအစ်ကိုဝမ်းကွဲ တစ်ယောက်နဲ့ ရန်ဖြစ်ကြတယ်။ အစ်ကိုတို့ နှစ်ယောက်ကို ငါးရံ့နှစ်ကောင်လို သဘောထားနေတဲ့ မိန်းမတစ်ယောက် ကိစ္စနဲ့ ဖြစ်ကြတာလေ၊ နောက်တစ်နေ့မှာ နှစ်ယောက် ဓားချင်း ယှဉ်ခုတ်ကြတယ်၊ အစ်ကို့ မျက်နှာမှာ သူ့ဓားချက် မိသွားတာပဲ”

“သြော် ၊ အစ်ကို့ ဒဏ်ရာက ချိန်းပွဲမှာ ရတာကိုး”

ဂျူးဒစ် စုတ်တသပ်သပ်နှင့် ပြောလိုက်သည်။

“ဟုတ်တယ် ကလေးရယ်၊ အစ်ကိုကသာ သူ့မျက်နှာကို ဒဏ်ရာရအောင် လုပ်ဖြစ်ခဲ့ရင် ခုနေမှာ မစ္စစ္စပီမြစ်ထဲ အစ်ကို ရောက်နေမယ် မဟုတ်ဘူး။ အစ်ကို မင်းကို ဝန်ခံပါ့မယ် ဂျူးဒစ်ကလေးရယ်၊ အစ်ကိုလေ သူ့ကို လည်ချောင်း ကနေ ဗိုက်အထိ ခွဲချပစ်လိုက်မိတယ်”

“ဘုရား၊ ဘုရား”

“ဒီလိုနဲ့ အရပ်က ထွက်လာခဲ့ရတယ် ဆိုပါတော့၊ ဂျော့ဘုရင်က ပြင်သစ်စစ်ပွဲမှာပါတဲ့ စစ်သားတွေကို ဆုလာဘ် အဖြစ် လူဝီစီးယားနားမှာ ပိုင်စားမြေတွေ ပေးနေတယ် ကြားတာနဲ့ အစ်ကိုလည်း လျှောက်လိုက်တယ်။ ဒယ်လ်ရှိုင်း ကုန်းမြင့်မှာ”

“ဒယ်လ်ရှိုင်းကုန်းမြင့်မှာ၊ ဟုတ်လား၊ အဖေ ရတာလည်း အဲဒီမှာပဲ အစ်ကို”

“ဒါဆို အစ်ကိုတို့ နှစ်ယောက်လုံး ကံကောင်းတာပဲ၊ အဲဒီနေရာက မြေသြဇာ အကောင်းဆုံးတဲ့။ ဒါပေမဲ့ အစ်ကို့မှာ ထွန်တစ်တုံး ထယ်တစ်လက် မရှိဘဲ၊ ကျွန်တွေ ငွေတွေမရှိဘဲ အဲဒီမြေတွေကို ဘာသွားလုပ်မလဲ”

“အဲဒါကြောင့်”

ဂျူးဒစ်က ဖြတ်မေးမည် လုပ်ပြီးမှ ရပ်နေလိုက်သည်။

“ဟုတ်တယ်၊ အစ်ကို ထွက်ပြီး လိုတာတွေရအောင် လုပ်ယူလာခဲ့တယ်။ ကာရိုလိုင်းနား ကမ်းခြေက နှောင်တော့် နှောင်တော်များလို အိမ်ဆောက်ဖို့ သင်္ဘောတွေကို ဓားပြထွက်တိုက်တာ မဟုတ်ဘူး။ ပင်လယ်ဓားပြ ဗိုလ်ဘိုနီ လက်ဆီက ပစ္စည်းတွေ ရအောင်ယူပြီး တစ်ခါတည်း ပင်လယ်ပြင်ကို စွန့်ခဲ့တာ၊ ပစ္စည်းတွေ ခွဲကြတော့လည်း အစ်ကို့ လုပ်ငန်းအတွက် သုံးလောက်ရုံပဲ ခွဲယူခဲ့တယ်။ ဒီပြစ်မှုကို ကျူးလွန် ရတာလည်း တခြားကြောင့် မဟုတ်ဘူး။ အစ်ကို့ရဲ့ အစ်ကိုထက် နောက်မှ မွေးလာလို့”

ရှေ့ကို ကိုင်းကာ ဂျူးဒစ်၏မျက်နှာကို သေသေချာချာ အကဲခတ်ပြီး -

“ကဲ ... အစ်ကို ဟာ ရွံစရာ လူတစ်ယောက်လို့ မင်းထင်လား” ဟု မေးလိုက်သည်။

ဂျူးဒစ် ဝေခွဲမရ ဖြစ်သွားသည်။ နဖူးကို လက်နှစ်ဖက်နှင့်အုပ်ပြီး -

"မသိဘူး အစ်ကို၊ ဂျူးဒစ်ထင်တာကတော့ လူတွေဟာ ဘုရားသခင်ရဲ့ အလိုတော်အရ လုပ်စရာ ရှိတာတွေ လုပ်ကြရမှာ၊ မစဉ်းစားတတ်တော့ဘူး အစ်ကို"

"ဒီမှာကြည့်"

ဖီးလစ်က မြေပုံတစ်ချပ် ဆွဲထုတ်ပြီး ဂျူးဒစ်၏ဒူးပေါ်တွင် ဖြန့်လိုက်သည်။

"ဟောဒါက မစ္စစ္စပီမြစ်၊ ဒါက နယူးအော်လီယန်း၊ အဲဒီကဆက်ပြီး လေးရက် စုန်ရင် ဒယ်လ်ရှိုင်းကို ရောက်ရော။ ဟောဒါ ဒယ်လ်ရှိုင်း ကုန်းမြင့်ပဲ၊ ဟောဒီနယ်တစ်ခွင်မှာ မြေသြဇာအကောင်းဆုံး မြေကေ သုံးထောင်ဟာ အစ်ကိုနဲ့ မင်းအတွက် စောင့်နေတယ်၊ ရောမ ယာတောအိမ်ကြီး ဆောက်မယ်၊ ဝက်သစ်ချပင်တွေ အတန်းလိုက် စိုက်မယ်၊ အိမ်ကြီးကို "ဝက်သစ်ချမြိုင်" လို့ နာမည်ပေးမယ်၊ ကြည့်စမ်း၊ အိမ်ကို နာမည်ပေးဖို့ တစ်လမ်းလုံး စဉ်းစားလာတာ၊ ခုမှ တွေ့တော့တယ်၊ မင်း သဘောကျရဲ့လားဟင်"

"အင်း၊ လှပါတယ်"

ဂျူးဒစ် မရေမရာ ဖြေလိုက်၏။ ဖီးလစ် စကားဆက်သည်။

"ပိုင်စားမြေတွေရဲ့ အချက်အချာနေရာမှာ နန်းတော်သမျှ ခမ်းနားတဲ့ အိမ်ကြီးဆောက်ပြီး ကျွန်တွေ အတွက် မြို့ကလေးတစ်မြို့နဲ့ တူအောင် အိမ်ကလေးတွေ ဆောက်ပေးမယ်၊ ဝက်သစ်ချမြိုင်ကို သစ်နဲ့ မဆောက်ဘဲ အုတ်နဲ့ ဆောက်မယ်၊ ပိုလည်း ခိုင်တယ်၊ အပူရှိန်ကိုလည်း တားနိုင်တယ်၊ ဝက်သစ်ချပင် တွေကို အိမ်ရှေ့တံခါးမကြီးအရောက် တန်းစိုက်မယ်၊ တို့တစ်တွေ အိုမင်းမစွမ်းဖြစ်မလာခင် အဲဒီဝက်သစ်ချပင် တွေဟာ တောထဲက အပင်တွေနဲ့ တစ်ရွယ်တည်း ဖြစ်လာစေရမယ်။ အပင်အောက်ကို တို့များ မြင်းဖြတ်စီးသွားရင် ရေညှိပင်တွေက ခေါင်းနဲ့မလွတ်ဘဲ ရှိနေစေရမယ်။

"မင်းက ဝက်သစ်ချမြိုင်ရဲ့ မဟေသီလေ ဂျူးဒစ်ရဲ့၊ တို့နှစ်ယောက် မျိုးဆက်တစ်ခုကို တည်ထောင်မယ်။ နှစ်ရာပေါင်း များစွာ အခွန့်ရှည်မယ့် မျိုးဆက်မျိုးလေ။ ဝက်သစ်ချမြိုင်ရဲ့ မျိုးဆက်သွေး အဆင့်ဆင့် အတွက် တို့နှစ်ယောက်ကို ဂုဏ်ယူမဆုံး ရှိနေစေရမယ်။ ပထမ ဝက်သစ်ချမြိုင် အိမ်ကြီး အတွက် ဂုဏ်ယူ ကြလိမ့်မယ်။ ပြီးတော့ မြစ်ညာက အတူ လက်တွဲပြီး စုန်ဆင်းခဲ့တဲ့ အစ်ကိုနဲ့ မင်း အတွက် သူတို့ ဂုဏ်ယူကြ လိမ့်မယ်"

ဂျူးဒစ်က ခပ်ဖြည်းဖြည်း ထ လိုက်သည်။ လက်ပိုက်ပြီး ပတ်ဝန်းကျင်ကို

ငေ့ကြည့်လိုက်သည်။ လိမ္မော်ပင်တွေ၊ အုန်းပင်ပျိုတွေနှင့် သလဲသီးပင်တွေ။ ပြီးတော့ တရွေ့ရွေ့ စီးဆင်းနေသည့် ချစ်စရာ့ မစ္စစ္စပီ မြစ်ရေပြင်။ အားလုံးကို ခုမှ စ တွေ့ဖူးသလို ငေးကြည့်နေသည်။

မြင်ကွင်းထဲတွင် ပြောင်းခင်းများ နောက်ခံနှင့် ယာတောအိမ် ဖြူဖြူကလေးပေါ်လာသည်။ ပြီးတော့ ဇာထိုး နေသည့် ကလေးမလေးက တစ်ယောက်၊ ဂျူးဒစ်ရှာရမီဆိုသည့် ကောင်မလေး။ လှေကားထစ်တွင် ထိုင်ပြီး ဘုရားဗိတန်မှာ စာတန်းထိုးနေသည်။ သူထိုးနေသည့် စာတန်းက "အဘဘုရားသခင်၊ ကျွန်တော် မျိုးမ ဂျူးဒစ်ရှာရမီ ကလေးကို စောင့်ရှောက်တော်မူပါ" ဟူသည့် စာတန်း။ ပြီးတော့ နှင်းမုန်တိုင်းတွေ။ ကောင်းကင်တစ်ခွင်လုံး မှောင်မည်းနေသည့် မိုးသက်မုန်တိုင်းတွေ။ နယူးအင်္ဂလန်တွင် ကျရောက်ခဲ့သည့် သီးနှံ ဖျက်ကပ် ဘေးဆိုးများ။

ဖီးလစ်ကို ခပ်ဖြည်းဖြည်း မော့ကြည့်သည်။ ခုတော့ ဘုရင့်အမှုတော်ထမ်းဟောင်းတွေ စုပြီး ဟိုအဝေးကြီး တစ်နေရာမှာ နယူးအင်္ဂလန် တစ်ခု ထပ်ပြီး တည်ဆောက်ကြ မလို့တဲ့။

ဖီးလစ်က ဂျူးဒစ်ကို အသာကလေး စောင့်ကြည့်နေသည်။ ကလေးမ၏ အတွေးကမ္ဘာထဲသို့ ဝင်ကြည့်နေသည့် အလား။ ပြီး သူကလေး၏ လက်ကို ဆွဲယူပြီး ရိုးရိုးကလေး ပြောသည်။

"လှေသမားတွေ မခိုမကတ်ကြရင် မနက်ဖြန် နယူးရစ်ချ်မွန်ကို တို့ရောက်မယ်၊ ဒါက အင်္ဂလိပ်အခေါ်၊ ပြင်သစ် ကတော့ ဘာတွန်ရုဂ်လို့ ခေါ်တယ်။ မင်းတို့အဖေက အဲဒီမှာနားပြီး လှေသမားတွေကို အနားပေး လိမ့်မယ်။ အစ်ကိုလည်း ပထမ နားမလို့ပဲ။ ဒါပေမဲ့ မနားတော့ဘူး။ ဒယ်လ်ရှိုင်းအရောက် ဆက်စုန် တော့မယ်။ မင်းတို့ ရောက်လာလာချင်း အစ်ကို လာတွေ့မယ်၊ ဟုတ်ပြီလား"

"ဟုတ်ကဲ့ အစ်ကို"

ကတုန်ကယင် ဖြင့် ဂျူးဒစ် ပြန်ပြောလိုက်သည်။

"ကဲ သွားတော့၊ လူကြီးတွေ စိတ်ပူနေမယ်၊ မင်းကြိုက်သလို စဉ်းစားပြီး ဆုံးဖြတ်နော်"

"ဟုတ်ကဲ့"

"ဪ၊ အချစ်ကလေးရယ်"

ဂျူးဒစ်ကလေးကို ရင်ခွင်ထဲ ဆွဲသွင်းလိုက်သည်။ သည်တစ်ခါ ဂျူးဒစ် မငြင်းတော့။ သူ့ကျောပြင်ကို ပြန်သိုင်းဖက် ထားလိုက်၏။ မျက်နှာကို သူ့ရင်ခွင်ထဲတွင် မြှုပ်ထားလိုက်သည်။ ရင်ခုန်သံကို အတိုင်းသား ကြားနေရသဖြင့် သူ့ကို ဖီးလစ် တကယ်ချစ်နေကြောင်း ဂျူးဒစ် သိလိုက်ပြီ။ ဘယ်လောက် ကြာအောင် တစ်ယောက် နှင့် တစ်ယောက် သိုင်းဖက် ထားကြသည် မသိ။ ဂျူးဒစ်၏ပခုံးကို လက်တစ်ဖက်က ကြမ်းတမ်းစွာ ဆွဲလှည့်လိုက်ရာ -

ဘုရား၊ ဘုရား၊ ဖေဖေပါလား။ ဂျူးဒစ် လဲကျသွားမလို ဖြစ်သွားသည်။ ဒေါသအမျက် ခြောင်းခြောင်း ထွက်နေသည့် မျက်လုံးများဖြင့် စူးစူးရဲရဲကြည့်ကာ ဖီးလစ်ကို အပြင်းထန်ဆုံး စကားလုံးများဖြင့် ပစ်ပေါက်သည်။ ဂျူးဒစ်က ဆွဲကြိုးကလေးကို ရင်ဘတ်ထဲ အလန့်တကြား ထည့်လိုက်သည်။

“ကျွန်တော် တောင်းပန်ပါတယ် ဦး၊ ဂျူးဒစ် ထိခိုက်နစ်နာအောင် ကျွန်တော် ဘာတစ်ခုမှ မပြုမူမိပါ ဘူး”

မတ် က သေနတ်ကို တင်းတင်းဆုပ်ရင်း အံကြိတ်ကာ -

“ဒီမယ် မစ္စတာလန်း၊ နောက်တစ်ခါ ကျုပ်သမီးကို ထိရင် မောင်ရင့်ကို ကျုပ် ပစ်သတ်မယ်”

ဖီးလစ်က ဦးညွှတ်လိုက်ပြီး -

“ကျွန်တော် ဦးသမီးကို တကယ် လက်ထပ်ယူမှာပါ ခင်ဗျား၊ မိသားဖသားပီပီ တောင်းရမ်းယူဖို့ ကျွန်တော့်မှာ အစီအစဉ် ရှိပါတယ်၊ ခွင့်ပြုလိမ့်မယ်လို့ ကျွန်တော် မျှော်လင့်ပါတယ် ခင်ဗျာ”

ပြောပြီး ဂျူးဒစ်ကို တစ်ချက်ကြည့်ပြုံး လိုက်သည်။ သူ့အဖေ ဘယ်လို ဖြေဖြေ အကြောင်းမဟုတ် ဟူသည့် အပြုံးမျိုး။ ဂျူးဒစ်က ရင်ဘတ်ထဲက ဆွဲကြိုးကလေးကို စမ်းကြည့်နေသည်။

“လုံးဝမဖြစ်နိုင်ပါဘူး မစ္စတာလန်း၊ ဘယ်နည်းနဲ့မှ မစဉ်းစားနိုင်ပါဘူး၊ မင်္ဂလာပါ”

“မင်္ဂလာပါခင်ဗျာ”

ချာခနဲ လှည့်ပြီး ဖီးလစ် တောထဲဝင်သွားသည်။ မတ်က သမီးလုပ်သူဆီ လျှောက်လာပြီး ပခုံးကို သိုင်းဖက်ကာ ညင်ညင်သာသာ ခေါ်သည်။

"လာ သမီး ၊ သွားကြစို့"

ဒေါသဖြစ်ဟန် လုံးဝမရှိ။ ဝမ်းနည်းသည့် အသွင်တော့ ပေါ်နေသည်။ ဂျူးဒစ် ပိုပြီး စိတ်မကောင်းဖြစ် သွား၏။ ဘာမှမပြောဖြစ်ကြဘဲ သားအဖ နှစ်ယောက် ဆက်လျှောက်လာကြသည်။ စခန်းချထားသည့် နေရာ ရောက်ခါနီးမှ -

"သူတို့ဆီ ပြန်မသွားခင် သမီး ခဏ နေချင်သေးလား"

"ဟုတ် ၊ ဟုတ်ကဲ့"

ပြောရင်း ဝမ်းနည်းလာပြီး ငိုချလိုက်သည်။ လဲကျနေသည့် သစ်ပင်ကြီး၏ ပင်စည်ပေါ်တွင် ဖအေက အရင် ထိုင်ပြီး နံဘေးတွင် သမီးကို ထိုင်ခိုင်းလိုက်သည်။ ကလေးတစ်ယောက်လို သိုင်းဖက်ပြီး ဆံပင်ကို သပ်ပေးနေ၏။ ခဏကြာမှ ဂျူးဒစ် မေးသည်။

"ဖေဖေ ဘာလို့ သူ့ကို သတ်မယ်လို့ ပြောတာလဲဟင်"

"သမီးကို သူ နောက်တစ်ခါ ထိရင် ဖေဖေက ပြောတဲ့အတိုင်း လုပ်မှာလေ"

မတ်ရှာရမီ ခဏ တွေနေပြီးမှ -

"သမီးကို ဖေဖေ သိပ်ချစ်တယ်၊ ဒီလိုလူစားမျိုး လက်ထဲ အရောက်မခံနိုင်ဘူး"

ဂျူးဒစ် ၏ ရင်ထဲမှ ပုန်ကန်ချင်စိတ်ကလေး အမောက်ထောင်လာသည်။

"သူ့အကြောင်း ဖေဖေ ဘာသိလို့လဲ၊ သူ ဘယ်လို လူစားလဲဆိုတာ ဖေဖေ့ကို သူပြောပြလို့လား"

"မလိုဘူး သမီးလေးရဲ့၊ ဘုရားမရှိ တရားမရှိ လူစားမှန်း သမီး မသိဘူးလား၊ သူ့ကို မယုံစမ်းပါနဲ့ သမီးရယ်၊ အချိန်တန်ရင် သမီးကိုသူပစ်သွားပြီး အချစ်သစ်ရှာမှာပါ၊ သမီး သူ့ကို နောက် လုံးဝမတွေ့ရဘူး၊ ကြားလား"

ဂျူးဒစ်က လဲကျနေသည့် ပင်စည်မှ အကိုင်းတစ်ခုကို လှမ်းကိုင်ရင်း -

"သူကတော့ သမီးကို သိပ်ချစ်တယ်လို့ ပြောတယ် ဖေဖေ"

"ဖေဖေ့ကို ယုံပါ သမီးရယ်၊ ဒီလိုလူစားမျိုးနဲ့ သမီး ဘယ်လိုမှ မပျော်နိုင်ပါဘူး၊ သမီးက သိပ်ငယ်သေးတော့ လောကအကြောင်း ဘာမှမသိသေးဘူး၊ လူတော်လူကောင်း တစ်ယောက်နဲ့ သမီး တွေ့မှာပါ၊ အဲဒီအခါ ဖေဖေ ချက်ချင်း

လက်ထပ်ပေးမယ် သိလား၊ သမီးကို လင်ကောင်း သားကောင်း ရစေချင်လို့ပါ ကလေးရယ်”

ဂျူးဒစ် ငြိမ်နေသည်။ လွန်ခဲ့သည့်တစ်ပတ်ကအထိ မိန်းကလေးတိုင်း ဖအေနှင့် ဆန့်ကျင်ပြီး အတိုက်အခံ မလုပ်သင့် ဟု ဂျူးဒစ် စွဲစွဲမြဲမြဲ ယုံကြည်ခဲ့၏။ ဖီးလစ်လန်းနှင့် တွေ့ဆုံခြင်းကြောင့် ဂျူးဒစ်ကလေး၏ အတွေးအခေါ် တွေ တိမ်းတိမ်းပွေပွေ ဖြစ်ကုန်၏။ ဘာရယ်လို့ တိတိကျကျ မသိဘဲ လှုပ်လှုပ်ရှားရှား ဖြစ်နေခြင်း မျိုး။

“အိမ်ထောင်မှုဆိုတာ တဒင်္ဂကိစ္စ မဟုတ်ဘူး သမီး။ တစ်ဘဝကိစ္စ၊ သိပ်လေးနက် မွန်မြတ်တဲ့ ကိစ္စ”

“ဟုတ်ကဲ့ပါ ဖေဖေ၊ သမီး မှန်တဲ့ ဆုံးဖြတ်ချက်ကိုပဲ ချချင်ပါတယ်”

စိတ်မသက်မသာနှင့် ဂျူးဒစ် ပြောလိုက်ခြင်းဖြစ်သည်။ ဖအေက သမီးလုပ်သူ၏ လက်ကို လှမ်းဆုပ်ပြီး -

“ဖေဖေ သိပါတယ်ကွယ်။ သမီးလိမ္မာတယ်ဆိုတာ ဖေဖေ သိပါတယ်”

ကာလက်က သူတို့ သားအဖေကို လှမ်းခေါ်သည်။ လှေသမားတွေက ခရီးဆက်ဖို့ ကြိုးဖြုတ်သူ ဖြုတ်နေကြပြီ။

“ရှင်တို့ သားအဖ နှစ်ယောက် ဘယ်ပျောက်နေကြတာလဲ”

မစ္စက်ရှာရမီ ရောက်ရောက်ချင်း ဆီးမေးသည်။

“ဟိုအနား မှာ စကားထိုင်ပြောနေတာပါကွာ၊ ကဲ ဘာတွန်ရုဂ်ကို မနက်ဖြန် ရောက်အောင် ထွက်ကြစို့”

ပိန်းကောလှေကြီး ကမ်းကခွာမှ စမ်းချောင်းနံဘေးတွင် ကျန်ခဲ့သည့် အိုးတွေ ခွက်တွေကို ဂျူးဒစ် သတိရသည်။ မအေလုပ်သူက ဆူတော့ ဖအေကြီးက ဝင်တားသည်။

“မဆူပါနဲ့ကွာ၊ ဒီအရွယ်ဟာ ဒီလိုပဲပေါ့”

ဂျူးဒစ် အသာထလာခဲ့သည်။ လှေဦးပိုင်းတွင် ထိုင်ပြီး ဟိုအဝေး အငူစွန်းတစ်ခုကို ကွေ့ပတ် စုန်ဆင်း သွားသော ဖီးလစ်၏ ပိန်းကောကြီးကို ငေးကြည့်နေသည်။

မစ္စတာရှာရမီမှာ ဂီဒီယန်နှင့် တူသလိုလို ရှိသည်။ နှာတံ ကျပုံနှင့် မျက်ခုံးတွေမှာ တထေရာတည်း။

“ကဲ ... ဆက်ပြောလေ၊ အဲဒီတော့ မင်း ဘာလုပ်သလဲ”

မစ္စတာရှာရမီ သူ့မိန်းမ ကို စစ်ဆေးနေဟန်တူ၏။

“ ဘာမှ မလုပ်ပါဘူး၊ အစေခံတွေခေါ်ဖို့ ကြိုးကိုဆွဲမယ် လုပ်တုန်း သူ မေ့လဲသွားတာပဲ” ရော်ဂျာရှာရမီ ခုတင်တိုင်ကို တင်းတင်းဆုပ်ထားလိုက်သည်။ ပြီးမှ ခပ်လေးလေး ပြောသည်။

“မင်းမှာ အဲဒီလို အသည်းနှလုံးမျိုး ရှိလိမ့်မယ်လို့ ကိုယ် လုံးဝ မထင်ခဲ့ဘူး မာသာ”

“သြော် ... ရော်ဂျာကလဲကွယ်၊ ဒုက္ခပါပဲ၊ ဒီကိစ္စကြောင့် ရှက်စရာတွေ ကြုံခဲ့ပြီးပြီ၊ စာမတတ်တဲ့ ရာဇဝတ်သား တစ်ယောက်နဲ့ ရှင့် ညီအစ်ကို တော်တယ်ဆိုတာ လူသိရှင်ကြား ဝန်ခံမလို့လား၊ ရှင့်ရဲ့ သစ်ဖြူတော မှာ ဒီလိုဟာတွေ တရုန်းရုန်းနဲ့ အဖြစ်ခံတော့မလား”

ရော်ဂျာရှာရမီ သက်ပြင်းချပြီး အစ်စသာကို တစ်ချက်ငဲ့ကြည့်သည်။

“ဟော ... ဟော သတိရလာပြီထင်တယ်၊ သွား သွား ကောင်မလေးတစ်ယောက်ကို ဘရန်ဒီ ယူခဲ့ ခိုင်းစမ်း” ခုတင်နံဘေးတွင် ရော်ဂျာ ဝင်ထိုင်သည်။ စကားလုံးများဖြင့် ဖော်ပြနိုင်စွမ်း မရှိသော ကျေးဇူးတင်ခြင်းမျိုးဖြင့် အက်စသာ လှမ်းကြည့်လိုက်သည်။

ရော်ဂျာရှာရမီ သည် ဝေခွဲမရ ဖြစ်နေ၏။ အမျိုးသမီးကို ကျွေးမွေးပြီး အနားယူခိုင်းထားသည်။ သူ ပြောလာသည့် ဇာတ်လမ်းမှာ အမှန်တွေချည်းဖြစ်ကြောင်း စိတ်ထဲက သိနေ၏။ အမေ့အကြောင်းကို အဖေ့ထံမှ များများစားစား မသိခဲ့ရပေ။ အမေသေပြီးနောက် သူ့ကလေးတွေကို အဖေရှာချင်တယ် ဆိုရင် တွေ့အောင် ရှာဖို့ကောင်းသည်ဟု ရော်ဂျာ တွေးနေ၏။

တစ်ချက်တော့ မာသာ့ တွက်ကိန်းမှန်နိုင်သည်။ ဒီကိစ္စ လူသိရှင်ကြား ဖြစ်သွားလျှင် သိက္ခာကျစရာတွေ ဖြစ်လာမည် မုချ။ သို့သော် အက်စသာ့ဘက်မှလည်း တရားသဖြင့် ဖြစ်အောင် ရပ်တည် ပေးချင်နေသည်။

ဂီဒီယန်အပွဲဂျွန်းသည် ဒိုလားရက်စ်၏သား ဟုတ်သည် ဖြစ်စေ၊ မဟုတ်သည် ဖြစ်စေ အက်စသာ ပြောသည့် ပုံသဏ္ဍာန်ဖြင့် လူသတ်မှု ဖြစ်ခဲ့သည် ဆိုလျှင်တော့

သေဒဏ်ကျခံဖို့ မစီရင်သင့်ပေ။ မာသာ့ကိုလည်း ဒီအတိုင်း ပြောပြထားသည်။

"ဒုက္ခရောက်နေ တဲ့ လူတစ်ယောက်ကို ကူညီတာနဲ့ မင်း ဒါလောက် သောကပွားနေဖို့ မလိုဘူး မာသာ"

မာသာ က မျက်ရည်လျှံနေသည့် မျက်လုံးများဖြင့် မော်ကြည့်ပြီး တိုးတိုးကလေး ပြန်ပြောသည်။

"ရော်ဂျာရယ် မာသာအတွက် မဟုတ်ပါဘူး၊ သားလေး စီရယ် အတွက် ရှေ့ရေးကို တွေးပြီး ပြောနေရတာပါ"

"စီရယ်နဲ့ ဘာဆိုင်လို့လဲ" ရော်ဂျာက နားမလည်သလို ပြန်မေးလိုက်သည်။ မာသာက သူ့ပေါင်ပေါ် ဝင်ထိုင်ပြီး သိုင်းဖက်လိုက်သည်။

"ဆိုင်တာပေါ့ကွယ်၊ သူတို့တွေနဲ့ အမျိုးစပ်မိရင် ဘာဖြစ်လာမယ်ဆိုတာ ရော်ဂျာ မတွေးမိဘူးလား ဟင်၊ လမ်းမှာ တွေ့တိုင်း ဒီမိန်းမက မွေးတဲ့ ပေါက်လွှတ်ပဲစားလေးတွေက သားလေးကို "ဟဲလို ညီလေး၊ ဟဲလို အစ်ကိုလေး" နဲ့ လိုက်နှုတ်ဆက်ရင် ဘယ့်နှယ်လုပ်မလဲ၊ မိန်းမတွေက အတင်းပြော ဆိုးက ဆိုးပါဘိနဲ့၊ သားလေး အတွက် ကြည့်ပြီး ဒီကိစ္စမှာ မပါဖို့ ပြောနေတာပါ ရော်ဂျာ၊ မာသာရဲ့ တစ်ဦးတည်းသော သားကလေး အတွက်လေ"

မာသာက ပြောပြောဆိုဆို ယောကျ်ားနှင့် ပါးချင်းအပ်ထားလိုက်သည်။ မာသာ မျက်ရည်ခံ ထိုးလျှင် ရော်ဂျာ ပျော့ကျသွားသည် ချည်း။ သို့သော် သည်တစ်ကြိမ်တော့ တင်းခံရတော့မည်။

"မာသာ ရယ်၊ လူတစ်ယောက်ရဲ့ အသက် ကယ်မယ့်ကိစ္စမှာ မင်းက ကိုယ့်ကို ဝင်တားနေတယ်နော်၊ မသေသင့်တဲ့ လူတစ်ယောက် လည်ပင်း ကြိုးကွင်းစွပ်ပြီး အသတ်ခံရမှာကို ကိုယ် လက်ပိုက် ကြည့်နေရမှာလား၊ ကိုယ့်ဘက်က ကာကွယ် လျှောက်လဲချက်တောင် ကောင်းကောင်း မပေးလိုက်ရဘဲ တစ်ဖက်သတ်ချတဲ့ စီရင်ချက်လေ"

"သူ့အပြစ် နဲ့ သူ သွားတာပဲ၊ ရှင့်တာဝန် တစ်ပြားသားမှ မရှိပါဘူး ရော်ဂျာရယ်"

ပါးပြင်တွင် မျက်ရည်တွေ တလိမ့်လိမ့်ကျရင်း မာသာ တောင်းပန်ပြန်သည်။

"မစ္စအပ္ပဂျွန်း က မင်းကို သူတို့ နေရေးထိုင်ရေး ဒုက္ခရောက်တဲ့အကြောင်း ထည့်ပြောသေးလား"

“သူ့ကို ပိုက်ဆံပေးသွားပဲ”

“အဲဒီရပ်ကွက် က အိမ်ခန်းတွေက မင်းတို့ပိုင်တွေ မဟုတ်လား မာသာ”

“ဟုတ်တယ်လေ၊ အဲဒီ ရပ်ကွက်လုပ်ထားတဲ့ မြေတွေကိုက မာသာတို့ မြေတွေပဲ၊ လခမပေးနိုင်တဲ လူတွေ အတွက် ဘာလုပ်ပေးနိုင်မှာလဲ၊ မာသာ့အပြစ်လား”

“ဩော် မိန်းမရယ်၊ မင်းအပြစ်တော့ မဟုတ်ဘူးပေါ့၊ ဒါပေမဲ့ ကိုယ်သာ အဲဒီရပ်ကွက်ပိုင်ရှင် ဖြစ်ရင် လခ မှန်မှန်ရရေး တစ်ခုတည်း မဟုတ်ဘဲ အိမ်ငှားတွေ ကောင်းကောင်းမွန်မွန် နေရရဲ့လား၊ မျှမျှတတ ရှိရဲ့လားဆိုတာ စိတ်ဝင်စားမှာပဲ၊ ဘာပဲပြောပြော ဂီဒီယန်အပ္ပလျှန်းဟာ ကိုယ့် မအေတူဖအေကွဲ ညီအစ်ကို ဖြစ်နေပြီ၊ သူ့အသက်ကို ကိုယ်မကယ်လိုက် ရရင် တစ်သက်လုံး စိတ်ချမ်းသာနိုင်တော့မှ မဟုတ်ဘူး မာသာ”

“အမေတူ ညီအစ်ကို ဟုတ်တယ်ပဲ ထားပါဦး၊ ရှင့်တာဝန်မှ မဟုတ်တာ၊ ရှင့်တာဝန်က သားကလေး စီရယ်ရှင့်။ စီရယ်ဟာ ဒီလို သွေးမျိုးနဲ့ စပ်တယ်ဆိုပြီး တစ်သက်လုံး လူတောထဲ မတိုးနိုင်အောင် ဖြစ်မယ့်အရေးကို ရှင် မစဉ်းစား ဘူးလား ရော်ဂျာ၊ ကျွန်မတော့ မခံနိုင်တော့ဘူး”

မျက်နှာ ကို လက်ဝါးနဲ့အုပ်ပီး တရှုပ်ရှုပ် ငိုပြန်သည်။

ရော်ဂျာ စိတ်ပျက်လက်ပျက်နှင့် ထွက်လာခဲ့၏။ ကြံရာမရ ဖြစ်ပြီး ဝက်သစ်ချမြိုင်သို့ မြင်းလှည်းတစ်စီး လွှတ်လိုက်သည်။ အန်တီဂျူးဒစ် ဆီကို စာတစ်စောင် ရေးပေးလိုက်၏။ အရေးကြီးလွန်းသဖြင့် အန်တီဂျူးဒစ် အမြန်ဆုံး လိုက်လာပါဟု ရေးလိုက်သည်။ အမေ့အကြောင်းကို ပိုသိသည့် အန်တီဂျူးဒစ်နှင့် တိုင်ပင်မှ ဖြစ်တော့မည်။

ဂျူးဒစ် နေမဝင်မီ ရောက်လာသည်။ နောက်မှ မိန်းကလေးတစ်ယောက်က စက္ကူဖာတစ်ခုကို ကိုင်လျက် လိုက်လာသည်။

“ညဝတ်အင်္ကျီပါ ယူလာခဲ့တယ်၊ အန်တီဂျူးဒစ် မပြန်တော့ဘူးလေ၊ သိပ်မှောင်မှာ စိုးလို့၊ ကဲ ... ဘာများလဲ သားရယ်၊ မထိတ်သာ မလန့်သာ အန်တီဂျူးဒစ် ရင်တွေတုန်လိုက်တာ”

ရော်ဂျာ ခုမှ ရယ်နိုင်သည်။ ရင်ထဲတွင် ပေါ့သွား၏။ အန်တီဂျူးဒစ်ကို မြင်လိုက်ရသည်နှင့် ပြဿနာ တစ်ဝက် အေးသွားသလို စိတ်ထဲ ထင်လိုက်၏။ မာသာကို အန်တီဂျူးဒစ် သိပ်သဘော မတွေ့ကြောင်း ရော်ဂျာ သိသည်။ ထို့ကြောင့်

မိမိနှင့် မာသာ သဘောကွဲနေသည့် ကိစ္စကို ပြောပြရမှာ မရွံ့မရဲဖြစ်နေသည်။ အန်တီဂျူးဒစ်က မာသာ့ မျက်ရည်ကို အလေးထားမည် မဟုတ်။ ဂီဒီယန်အပ္ပဂျွန်းကို ကာကွယ်ဖို့ မဲပေးလိမ့်မည် ဟု စိတ်ထဲက သိနေ၏။

ဧည့်ခန်းထဲတွင် ထိုင်မိသည်နှင့် -

"ဒီလိုပါ အန်တီဂျူးဒစ်၊ အန်တီဂျူးဒစ်ရဲ့ ဩဝါဒကို လိုချင်လို့ပါ၊ ကျွန်တော့်အမေကို အန်တီဂျူးဒစ် သိတယ်နော်"

"အင်း ... သိပ်သိတာပေါ့၊ ဒီဇာတ်လမ်း တစ်ပတ်ကျော့လာလိမ့်မယ်လို့ အန်တီဂျူးဒစ် ထင်သားပဲ၊ ဘယ်လို ဖြစ်တာ လဲ ရော်ဂျာ"

သစ်ဖြူတော ကို အက်စသာ ရောက်လာပုံနှင့် ဇာတ်လမ်းစုံကို ပြောပြလိုက်သည်။

"ဩော် ဂီဒီယန်အတွက်လည်း ချမ်းသာခွင့်ရပြီး မာသာလည်း စိတ်ကျေနပ်အောင် အန်တီဂျူးဒစ်က ညှိပေးရမယ် ဆိုပါတော့"

"ဟုတ်ကဲ့ပါ အန်တီဂျူးဒစ်၊ ဂီဒီန်အပ္ပဂျွန်းဟာ တကယ်ပဲ ကျွန်တော့် ညီလားဟင်"

"ဟုတ်တယ် ရော်ဂျာ"

ဂျူးဒစ် ခဏ တွေနေသည်။ ပြီးမှ -

"အဲဒီကောင်မလေးဘယ်မှာလဲ"

"ဒီမှာရှိတယ် အန်တီဂျူးဒစ်၊ သိပ်အားနည်းနေတယ်၊ ဒီနေ့ ပြန်ပို့လို့ မဖြစ်ဘူး၊ ကျွန်တော် နဲ့ အေးအေးဆေးဆေး စကားပြောပြီးပါပြီ၊ သူလိုချင်တာကတော့ ဂီဒီယန်ကို ကယ်ဖို့ပါပဲ၊ ကျွန်တော်တော့ တတ်နိုင်သလောက် လုပ်ပေးချင်တယ် အန်တီဂျူးဒစ်၊ မာသာကြောင့် ခက်နေတယ်"

ဖယောင်းတိုင် မှ လွင့်တက်နေသည့် မီးခိုးငွေ့ငွေ့လေးများကို ဂျူးဒစ် စိုက်ကြည့်နေသည်။

"လုပ်ချင်တယ်ဆိုရင် လုပ်ပေးလိုက်ပေါ့ ရော်ဂျာ၊ မင်း မာသာနဲ့လည်း အချင်း မများချင်ဘူး မဟုတ်လား၊ အန်တီ ဂျူးဒစ် သိနေတယ်လေ၊ မာသာနဲ့ အန်တီဂျူးဒစ် တစ်ယောက်နဲ့တစ်ယောက် အမြင်ချင်း သိပ်မတူကြဘူး ဆိုတာ ဖုံးမထားချင်ပါဘူး၊

ဒါကြောင့် အန်တီဂျူးဒစ် ဒီလိုပြောတာ မဟုတ်ပါဘူး၊ တကယ်က လင်နဲ့မယား အမြဲတမ်း အမြင်ချင်း မတူတာဟာ ဒုစရိုက်ပြစ်မှု မဟုတ်ပါဘူး ရော်ဂျာ။

"ဂီဒီယန် အတွက် အကောင်းဆုံး ရှေ့နေတစ်ယောက် ငှားပြီး အယူခံဝင်ပေးလိုက်၊ ဘာပြုလို့ ဒီလို လုပ်တယ် ဆိုတာ သိချင်တဲ့ လူတွေကို ခိုကိုးရာမဲ့ ဂီဒီယန်ရဲ့မိန်းမ သစ်ဖြူတောလာပြီး အကူအညီ တောင်းလို့ သနားသောအားဖြင့် လူမှုရေး အကူအညီပေးတာလို့ပြော၊ အပ္ပဂျွန်းဆိုတဲ့ နာမည်ဟာ မာသာ တွေးကြောက်နေသလို ညှော်ခန်းဆောင် အတင်းအဖျင်းတွေ ဖြစ်လာလောက်အောင် စိတ်မဝင်စားကြပါဘူး ရော်ဂျာ"

"ကျေးဇူးတင်လိုက်တာ အန်တီဂျူးဒစ်ရယ်၊ ဒါဆို မာသာလည်း ဘာမှ ကန့်ကွက်နိုင်တော့မှာ မဟုတ်ဘူး"

ရော်ဂျာ ဝမ်းသာအားရ ပြောလိုက်သည်။

နောက်တစ်နေ့ မနက်တွင် အက်စသာကိုတွေ့ပြီး ဂျူးဒစ် စကားပြောသည်။ မြို့ထဲ လိုက်သွားပြီး သူတို့ သားအမိ တစ်တွေအတွက် အိမ်ကောင်းကောင်းလေး တစ်လုံး ငှားပေးလိုက်သည်။ အိမ်လခ တစ်နှစ်စာ ကြိုပေး ထားခဲ့၏။

ရော်ဂျာ က နာမည်ကျော် ရှေ့နေကြီးတစ်ဦး ငှားပြီး အယူခံဝင်သဖြင့် ဂီဒီယန် ကွင်းလုံးကျွတ် လွတ်သွားသည်။ ရော်ဂျာသည် လုပ်သင့်လုပ်ထိုက်သည့် အလုပ်တစ်ခုကို မင်္ဂလာတရားနှင့်အညီ လုပ်ပေးလိုက်ရသဖြင့် အမှုမပြီးခင် ကြည်နူးနေသည်။ သို့သော် ဂီဒီယန်အပ္ပဂျွန်းကိုမူ လူကိုယ်တိုင် သွားမတွေ့တော့ပေ။ ရှေ့နေခကို နင့်နေအောင် ပေးလိုက်ရ၏။ မာသာက သူ့ယောက်ျားလို နှလုံးသားပိုင်ရှင်မျိုး ရှားမှရှားကြောင်း ပြောတော့ ဂျူးဒစ်က "မှန်တာပေါ့ကွယ်၊ မှန်တာပေါ့ "ဟု ထောက်ခံ စကား ဆိုလေသည်။ မာသာက ဒီစကားကို လူမမာဘဝဖြင့် ပြောနေခြင်း ဖြစ်သည်။ ဂီဒီယန်အပ္ပဂျွန်းကို အကာအကွယ်ပေးမည်ဟု ဆုံးဖြတ်လိုက်ကြောင်း ရော်ဂျာပြောသည့် နံနက်မှ စပြီး မာသာ အိပ်ရာထဲ လဲတော့၏။

အမှုမပြီးမချင်း လုံးဝ မထနိုင်တော့ပေ။ ရော်ဂျာ အလွန်အမင်း စိတ်ပူသွားသည်။ မာသာ၏ ကျန်းမာရေးသည် မြင်းပျိုမ တစ်ကောင်လို ဒေါင်ဒေါင်မြည် ဖြစ်သည်။ သို့သော် ယခုမူ အိပ်ရာထဲတွင် ဗုန်းဗုန်းလဲကာ လူမမာ လုံးလုံး ဖြစ်နေပြီး နှင်းဆီပန်းနံ့ ရှူလျှင် သက်သာသလို ရှိသည်ဆို၍ ရင်ခွင်ထဲတွင် နှင်းဆီပန်းပွင့်တွေ မပြတ်ခူးထည့် ထားပေးရသည်။

"ဒါလောက် စိတ်ဆင်းရဲစရာ အဖြစ်မျိုးနဲ့ ကြုံမှမကြုံဖူးဘဲကွယ်၊ ဒီလို

ဖြစ်သွားတာ အံ့သြစရာ မရှိပါဘူး” ဟု တိုးတိုးကလေး ပြောလေ့ရှိသည်။

ဤသို့ဖြင့် တော်တော်နှင့် နာလန်မထူသောအခါ နယူးအော်လီယန်းမှ ဆရာဝန်ကြီးတွေပင့်ပြီး ပြကြည့် ရတော့သည်။ ဆရာဝန်ကြီးများက စမ်းသပ်ကြည့်ရှုပြီး စိတ်ကျရောဂါ တစ်မျိုးဖြစ်ကြောင်း၊ သည်ရောဂါမှ တစ်ဆင့် သွေးသွန် လာနိုင်ကြောင်းများကို ရှင်းပြသည်။ သွေးသွန်မည် ထင်သည့်နေ့တွင် အန်တီဂျူးဒစ် လာနေပေးဖို့ အခေါ် လွှတ်ရပြန်သည်။ ဂျူးဒစ် အောင့်သက်သက်နှင့် လိုက်သွား ရပြန်၏။ အေမီလီ ကိုပါ ခေါ် သွားသည်။

အေမီလီကတော့ စိတ်ကျရောဂါ အကြောင်း ဘာမှမသိပေ။ တစ်ခါမှလည်း စိတ်ဓာတ် မကျဖူးခဲ့။ အေမီလီသည် မာသာ လောက် မလှသော်လည်း မာသာထက် လူချစ်လူခင် ပေါလေသည်။

ဂျူးဒစ် က အိပ်ရာနံဘေးတွင် ထိုင်ပြီး မာသာ့လက်ကို ကိုင်ထားသည်။ သွေးသွန်ပြီးတော့ မာသာ ပျော့ခွေကာ အိပ်ပျော်သွားသည်။ အိပ်ပျော်နေသည့် မျက်နှာကလေးမှာ ဖြူဖွေးကာ လှမြဲ လှနေ၏။ ရော်ဂျာကို အိပ်ရာနံဘေးတွင် တစ်လှည့် ထိုင်စောင့်စေပြီး ဂျူးဒစ် ထလာသည်။ ဧည့်ခန်းထဲတွင် အေမီလီ ထိုင်နေသည်။

“ရော့ … မေမေ့အတွက် ဝိုင်တစ်ခွက်၊ မေမေ သောက်ဖို့ လိုတယ်လေ”

“ဟုတ်တယ် သမီး၊ သိပ်လိုတာပေါ့၊ သနားပါတယ်ကွယ်၊ ညည်းရင်း အိပ်ပျော်သွားရှာတယ်”

“အင်းလေ ခံစားနေရမှာပေါ့၊ သမီးတို့ အိမ်ပြန်ကြရအောင်နော်”

“မေမေ တို့ နောက်ထပ် လာဖို့ လိုဦးမလား မသိဘူး”

အေမီလီ က ပခုံးတွန့်ပြီး -

“သူ တစ်ညလုံး အိပ်မှာပါ၊ နောက်ဆိုရင် ရော်ဂျာတစ်ယောက် ဘယ်အောက်တန်းစားနဲ့မှ ပတ်သက်ရဲတော့မှာ မဟုတ်ဘူးနော် မေမေ”

# အခန်း (၂၀)

သားအဖနှစ်ယောက် တာဝန်တွေကို ခွဲယူထားကြသည်။ ဖိုးလစ်က ဝါဂွမ်းကဏ္ဍကို ကြီးကြပ်ပြီး ဒေးဗစ်က ကြံခင်းနှင့် သကြားလုပ်ငန်းကို တာဝန်ယူသည်။ အေမီလီက ဒေးဗစ်နည်းတူ သကြားကို စိတ်ဝင်စားသည်။

ကလေးတွေ ရလာပြီး အိမ်ထောင်တာဝန် ပိုလာသည့်တိုင် ကွင်းထဲသို့ မြင်းတစ်စီးဖြင့် မကြာမကြာ ရောက်လာ တတ်သည်။ ဒေးဗစ်နှင့် ရိတ်သိမ်းချိန်ကာလ အကြောင်းများကို ဆွေးနွေးသည်။ သည်အတွက် ဂျူးဒစ်ချွေးမလုပ်သူကို ပိုပြီး သဘောကျနေသည်။ ဒေးဗစ်က အဝတ်အစားနှင့် အလှအပလောက်ကိုသာ စိတ်ဝင်စားသည့် မိန်းမမျိုးကို အထင်ကြီးတတ်သူ မဟုတ်။ အေမီလီနှင့် အဖော်ရသဖြင့်ဂျူးဒစ်ဝမ်းသာနေရ၏။

ဒေးဗစ် လက်ထပ်ပြီး မကြာခင် အနောက်ဘက်ကမ်းတွင် ကြံခင်းတွေ ထပ်ဝယ်လိုက်သည်။ ကပ္ပလီတွေ လှေတစ်စင်း အပြည့် တင်လွှတ်ပြီး အလုပ်လုပ်ခိုင်းသည်။ တစ်နေ့တွင် ဒေးဗစ်နှင့် အေမီလီ လှေကားထစ်တွင် ထိုင်ပြီး အနောက်ဘက် ကြံခင်းများ အကြောင်း ဆွေးနွေးနေကြ၏။ ဂျူးဒစ် က ထိုးလက်စဇာကို ကိုင်ပြီး ရောက်လာသည်။

အမေ အနားရောက် လာတော့ အေမီလီက-

"ဟိုဘက်ကမ်း မှာ လူဖြူ အလုပ်ကြပ်တစ်ယောက် ထားဖို့ကောင်းပြီးလို့ သမီးက ဒေးဗစ်ကို ပြောနေတာ မေမေ၊ ကပ္ပလီတွေက ကြီးကြပ်မယ့်လူ မရှိရင် အလုပ်လုပ်တာ မဟုတ်ဘူး"

"ကိုယ် စဉ်းစားမိပါတယ်ကွာ၊ ဒါပေမဲ့ ဟိုဘက်ကမ်းက အခင်းတွေ အခြေအနေ ကောင်းနေတယ်လေ၊ ဖေဖေက လူမည်း အလုပ်ကြပ်တစ်ယောက် အစမ်း ထားကြည့်မယ်ဆိုပြီး သကြားလုပ်ငန်းမှာ သိပ်အားကိုးရတဲ့ ဆိုင်းခေါင်းဆောင် တစ်ယောက်ကို ပို့ထားတယ်"

"ဟုတ်လား၊ ဘယ်သူလဲ ဒေးဗစ်"

"ဘန်နီဆိုတဲ့ကောင်ပါ၊ ငယ်ပေမဲ့ အလုပ်သိပ်တော်တယ်၊ သူ့အမေက ကိုယ်တို့ ငယ်ငယ်လေးတုန်းက အိမ်မကြီးမှာ အလုပ်လုပ်ဖူးတယ်၊ ခုတော့ သူ့ကိုကွင်းထဲမှာ ကလေးထိန်းကျောင်းဖွင့်ပြီး ကြီးကြပ် ခိုင်းထားတယ်၊ ဘန်နီက

သူများတွေထက် အသားဖြူတယ်၊ အသိဉာဏ်လည်း မြင့်တယ်”

အေမီလီ စဉ်းစဉ်း စားစား ခေါင်းညိတ်နေသည်။

“တခြား အလုပ်သမားတွေက သူ့ကို လေးစားတယ်ဆိုရင်တော့ မဆိုးပါဘူး”

“သူတို့က အလုပ်တွေ အချိန်မီတော့ ပြီးနေတာပဲ”

ဂျူးဒစ် အိမ်ထဲ ပြန်ဝင်ခဲ့သည်။ အခန်းထဲရောက်တော့ မှန်ရှေ့တွင် ရပ်ပြီး မှန်ကို လက်နှင့် ခေါက်နေသည်။ အင်း...လက်စသတ်တော့ ဘန်နီဒီလို ဖြစ်နေပြီကိုး၊ ဘန်နီအကြောင်း နှစ်ပေါင်းများစွာ ပြည်ဖုံး ကားချထားခဲ့သည်။

ဖီးလစ်ကလေး ငန်းဝါဖျား စဖြစ်တဲ့ နေ့ကတည်းက မတွေ့ခဲ့ခြင်း ဖြစ်သည်။ ဒေဗစ် သူ့အကြောင်း ပြောနေသည်ကို ကြားတော့မှ ဘန်နီကု မမေ့သေးကြောင်းနှင့် ရင်ထဲတွင် မနာလို စိတ်ကလေး ကျန်ရှိ နေသေးကြောင်း ကိုယ့်ဘာသာ ကိုယ် သိလိုက်သည်။ လက်စသတ်တော့ ဟိုဘက်ကမ်းက ကြံခင်းကို ဘန်နီအတွက် ရည်စူးပြီး ဖီလစ်ဝယ်ခဲ့တာကိုး။ ဘာပဲဖြစ်ဖြစ် သူ ဝက်သစ်ချမြိုင်နှင့် ဝေးဝေး ရောက်သွားသည့်အတွက် ဝမ်းသာရမည် ဖြစ်သည်။ သို့သော် ဂျူးဒစ် ဝမ်းမသာနိုင်ဘဲ ဖြစ်နေ၏။ အတိတ်တစ္ဆေ ခြောက်လုန့်ပြန်လေပြီ။

သို့သော်လည်း ဆိတ်ဆိတ်နေရမည် ဟူသည့် အသိကြောင့် တစ်ခွန်းတစ်ပါဒမျှ ဝင်မပြောခဲ့ပေ။ ဤသို့ဖြင့် ဘန်နီ နာမည်သည် တစ်နှစ်ကျော်ကျော် ပျောက်ကွယ်နေပြန်သည်။ သို့သော် တစနေ့ညနေ ညစာဝိုင်းတွင် ဒေးဗစ်က သူ့အကြောင်းစ လာပြန်သည်။

“ဟိုဘက်ကမ်းက ကြံခင်းတွေကိစ္စ ဖေဖေ့ကို ပြောစရာရှိတယ်”

ဖီးလစ် က- “ဘာဖြစ်လို့လဲ သားရဲ့”

“ကြံခင်းတွေ အခြေအနေတော့ ကောင်းပါတယ်၊ ခုထိတော့ ဘာမှမဖြစ်သေးဘူး၊ ဒါပေမဲ့ ကျွန်တော်တို့ ပို့ထားတဲ့ ဘန်နီဆိုတဲ့ကောင် နည်းနည်း ဖွေဖောက်နေတယ်၊ ဒီဘက်ကမ်း ပြန်ခေါ်ရင် ကောင်းမယ် ဖေဖေ” ဖီလစ် ဘာမှ မပြောဘူး။ အေမီလီက ဝင်မေးသည်။

“သူက ဘာလုပ်လို့လဲဟင် ဒေးဗစ်”

ဂျူးဒစ်ခေါင်းငုံ့ ထားသည်။ ဝိုင်ကို ငြိမ်ငြိမ်ကလေး ထိုင်သောက်နေ၏။

“ဒီကောင် ဒုက္ခပေးနေတယ်”

ဒေးဗစ်လေသံ က တိုတိုတုတ်တုတ်။ သူစကားဆက်သည်။

“ဒီကောင်က တော်တော့ တော်တွယ်၊ အသားလည်း တော်တော် လတ်တယ်၊ ဒီလို ကောင်မျိုးတွေဟာ ကွင်းထဲမှာ အမြဲတမ်း ပြဿနာ လုပ်တတ်တယ်၊ အဓိပ္ပာယ်မရှိ စကားတွေ သူလျှောက်ပြောနေတယ်၊ လူမည်းတွေဟာ သေကောင်းပေါင်းလဲ အလုပ်လုပ်ရပြီး ဘာမှ ပိုင်ခွင့် မရှိဘူးတဲ့၊ သူမြှောက်ထိုးပင့်ကော်လုပ်တော့ ဟိုကောင်တွေ တဖြည်းဖြည်းနဲ့ လှုပ်လာကြတယ်”

“ဝက်သစ်ချမြိုင် ဟာ ကပ္ပလီတွေကို သိပ်အလျှော့ပေးတာပဲလို့ လူတိုင်း ပြောနေကြတာပဲ”

အေမီလီ က မကျေမချမ်း ဝင်ပြော၏။ ဒေးဗစ်စကားဆက်သည်။

“တို့လူတွေက သူတို့ဘဝ သူတိုကကျေနပ်ကြတာပဲ၊ ဘန်နီလိုကောင်က စကားကြီး စကားကျယ်တွေ နဲ့ စည်းရုံးလို့ သူတိုက ရောယောင် နောက်လိုက်ဖြစ်ကုန်တာ၊ ဒီကောင်ဆက်ပြီး ပူညံပူညံ လုပ်ရင်တော့ ရောင်းထုတ် ပစ်လိုက်စေချင်တာပဲ၊ ဒီလိုကောင်မျိုးတွေ သူများ လက်ထဲ ရောက်မှ နောင်တရမယ်” ဂျူးဒစ် က ဘီစကစ် တစ်ချပ်ကို ခပ်သွက်သွက် ထောပတ်သုတ်သည်။

ဖီးလစ်ခုမှ အသံထွက်လာသည်။

“သူက ဘယ်လို စကားမျိုးတွေ ပြောပြီး စည်းရုံးတာလဲ”

“သူတို့ကို လွတ်လပ်ခွင့် ပေးဖို့တို့၊ ကိုယ်ပိုင်မြေယာ ရဖို့က တို့တွေပေါ့ ဖေဖေ၊ ဘာမှ အဓိပ္ပာယ် မရှိပါဘူး၊ ဒါပေမဲ့ အန္တရာယ်တော့ ရှိတယ်”

အေမီလီက ရယ်ပြီး-

“သီးစုံယိုဘူးလေ လှမ်းလိုက်စမ်းပါ ဒေးဗစ်၊ လူမည်းတစ်ယောက်ဟာ လွတ်လပ်ရေးတို့ ဘာတို့နဲ့ ပတ်သက်တဲ့ ဥပဒေတွေကို နားလည်လို့လားဟင်”

“ဘယ်ကလာ၊ အလကားပါ၊ လွတ်လပ်ရင် သူတို့အသားတွေ ဖြူလာမယ် ထင်နေကြလား မသိဘူး၊ ဘန်နီဟာ မွေးကတည်းက ကျွန်အဖြစ်နဲ့ မွေးလာတာပဲ၊ ဒါပေမဲ့ သူက နေစရာရယ်၊ စားစရာရယ် ဟာ နေရောင်ခြည်လိုပဲ လူတိုင်း ရပိုင်ခွင့်ရှိတယ်တဲ့၊ ဖေဖေဘယ်လို သဘောရသလဲ၊ ရောင်းပစ်လိုက်ပါ ဖေဖေရာ”

“ရောင်းတော့ မရောင်းချင်သေးဘူး၊ ဒီကိစ္စဖေဖေ ကြည့်ရှင်းပါ့မယ်၊ ဒီဘက်ကမ်းက ကြံတွေ ဘယ်လို အခြေအနေ ရှိလဲ ဒေးဗစ်”

အဖေက စကားလမ်းကြောင်း ပြောင်းသော်လည်း ဒေးဗစ်က အာရုံမပြောင်း။

“ဒါပေမဲ့ ကျွန်တော် သူတို့ ကြံခင်းထဲမှာ မသုံးချင်တော့ဘူး ဖေဖေ၊ ဖေဖေ့ဘက်ကို ပြန်ခေါ်ထားချင် ထား၊ ဒါမှ မဟုတ် တစ်ခုခု စီစဉ်ပေးပါ၊ ကျွန်တော် တာဝန်ယူရတဲ့ အပိုင်းမှာ ကျွန်တော် ဩဇာညောင်းတဲ့ အလုပ်သမားမျိုးပဲ လိုချင်တယ်၊ ဖေဖေ့ ဝါဂွမ်းဘက်ကို ပြန်ခေါ်ချင် ခေါ်ပေါ့၊ ဝါဂွမ်းဘက်မှာလည်း သူ့ကို သုံးနိုင်တာပဲ”

ဖီးလစ် ငြိမ်နေသည်။ ခဏနေပြီး အေမီလီ ဝင်ဆွေးနွေးသည်။

“အေမီလီ က ကိုယ်ပိုင်လုပ်ငန်း လုပ်ရမယ်ဆိုရင်လည်း ဒီလိုကပြားတွေကို အကုန် ရောင်းထုတ်ပစ်မယ်၊ ဒါမှမဟုတ် အိမ်မှာ ခိုင်းဖို့ ခေါ်ထားမယ်၊ ကွင်းထဲမှာ သူတို့ ဘာမှ သိပ်အလုပ်မဖြစ်ဘူး၊ စကားပြောလည်း လေတစ်လုံး၊ မိုးတစ်လုံးနဲ့၊ သူတို့က အမြဲတမ်းပဲ သခင်တွေနဲ့ သွေးသားစပ်သလိုလို”

“ကဲ တော်လောက်ပြီ အေလီလီ၊ ဒီအကြောင်း ဆက်ပြောနေလို့ ဘာမှအကြောင်း မထူးဘူး၊ ဖေဖေ ကြည့်လုပ်လိုက်မယ်လို့ ပြောပြီးပြီး မဟုတ်လား”

ချွေးမလုပ်သူကို ဖီးလစ် ဘယ်တုန်းကမှ လေသံမာမာ မပြောဖူးခဲ့။ သည်လို လေသံကို ပထမဆုံး ကြားဖူးခြင်း ဖြစ်၍ အေမီလီ မျက်နှာရဲတက်သွားသည်။ ဒေးဗစ် ကတော့ ရိုးနေပြီ။ သို့သော် ဒေးဗစ်ပင်လျှင် ဖခင်လုပ်သူကို နားမလည်နိုင်စွာ ကြည့်နေ၏။

“တောင်းပန်ပါတယ် ဖေဖေ၊ မဆိုင်ဘဲ ဝင်စွက်တဲ့သဘော မဟုတ်ပါဘူး”

ဖီးလစ် က အေမီလီ၏လက်ကို လှမ်းဆုပ်လိုက်ပြီး-

ဖေဖေ့ ကို ခွင့်လွှတ်ပါ သမီးရယ်၊ နေပူလွန်းတော့ ခေါင်းတွေ နောက်ပြီး စိတ်တိုနေတယ်

ဂျူးဒစ် ညာစာပိုင်းတွင် ဣန္ဒြေမပျက် စားသောက်သွားသည်။ ဘန်နီအကြောင်းကို တတ်နိုင်သမျှ မစဉ်းစား မိအောင် နေသည်။ ကိုယ့်ကိုယ်ကိုယ် သတိပေးလိုက်သည်။

“ဘန်နီနဲ့ငါ ဘာမှမဆိုင်၊ ဖီးလစ်က ဘန်နီ့ဘက်က ရပ်လျှင်လည်း

ငါ့အနေသာကြီး”

ဘန်နီ ကို ရောင်းမထုတ်ဘဲ ဝက်သစ်ချမြိုင်တွင် ဆက်ထားဖို့ ဆုံးဖြတ်ခြင်းမှာလည်း ဖီးလစ်ဘက်က မှန်သည်။ အချို့မြေပိုင်ရှင်များ၊ အလုပ်ကြပ်များသည် လူမည်းများကို လူလိုဆက်ဆံကြသည် မဟုတ်ပေ။

မိမိသဘော အရတော့ ဘန်နီကို လွတ်လပ်ခွင့် ပေးလိုက်စေချင်သည်။ သို့သော် ဖီးလစ် အနေဖြင့်မူ ပေးမည် မဟုတ်လော။ ကျွန်ဘဝမှ လွတ်မြောက်သွားကြသည့် လူမည်းများသည် ဒယ်အိုးထဲမှ မီးဖိုထဲ ခုန်ချသည့် ငါးပမာ ရှိနေကြ၏။ သခင်က လွတ်လပ်ခွင့် ပေးလိုက်သော်လည်း ဥပဒေတွေနှင့် ပြန်ပြီး ချုပ်နှောင်ထားသဖြင့် သူတို့ခမျာ လူ့အခွင့်အရေးကို ဘာမျှမရကြရှာပေ။

ဘန်နီအကြောင်း တစ်ခွန်းမျှ မပြောဘဲ ရေငုံနှုတ်ပိတ်နေလိုက်၏။ ဒါကိုသိနေသည့် ဖီးလစ်က ဂျူးဒစ်ကို ကျေးဇူးတင်နေသည်။ ဒေးဗစ်က ဘန်နီကို ဘယ်သူဘယ်ဝါမှန်း မသိ။ ဘန်နီကလည်း သူ့အဖေကို သူမသိ။ အကယ်၍ ဘန်နီ သူ့ဇာတ်မြစ်ကို သိသွားလျှင် ဒေးဗစ်မည်သို့ ရှိလေမည်လဲ။ သို့သော် ဒေးဗစ်သည် ဘန်နီ့ကိစ္စကို ရတက်မအေး ဖြစ်နေသည်။ ဇနီးလုပ်သူကို ပြောပုံ ကြည့်လေ။

“တစ်နေ့ တွင် အေနီလီ က မေးသည်”

“အဲဒီ ဘန်နီ ဆိုတဲ့ကောင်ကို ဖေဖေ ဘာလုပ်ထားလဲဟင် ဒေးဗစ်”

“လိမ္မော်ခြံမှာ တာဝန်ချထားတယ်လေ၊ အဲဒီမှာ အလုပ်သိပ်ရှိတာမှ မဟုတ်တာ၊ ဝါးခင်းထဲ ကူးပြီး ပေါက်တက် ကရတွေ လျှောက်ပြောနေဦးမှာပေါ့၊ ဖေဖေက ကိုယ်ပြောတာကို လက်မခံတာ ခက်တယ်ကွာ၊ ဒီလို ကောင်မျိုးက သက်သက်ဒုက္ခပေးဖို့ လူဖြစ်လာတာကွ၊ ကိုယ်သာ အဖေ့နေရာမှာ ရှိရင် ချက်ချင်း ပထုတ် ပစ်လိုက်ပြီး”

ဆက် နားမထောင်တော့ဘဲ ဂျူးဒစ် အပြင်ထွက်သွားသည်။ ရင်ထဲမှ ဒေါသကို တခြားနေရာသို့ ထွက်ပေါက်ပေး လိုက်ရ၏။ အိမ်ရှေ့တံခါးမကြီးမှ တံခါးလက်ကိုင်ကို မတိုက်ဘဲ ထားသည့် ကောင်မလေးတွေကို ဆူပစ်လိုက်သည်။ ညစာပိုင်းကျတော့ ဒေးဗစ်က ဘန့်နီအကြောင်း မစဘဲ နိုင်ငံရေးကိစ္စတွေ ပြောနေသဖြင့် ကျေးဇူးတင်ရသေးသည်။ ဘန့်နီအကြောင်းကို ခေါင်းထဲမှ မောင်းထုတ် ချင်သည် မဟုတ်လား။ တိုင်းရေး ပြည်ရေး ကိစ္စတွေကိုလည်း သိချင် နေသည်လေ။

ဒယ်လ်ရှိုင်း စိုက်ပျိုးရေးသမားများသည် နိုင်ငံရေးကို

သိပ်စိတ်မဝင်စားကြပေ။ နိုင်ငံရေးသည် ရာသီဥတု သဖွယ် ထိန်းလို့ရသည့် ကိစ္စမျိုးမဟုတ်ဘူး။ သူတို့ ယူဆထားကြသည်။ ခုတော့ နိုင်ငံရေးနှင့်သူတို့၏ တိုးတက် ဖွံ့ဖြိုးမှုကို ဆက်နွယ်နေနိုင်ကြောင်း၊ နိုင်ငံရေးကြောင့် သူတို့လုပ်ငန်းတွေ နှောင့်နှေးနိုင်ကြောင်း တဖြည်းဖြည်း သဘော ပေါက်လာကြသည်။

ဒယ်လ်ရွှိုင်း သည် လျင်မြန်သော အဟုန်ဖြင့် တိုးတက်ပြောင်းလဲနေ၏။ အမေရိကန်ပြည်ထောင်စုက လူဝီစီယားနား ပြည်နယ်ကို ဝယ်လိုက်ပြီး ကတည်းက လူဦးရေ သိသိသာသာ တိုးလာသည်။ သို့သော် ဒယ်လ်ရွှိုင်းသည် ဖလော်ရီဒါအနောက်ပိုင်း တိုက်နယ်တစ်ခုဖြစ်၍ အင်္ဂလိပ်လက်ထပ်က ခရိုင်အဆင့်အထိ ရှိခဲ့ဖူးသည်။ ထိုစဉ်က လူဝီစီယားနားပြည်နယ်နှင့် လုံးဝသီးခြားနေခဲ့သည်။ လူဝီစီးယားနား ကို အမေရိကန်ပြည်ထောင်စုက ဝယ်တော့ အနောက်ဘက် ဖလော်ရီဒါ ပါသည်၊ မပါသည်ကို ဘယ်သူမှ မသိကြပေ။ သည်ကိစ္စ နားမရှင်းသဖြင့် ဂျူးဒစ်က ဖီးလစ်အား ရှင်းပြဖို့ ပြောသည်။

"ရယ်စရာတော့ ကောင်းတယ်ကွ၊ အမေရိကန်တွေက တို့တစ်တွေကို အမေရိကန်လို့ပဲ သဘောထား နေတယ်၊ စပိန်ဘုရင်ခံက ဒီမှာ ရုံးတက်နေတုန်း၊ ခုလောလောဆယ် တိုကလူတွေ အမေရိကန် တရား ဥပဒေအောက်မှာ နေရတာလား၊ စပိန်အုပ်ချုပ်မှု အောက်မှာလား ဆိုတာလည်း ဘယ်သူမှ အတိအကျ မသိဘူး။ စိတ်လည်း မဝင်စားကြဘူး"

ဖီးလစ်က ခပ်ပေါ့ပေါ့ ရှင်းပြသည်။ သို့သော် ဒယ်လ်ရွှိုင်း မြေပိုင်ရှင်တွေက သည်ကိစ္စအတွက် တစ်စုံတစ်ခု ထလုပ်မည် ဆိုတော့ ဂျူးဒစ် အထိတ်တလန့် ဖြစ်သွားသည်။

နွေရာသီ၏ နောက်ဆုံး ရက်ကျန်နေ့ တစ်နေ့ဖြစ်၏။ ဂျူးဒစ် လေသာဆောင်တွင် ထိုင်ပြီး အေမီလိုသား ကလေး ဆီဘက်စတိန် အတွက် ဆွယ်တာထိုးနေသည်။ အေမီလီက အပေါ်ထပ်မှ ဆင်းလာပြီး ရေးကြီးသုတ်ပျာနှင့် မေးလာသည်။

"မေမေ...အဲဒီလူကြီးတွေ အားလုံးကို ညစာကျွေးရမှာလား ဟင်"

ဂျူးဒစ်က ချွေးမလုပ်သူဘက် လှည့်ပြီး-

"ဘယ်လူကြီးတွေက အေမီလီ"

"သမီး အပေါ်ထပ်ကလှမ်းမြင်ရတယ်၊ အိမ်ရှေ့မှာ လာနေကြပြီ"

အေမီလီက အိမ်ရှေ့ဆီသို့ မေးထိုးပြသည်။ ဂျူးဒစ်လှမ်းကြည့်လိုက်၏

မြင်းကိုယ်စီနှင့် ဝင်လာသည့် လူအုပ်ကြီး ကို တွေ့ရသည်။ ရှေ့ဆုံးမှ ဖီလစ်နှင့် ဒေးဗစ်။ နောက်မှလူအုပ်က နှစ်ဆယ်ကျော်လောက် ရှိမည် ထင်သည်။

ဂျူးဒစ် မျက်လုံးပြူးသွားသည်။ ရာသီဥတု သာယာသောနေ့များတွင် ပိုပိုလိုလို အနည်းဆုံး ၁၀ယောက် စာလောက် အတွက် ညစာဝိုင်းကို အသင့်လုပ်ထား တတ်သည်။ ဖီးလစ်နှင့် ဒေးဗစ်တို့က ဧည့်သည် နှစ်ယောက် သုံးယောက်လောက်စီ ခေါ်လာတတ်သည် မဟုတ်လား။

သို့သော် သည်လူအုပ်ကြီး အတွက်တော့ ချက်ချင်းစီစဉ်ဖို့ မလွယ်လှပေ။ ချွေးမလုပ်သူကို လှမ်းပြော လိုက်သည်။

"ကောင်မလေးတွေကို ကြက်ဥမွှေကြော် လုပ်ခိုင်းလို့ ရပါတယ်။ ဒါပေမဲ့ ဒီလိုအုပ်လိုက်ကြီး မလာပြီး ဝိုင်းဖွဲ့မယ် ဆိုရင်တော့ ကြိုပြောဖို့ ကောင်းတာပေါ့"

"အမျိုးသမီးတွေ မပါဘူးမေမေ၊ ပါတီလုပ်ဖို့ အစီအစဉ်မရှိဘူးနဲ့တူပါတယ်"

အေမီလီ က အယူခံဝင်သည်။ ဂျူးဒစ် ဧည့်သည်တွေကို နှုတ်ဆက်ဖို့ ထသွားသည်။ လူအုပ်ထဲတွင် ပါစယ်တို့ ညီအစ်ကို သုံးယောက်လည်း ပါသည်။ ပြီးတော့ လူဝစ်ဖဲလ်ကိုး၊ ရော်ဂျာရှာရမီ၊ ခရစ္စတိုဖာ နှင့် ဂျူဟန် တို့ မိသားစု ထဲက အမျိုးသားအားလုံး ပါသည်။ ကားလ်ဟဲရော့နှင့် သူတို့ ညီအစ်ကို တစ်သိုက်က နောက်ဆုံးမှ။

ဖီးလစ်ကမြင်းပေါ်မှ ဆင်းရင်း-

"ဂျူးဒစ်ရေ..ဒီလူအုပ်ကို မင်းကျွေးနိုင်ပါ့မလား"

မကျေမနပ် ဖြစ်နေတာတွေ ဘယ်ရောက်ကုန်မှန်း မသိ၊ ဂျူးဒစ်ရယ်ပြီး ပြန်အော်ပြောလိုက်သည်။

"ရပါတယ်၊ ဟင်းချေးမများဘူးဆိုရင် ပြောတာနော်"

ဖီးလစ်က ထမင်းဆာလာသည့် ကလေးတစ်ယောက် မီးဖိုဆောင်ကို ဝင်တော့မည့်ပုံ၊ ဧည့်သည်တွေကို နှုတ်ဆက်ဖို့၊ နေရာချထားဖို့ အေမီလီနှင့် တာဝန်လွှဲခဲ့ပြီး ဖီးလစ်ကို လှေကားရင်းသို့ ဆွဲခေါ်သွားသည်။

"ကဲ... ဘာတွေ ဖြစ်လာတာလဲ ပြောစမ်းပါဦး"

ဖီးလစ် က ဇနီးချောကို ငုံ့ကြည့်ပြီး ပြောသည်။

“စပိန်ဘုရင်ခံကို ကိုယ်တို့ မောင်းထုတ်ပစ်တော့မလို့လေ”

“ဘုရား..ဘုရား၊ ဘယ်လိုမောင်းထုတ်ကြမှာလဲဟင်”

ဖီးလစ်က ရယ်ပြီး နှင်တံနှင့် လက်တစ်ဖက်ကို ရိုက်ရင်း-

“ဒီည ပန်းခြံ ထဲမှာ လူစုမယ်၊ ပြီးတော့ သူ့နန်းတော်ကို သွားဝိုင်းပြီး ထွက်သွားခိုင်းမယ်၊ ဒါပဲ”

နောက်ဘက်မှ အဖွဲ့သားတွေကို လှမ်းကြည့်ပြီး ဖီးလစ်ရယ်သည်။ ဆံပင်တွေ ဖြူစ ပြုလာသော်လည်း နုပျိုဆဲ။ ဒေးဗစ်နှင့် ညီအစ်ကိုလား အောက်မေ့ရသည်။

အေမီလီက စိုးရိမ်တကြီး လေသံဖြင့်-

“အန္တရာယ် မများဘူးလား ဖေဖေ၊ နန်းတော်မှာ လက်နက်ကိုင်အစောင့်တွေနဲ့ မဟုတ်လား”

“ရှင်တို့က ဘာလို့ဝင်ရတာလဲ၊ အမေရိကန်အစိုးရ လုပ်ရမယ့်အလုပ် မဟုတ်လား”

ဒေးဗစ်ဝင်ပြောသည်။

“အမေရိကန်အစိုးရ လုပ်ရင် ခုနစ်နှစ်လောက်ကြာမှ မေမေရဲ၊ သူတို့က ကျွန်တော်တို့ အရေးကို စိတ်ဝင်စားတာ မဟုတ်ဘူး၊ ဒါကြောင့် ကိုယ်ဘာသာကိုယ် လုပ်ကြရတာ၊ လူဝီစီးယားနားဟာ ပြည်နယ်ကြီး တစ်ခု ဖြစ်လာတော့မယ်၊ မကြာခင် ပြည်ထောင်စုထဲကို ပြည်နယ်တစ်ခုအဖြစ် ဝင်ရတော့မယ်၊ ကျွန်တော်တို့နယ်က လူဝီစီးယားနားထဲမှာ ရှိနေတာ၊ ဒါပေမဲ့ စပိန်ဘုရင်ခံက အခွန်အတုတ်တွေ မှိန်းယူနေတယ်။ ဒါကို အမေရိကန်တွေက မသိတာလား၊ မသိချင်ယောင်ဆောင် နေတာလား၊ မသိဘူး။ အဲဒါတာကြောင့်....”

ဒေးဗစ်က အတွင်း အိတ်ထဲမှ စာရွက်တစ်ရွက်ကို ဆွဲထုတ်လိုက်သည်။

“ဒါကြောင့် ဒီအနောက်ဘက် ဖလော်ရီဒါ လွတ်လပ်ရေး ကြေညာစာတမ်းကို ကျွန်တော်တို့ ဘာသာရေး ရတာ”

ဂျူးဒစ် လှေကားထစ်ပေါ်တွင် ချည်နဲ့စွာ ထိုင်ချလိုက်သည်။

“မင်းတို့ဟာတွေက ရယ်စရာလည်း ဖြစ်နေပါဦးမယ်ကွယ်”

ရော်ဂျာရှာရမီ ဝင်ရှင်းသည်။

“ဘယ်က ရယ်စရာဖြစ်ရမှာလဲ အန်တီဂျူးဒစ်၊ မနက်မိုးလင်းရင် ကျွန်တော်ထောင်ထဲ ရောင်ချင်ရောက်၊ မရောက်ရင် ကျွန်တော်တို့တစ်တွေ အနောက် ဖလောရီဒါ ပြည်နယ်သားတွေ ဖြစ်သွားပြီလေ”

“အဲဒီတော့မှ အမေရိကန်တွေ တို့ကို ဂရုစိုက်လာမှာ”ဟု ဖီးလစ်က နဂုံးချုပ်ပေးလိုက်သည်။

ညိုနေသော အေမီလို့မျက်နှာကလေးကို ဂျူးဒစ် လှမ်းကြည့်လိုက်သည်။ ဂျူးဒစ်သည် ရင်တွေ တုန်နေပါသည်။ သို့သော် သည်သားအဖ အကြောင်းကို အေမီလီထက် ပိုသိသည်လေ။ သူတို့ နှစ်ယောက်စလုံး တစ်ပုံစံတည်း။ ခပ်ကြမ်းကြမ်း ခပ်ရမ်းရမ်း လုပ်တော့မည်ဆိုလျှင် ဘယ်သူ တားလို့မှ ရသည်မဟုတ်။ သည်တော့ သက်ပြင်းချကာ သတိဝီရိယနှင့် သွားကြဖို့သာမှာပြီး မီးဖိုဆောင်သို့ ဝင်ခဲ့သည်။

သူတို့တစ်တွေ ကတိုက်ကရိုက် ညစာစားကြ၏။ အလွန်အမင်း တက်ကြွနေကြ၏။ ဂျူးဒစ် နားမလည် နိုင်အောင် ဖြစ်နေသည်။ အေမီလီက ငြိမ်ချက်သား ကောင်းနေ၏။ သူတို့၏ တော်လှန်ရေးကို မမှုသလို ပုံစံဖြင့်။ သို့သော် သူတို့အားလုံး ထွက်သွားကြပြီး မြင်းခွာသံတွေ စဲသွားသည်နှင့် ဆီဘက်စတိန်လေး၏ ခေါင်းကိုပွတ်ပြီး မျက်ရည် ကျနေသည်ကို ဂျူးဒစ်မြင်လိုက်၏။ သားကလေးကို အိပ်ရာဝင် အနမ်းပေးပြီး နှုတ်ဆက်ကာ အထိန်းလက်သို့ အပ်လိုက်သည်။

“သမီး ကြောက်တယ် မေမေ၊ သူတို့တစ်ခုခု ဖြစ်ရင် ဒုက္ခပဲနော်”

နှစ်ယောက်သား ကျန်ခဲ့သည့် အခါတွင်မှ အေမီလီရင်ဖွင့်သည်။

ဂျူးဒစ် က အေမီလို့လက်ကို ယုယစွာကိုင်ပြီး-

“စပိန်ဘုရင်က ဒီမှာဆက်နေစရာ ဘာမှအကြောင်း မရှိတော့ဘူး သမီးရဲ့”

“မေမေ ဘာဖြစ်လို့ ဒါလောက် တည်တည်ငြိမ်ငြိမ် နေနိုင်လဲဆိုတာ သမီးစဉ်းစားမရဘူး”

အေမီလီ တိုးတိုးလေးပြောနေသည်။

“မေမေလည်း သမီးရဲ့ သတ္တိကို ချီးကျူးနေတာ”

“ဒါပေမဲ့ ရင်တွေတုန်နေပြီ မေမေရဲ့၊ ဒေးဗစ်ရှေ့မှာ ဣန္ဒြေမပြက်ချင်လို့ မနည်းဟန်ဆောင်နေရတာ”

ဂျူးဒစ်ပြုံးသည်။

“သမီးအရွယ်တုန်းက မေမေ သမီးလောက် မရင့်ကျက်ခဲ့ပါဘူးကွယ်”

အေမီလီက ခပ်တိုးတိုး ရယ်ပြီး-

“ဒေးဗစ် က သမီးကို သတ္တိကောင်းတယ် ထင်နေတာ၊ သွားခါနီး ကပ်ပြောသွားသေးတယ် မေမေရဲ့၊ ခုလို သွေးကောင်းတဲ့ မိန်းမမျိုးရတာ သိပ်နိုပ်တာပဲတဲ့၊ မာသာရှာရမီတော့ မျက်ရည်ထဲမှာ မျောကျန်ရစ်ခဲ့တယ်တဲ့လေ”

“ဩော်..မာသာလား၊ သူက ငိုမှပိုလှတာ သမီးရဲ့”

“မလှချင်နေပါစေ၊ ယောက်ျားရှေ့မှာတော့ မငိုချင်ပါဘူး၊ သူကို အပစ်အခတ်ခံ ရမှာတော့ သမီးတွေးပြီး ပူတယ် မေမေရယ်”

ထိုးလက်စ ဇာကို ဆွဲယူပြီး ဖယောင်းတိုင်နားတွင် သွားထိုင်သည်။ ခဏနေမှ ခေါင်းထောင်လာပြီး-

“မေမေ သမီးကို ကလေးတစ်ယောက်လို မနှစ်သိမ့်တာ ကျေးဇူးတင်ပါတယ်၊ သမီးက သူများ သနားတာ သိပ်မခံချင်တတ်ဘူးလေ”

ညည့်နက်လာပြီ။ သို့သော် သမီးယောက္ခမ နှစ်ယောက်လုံး အိပ်ချင်စိတ် မရှိကြပေ။ အေမီလီက ဆီဘက်စတိုန်လေးကို တစ်ချက်သွားကြည့်သည်။

“တိုင်းပြည်ကြီး ဘာဖြစ်နေနေ သူဂရုမစိုက်ဘူး မေမေ၊ နှစ်နှစ်ခြိုက်ခြိုက် အိပ်နေပြီ”

ဂျူးဒစ်ကလည်း သူထိုးလက်စ ချည်လုံးနှင့် အပ်ကို ယူပြီး ဖယောင်းတိုင်နား သွားထိုင်သည်။ အေမီလီကို ဟန်ကိုယ့်ဖို့ ဟူသည့် သဘောဖြင့် ပြောထားရသော်လည်း နန်းတော်ကို သွားဝိုင်းကြသည့် လူစုအတွက် ရတက်မအေးနိုင်ပေ။ အိပ်ချင်စိတ်လည်း မရှိတော့။ နှစ်ယောက်သား စကား မပြောကြတော့ဘဲ ကိုယ့်အလုပ် ကိုယ်လုပ်နေကြသည်။ ဇာထိုးအပ်ကို ဆတ်ခနဲ ပစ်ချပြီး အေမီလီ ဝုန်းခနဲ ထရပ်တော့ သန်းခေါင်ကျော်နေပြီ။

“ဘာသံတွေလဲ မေမေ”

“ဟင်..ဘာသံမှ မကြားပါလား”

ဂျူးဒစ်သည် လုပ်လက်စကို ရပ်ပြီး နားစွင့်ကြည့်လိုက်သည်။

“ဟော...ကြားလား၊ ဟိုအဝေးကြီးမှာ ဆူဆူညံညံ အသံတွေ”

ပြောပြောဆိုဆို အေမီလီ ပြတင်းပေါက်သို့ ထသွားသည်။ ဂျူးဒစ် ထလိုက်သွား၏။ အရေးကြုံလျှင် မိမိက ရှေ့က နေရမည်ကို သွားသတိရလိုက်သောကြောင့် ဖြစ်သည်။

“တိုက်ပွဲဖြစ်ရင် မြို့ကထဲဘက်မှာ ဖြစ်မှာပေါ့သမီးရဲ့၊ ဒီဘက်မှာ ဘာမှဖြစ်နိုင်စရာ အကြောင်း မရှိပါဘူး”

အေမီလီ က ဂျူးဒစ်၏ပခုံးကို လှမ်းဖက်လိုက်သည်။ ဂျူးဒစ်ပါးစပ်အဟောင်းသား ဖြစ်နေ၏။

ဟိုအဝေးကွင်းထဲ ဆီတွင် မီးရောင်တွေ တလက်လက်နှင့် လှုပ်လှုပ်ရွရွဖြစ်နေသည်ကို လှမ်းမြင်ရ၏။ အော်သံ တွေလည်း သဲ့သဲ့ကြားနေရ၏။ မြင်ရသည့် မီးရောင်တွေမှာ စီစီတန်းတန်း မဟုတ်။ ပြန့်ကျဲချီ တက်နေပုံ ရသည်။ အေမီလီက သူ့လည်ပင်းသူ လက်တစ်ဖြင့် ဆုပ်လိုက်ပြီး-

“စစ်သားတွေ မဟုတ်ဘူး မေမေ”

နှစ်ယောက်သား ခန်းဆီးစကို ပြိုင်တူ ဆွဲပိတ်လိုက်သည်။ ဂျူးဒစ် အလန့်တကြား နောက်ဆုတ်လိုက်၏။ ခေါင်းထဲ တွင် စူးခနဲ ဖြစ်သွားသည်။ လက်ဖဝါးတွေ ချက်ချင်း ချွေးစို့လာ၏။

“အဲဒါ လူမည်းတွေ သမီး”

အေမီလီ နံရံကို အလန့်တကြား ကျောပေးကပ်လိုက်သည်။ တစ်ကိုယ်လုံး ဆတ်ဆတ်တုန်လာသည်။ ဂျူးဒစ်၏ နှုတ်မှ ဆွံ့နေသူ တစ်ဦး၏နှုတ်မှ ထွက်သလို စကားလုံးနှစ်ခု ထွက်လာသည်။

“ဘန်နီ”

ပြောပြောဆိုဆို နောက်ဘက် လှေကားဆီသို့ ပြေးသွား၏ အပေါ်ထပ် ကလေးခန်းဆီသို့ တစ်ထစ်ကျော် ပြေးတက်သွားသည်။

ဂျူးဒစ်က နံရံမှ ကြိုးကို တအားဆွဲလှုပ်လိုက်၏။ အစေခံ

တန်းလျားဘက်တွင် ခေါင်းလောင်းသံတွေ ဆူညံ သွားသည်။ တုန်တုန်ယင်ယင် ဖြစ်နေသည့် ခန္ဓာကိုယ်ကို သတိနှင့် မနည်းထိန်းနေရ၏။

ဝက်သစ်ချမြိုင် သည် အနီးဆုံး ယာတောအိမ်များနှင့်ပင် မိုင်ပေါင်းများစွာ ဝေးလေသည်။ ကျွန်တွေ ပုန်ကန်ပြီး တစ်အိမ်သားလုံး လာသတ်သွားလျှင် မည်သူမှ သိလိုက်မည်မဟုတ်။ မနက်မိုးလင်းလို့ သူတို့ ပြန်လာမှ အလောင်းတွေ တွေ့ကြရမည် ဖြစ်သည်။ ဝက်သစ်ချမြိုင်မှ လူမည်းများသည် အခြားယာတောမှ ကျွန်များထက် ပို၍အခွင့်အရေး ရကြသဖြင့် သူတို့ဘဝ သူတို့က ကျေနပ်နေကြသူများ မဟုတ်လား။

သို့သော် ဘန်နီလို ဘဝကို မကျေနပ်သူတစ်ယောက်၏ ဦးဆောင်စည်းရုံးမှုကြောင့် သူတို့တစ်တွေ နားယောင် သွားကြခြင်း ဖြစ်မည်။ သခင်ယောကျ်ားများ မရှိခိုက်ကို အခွင့်ကောင်းယူကာ ဝက်သစ်ချ မြိုင်ဆီသို့ သူတို့ ချီတက်လာ နေကြပြီ။ စနစ်တကျမဟုတ်၊ တစ်ယောက် တစ်ပေါက် အော်ဟစ်လာနေခြင်း ဖြစ်၏။

ကြိုးကို နောက်တစ်ခါ ဆွဲလှုပ်မည်အပြုတွင် ခရစ္စတင်း အပြေးရောက်လာသည်။ အိပ်ချင်မူးတူး ပုံစံဖြင့်။

“မမလေး ဘာဖြစ်တာလဲဟင်၊ မမလေးအိပ်ရာကို ပြင်ပေးပြီး ကျွန်မအိပ်တော့မလို့ လုပ်နေတာ”

“တို့ အလုပ်သမားကြားထဲမှာ ဘာတွေဖြစ်နေလဲ ခရစ္စတင်း၊ နင်ဘာကြားသလဲ”

“ရှင် မမလေး”

ခရစ္စတင်း၏ မျက်လုံးကြီးတွေ ပြူးထွက်လာသည်။ ဂျူးဒစ်က ခန်းဆီးကိုဆွဲပြီး ကွင်းထဲဆီမှ မြင်ကွင်းကို ပြလိုက်သည်။

“ဘုရား..ဘုရား…ကွင်းထဲ က ခွေးတွေ”

ခရစ္စတင်း ဒူးထောက် ထိုင်ချလိုက်သည်။ လက်နှစ်ဖက်ကိုမြှောက်ပြီး

“ကျွန်မ ဘုရားမှာ သစ္စာဆိုပါတယ် မမလေး၊ ကျွန်မတို့ ဘာမှမသိပါဘူး၊ သူတို့နဲ့လည်း ကျွန်မတို့ လုံးဝ အဆက်အသွယ် မရှိပါဘူး၊ ကျွန်မပြောမိရင် သွေးအန်သေရ..”

"ဟဲ့…တော်စမ်း၊ အခိပ္ပာယ်မရှိ၊ ကျိန်တွယ်မနေနဲ့၊ နင်ပြောတာ တကယ်မှန်ရင် နင်တို့ အကုန် သေကုန်လိမ့်မယ်၊ မြန်မြန်လုပ်"

ဆီဘက်စတိန်းလေးကို လက်ဆွဲပြီး ပြေးဆင်းလာသည့် အေမီလီဘယ်သို့ ချာခနဲလှည့်လိုက်သည်။ အငယ်မလေး ချီပြီး မမ်မီ ကနောက်မှ ကပိုကရိုနှင့်ပါလာသည်။

"ကလေးတွေကို မမ်မီ လက်ထဲအပ်လိုက် သမီး၊ သူကြည့်ရှောင်တမ်းမယ်၊ မေမေပြောတဲ့အတိုင်း လုပ်စမ်း၊ ရေ့သေ့တွဲ ယူသွား၊ သေနတ်ခန်းကို ပြေးဖွင့်၊ သမီးအတွက် တစ်လက်၊ မေမေ့အတွက် တစ်လက် ယူခဲ့"

ဆက်တိုက် အမိန့်ပေးပြီး လေသာဆောင်သို့ ပြေးထွက်ခဲ့သည်။ သူတို့တစ်တွေ ဝက်သစ်ချမြိုင် အိမ်ကြီးနှင့် နီးသထက် နီးလာနေပြီ၊ လုပ်ငန်းခွင်အနှံ့ အားလုံးကြားနိုင်မည့် ခေါင်းလောင်းကြိုးကို ဂျူးဒစ် ဆွဲလှုပ်လိုက်သည်။

ခေါင်းလောင်းသံများ အရပ်လေးမျက်နှာတွင် မြည်ဟိန်းထွက်ပေါ်လာသည်။ ဘန်နီ့ နောက်လိုက် မဟုတ်သည့် လူမည်း အလုပ်သမားများ မျက်နှာဖြူ အလုပ်ကြပ်များကို တပ်လန့်နိုးလိုက်ခြင်း ဖြစ်၏။

အေမီလီ သေနတ်နှစ်လက်နှင့် ပြန်ရောက်လာသည်။

"သေနတ်ခန်းကို သော့ပြန်ခတ်ခဲ့သလား သမီး"

"ဟုတ်ကဲ့ မေမေ"

"အေး..ဟုတ်ပြီး၊ ဒီအခန်းကို သူတို့စီးမိရင် အားလုံး အသတ်ခံရမှာပဲ၊ သူတို့အထဲမှာ လက်နက်များများ မပါနိုင်ဘူး၊ သမီးငှက်ပစ်ဖူးတယ်နော်၊ ဘာမှမဆန်းဘူး၊ အဲ့ဒီအတိုင်းပဲ၊ စိတ်ငြိမ်ငြိမ်ထား၊ ဒါမှ လက်ငြိမ်မယ်၊ မလိုအပ်ရင် မပစ်နဲ့၊ သိလား"

ကလေးတွေကို နောက်ထပ် ပွေ့ဖတ်နှုတ်ဆက်ပြီး အေမီလီ မြင်းပေါ်တက်သည်။ အိမ်ဖော်တွေအားလုံး ကိုးရိုး ကားရားနှင့် ကြောက်အားလန့်အား ထွက်ပြေး ကုန်ကြပြီ။ ဂျူးဒစ်အိမ်ထဲ တစ်ခေါက် ပြန်ဝင်သည်။ ဂျိုး၊ စီဇာရိုစသည့် စိတ်ချရသော အိမ်စေများနှင့် အလုပ်ကြပ်များအတွက် သေနတ်တွေ ထုတ်ယူလာခဲ့သည်။ ပြီးမှ မြင်းပေါ်ကို လွှားခနဲ ခုန်တက်ပြီး လူမည်းသူပုန်တွေကို ရင်ဆိုင်ရန် ဝက်သစ်ချမြိုင်မုခ်ဝ ဆီသို့ ထွက်ခဲ့သည်။ ဂျူးဒစ်ကရှေ့ဆုံးမှ။

ခေါင်းဆောင် လုပ်သူ ဘန်နီနှင့် လူမည်း သူပုန်များသည် ဝက်သစ်ချမြိုင်ကို ကြက်ကလေး ငှက်ကလေး ဖမ်းသလို ဖမ်းဖို့ သပိတ်ဝင်အိပ်ဝင်ထွက်ပြီး လာရောက် စီးနင်းကြခြင်း ဖြစ်သည်။ သခင်ယောကျ်ားသားများ မရှိ၍ လက်နက်ကိုင် တုံ့ပြန်မှုကို သူတို့လုံးဝ မျှော်လင့်မထားကြပေ။

ခုလို မြင်းကိုယ်စီဖြင့် အိမ်စောင့် ခွေးတွေက သေနတ်နှင့် တုံ့ပြန်တိုက်ခိုက်သည့်အခါ သူတို တစ်တွေ ဒေါသ အမျက်ခြောင်းခြောင်း ထွက်ပြီး တရကြမ်း တိုးဝင်လာကြသည်။

သူတို့ အင်အားမှာ ၁ဝ ဂထက်ပိုမည် မဟုတ်ပေ။ မီးတုတ်တွေ တယမ်းယမ်းနှင့်။ သေနတ်သမား အနည်းငယ် ပါသည်။ သို့သော်အများစုက ကြောက်စရာ ကောင်းလှသည့် ကြံခုတ်ဓားကြီးများ ကိုယ်စီ ကိုယ် လာကြသည်။ သည်ဓားများကို နေ့ပိုင်းတွင်သာ ကြံခုတ်ဖို့ ထုတ်ပေးပြီး ညပိုင်းတွင် ပြန်သိမ်းကာ ပစ္စည်းဂိုဒေါင်ထဲတွင် သော့ခတ် ထားရသည်။ ဘယ်သူ ပေါ့လျော့မှုကြောင့် သည်ဓားတွေသူတို့ လက်တွင်းသို့ ရောက်သွားခြင်းလဲ၊ ကြံခင်းတွေ အလုပ်ကြပ် လုပ်သွားဖူးသည့် ဘန်နီမှလွဲ၍ ဘယ်သူမှ မဖြစ်နိုင်။

တပ်ဦးမှ မြင်းတစ်စီးဖြင့် အော်ဟစ်ချီတက်လာသည့် ဘန်နီကို လှမ်းမြင်ရပြီ။ မီးတုတ်များ၏ အလင်းရောင်တွင် သေသေချာချာ တွေ့လိုက်ရခြင်း ဖြစ်သည်။ ဖီးလစ်နှင့်ပိုတူလာသည် ထင်၏။ အတွင်းဘက် ခြံထောင့်တစ်နေရာမှ သေနတ်သံတွေ ထွက်ပေါ်လာပြီး အလုပ်ကြပ်များ၏ အသံကို ကြားလိုက်ရသည်။

“ဟေ့ကောင်တွေ၊ ရှေ့မတိုးနဲ့၊ အားလုံး လက်နက်ချ”

နောက်ထပ် သေနတ်သံတွေ ဆက်တိုက်ထွက်ပေါ်လာပြန်သည်။ လူမည်းသူပုန်တွေ အတုံးအရုံးလဲ ကျကုန်သည်၊ အချို့ကဓားတွေ၊ သေနတ်တွေချပြီး ထွက်ပြေးကြ၏။

သည်ပွဲကို ဂျူးဒစ်သေသေချာချာ မမြင်လိုက်ရပေ။ ဘန်နီ တစ်ယောက်တည်းကို အာရုံစိုက်ကြည့်မိ နေသောကြောင့် ဖြစ်၏။ ဘန်နီကလည်း မိမိကို မြင်သွားပုံရသည်။ တည့်တည့်ကြီး ပြေးလာနေ၏။ လက်တစ်ဖက်လျှင် သေနတ်နှင့် ဓားကို လွယ်လျက်။

“ဟိုမှာဟေ့ ကပြားကောင်ကို ဆော်ကြစမ်း”

အလုပ်ကြပ်တစ်ယောက် အော်ပြောသံ၊ သို့သော်သူတိုက နောက်ကျသွားပြီ၊ ဂျူးဒစ်က ချိန်ထားပြီးသား၊ လက်တွေ ထူးထူးခြားခြား ငြိမ်နေသည်။

သေနတ်မောင်းကို ဖြုတ်ချလိုက်၏။ ဘန်နီနောက်သို့ လန်သွားသည်။ သို့သော် မြင်းပေါ်မှ မကျသေး၊ တွယ်ကပ်ထားသည်။ ဂျူးဒစ် နောက်တစ်ချက် ချိန်ပစ်လိုက်သည်။ ဘန်နီ မြေပြင်ပေါ်သို့ ကားခနဲ ကျသွား၏။

"ဟာ ဟိုမှာကြည့်စမ်း မမလေး ပစ်ချလိုက်တာဟေ့"

မှောင်ရိပ်ထဲမှာ အော်သံတချို့ကို ဂျူးဒစ် မကြားတစ်ချက် ကြားတစ်ချက် ဖြစ်နေသည်။ အန္တရာယ်ကိုလည်း မမြင်တော့။ သေနတ်ကို မောင်းပြန်တင်ပြီး ရှုပ်ယှက်ခတ်နေသည့် တိုက်ပွဲထဲသို့ မြင်းနှင့်တိုး ဝင်သွားသည်။ ဘန်နီ လဲကျနေသည့် နေရာအရောက်တွင် သူ့ကိုယ်ထဲသို့ နောက်ထပ် ကျည်ဆန် တစ်ထောင့် ပစ်သွင်းလိုက်၏။

ထိုစဉ်တွင် လူမည်းတစ်ယောက် ဓားကို ဝင့်ပြီး ပြေးဝင်လာသည်။ ဒူးခေါင်းတွင် ပူခနဲတစ်ချက် ခံစား လိုက်ရ၏။ ကြောက်မက်ဖွယ် ဓားသွားကြီးနှင့် မီးထုတ်တစ်ခုကို နောက်တစ်ကြိမ် အနီးကပ် တွေ့လိုက်ရပြန်၏။ ကိုယ်ဆီသို့ လာနေသော ဓားသွားကို သေနတ်ဒင်နှင့် ဖြတ်ရိုက်ချလိုက်သည်။ ပြီးတော့ မြင်းပေါ်တွင် ထောင့်ထောင့်ကြီး ငြိမ်န ၏။ မြင်းကြီးဟီသံကို မကြားမိ။ လှုပ်လှုပ်ရှားရှား ခုန်ပေါက်နေသည်ကို လည်း သတိမထားမိ။

သခင်မ၏ ဒူးခေါင်းက ဝေဒနာကို မြင်းကြီးက သူပါ ခံစားနေရသည့်နှယ်။ ထိုတဒင်္ဂတွင် အသိဉာဏ် အလျင်သည် ခေတ္တ ရပ်တန့်သွားသည် ထင်ရ၏။ စောစောကလေးက ပြုမူလုပ်ရှားမိသည့် အပြစ်မှ လွဲ၍ ဘာမှ မသိဘာမှ မမြင်။

သေနတ်သံတွေ နံဘေးတစ်ဝိုက်တွင် ဆူညံနေ၏။ သို့သော် နားထဲတွင် သဲ့သဲ့မျှသာ ကြားနေ၏။ အဝေးကြီးတွင် ပစ်ခတ်နေကြသည့်အလား။

မြင်းဇက်ကြိုးကို တစ်စုံတစ်ယောက်က လာဆွဲသည်ကို သတိထားလိုက်မိ၏။ အမှောင်ထဲတွင် အသံတစ်သံ ကြားလိုက်သည်။

"ဟာ မမလေး ထိသွားပြီ၊ သတိလစ်နေတာ ထင်တယ်"

လက်စွဲတော် ဂျိုး၏အသံ ဂျိုးမှာ ပိန်းကောကြီးနှင့် စုန်ဆင်းလာကတည်းက ဖီးလစ်နှင့်အတူ ပါလာသည့် လူယုံတော်ကြီး ဖြစ်သည်။ သူ့အသံကို ကောင်းကောင်းကြီး မှတ်မိနေသည်။ မြင်းပေါ်မှ ဆွဲချပြီး ပွေ့ယူသွားသည်ကို အမှတ်ထားလိုက်မိ၏။ သည်နောက် တစ်လောကလုံး ညကဲ့သို့ အမှောင်ကျသွား လေတော့သည်။

ဂျူးဒစ် ပြန်သတိရလာချိန်တွင် အောက်ပိုင်း တစ်ပိုင်းလုံး

မခံနိုင်လောက်အောင် နာကျင်နေကြောင်း ပထမဆုံး သိလိုက်၏။ မျက်နှာကို ရေအေးဖြင့် ဆွတ်ဖျန်းပေးနေကြသည်။ တစ်ချက် ညည်းလိုက်၏။

"ဟော..မမ သတိရလာပြီ၊ မလှုပ်နဲ့ဦးနော် မေမေ၊ ဘာမှမဖြစ်ဘူး မေမေ နေကောင်းသွားမှာပါ"

အခန်းထဲကို ဂျူးဒစ် ဝေ့ကြည့်လိုက်သည်။ မနက်မိုးလင်းနေပြီ။ ကိုယ့်အခန်းကို ကိုယ်ပြန်ရောက်နေမှန်း သိလိုက်၏။ အိပ်ရာခင်းပေးတွင် သွေးကွက်ကြီးတစ်ကွက်၊ ဒေးဗစ်နှင့်ဖီလစ်အပြင် အေမီလီကပါ အခန်းထဲတွင် ရှိနေကြ၏။ အေမီလီက ဂျူးဒစ်နဖူးပေါ်တွင် ရေအေးဝတ် တင်ပေးနေသည်။

"ကလေးတွေအားလုံး နေကောင်းရဲ့လား၊ ဘာမှမဖြစ်ဘူးနော်"

"ဂျူးဒစ် ပထမဆုံး မေးလိုက်သည့် မေးခွန်းဖြစ်သည်"

"နေကောင်းပါတယ်ကွယ်၊ သူတို့ ဘာမှမဖြစ်ကြပါဘူး"

ဖီးလစ်က ဂျူးဒစ်၏လက်ကို ဆုပ်နယ်ပြီး တယုတယပြောသည်။

"စကား သိပ်မပြောနဲ့ဦးနော်"

ဖီးလစ်က ခုတင်စွန်းတွင် ထိုင်နေသည်။ တစ်ဖက်သို့ ဂျူးဒစ် မျက်နှာလွှဲပြီး မျက်လုံးတွေကို လက်မောင်း တစ်ဖက်နှင့် ပိတ်ထား လိုက်သည်။ သူ့သားကို သတ်ခဲ့မိသည့် အဖြစ်ကို သတိရလိုက်၍ ဖြစ်၏။ မြေကြီးပေါ်၌ ညည်းလိုက်မိပြန်သည်။ အေမီလီ့ အသံကို ကြားလိုက်၏။

"သိပ်နာနေတယ် ထင်တယ် ဒေးဗစ်၊ အိပ်ဆေးပေးရင် ခံနိုင်ပါ့မလား ဟင်"

"မရသေးဘူး ထင်တယ်"

ဒေးဗစ် ခုတင်နံဘေးတွင် ဒူးထောက်ထိုင်လိုက်သည်။

"မေမေ၊ မေမေက သိပ်သတ္တိကောင်းတာပဲ၊ ကျွန်တော်တို့အားလုံး မေမေ့အတွက် ဂုဏ်ယူလို့ မဆုံးနိုင်အောင် ဖြစ်နေကြတယ်၊ မေမေ တင်းခံလိုက်ဦးနော်"

"ငြိမ်ငြိမ်နေစမ်း ပါကွယ်"

ဂျူးဒစ် စိတ်မရှည်သလို ပြောလိုက်သည်။ ထိုတဒင်္ဂတွင် ခေါင်းထဲမှာ

နောက်ကျူရီဝေနေ၏။ ရှုပ်ထွေး ပွေလီနေ၏။ ထိုနေ့တစ်နေ့လုံး အဖျားဝင်နေပြီး သူတို့ကို မှုံးရီမှုံးဝေဖြင့်သာ မြင်တွေ့နေရသည်။ သို့သော် နောက်တစ်နေ့တွင် ကြည်ကြည်လင်လင် ဖြစ်လာသည်။

အေမီလီနှင့် ဒေးဗစ်တို့ နှစ်ယောက်စလုံး အချိန်ပြည့် ပြုစုနေကြသည်။ မေမေ့ကြောင့် ဝက်သစ်ချမြိုင်နှင့် ကလေးတွေ မှဲ့တစ်ပေါက် မစွန်းခြင်း ဖြစ်ကြောင်း သူတို့ အထပ်ထပ် အခါခါ ပြောမပြီးနိုင်အောင် ဖြစ်နေကြသည်။ တိုတောင်းလှသော အချိန်အတွင်း ခုခံ ကာကွယ်ချိန်ရအောင် စီစဉ်ပုံ၊ သတ္တိရှိရှိ တိုက်ခိုက်ပုံ၊ ဘန်နီ ကျဆုံးပြီးမှ ငမည်းကောင်တွေ လန့်ထွက်သွားကြပုံများ။

အိပ်ရာထဲ လဲနေစဉ်မှာပင် သားသမီးတွေ၊ မြေးတွေအပြင် မိတ်ဆွေ အပေါင်းအသင်းတွေ အားလုံး ရောက်လာကြပြီး ဝက်သစ်ချမြိုင်၏ မဟေသီကို ဂုဏ်ပြုစကား ဆိုကြ၏။ အရိုအသေ ပေးကြ၏။

ဂျူးဒစ်၏ ဝက်သစ်ချမြိုင် တိုက်ပွဲသတင်းသည် သည်နယ်တရိုးတွင် ဟိုးလေးတကျော် ဖြစ်သွားလေသည်။ ဘာကြောင့် သည်လောက်ပျံ့နှံ့သွားသည်ကို ဂျူးဒစ် နားမလည်နိုင်အောင် ဖြစ်နေ၏။ နေရာတိုင်းမှာ သည်သတင်း ကိုသာ ပြောနေကြ၏။

“အပျက်အစီး သိပ်မရှိဘူးတဲ့၊ လူမည်းသူပုန်တွေ နည်းနည်းပါးပါး ကျဆုံးတယ်၊ ဝက်သစ်ချမြိုင်က အလုပ်ကြပ် တချို့ ဒဏ်ရာရကြတယ်၊ ဝါခင်းတချို့ အနင်းခံရလို့ ပျက်စီးသွားတယ်၊ ခေါင်းဆောင်ပိုင်းတွင် အဖမ်းခံ လိုက်ရပြီး နောက်လိုက်တွေ နောင်တရနေကြတယ်၊ အားလုံးဟာ ဘန်နီဆိုတဲ့ ကောင်ရဲ့ လက်ချက်တွေချည်းပဲ၊ သူက မစားရ ဝခမန်းတွေ ပြောပြီး စည်းရုံးတော့ ငမည်းကောင်တွေ အရူးထကြတာပေါ့၊ ဒါပေမဲ့ မြေးတွေနဲ့ နေရမယ့်အရွယ်မှာ ဝက်သစ်ချမြိုင်က ဂျူးဒစ်လန်းဟာ စစ်သည် တစ်ယောက်လို မြင်းတစ်စီးနဲ့ တိုက်ပွဲကို ကိုယ်တိုင် ဦးစီးပြီး သူပုန်ခေါင်းဆောင်ကို သတ္တိ ပြောင်ပြောင်နဲ့ ကိုယ်တိုင် ပစ်သတ်လိုက်တာတဲ့”

သည်သတင်းတွေကို ဂျူးဒစ် ခါးသီးစွာ ကြားနေရသည်။ ကြာတော့ သည်းမခံနိုင်လာကာ သည်အကြောင်း ပြောမဆုံးအောင် ခံတွင်းတွေ့နေသူတွေကို ဂျူးဒစ် တောင်းပန် ရတော့သည်။

အေမီလီ ခြေရင်းတွင် ဇာထိုင်ထိုးရင်း အချိန်ပြည့် စောင့်ပေးသည်။ ဂျူးဒစ် ငြိမ်နေလျှင် အိပ်ပျော်သွားပြီ ထင်၏။ သို့သော် ဂျူးဒစ် အိပ်မပျော်နိုင်ပါ။

ထိုညက အဖြစ်ကို ခေါင်းအေးအေးနှင့် ပြန်တွေးကြည့်သည်။ ဆင်ခြင်တုံ

တရားနှင့် လောကနီတိ တို့ကို ဘေးချိတ်ကာ စိတ်ကို လွှတ်ပေးလိုက်သည့်ည။

ဘန်နီ ကို မိမိအနေဖြင့် သတ်ဖို့ လို မလို ပြန်စဉ်းစားသည်။ ဘန်နီ သေတော့ သေရမည်။ ဝက်သစ်ချမြိုင် ဘက်တော်သား တစ်ယောက်ယောက်၏ လက်ချက်ဖြင့် မုချသေရမည်။ သို့သော် မိမိကိုယ်တိုင် သတ်လိုက်ခြင်းမှာ ဒေးဗစ် ၏ ကလေးများကို ကာကွယ်ခြင်းလား၊ သူ့ကို မုန်းလို့လား၊ ဂျူးဒစ် အဖြေ ရှာမရပေ။ ဘယ်တော့မှလည်း အဖြေ ထွက်မည် မထင်။ သည်အတွက် အရုက်ကြီး ရှက်နေမိသည်။ စိတ်ထဲတွင် လေးလံနေ၏။ မည်သည့် ဝေဒနာနှင့်မှ မတူအောင် နင့်နဲစွာ ခံစားနေရသည်။ ပထမ ရက်ပိုင်းတွင် ဖီးလစ် ဘယ်ရောက်နေသည်ကို မမေးရဲလောက်အောင် ရင်ထဲ လေးနေ၏။

အချင်း ဖြစ်ပွားသည့်ညက သတိ ပြန်ရလာချိန်တွင် တွေ့ရပြီး နောက်ပိုင်း ဖီးလစ်ကို လုံးဝ မတွေ့ ရတော့ပေ။ မအောင့်နိုင်သည့်အဆုံး ဒေးဗစ်ကို မေးကြည့်ရတော့သည်။

"သားဖေဖေ ဘာလို့ မေမေ့ဆီ မလာတာလဲဟင်"

"နည်းနည်း နေမကောင်းလို့ပါ မေမေ"

ဒေးဗစ်ဖြေပုံ မူမမှန်ဟု စိတ်ထဲ ထင်လိုက်သည်။ တုံ့နှေးနှေးနှင့်။

"ဟိုနေ့ညက ဖေဖေ နည်းနည်း အအေးမိသွားတယ်၊ ဒီအသက် ဒီအရွယ်နဲ့ သူ့ကို ကျွန်တော်တို့ ခေါ်သွားဖို့ မကောင်းဘူး"

"ဘုရင်ခံကို မောင်းထုတ်ဖို့ကိစ္စ သားတို့ အောင်မြင်ခဲ့ကြရဲ့လား"

"ဟုတ်ကဲ့၊ သူ စပိန်ကို ပြန်ရတော့မယ်၊ ကျွန်တော်တို့ ပြည်ထောင်စုထဲကို ဝင်ရတော့မယ်၊ လူဝီစီးယားနား ပြည်နယ် ထဲ ပါမယ်လေ"

ဒေးဗစ် က အမေ့ပါးနားကပ်ပြီး ထပ်ပြောသည်။

"ဖေဖေ့အတွက် မပူပါနဲ့ မေမေ"

"ကောင်းပါပြီကွယ်" လို့ ပြောလိုက်ရသော်လည်း အတွေးကမ္ဘာတွင် ချာချာလည်နေသည်။ ကျောထဲ စိမ့်သွား၏။ ဂျူးဒစ်ရင်ထဲမှာ ခွင့်လွှတ်တတ်တဲ့ အသည်းနှလုံးမျိုး မရှိဘူးဆိုတာ သူ သိသွားပြီပေါ့နော်။

ထိုညတွင် တစ်ယောက်တည်း အိပ်ပါရစေတော့ဟု သားနှင့် ချွေးမကို

တောင်းပန်ရသည်။ အဖျား လုံးဝ ကျသွားပြီ ဖြစ်သည်။ စောင့်မည့်သူ မရှိလျှင် ပို၍ နှစ်နှစ်ခြိုက်ခြိုက် အိပ်ပျော်မည်ထင်သည်။

သူတို့အားလုံး အိပ်ရာ ဝင်သွားကြလေပြီ။ ဂျူးဒစ် မျက်စိကြောင်နေသည်။ ဖီးလစ်အခန်းကို သွားချင်ပါ၏။ သို့သော် ခြေထောက်က လုံးဝ မထောက်နိုင်သေး။ မိမိနှင့် ဖီးလစ်တို့၏ အိမ်ထောင်ရေး ဘဝကို ပြန်ကြည့်မိသည်။ သုံးဆယ့်ခြောက်နှစ်လုံးလုံး အချစ်ခရီးလမ်း တစ်လျှောက်တွင် လက်တွဲ တိုက်ပွဲဝင်ခဲ့ကြ၏။ ယခုမူ မိမိအား သူခွင့်မလွှတ်နိုင်တော့ပြီ။ မိမိက သူ့ကို ရင်ထဲမှ ခွင့်မလွှတ်နိုင်ကြောင်း သူ နားလည်လာသဖြင့် သူ မိမိကို ခွင့်မလွှတ်နိုင်ခြင်းပါတကား။

ဩော် ... အစ်ကို၊ အစ်ကို၊ ဂျူးဒစ် ဒီလိုအခြေအနေ ရောက်နေချိန်မှာ အစ်ကို ဒါလောက် တင်းမာ သင့်သလားကွယ်၊ ဂျူးဒစ် တိတ်တိတ်ကလေး ကျိတ်ငိုသည်။ အာဃာတ ကြီးလွန်းသည်ဟု ဂျူးဒစ် ကို ထင်သွားပြီပေါ့။ နောက်ဆုံး ကျည်ဆန် တစ်တောင့်ဟာ မလိုအပ်သည့် ရက်စက်မှုလို့ အစ်ကို ထင်တယ်ပေါ့။ ဒါပေမဲ့ အဲဒီ တဒင်္ဂမှာ မလွှဲမရှောင်သာ ဖြစ်တတ်ကြတယ် ဆိုတာ အစ်ကို နားလည် သင့်ပါတယ်ကွယ်။

တံခါးကို ဖြည်းဖြည်းကလေး ဖွင့်နေသံ ကြားရသည်။ ဩော် ... သည်ကလေး လင်မယားကလည်း တစ်ဒုက္ခ ပါလား။ ညကြီးသန်းခေါင်မှာ တစ်ခေါက် လာကြည့်ပြန်ပြီ ထင်ပါရဲ့။

"ဂျူးဒစ်ရေ"

ဟင် သူပါလား၊ သူ့အသံမှ သူ့အသံအစစ်။ သို့သော် တစ်မျိုးကြီး ဖြစ်နေသည် ထင်၏။

ညထွန်း ဖယောင်းတိုင်ငယ်၏ အလင်းရောင် ရေးရေးတွင် ညဝတ်ရုံထဲမှ သူ့ရုပ်သွင်ကို ဝိုးတဝါး မြင်နေရသည်။ လည်ပင်းတွင် သိုးမွှေးတဘက်ကို သိုင်းပတ်ထား၏။

ခုတင်နံဘေး တွင် ဒူးထောက်ထိုင်ပြီး ဂျူးဒစ်ကို သိုင်းဖက်ကာ ပါးချင်းကပ်ထားသည်။ ပျော်လွန်းသဖြင့် ရုတ်တရက် ဂျူးဒစ် ဘာမှ သတိမထားမိ။ အတန်ကြာမှ -

"ဟင် ... အစ်ကို အရမ်းဖျားနေတာပါလား၊ အစ်ကို့အသားတွေ ပူချစ်နေတာပဲကွယ်"

“အစ်ကို သိပါတယ် ဂျူးဒစ်ရယ်၊ ကလေးတွေ သိပ်ဆိုးတယ်ကွယ်၊ အစ်ကို့ကို လှုပ်ခွင့်တောင် မပေးကြဘူး၊ ထောင်သား တစ်ယောက်လို အစ်ကို ခိုးကြောင်ခိုးဝှက် ထွက်ခဲ့ရတယ်၊ အစ်ကိုလာလို့ မင်း နိုးသွားတာလားဟင်”

“ဟင့်အင်း၊ ဂျူးဒစ် မအိပ်သေးပါဘူး၊ အစ်ကို ဒါလောက် ဖျားနေမှန်း ဂျူးဒစ် မသိဘူး အစ်ကိုရယ်”

ဂျူးဒစ် ရှိုက်ကာရှိုက်ကာ ငိုတော့၏။ ဖီးလစ်က ဇနီး၏ ပါးပြင်ပေါ်မှ မျက်ရည်တွေကို လက်နှင့် စမ်းပြီး -

“ဟင် မင်းကို သူတို့ မပြောကြဘူးလား၊ အစ်ကိုဖြင့် ရူးချင်နေတာပဲကွယ်၊ ခု ဘယ့်နှယ်နေလဲဟင်”

“နေကောင်းပါတယ်၊ ဒူးက ဒဏ်ရာပဲ ကျန်ပါတော့တယ်၊ အစ်ကို အိပ်ရာထဲက ထွက်လာဖို့ မကောင်းဘူးကွယ်၊ လာ ဒီမှာလှဲ၊ ဂျူးဒစ် စောင်လွှမ်းပေးမယ်နော်”

ခုတင်တိုင်ကို အားပြုပြီး သူ ထသည်။ သူ့လှုပ်ရှားပုံက အားရစရာ မရှိ။ ဂျူးဒစ်၏ နံဘေးတွင် လဲပြိုကျလာသလို လှဲချလိုက်သည်။ ဂျူးဒစ် ခဲရာခဲဆစ် နေရာပြင်ပေးသည်။ ဇနီးသည်ကို သူ့ရင်ခွင်ထဲ ဆွဲယူသည်။ သို့သော် သူထွေးပိုက်ပုံက လျော့ရဲလှ၏။

“အစ်ကို အိပ်ပျော်ပါ့မလားဟင်”

“အစ်ကို မအိပ်ချင်ဘူး၊ စကားပြောချင်တယ်၊ ပထမနေ့ လာကြည့်ပြီးကတည်းက အစ်ကို မင်းဆီ မရောက်တော့ဘူးနော်၊ စောစောပိုင်းက မထနိုင်လောက်အောင် အခြေအနေ မဆိုးသေးဘူး၊ အစ်ကို တောင်းပန်ပါတယ် ဂျူးဒစ်ရယ်၊ အစ်ကို ဘယ်လို နားခံသာအောင် ပြောရမလဲ မသိဘူး”

“ဒါဆို ဒါဆို သူ့ကို ဂျူးဒစ် သတ်လိုက်တဲ့အတွက် အစ်ကို ခွင့်လွှတ်တယ်ပေါ့ ဟုတ်လား”

ဂျူးဒစ် တိုးတိုးလေး မေးလိုက်သည်။

“တခြား လုပ်စရာမှ မရှိတော့တာဘဲ၊ မဟုတ်ဘူးလား”

“သူ မြေကြီးပေါ် လဲကျနေမှ ဂျူးဒစ် နောက်တစ်ချက် ထပ်ပစ်တာကိုရော အစ်ကို သိပြီးပြီလားဟင်”

“အင်း … သိပြီးပါပြီ”

“အဲဒီအတွက်ရော အစ်ကို ခွင့်လွှတ်နိုင်ရဲ့လား”

“ပထမတော့ အစ်ကို ခွင့်မလွှတ်ချင်ဘူး”

သူ့လေသံ က တိုးသည်ထက် တိုးလာသည်။ သိပ်မသဲကွဲချင်တော့။

“ဒါပေမဲ့ အစ်ကို နားလည်ပါပြီကွယ်၊ ဘာတတ်နိုင်မှာလဲ၊ ဘာမှ အကြောင်းမထူးတော့ဘူးလေ”

သူ့ဦးခေါင်း ကို ဂျူးဒစ် ရင်ခွင်ထဲ ဆွဲသွင်းလိုက်သည်။

“အစ်ကို နားလိုက်ဦးနော်၊ မောနေမယ်”

သူ နားထောင်သည်။ ငြိမ်ငြိမ်ကလေး လှဲနေ၏။ ရင်ထဲ သိမ့်ခနဲ အေးမြသွားသည်။ ဒီလို ပီတိသုခမျိုးကို လူတိုင်း နားလည်နိုင်ပါမည်လား။ ပြုမှားမိသည့် ဒုစရိုက်မှုအတွက် ချစ်သူက ခွင့်လွှတ်လေသောအခါ ရရှိလိုက်သည့် နှစ်ဦးထဲသာ သိသောစိတ်၏ ငြိမ်းချမ်းခြင်းမျိုး။

ဂျူးဒစ် ထ ထိုင်လိုက်သည်။ ကွဲကြေနေသည့် ခုံညင်းတစ်ဝိုက်တွင် စူးစူးဝါးဝါး တစ်ချက်နာသွား၏။

“အစ်ကို …..”

တိုးတိုး ခေါ်ကြည့်သည်။ ဖီးလစ် မထူး။ အလန့်တကြား အော်ခေါ်လိုက်သည်။

“အစ်ကို … အစ်ကိုရေ”

ပြန် မထူးတော့။ နဖူးနှင့် ပါးပြင်ကို စမ်းကြည့်သည်။ မအေးသေးပါ။ သို့သော် စောစောကလောက် မပူတော့။ ပခုံးကို ကိုင်လှုပ်ပြီးနောက် ထပ်ခေါ်ပြန်သည်။ ဖီးလစ် မတုံ့ပြန်တော့။ ထိုစဉ် ဒေးဗစ် ပြေးဝင်လာသည်။

“မေမေ ဘာဖြစ်တာလဲဟင်၊ ဟင် ဖေဖေ ဘာလို့ ဒီကို ရောက်နေတာလဲ”

အေမီလီ ကို ဒေးဗစ် အော်ခေါ်သည်။ ဖအေ့ နံဘေးတွင် ဒူးထောက်ထိုင်သည်။ ဂျူးဒစ် ကျောက်ဆစ်ရုပ်လို ငြိမ်သွား၏။ သို့သော် ဒေးဗစ် ခေါင်းမော့လာတော့ နှုတ်မှ တစ်စုံတစ်ရာ ထွက်သွားကြောင်း ကိုယ့်ဘာသာကိုယ်

ပြန်ကြားလိုက်သည်။

“သူ သူ သေသွားပြီလား ဟင်”

ဒေးဗစ် ခေါင်းညိတ်ပြီး မျက်နှာကို လက်ဝါးနှင့် အုပ်လိုက်သည်။ ပြီးတော့ ကလေးတစ်ယောက်လို ရှိုက်ကြီး တငင် ငိုကြွေးလေ၏။ ဂျူးဒစ်ခဏာ ကြောင်ကြည့်နေသည်။ လည်ချောင်းထဲတွင် ဆို့နေသဖြင့် ဘာမျှ ပြောမထွက်။ နောက်ဆုံးမှ ခေါင်းအုံးတစ်လုံးကို ကောက်ကိုင်ပြီး မျက်နှာကို မြှုပ်ထားလိုက်သည်။

အတန်ကြာမှ အေမီလီ့ အသံကို ကြားရသည်။

“ဖေဖေ့အခြေအနေကို မေမေသိအောင် စောစောပြောထားသင့်တာပေါ့ ဒေးဗစ်ရယ်၊ ခုတော့ မေမေ ဘယ်လို လုပ်ပြီး ဖြေနိုင်ပါတော့မလဲ”

ဒေးဗစ် အမေ့ကို ဖက်ပြီး မချိတင်ကဲ ငိုသည်။ သားလုပ်သူ၏ ရင်ခွင်တွင် မျက်နှာအပ်ကာ ဂျူးဒစ် မျက်ရည်တွေ တသွင်သွင် စီးကျနေ၏။ သောက ဗျာပါရကြောင့် ကျသည့် မျက်ရည်များ မဟုတ်ပေ။ ယူကျုံးမရ ဖြစ်ပြီး ကျလာသည့် မျက်ရည်များ မဟုတ်ပေ။

လောကအကျယ်ကြီးထဲတွင် အဖော်ကွဲကာ တစ်ကိုယ်တည်း ကျန်ခဲ့ပါပြီကော။ သက်ကြီးရွယ်အို ဘဝဖြင့် လောကသစ်ထဲတွင် စကားပြောဖော်မရှိဘဲ နှစ်လများစွာ အသက်ရှင်သန် နေရဦးမှာပါလား ဟူသည့် အထီးကျန်ဝေဒနာ အသိကြောင့် တသွင်သွင် ကျဆင်းလာသော မျက်ရည်များဖြစ်လေသည်။

အောက်ထပ် လေသာဆောင်တွင် ဖီးလစ်၏ အလောင်းကို တခမ်းတနား ပြင်ဆင်ထားသည်။ ဝက်သစ်ချမြိုင် လုပ်သားတွေ လာရောက် ဂါရဝပြုသည့်နေ့တွင် ဆိုဖာခုံရှည် တစ်ခုပေါ်၌ ဂျူးဒစ် လဲလျောင်းနေသည်။

သူတို့တစ်တွေ အိမ်ရှေ့၌ စုဝေးနေကြပြီ။ အချို့က ခေါင်းငိုက်စိုက်ချလျက်။ အချို့က ကြေကွဲဖွယ်ရာ ဓမ္မတေးများကို သီကျူးလျက်။ သားသမီးတွေနှင့် မြေးတွေက ဂျူးဒစ်အနားတွင် ဝိုင်းဝိုင်းလည်နေ ကြသည်။ လိုလေသေး မရှိ ပြုစုကြသည်။ ဆီဘက်စတိန်းကလေးက ဘွားအေ မျက်ရည်ကျလျှင် သုတ်ပေးဖို့ လက်ကိုင်ပဝါနှင့် အဆင်သင့် စောင့်နေသည်။ မြေးကလေးကို ကျေးဇူးတင် စကား ပြောရသည်။

ဂျူးဒစ် မျက်ရည်မကျတော့ပေ။ အထီးကျန်ဘဝထဲတွင် တဖြည်းဖြည်း လွင့်မျောပါသွားနေလေပြီ ဟူသည့် အသိမှ လွဲ၍ ဘာမှ ခေါင်းထဲတွင် ထင်မလာပေ။

မြင်ကွင်းကို ကြည့်ပြီး ရင်ထဲမှ ပြောနေမိ၏။

အင်း … သူဟာ သူတို့တစ်တွေရဲ့ သခင်၊ သူတို့တစ်တွေရဲ့ ဖခင်။ သူ့ကို သူတို့ ချစ်ကြသည်။ လေးစားကြသည်။ ထိုလူသည်ကား ငါ၏ ချစ်စွာသော ခင်ပွန်းလင်ပါတကား။ တို့နှစ်ယောက် နှစ်ပေါင်း သုံးဆယ့်ခြောက်နှစ် တိုင်တိုင် အကြင်လင်မယား အဖြစ် ပေါင်းသင်းနေထိုင် လာသည့် အဖြစ်ကို သူတို့ နားလည်နိုင်ပါမည်လား။ ခုတော့ အပြီးအပိုင် ခွဲကြ ရတော့မည်။ ဩော် … အစ်ကို အစ်ကို။

ခုတော့ ပန်းပွင့်ဖြူတွေ အောက်မှာ ငြိမ်ငြိမ်ကလေး လဲလျောင်းနေလေပြီ။

ဒေးဗစ် က အိမ်ရှေ့ထွက်ပြီး ခေါင်းလောင်းကြိုးကို ဆွဲလှုပ်လိုက်သည်။ အားလုံး ငြိမ်သွား၏။

“မင်းတို့အတွက် အဖေ့ အလောင်းကို ဂါရဝမပြုခင် တစ်ခုပြောပါရစေ၊ ဒီနေ့က စပြီး ငြိမ်းငြိမ်း ချမ်းချမ်း ပျော်ပျော် ရွှင်ရွှင် အလုပ်လုပ်ကြပါ။ ဝက်သစ်ချမြိုင်က ဘယ်အလုပ်သမားကိုမှ အလုပ်မဖြုတ်ဘူး၊ ဘယ်သူ့ကိုမျှ တခြားကို ထုတ်မရောင်းဘူး၊ ငါတို့အဖေ ရှိစဉ်အတိုင်း ဝက်သစ်ချ မြိုင် ကို ဆက်လက် ထိန်းသိမ်းသွားကြမယ်၊ ကဲ … တန်းစီပြီး ဝင်ကြ”

ဒေးဗစ် က အခေါင်းနံဘေးကို ပြန်လာပြီး မတ်တတ်ရပ်သည်။

မျက်နှာဖြူအလုပ်ကြပ်များနှင့် သူတို့ မိသားစုတွေ ရှေ့ဆုံးမှ ဝင်လာကြသည်။ ဂျူးဒစ် လဲလျောင်းသည့် နေရာတွင် သူတို့ခြေလှမ်း တုံ့သွားကြသည်။ နှုတ်ဆက်စကား၊ ဝမ်းနည်း စကား ပြောကြသည်။ ဒေးဗစ်ကိုမူ လက်ဆွဲ နှုတ်ဆက်ပြီး ကျေးဇူးတင်စကား ပြောကြသည်။

ထို့နောက် ကပ္ပလီလုပ်သားတွေ အတန်းလိုက် ဝင်လာကြသည်။ သူတို့သခင်မကို ပထမ ဦးညွှတ် နှုတ်ဆက်ပြီးမှ သခင်ကြီး၏ အလောင်းဆီသို့ တရွေ့ရွေ့ လျှောက်သွားကြသည်။ သူတို့ ကိုယ်ပိုင် ပန်းခြံမှ ခူးလာသည့် ပန်းပွင့်တွေကို သူတို့သခင်ကြီး၏ ကိုယ်ပေါ်တွင် တင်ခဲ့ကြသည်။

သူတို့၏ ဂါရဝပြု အခမ်းအနားပြီးတော့ ဂျူးဒစ်ကို တွန်းလှည်းနှင့် အိမ်ထဲ ပြန်ပို့ကြသည်။ ဘုရားရှိခိုး ကျောင်းကို ဂျူးဒစ် မလိုက်နိုင်တော့။ ဧည့်ခန်းထဲတွင် လှဲပြီး နေခဲ့ရ၏။ ခရစ္စတင်းကို အနားတွင် ထားခဲ့သည်။

လိုက်မသွားဘဲ ဂျူးဒစ်က မျက်စိထဲတွင် အားလုံးမြင်နေပါသည်။ သူတို့တစ်တွေ ဖီးလစ်၏ အလောင်းကို စိန့်မာဂရက် ဘုရားရှိခိုးကျောင်းသို့

ယူသွားကြမည်။ မိမိနှင့် ဖီးလစ်တို့ ငယ်ရွယ်စဉ်က သစ်လုံးကျောင်းကလေး။ ခုတော့ ရောမ အုတ်တိုက်ကြီး ဖြစ်နေပြီ။

ပြီးတော့ သင်္ချိုင်းထဲမှ "လန်း" မြေကွက်တွင် လွန်ခဲ့သည့် ၁၇ နှစ်က သေဆုံးခဲ့သည့် ဖီးလစ်ကလေး၏ နံဘေးမှာ မေမြှုပ်ကြမည်။ သူ့ခေါင်းရင်းမှ ကျောက်ပြားတွင် သူတို့ ရေးထွင်းကြမည့် စာလုံးတွေကို စိတ်ထဲက မြင်ကြည့်လိုက်သည်။

ဖီးလစ်လန်း၊ ၁၇၄၄ ခုနှစ်၊ ဇွန်လ ခြောက်ရက်နေ့တွင် ဗြိတိသျှ ပိုင် တောင်ကာရိုလိုင်းနားပြည်နယ်တွင် မွေးဖွားပြီး ၁၈၁၀ ခုနှစ် စက်တင်ဘာလ ၂၃ ရက်နေ့တွင် လူဝီစီးယားနားပြည်နယ် ဝက်သစ်ချမြိုင်စံအိမ်တွင် ကွယ်လွန် အနိစ္စ ရောက်သည်။

ဖီးလစ် မပါဘဲ ဝက်သစ်ချမြိုင် စက်ယန္တရားကို စတင် လည်ပတ်လေသည်။ ဒေးဗစ်က ဝါခင်း အလုပ်ကြပ် အားလုံးကို အစည်းအဝေး ခေါ်လိုက်၏။ ဝါလုပ်ငန်းတွင် တာဝန်ခံအဖြစ်နှင့် သူ တစ်ခါမှ မလုပ်ဖူးသေး။ ထို့ကြောင့် သူတို့ထံမှ ပညာ ဆည်းပူးရဦးမည် ဖြစ်သည်။ သူတို့ပေးသည့် အချက်အလက်တွေကို လေ့လာရဦးမည်။

အသီးစောသည့် အခင်းတွေကို အလျင်ကောက်နိုင်ကြောင်း ဆွေးနွေးကြသည်။ ပြီးတော့ ဝါကြိတ်စက်တွေကို ကြံ့ခိုင်ရေးလုပ်ဖို့ ကိစ္စလည်း ဆွေးနွေးကြသည်။ ဒေးဗစ်၏ ကြိုးစားမှုကြောင့် အလုပ်ခွင်မှ ဖီးလစ်၏ တာဝန်များကို အကြားအလပ် မရှိ မျှဝေယူနိုင်ကြသည်။ ထောင်စေ့စေ့ အစားထိုးနိုင်ခဲ့သည်။ သို့သော် ဂျူးဒစ် ၏ ရင်ထဲကိုကား မည်သည့် အရာနှင့်မျှ အစားထိုး၍ မရကြပေ။

သူတို့ မပြောသော်လည်း မိမိဒူးမှာ ပြန်ကောင်းလာနိုင်စရာ မရှိတော့ကြောင်း ဂျူးဒစ် တဖြည်းဖြည်း ရိပ်မိ လာသည်။ လုံးဝ မနာတော့ပေမဲ့ လမ်းလျှောက်၍ မရတော့ပေ။ တစ်သက်လုံး ခြေတစ်ဖက်ကျိုး ဘဝဖြင့် ဇာတ်သိမ်း ရပေတော့မည်။ ဘယ်တော့မှ မြင်းစီးနိုင်တော့မည် မဟုတ်။

ကိစ္စမရှိပါ။ ဘာမျှ အရေးမကြီးပါ။ ဘာမှ မရှိတော့သည့် ဘဝတွင် ဘာများ အရေးကြီးစရာ ရှိနိုင်ပါတော့ မည်လဲ။

ဒေးဗစ်နှင့် အေမီလီက မအေကို ဘုရားတစ်ဆူ ဂူတစ်လုံးအမြတ်တနိုး ကိုးကွယ်သည်။ ကလေးတွေက ဦးညွှတ် အရိုအသေပြုပြီးမှ စကားပြောသည်။ ဂျူးဒစ်သည် ငွေရောင်သမ်းနေသည့် ဦးခေါင်းနှင့် ဝက်သစ်ချမြိုင်၏ သမနိ

အရှည်ဆုံး သခင်မကြီးအဖြစ် ဆက်လက် လှုပ်ရှားနေရသေးသည်။

မိုးဦးကျ စနေတစ်နေ့တွင် အေမီလီကို ခေါ်လိုက်သည်။ ကြိမ်လက်ကိုင်တုတ်ကို နံဘေးချပြီး ဧရာမ ကုလားထိုင်ကြီးထဲ တွင် သက်တောင့်သက်သာ ထိုင်နေ၏။

“ဘာများ ခိုင်းစရာရှိလဲ မေမေ”

“လာပါဦး သမီးရယ်”

အေမီလီ ရှေ့တိုး သွားသည်။ ဂျူးဒစ်က ခါးမှသော့တွဲကို ဖြုတ်ပြီး အေမီလီ့လက်ထဲ ထည့်လိုက်သည်။

“ရော့ … သော့တွေ၊ သမီး ယူထားတော့”

အေမီလီ က သော့တွဲကို ဆုပ်ထားလိုက်သည်။ မိုးကုပ်စက်ဝိုင်း တစ်ခု၏ နောက်တွင် နောက်တစ်ခု ထပ်တွေ့ လိုက်ရသလို မျက်လုံးပြူးသွားသည်။ ခါးကို မတ်မတ်ဆန့်လိုက်တော့ အရပ်ပိုမြင့်လာသလို ထင်ရ၏။

“ကျေးဇူးတင်ပါတယ် မေမေ”

သမီး က လိမ္မာပါပေသည်။ သူ့ယောက်ျား၏ အမေကို အလကား မိန်းမကြီး၊ အာဏာကို တစ်သက်လုံး ဆုပ်ကိုင် ထားသည့် မိန်းမကြီးဟု သူဘယ်တော့မှ ထင်တော့မည် မဟုတ်ပေ။

“မေမေ့ လက်ထက်တုန်း ကလိုပဲ သမီး ဝက်သစ်ချမြိုင်ကို စီမံအုပ်ချုပ်ပါ့မယ် မေမေ”

“သမီး အောင်မြင်မှာပါကွယ်၊ ဪ … ဒါထက် မေမေ အောက်ထပ်ကို ရွှေ့ချင်တယ်၊ အိပ်ခန်းမကြီးထဲက ပစ္စည်းတွေ နေ့လယ်ကျရင် ပြောင်းပေးပါလား၊ အောက်ထပ်က နောက်ဘက် စာကြည့်ခန်းကို အိပ်ခန်း လုပ်လိုက်မယ်လေ၊ ဒီဒူးနဲ့က တက်ရဆင်းရ မလွယ်ဘူးကွယ့်”

“ကောင်းပါပြီမေမေ၊ ကပ်လျက်အခန်းကို မေမေ့ဧည့်ခန်း လုပ်လိုက်ရင်မကောင်းဘူးလား”

“အေးကွယ်၊ သာဓု … သာဓု”

အေမီလီ က သော့တွဲထဲမှ နှစ်ချောင်းကိုဖြုတ်ပြီး ဂျူးဒစ်လက်ထဲ

ပြန်ထည့်ပေးသည်။

"ရော့ ... မေမေ့အတွက်"

"ဩော် ... အေး ဟုတ်ပြီ၊ မေမေ့ အခန်းသော့တွေလား၊ ကျေးဇူးပါပဲ သမီးရယ်"

အေမီလီ ထွက်သွားတော့ ပြတင်းပေါက်မှ အပြင်သို့ ငေးကြည့်နေမိသည်။ ပန်းခြံထဲမှ ပန်းပွင့်တွေ။ ပြီးတော့ ရှုမဆုံးတော့သည့် ဝါခင်းလွင်ပြင်။ ပိန်းကောလှေကြီးနဲ့ စုန်ဆင်းလာသည့် လယ်သမား မိသားစုမှ ကောင်မလေးကို မြင်ယောင်လာသည်။

ညနေခင်းမှာ တိတ်ဆိတ်ငြိမ်သက်နေ၏။ လူမည်းတို့၏ တေးဆိုသံကို သဲ့သဲ့မျှ ကြားနေရသည်။

"ဝါပင်တွေကိုကွယ်

တို့လက်တွေနဲ့ စိုက်ခဲ့တယ်

အို အရှင့်ထံမှာ သစ္စာဆိုမယ်

ငါတို့တစ်တွေ သည်မြေပေါ်မှာ မွေးခဲ့တယ်"

သည်ကို ရောက်စက သစ်တောကြီးတွေကို ပြန်လည်မြင်ယောင်ကြည့်သည်။ ကောင်းကောင်း မမှတ်မိတော့။ သို့သော် မိမိဘဝသက်တမ်း ကာလထဲတွင် တကယ်ဖြစ်ပျက် ပြောင်းလဲခဲ့သည်မှာ အမှန်ဖြစ်၏။ နေခဲ့ရသည့် ကာလသည် တဒင်္ဂမျှသာပါကလား။ ခုတော့ အားလုံး ပြီးဆုံးခဲ့လေပြီ။ မယုံကြည်နိုင်စရာ အပြောင်းအလဲများကို မြင်တွေ့ခဲ့ရပြီ။ သည်အပြောင်းအလဲများထဲတွင် မိမိသည် အဓိက ဇာတ်ဆောင် တစ်ဦးအဖြစ် ပါဝင်ခဲ့သည်။ ခုတော့ တာဝန်အားလုံး ပြီးဆုံးသည့် အချိန်ကို ရောက်ခဲ့ပြီဖြစ်ပါ၏။

ကြိမ်လုံး လက်ကိုင်ပေါ်တွင် လက်နှစ်ဖက် ပတ္တာဆက်ထားလိုက်၏။ အံ့ဩစရာ ကောင်းလောက်အောင် လွတ်လပ် ပေါ့ပါးသွား၏။

ခြေထောက် တစ်ဖက် မသန်တော့သည်မှ လွဲ၍ မိမိကျန်းမာရေးမှာ ဒေါင်ဒေါင်မြည်အောင် ကောင်းနေဆဲ။ နှစ်ပေါင်းများစွာ နေရဦးမည် ထင်သည်။ မိမိ မျိုးစေ့ချခဲ့သည့် ယဉ်ကျေးမှု အစဉ်အလာတို့ ဖူးပွင့်ဝေဆာချိန်ကို ခံစားရဦးမည် ထင်၏။

သို့သော် မိမိ ပျော်ရွှင်ခဲ့ဖူးသည့် ပျော်ရွှင်မှုမျိုးကိုတော့ သည်မှာဘက်

ခေတ်တွင် ရနိုင်တော့မည် မထင်။

တစ်ပြိုင်တည်းတွင်ပင် ဟိုမှာဘက် ခေတ်က ခံစားခဲ့ရသည့် ဒုက္ခသုခများကိုလည်း သည်ဘက်ပိုင်းတွင် ခံစားစရာ အကြောင်း မရှိတော့ပေ။

မိမိ၏ သားသမီးတွေ၊ မြေးမြစ်တွေက တစ်လှည့်ခံစား ခံစားကြလိမ့်ဦးမည်။

ဂျူးဒစ် ပြုံးလိုက်သည်။ အေးငြိမ်းသော အပြုံး၊ အောင်မြင်သော အပြုံး။ သေ့တွဲကြီးကို လက်လွှဲ ပေးလိုက်ပြီး နောက်မှ ငြိမ်းချမ်းခြင်း၏ သဘောကို အပြည့်အဝ ခံစား နားလည်ရခြင်း ဖြစ်ကြောင်း သိလိုက်၏။

တင်မောင်မြင့်

(၈-၃-၁၉၈၈)

ထ ထ ထ

$1.25

A vivid, exciting novel of the Old South on the brink of the Civil War

Gwen Bristow

# The Handsome Road



## ဇာတ်လမ်းတွင် ဆက်နွယ်ပါဝင်သူများ



# မြကတ္တီပါလမ်းနှင့် ပတ်သက်၍

သူတို့သည် ဗြိတိသျှကိုလိုနီများကို လက်နက်ကိုင် တော်လှန်၍ လွတ်လပ်ရေးအရ ယူခဲ့ကြ၏။ ပြည်တည်ပြီးမှ ကျွန်စနစ် ဖျက်သိမ်းခြင်းကို မကျေနပ်၍ မြောက်ပိုင်းအစိုးရကို စတိုက်၏။ ပြီးတော့ ရှုံး၏။ ယင်းသူတို့မှာ အမေရိကန်တောင်ပိုင်းသားများ ဖြစ်ကြသည်။

သည်ခေတ်၊ သည်အခင်းအကျင်းများကို နောက်ခံပြု၍ ရေးသားသည့် တောင်ပိုင်း ဝတ္ထုရှည်ကြီးများကို ကျွန်တော် ဘာသာပြန်ခဲ့ပါသည်။ ဂွမ်ဘရစ္စတို (Gwen Bristow) ၏ This Side of Glory (မဟာရံတံတိုင်းကို ဖြတ်ကျော်ခြင်း) နှင့် Deep Summer(နွေကန္တာ) အပြင် Frank Yerby ၏ Flood Tide (ဒီရေရိုင်းနှင့်မုန်တိုင်းနှင့်)၊ Irving Stone ၏ The President's Lady (သမ္မတ၏ မဟေသီ) Harper Lee To Kill a Mocking-bird (တောင်ပံမဲ့ သင်းကွဲ တေးဆိုငှက်) တို့ဖြစ်ပါသည်။ ဆရာမကြီး ဂွမ်ဘရစ္စတို၏ "မဟာရံ တံတိုင်းကို ဖြတ်ကျော်ခြင်း" (ပထမအကြိမ်-ငြိမ်းအေးစာပေ၊ ဒုတိယအကြိမ်- ရာပြည့်) ဝတ္ထုတွင် အဆက်အစပ်တွေ ရှိကြောင်း ကျွန်တော် မသိပါ။ တနေ့ ပန်းဆိုးတန်း စာအုပ်အဟောင်း တန်းမှ Gwen Bristow ၏ Deep Summer ကို ရခဲ့၍ ဖတ်ကြည့်တော့မှ This Side of Glory မှ ဇာတ်ကောင်များ၏ အဘိုးတွေ၊ အဘွားတွေအကြောင်း ဖြစ်နေမှန်း သိရပါသည်။ ဇာတ်လမ်းမှာ ကျွန်တော့်အကြိုက် Drama ကြီး ဖြစ်နေပြီး This Side of Glory နှင့်လည်း ဆက်စပ်နေသဖြင့် Deep Summer ကို "နွေကန္တာ" အမည်ဖြင့် ဘာသာပြန် ဖြစ်ခဲ့ပါသည်။ ၁၉၈၇ ခုနှစ်တွင် အားမာန်သစ်မှ ထွက်ခဲ့ပြီး ဒုတိယအကြိမ် ထွက်ဖို့ ရာပြည့်တွင် ရောက်နေ ပါသည်။

လွန်ခဲ့သည့် လေးနှစ်ခန့်က ကနေဒါ ရောက်နေသည့် သူငယ်ချင်း ကိုစိန်နိုင်က ဖုန်းဆက် ပါသည်။

"ဟေ့လူ၊ ခင်ဗျား တော်တော်နောက်တာပဲ။ အမြီးကိုင်လိုက်၊ ခေါင်းကိုင်လိုက်နဲ့။ ဒီမှာ ကျွန်တော် စာအုပ်ထူကြီး တအုပ် ရထားတယ်။ Gwen Bristow ရေးတဲ့ Trio of Plantation တဲ့၊ သုံးပိုင်း ပါတယ်။ ဘာတွေလဲ သိလား။ Deep Summer ရယ်၊ Hand-some Road ရယ်၊ This side of Glory ရယ်ဗျား၊ ခင်ဗျား အလယ်သား လွတ်နေတယ်" တဲ့။

အမြန်ဆုံး ပို့ပေးဖို့ ပြောရန်မှတပါး ကျွန်တော့်မှာ အခြား မရှိတော့ပါ။ သူက

အမြန်ဆုံး ပို့ပေးလာပါ၏။ တအုပ်ချင်းလည်း ဖတ်လို့ ရနေသည့် မျိုးဆက်သုံးဆက်အကြောင်း ဖြစ်ပါ သည်။ ရာပြည့်ကို အကျိုးအကြောင်း ပြောပြတော့ "ဟာ... ကောင်းတာပေါ့၊ ဒါမှ တဆက်တည်း ဖြစ်သွားမှာပေါ့။ ချပါ ဆရာ" ဟု မီးစိမ်းပြသဖြင့် အခြားလုပ်စရာတွေ ဖယ်ထားပြီး Handsome Road ကို "ခရီးသာသာလမ်းမှာ" ဟု နာမည်ပေး၍ ဘာသာပြန် ဖြစ်လိုက်ပါသည်။ ဦးသန်းဆွေ (ဥတ္တရလမင်း) က "မြကတ္တီပါလမ်း" ဟု နာမည်ပြောင်းပေး လိုက်သည်ဟု သိရပါသည်။ ပို၍ လှပြီး ပို၍ ခေတ်မီသွားသဖြင့် ဦးသန်းဆွေကို ကျေးဇူးတင်ရပါသည်။ ကျွန်တော် ပေးသည့် နာမည်က "ဒိတ်အောက်" နေ၏။ "အောက်" ပေမပေါ့။ ပြင်စည် မင်းသားကြီး ရေးသည့် "အောင်မြေသာစံ" ပတ်ပျိုးထဲက စကားလုံးကိုး။ "နွေကန္တာ" သည် "မဟာရံတံတိုင်းကို ဖြတ်ကျော်ခြင်း" ၏ အဘိုး၊ အဘွားများခေတ် ဖြစ်ပြီး "မြကတ္တီပါလမ်း" မှာ အဖေတို့၊ အမေတို့ခေတ် ဖြစ်ပါသည်။



ဥရောပတွင် အင်္ဂလိပ်နှင့် ပြင်သစ်တို့ ဖြစ်ကြသည့် စစ်ပွဲမှာ အင်္ဂလန်နိုင်ငံနှင့် ပြင်သစ် နိုင်ငံတွင်သာ တိုက်ခိုက်ကြခြင်း မဟုတ်ဘဲ အမေရိကတိုက်ပေါ်မှ ပြင်သစ်နှင့် အင်္ဂလိပ်ပိုင် ကိုလိုနီပြည်နယ်တွေပါ တဖက်နှင့် တဖက် ထချကုန်သည်။ အင်္ဂလိပ်ဘက်မှ ဝင်တိုက် ပေးသည့် အမေရိကန်စစ်သားကြီးများအား ဂျော့ဘုရင်မင်းမြတ်က ဆုလာဘ်အဖြစ် ပိုင်စားမြေ များ ပေးသနား ချီးမြှင့်လေသည်။

"နွေကန္တာ" တွင် မစ္စစ်စပီမြစ်ညာမှ ရှေးဦး အမေရိကန် စစ်ပြန်ကြီးများ ပိန်းကော လှေကြီးတွေနှင့် စုန်ဆင်းလာကြပြီး တောရိုင်းမြေတွေကို ခုတ်ထွင် ရှင်းလင်းကာ ရောဂန္တရ ကပ်ဘေးတွေ၊ သားရဲတိရစ္ဆာန်တို့၏ အန္တရာယ်တွေကို အနိုင်ယူပြီး မဟာစိုက်ပျိုးရေးနယ်ပယ် များ တည်ထောင်ခဲ့ကြပုံ၊ ဝါဂွမ်းနှင့် မဲနယ်တွေ အလျှံပယ်ထွက်ရှိခဲ့ပုံ၊ ကြံရည်မှ သကြားဖြစ် အောင် တီထွင်ထုတ်လုပ်ခဲ့ပုံများနှင့် နေ့ချင်းညချင်း ချမ်းသာလာသည့် တောင်သူတွေ ယာတော အိမ်ကြီးကို သူ့ထက်ငါ အပြိုင်အဆိုင် တည်ဆောက်ကြပုံများကို တောင်ပိုင်း "ပြည်တည်မှု" သမိုင်းအဖြစ် စာရေးဆရာမကြီး "ဂွမ်ဘရစ္စတို" က ရေးသားထားသည်။

မြကတ္တီပါလမ်းတွင် ၁၈၅၉-၁၈၈၅ ကာလအတွင်း "နွေကန္တာ" မျိုးဆက်သွေးများ၏ လှုပ်ရှားရုန်းကန်မှု၊ ပြည်တွင်းစစ်ကာလ၊ ယန်းကီးတို့ လက်အောက်ခံဘဝ၊ လူမည်းကျွန်တို့၏ ပုန်ကန်ထကြွမှု၊ အထက်တန်းလွှာ မိသားစု ("လန်း" မိသားစု) နှင့် အောက်ဆုံးလွှာ ("ကိုရီမေ အပ္ပဂျွန်း" မျိုးဆက်) တို့၏

ပဋိပက္ခ၊ အားပြိုင်မှု စသည့် အချစ်နှင့် အမုန်း ပေါက်ကွဲမှုများကို Gwen Bristow က ရေးဖွဲ့ထားသည်။

"မဟာရုံတံတိုင်းကို ဖြတ်ကျော်ခြင်း" တွင်မူ ဆရာမကြီးက "နွေကန္တာ" နှင့် "မြကတ္တီပါ လမ်း" ၏ မျိုးဆက်သွေးများ အကြောင်းကို သယ်ယူသွားသည်။ အရှိန်အဟုန်ဖြင့် ဖွံ့ဖြိုးလာ သော တောင်ပိုင်းပြည်နယ်များကို နှစ်စဉ် ခြိမ်းခြောက်နေသည့် မစ္စစ်စပီမြစ်ကြီး၏ သဘာဝ အန္တရာယ်ကို ရောမ ရေကာတာကြီးများ တည်ဆောက်ပြီး လူသားတို့ အနိုင်ယူပုံ၊ လူမည်း ငွေဝယ်ကျွန်နှင့် လူဖြူပိုင် ကျွန်နှစ်မျိုးအပြင် လူဖြူ ဆင်းရဲသားတရပ် ဖြစ်ပေါ်လာခဲ့ပြီး ပဋိပက္ခ ဖြစ်ရပုံများကို ရေးသားထားသည်။



နွေအခါ နယူးအော်လီယန်းမြို့ဆီသို့ မစ္စစ်စပီမြစ်ကြီး ကွေ့ဝိုက်စီးဆင်းနေပုံမှာ ပျင်းစရာ ကောင်းလှသည်။ သိမ်သိမ်မွေ့မွေ့ ငြိမ့်ငြိမ့်ညင်ညင်ကလေး ရွေ့လျားနေခြင်း ဖြစ်၏။ စီးဆင်း နေသည်ဟုပင် မထင်ရ။ သို့သော် သည်မြင်ကွင်းကို ကြည့်ပြီး မစ္စစ်စပီကို အကဲဖြတ်လျှင်ကား အမှားကြီး မှားပါလိမ့်မည်။

မစ္စစ်စပီ ကြမ်းပြီဟေ့ ဆိုလျှင် ဒေါသအမျက် ခြောင်းခြောင်းထွက်ကာ တစက္ကန့်လျှင် ရေတန်ချိန်ပေါင်း ခြောက်သောင်း တွန်းအားနှုန်းဖြင့် ကြောက်မက်ဖွယ် မာန်ဖီနေတတ်သည်။

မီးခြစ်ဆံကလေးတချောင်းကို လက်ထဲတွင် တစစီဖြစ်အောင် ချိုးပစ်နိုင်သလို ရောမ ဝက်သစ်ချပင်ကြီးများကို မစ္စစ်စပီက အပိုင်းပိုင်းဖြစ်အောင် နင်းခြေ ချိုးဖျက်ပစ်နိုင်စွမ်းသည်။ ငြိမ်သက်ခြင်း အောက်တွင် ကြောက်မက်ဖွယ် ခွန်အားဖြင့် မောင်းတင်ထားသည့် မြစ်ကြီး။ သည်မြစ်ဝှမ်းတွင် နေထိုင်ကြသည့် အမေရိကန်တောင်ပိုင်းသားတို့သည်လည်း မစ္စစ်စပီ ကဲ့သို့ပင် အမြင်အားဖြင့် ယဉ်ကျေးသိမ်မွေ့ကြ၏။ နူးညံ့ အေးဆေးကြ၏။ သို့သော် လိုအပ်လာ သည့်အခါတွင် သူတို့၏ အံ့ဖွယ်ဘနန်း ခွန်အားသတ္တိများကို ထုတ်ပြတတ်ကြသည်။ ယခုမူ ကမ္ဘာပေါ်တွင် အကြမ်းတမ်းဆုံး မြစ်ကြီးကို သူတို့တတွေ ယဉ်ပါးအောင် သိမ်းသွင်းနိုင်ခဲ့ ကြလေပြီ။ တရံရောအခါက တောင်ပိုင်းကို နှစ်စဉ်ဒုက္ခပေးခြိမ်းခြောက်ခဲ့သည့် မစ္စစ်စပီသည် ယနေ့ ကုန်သွယ်ရေကြောင်း၏ အသက်သွေးကြော မြစ်ကြီး ဖြစ်နေပြီ။

ရှေးရှေးက သူတို့ ဘိုးဘွားတွေက မြင်းရထား ဖြတ်မမောင်းရဲသည့် စိမ့်မြေများပေါ်တွင် ယနေ့ မိုးထိတိုက်ကြီးတွေ ဆောက်နေကြလေပြီ။

ရောဂါထူပြောလှသဖြင့် အမေရိကန်၏ သုသာန်မြေဟု တင်စားခံခဲ့ရသည့် တောင်ပိုင်းပြည်နယ် လူဝီစီးယားနားသည် ယနေ့အသန့်ရှင်း ဆုံး ပြည်နယ်ကြီး ဖြစ်နေပြီ။ ဘရစ်တိန်းနီးကား စွယ်စုံကျမ်းတွင် နယူးအော်လီယန်းကို "ကမ္ဘာပေါ်တွင် ကျန်းမာရေးနှင့် အညီညွတ်ဆုံး မြို့ကြီး" ဟု ဖော်ပြထားသည်။ စပိန်နှင့် ပြင်သစ် လက်အောက်တွင် ရှိစဉ်က လူဝီစီးယားနားသည် တောကြီးမျက်မည်း ဖြစ်သည်။ စိမ့်ကြီး မြိုင်ကြီးတွေနှင့် ရောဂါဘယ ထူပြောသည့် ပြည်နယ် ဖြစ်သည်။

၁၈၀၃ ခုနှစ်တွင် အမေရိကန်သမ္မတ ဂျက်ဖာဆင်က ပြင်သစ်ထံမှ ဒေါ်လာ ၁၅ သန်းဖြင့် ဝယ်ယူပြီး ၁၈၁၂ ခုနှစ်တွင် (ကျွန်စနစ် လက်ခံသည့် ပြည်နယ်အဖြစ်) အမေရိကန် ပြည်ထောင်စုအတွင်းသို့ အဋ္ဌရသမြောက် ပြည်နယ်အဖြစ် သွတ်သွင်းခဲ့သည်။ ၁၈၅၀ ပြည့်နှစ် တဝိုက်တွင် လူဝီစီးယားနားသည် ကမ္ဘာပေါ်တွင် ဝါဂွမ်းအထွက်ဆုံး ပြည်နယ်ကြီး ဖြစ်လာ သည်။ အချမ်းသာဆုံးပြည်နယ် ဖြစ်လာသည်။ သည်မျှ တိုတောင်းသည့် ကာလအတွင်း သူတို့ တတွေ ဘယ်လို လုပ်ဆောင်ခဲ့ကြပါသလဲ။ ဝါဂွမ်းနှင့် မဲနယ်ပင်တွေ စိုက်ပြီး နေ့ချင်း ညချင်း လက်ဖျား ငွေသီး ဖြစ်လာကြသည့် သည်လူတွေသည် ဘယ်လို လူစားတွေလဲ။



၁၈ ရာစု နှစ်ဦးပိုင်းတွင် မစ္စစ်စပီ မြစ်ညာ အနယ်နယ် အရပ်ရပ်မှ ရှေးဦး စွန့်စားရေး သမားများသည် တောင်ပိုင်းသို့ စုန်ဆင်းလာခဲ့ကြသည်။ သူတို့သည် အလွန်ကြမ်းတမ်းသော ဘဝကို ဖြတ်ကျော်ခဲ့ကြရ၏။ အရေခွံလန်အောင် အလုပ်လုပ်ခဲ့ကြရသည်။ တောနက်ကြီး တွေကို ခုတ်ထွင် ရှင်းလင်းခဲ့ကြသည်။ သားရဲတိရစ္ဆာန်များနှင့် သူနိုင် ကိုယ်နိုင် အပြိုင်ကြဲခဲ့ ကြရသည်။ တောရိုင်းမြေတွေကို စိုက်ပျိုးမြေတွေအဖြစ် ပြောင်းလဲခဲ့ကြသည်။ စိမ့်မြေ စမ်းမြေတွေကို ဖို့ခဲ့ကြသည်။ မစ္စစ်စပီတလျှောက် ရေကာတာကြီးတွေ တည်ဆောက်ခဲ့ကြ သည်။

နီဂရိုး အများစု နေထိုင်သည့် ဒေသဖြစ်၍ လုပ်အားခ ဈေးပေါသဖြင့် ပို၍ ခရီးတွင် သည်။

ဤသို့ဖြင့် အပင်ပန်းခံနိုင်သူများ၊ ကြံရည်ဖန်ရည် ရှိသူများက ချမ်းသာသူများ၊ ကျွန်ပိုင် များ ဖြစ်လာကြပြီး သာမန် လူများက လူဖြူဆင်းရဲသားဘဝဖြင့် ကျန်ခဲ့လေသည်။

ထိုစဉ်က ကျွန်စနစ် လက်ခံသည့် ပြည်နယ်များတွင် စုစုပေါင်း လူဖြူ ခြောက်သန်းခန့် ရှိပြီး လူမည်း ငွေဝယ်ကျွန်ပေါင်း သုံးသန်းခန့် ရှိသည်။ သို့သော်

ကျွန်ဝယ်နိုင်သည့် လူဖြူ သူကြွယ်ဦးရေမှာ သုံးသိန်းမျှသာ ရှိသည်။ ငွေကြေး တတ်နိုင်သော်လည်း ငွေဝယ်ကျွန်စနစ်ကို မထောက်ခံသည့် လူဖြူ အချို့လည်း တောင်ပိုင်းတွင် ရှိသေးသည်။ သို့သော် ပြောပလောက် အောင် မဟုတ်ပါ။

ဝါဂွမ်းကြောင့် သူတို့ ဘယ်လောက် ချမ်းသာလာသည်ကို ထိုစဉ်က ကျွန်ဈေးနှင့် သာမန်လခစားများ၏ ဝင်ငွေ နှိုင်းယှဉ်ကြည့်လျှင် ပို၍ သိသာသည်။

၁၈၅၀ ပြည့်နှစ် တဝိုက်တွင် ကျောင်းဆရာတဦး၏ ဝင်ငွေမှာ တနှစ်လျှင် ဒေါ်လာ လေးရာမှ ခြောက်ရာအထိသာ ရှိသည်။ ထိုစဉ်က နယူးအော်လီယန်း ကျွန်ဈေးမှ လုပ်ငန်း ကျွမ်းကျင်မှုကို လိုက်၍ ကျွန်တဦးလျှင် ဒေါ်လာ ငါးရာမှ ငါးထောင်အထိ ရှိလေသည်။

ကျွန်တွေ ရာထောင်ချီ၍ ပိုင်သည့် စိုက်ပျိုးရေးလုပ်ငန်းရှင်ကြီး၏ စည်းစိမ်ချမ်းသာကို မှန်းဆ ကြည့်နိုင်ပါသည်။

စာရေးဆရာမကြီး ဂွမ်ဘရစ္စတိုက Deep Summer စာအုပ် နိဒါန်းတွင် စိတ်ဝင်စားဖွယ် တောင်ပိုင်းသားတို့ အကြောင်းကို အောက်ပါအတိုင်း ထည့်သွင်းရေးသားခဲ့သည်။

"ကျွန်မ အလုပ်လုပ်သည့် ပီကာယွန် သတင်းစာတိုက်မှ အယ်ဒီတာချုပ်က သတင်းယူခိုင်းသဖြင့် နယူးအော်လီယန်း အထက် တန်းလွှာ အဘွားအိုတဦး၏ အသုဘကို သွားရောက်ခဲ့ပါသည်။ အိမ်ကြီး မှာ လူကုံထံရပ်ကွက်မှ အဆောင်ဆောင် အခန်းခန်းနှင့် ရောမအိမ်ကြီး ဖြစ်သည်။ အဘွား၏ ဘဝဇာစ်မြစ်ကို သိသူ သိပ်မရှိပါ။ သို့သော် သူ့ သားသမီး၊ မြေးမြစ်များသည် လုပ်ငန်းရှင်ကြီးတွေ၊ ရာထူးရာခံနှင့် မြို့ မျက်နှာဖုံးတွေချည်း ဖြစ်သည်။ အသုဘမှာ စည်ကားသိုက်မြိုက်လှသည်။ အခေါင်းကို ထမ်းပိုးမြေချကြသည့် လူတွေမှာ စစ်ဘက်၊ နယ်ဘက်မှ အရာရှိကြီးတွေချည်း ဖြစ်၏။ အဘွား၏ အသက်မှာ တရာနီးပါးဖြစ်၍ လူဝီစီးယားနားသမိုင်းကို ချေးခါးအူမမကျန် သိလိမ့်မည်ဟု ကျမ်းစာ ဖတ်နေစဉ် ကျွန်မ တွေးနေမိသည်။

မကြာခင် အဘွားအို၏ သေတမ်းစာကို တရားဝင် အတည်ပြုဖို့ သက်ဆိုင်ရာသို့ တင်ပြသည်။ မယုံကြည်နိုင်လောက်အောင် များပြားလှ သည့် ပစ္စည်းတွေ၊ တိုက်တာ မြေယာတွေကို သားသမီး မြေးမြစ်များအား အမွေခွဲဝေပေးသွားသည့် သေတမ်းစာတွင် အဘွားအိုလက်မှတ် မထိုးဘဲ ကြက်ခြေခတ်ထားသည်ကို တွေ့ကြရသည်။ သည်တော့မှ အဘွား စာ မတတ်မှန်း သိကြရတော့၏။

သည်သတင်းကို ကျွန်မ မရေးခဲ့ပါ။ စပ်စပ်စုစုလည်း လုပ်မနေ တော့ပါ။ သို့သော် သည်အဖြစ်အပျက်သည် ကျွန်မ ခေါင်းထဲ စွဲနေပြီး Deep Summer

ဝတ္ထုရေးဖြစ်သည့်အခါ ကိုရီမေအပွဂျွန်းအဖြစ် ဖန်ဆင်း ခဲ့ပါသည်။ ကိုရီသည် This Side of Glory မှ အယ်လီနာ၏ အဘွား ဖြစ်ပါသည်။ အဘွားအို၏ ဘဝသည် တောင်ပိုင်း၏ သမိုင်းပဲ ဟု ကျွန်မ ယုံကြည်လိုက်ပါသည်။ ငယ်ရွယ်စဉ်က လူဝီစီးယားနား သစ်တောကြီး တွေကို ခုတ်ထွင်ရှင်းလင်းရာတွင် အဘွားကိုယ်တိုင်ကိုယ်ကျ ပါဝင်ခဲ့ပုံ ရသည်။

သူတို့သည် မစ္စစ်စပီ၏ အမွေကို ရလိုက်သူတွေဟု ကျွန်မ ကောက်ချက် ဆွဲထားလိုက်သည်။ သိမ်မွေ့နူးညံ့ခြင်း အလှအပများနှင့် ရဲရင့်ပြတ်သားခြင်း ခွန်အားသတ္တိတို့ ပေါင်းစပ်ထားကြသူများ” . .ဟူ၍။

※

ဆရာမကြီး၏ နိဒါန်းကို ဖတ်ပြီး စာအုပ်တအုပ်တွင် ဖတ်ဖူးသည့် စာတပိုဒ်ကို ပြေးသတိရလိုက်မိသည်။ ဘယ်စာအုပ်မှန်း မသိတော့ပါ။ စကားလုံးကလေးများနှင့် ဇာတ် ကြောင်းတပိုင်းတစကိုသာ စွဲနေခြင်း ဖြစ်ပါသည်။ ဇာတ်ကောင် အမျိုးသမီးက တောင်ပိုင်း သူ၊ တစုံတယောက်ကို အမောက်ထောင်ပြခန်းဟု ထင်ပါသည်။

“ဒီမယ် မှတ်ထား၊ တောင်ပိုင်းသူတိုင်းမှာ စကားလက်အိုဟာရာရဲ့သွေး နည်းနည်းစီ တော့ ပါတာချည်းပဲ”

**စာဖတ်သူများကို လေးစားလျက် ...**

**တင်မောင်မြင့်**

# အခန်း(၁)

ကိုရီမေအပ္ပဂ္ဂျန်းသည် ဝါဂွမ်းဘေထုပ်ကြီးများကို မီကာ မြစ်ပြင်မှ လှေတွေကို ငေးကြည့်နေသည်။ ကိုရီမေသည် ဆိပ်ကမ်းရှုခင်းကို သဘောကျသည်။

ဆိပ်ကမ်း အလုပ်ကြမ်းသမားများသည် ဝါဂွမ်းထုပ်ကြီးများကို မနိုင်တနိုင် သယ်ပိုး နေကြ၏။ ရေခမ ပိန်းကောလှေကြီးများပေါ်မှ ဆိပ်ခံပေါ်သို့ စိတ်လှုပ်ရှားစွာ ဆင်းလာ နေကြသည့် ခရီးသည်တွေ ပွဲကြည့်သလို စိတ်ဝင်တစား ကြည့်နေတတ်၏။ ကိုရီမေသည် ဆိပ်ကမ်းတွင် ထိုင်ပြီး သူ့အဖော်ကို စောင့်နေခြင်း ဖြစ်သည်။ သည်နေရာ တွင် သူနှင့်တွေ့ဖို့ ချိန်းထားမိသည့်အတွက်လည်း ကျေနပ်နေ၏။ ကိုရီမေအပ္ပဂ္ဂျန်း၏ အသက်မှာ ၁၄ နှစ် ရှိပြီ။ ကိုယ်နေဟန်မှာ သေးသေးသွယ်သွယ် နှင့် ကြော့ရှင်း၏။ ဆောင်းရာသီမှလွဲပြီး ဖိနပ်မစီးသော်လည်း ခြေထောက်တွေမှာ ပုံပျက် ပန်းပျက် ဖြစ်မနေဘဲ လှမြဲလှနေ၏။

ဝတ်ထားသည့် အပြာရောင် ချည်ကြမ်းအင်္ကျီမှာ မျက်လုံးများနှင့် အရောင်ဟပ်နေ သည်။ နေလောင်ထားသည့် ဆံပင်နီကြန်ကြန်များနှင့် မျက်လုံးရောင် ခြားနားနေပုံက သူ့မျက်နှာ ကို ပို၍ အားရှိစေ၏။ အသားရောင်ကလည်း နေလောင်ထားသဖြင့် ဆံပင်တွေလိုပင် နီကြန်ကြန် ဖြစ်နေ၏။

နှုတ်ခမ်းထူထူကလေးကို တင်းတင်းစေ့ထားပုံက နမ်းချင်စရာ၊ ခိုင်မာသည့် ဆုံးဖြတ် ချက်ချတတ်သည့် နှုတ်ခမ်းမျိုး။ သူ မျက်စိကျနေသည့် သူ့အဖော်မှာ ဘတ်ချ်ဖို့စတာ ဖြစ်သည်။ ဘတ်ချ်သည်လည်း ကိုရီမေနှင့် မတိမ်းမယိမ်း ရွယ်တူကောင်ကလေးတယောက် ဖြစ်၏။

ဘတ်ချ်ကို ကိုရီမေ သဘောကျသည်။ သို့သော် အညှာလွယ်သည် ထင်မည် စိုးသဖြင့် ဘာမျှ ရေရေရာရာ မပြောသေးဘဲ ဝေ့လည်လည် လုပ်ထား၏။

မြစ်ပြင်ကို တိုက်ခတ်လာသည့် လေကြောင့် ကိုရီမေ့ဆံပင်တွေ လွင့်ဝဲနေသည်။ ကိုရီမေ သည် မြစ်ရေပြင်ကို ချစ်သည်။ ဆိပ်ကမ်းတွင် ထိုင်ပြီး ရေပြင်ကို ကြည့်ရသည်မှာ တကမ္ဘာ လုံးကို မြင်ကွင်းကျယ် ကြည့်နေရသည်ဟု စိတ်မှာ ထင်၏။

လှပခမ်းနားလှသည့် လှေကြီးတွေ ဆိပ်ကမ်းသို့ ကပ်လာပုံမှာ အထက်တန်းလွှာ အမျိုးသမီးများ ဒူးညွတ်နှုတ်ဆက် ဟန်နှင့် တူသည်ဟု စိတ်မှာ ထင်၏။

စိုက်ပျိုးခြံပိုင် လှေကလေးများက ရေစီးတွင် မျောပါလျက် လှေကြီးများကြားတွင် စုန်ချည်ဆန်ချည်ဖြင့် အတင်းဝင်၊ အတင်းကပ်ဖို့ ကြိုးစားနေကြ၏။ မျက်စိနောက်ချင်စရာ။ နိုင်ငံခြားအလံ တလူလူနှင့် ရောမ မီးသင်္ဘောများကလည်း ဝါဂွမ်းထုပ်တင်ဖို့ ဆိပ်ကမ်းကပ်ရန် ကြိုးစားနေကြ၏။

ကျွန်ကုန်သည် လှေကြီးများပေါ်မှ လူမည်းတွေကို တန်းစီပြီး သံကြိုးတန်းလန်းနှင့် ခေါ်ဆင်းလာကြသည်။ ဆိပ်ကမ်း အထက်ပိုင်းရှိ ကျွန်ဈေးကွက်တွင် သူတို့ကို ဈေးပြိုင်စနစ် ဖြင့် ရောင်းကြမည် ဖြစ်သည်။

တမြို့ဝင်၊ တမြို့ထွက်နှင့် အပျော်မကလေးများကို တင်ဆောင်လာသည့် အပျော် လှေကြီးများဆီကိုတော့ ဝါသနာပါသူများက လှေငယ်ကလေးများနှင့် ကူးချည် သန်းချည်။ နယ်လှည့်ဇာတ်လှေကြီးများကတော့ ရောမဆိုင်းဘုတ်ကြီးတွေ လွှင့်ထူထား၏။ ပေါင်းမိုးခုံးခုံးနှင့် လှေကလေးများကတော့ သရက်ထည်ပွင့်ရိုက် ဖျင်အုပ်တွေကစ အပ်ချည် လုံးထိ လူသုံးကုန်ပစ္စည်းတွေ လိုက်လံရောင်းချနေ၏။ ဆေးမျိုးစုံရောင်းသည့် လှေတွေက လည်း ဇွဖ ပါးရောဂါ ပျောက်ကင်းကြောင်း အော်ဟစ် ကြေညာလျက်။

မြောက်ပိုင်းဆောင်းကာလတွင် ဖြတ်တောက်ယူငင်လာသည့် ရေခဲလှေကြီးတွေလည်း ပါ၏။ တပေါင်လျှင် ၁၅ ဆင့်ဈေးဖြင့် ပြန်ရောင်းကြသည်။ လူဝီစီးယားနား အထက် တန်းလွှာ အိမ်ကြီးများမှ ဝယ်သုံးကြ၏။

ကိုရီမေသည် ဘယ်မြို့ ဘယ်ရွာကိုမျှ မရောက်ဖူးပေ။ သို့သော် ဆိပ်ကမ်းမြို့တမြို့ မှာ နေရင် ဘယ်ကိုမှ ရောက်ဖူးဖို့ မလိုဘူး၊ တကမ္ဘာလုံးက ဆိပ်ကမ်းမြို့တိုင်းရဲ့ တံခါးဝကို ရောက်လာကြတာဟု သူများတွေ ပြောသံ ကြားဖူးသည်။ ဟုတ်ပါလိမ့်မည်။ အံ့ဖွယ်သုတ မျိုးစုံကို သည်နေရာမှ နေ့စဉ် မြင်တွေ့နေရသည် မဟုတ်လား။

ဆယ့်လေးနှစ်သမီးအရွယ်တွင် တွဲရမည့် အဖော် ရှိနေပြီ။ ခုလို သူ့ကို သည်နေရာတွင် လာစောင့်နေရခြင်း အတွက်လည်း ဂုဏ်ယူချင်ချင် ဖြစ်နေ၏။ ဘတ်ချ်သည် သူငှားထားသည့် မြေကွက်အတွက် မြေပိုင်ရှင် စိန်ကလဲယား မိသားစုဆီသို့ မြေငှားခ သွားသွင်းနေခြင်း ဖြစ်သည်။

ဘတ်ချ်ဖို့စတာသည် လူတော်ကလေးတယောက် ဖြစ်သည်။ သူများတွေလို

မရေမရာ ပျံ့ကျဆိပ်ကမ်းအလုပ်ကို မလုပ်ဘဲ မြေကွက်ကလေးငှားပြီး တတုံးထွန် ဝါစိုက်ခင်းကလေး လုပ်ဖို့ ပြင်ဆင်နေသူ ဖြစ်၏။

ဘတ်ချ်တယောက် ကိုရီမေကို ကြွေနေပြီ။ ကိုရီမေကလည်း သိနေ၏။ သို့သော် ဘတ်ချ်က ဖွင့်မပြောသေး။ သူက ငှားထားသည့် မြေကွက်ပေါ်တွင် သစ်လုံးအိမ်ကလေးတလုံး ဆောက်နေသည်။ မပြီးခင် ဆိပ်ကမ်းရပ်ကွက်ရှိ မိဘများနှင့် အတူနေနေဆဲ ဖြစ်၏။ ဘတ်ချ်သည် နေစရာ အတည်တကျ မဖြစ်ခင် မိန်းကလေးတယောက်ကို ချစ်ရေး ဆိုမည့်လူစားမျိုး မဟုတ်ပေ။ ကိုရီမေ အဖို့တော့ အိမ်မှာ နေရခြင်းထက် ယောကျ်ားယူဖို့က ပို၍ အဓိပ္ပာယ်ရှိမည် ထင်သည်။

သူ့တွင် အိမ်အတွက် အလုပ်လုပ်မည့် အားကောင်းမောင်းသန် အစ်ကိုနှစ်ယောက် ရှိသည်။ ကြိုးကြိုးစားစား အလုပ်လုပ်ကြသည့် လူတော်လူကောင်းကလေးများ ဖြစ်၏။ သို့သော် နွေပေါက်လာသည်နှင့် အလုပ်က ရှားသည်ထက် ရှားလာ၏။

အဖေက ဘာမျှ အလုပ်မရှိ။ တနေကုန် ထိုင်စကားပြောနေသူ ဖြစ်သည်။ ဆောင်းဝင် လာသည်နှင့် သင်းအုပ်ဆရာများနောက် လိုက်ပြီး ဝိညာဉ်များကို ကယ်တင်ဖို့ဆိုကာ ခမ္ဘခရီး ထွက်တော့၏။

သည်မြစ်ရိုးတလျှောက်တွင် ဘေဘီလုံအကြောင်း ပြောရမလား၊ ခမ္ဘဟောင်း ခမ္ဘသစ် ငြင်းရမလား အဘိုးကြီး အပ္ပဂ္ဂျန်းကို နိုင်အောင် ပြောနိုင်သူ မရှိ။ သို့သော် နွေပေါက်လာသည် နှင့် အဘိုးကြီး အပ္ပဂ္ဂျန်းတွင် သွားစရာလမ်း မရှိတော့ပေ။

အိမ်ရှေ့ကွပ်ပျစ်တွင် ထိုင်ကာ နိုင်ငံရေးယောင်ယောင်၊ ဘာသာရေးယောင်ယောင် လုပ်တော့၏။ မနားတမ်း ပြော၏။ အိမ်အတွက် ဝမ်းစာရှာဖို့ လုံးဝ စိတ်မကူး။ အစ်ကို နှစ်ယောက်ရှိနေ၍သာ ကိုရီမေတို့ မိသားစု ထမင်းမငတ်ခြင်း ဖြစ်သည်။ ထိုအခါ မိသားစုသည် အဖေကြီးအား ပေယျာလကန် ထားလိုက်တော့သည်။

ဘတ်ချ် ရောက်မလာသေးသဖြင့် ဟိုဟိုဒီဒီ ကိုရီမေ မျှော်ကြည့်လိုက်သည်။ သူ့ကို အရိပ်အယောင်မျှ မတွေ့ရသေး။ စိန်ကလဲယား မြေယာရုံးခန်းတွင် လခ လာသွင်းသူတွေ မှာ တသီတတန်းကြီး ဖြစ်၏။ အနည်းဆုံး ကိုယ့်အလှည့် ရောက်ဖို့ တနာရီကျော် စောင့်ရ တတ်သည်။

နေက ချစ်ချစ်တောက်ပူလာ၏။ ပန်းခြံဘက် လျှောက်သွားဖို့ ကိုရီမေ စိတ်ကူးရ လာသည်။ ပန်းခြံထဲမှလည်း မြစ်ကို စီးမြင်နေရသည်ပင်။ ရာသီဥတုကောင်းသည့် နေ့များ တွင် အထက်တန်းလွှာ အမျိုးသမီးများ ပန်းခြံထဲသို့

လေညင်းခံ ထွက်လေ့ ရှိ၏။ ပန်းခြံထဲက လေကလေးတဖြူးဖြူးနှင့် ထိုင်လို့ကောင်းသည်။ ရေကန်ကလေးရှိရာဘက်သို့ ကိုရီမေ ဆက်လျှောက်လာခဲ့သည်။ တတိုင်းမွှေးပင်ကြီးတပင်အောက် ရောက်တော့ မြက်ခင်းပေါ်တွင် ထိုင်ချလိုက်၏။ ကန်ထဲတွင် တငြိမ့်ငြိမ့်ကူးနေသည့် ငန်းများကို ကြည့်ကောင်းကောင်းဖြင့် ထိုင်ကြည့်နေ၏။

ပန်းခြံတခုလုံး အိပ်ငိုက်ချင်စရာ ကောင်းလောက်အောင် တိတ်ဆိတ်နေသည်။ ဆိပ်ကမ်းဘက်မှ အသံဗလံများကို သဲ့သဲ့မျှသာ ကြားရတော့သည်။ သစ်ပင်ရိပ်ကောင်းကောင်း ရှိရာသို့ လာတတ်သည့် ကလေးငယ်များနှင့် မိခင်များလည်း ပြန်ကုန်ပြီ ဖြစ်၍ ပန်းခြံထဲတွင် လူအရှင်းဆုံးအချိန် ဖြစ်သည်။ အထက်တန်းလွှာ မိသားစုများလည်း မတွေ့ရ။

ဘယ်လာကြမလဲလေ၊ ဇူလိုင်လထဲ ရောက်လာတော့ နွေကို ရှောင်ပြီး မြောက်ပိုင်းမှာ ဆောင်းသွားခိုကြမှာပေါ့။ ကိုရီမေ တောင်စဉ်ရေမရ လျှောက်တွေးနေစဉ် မြင်းခွာသံတွေ ကြားလိုက်ရသည်။ ပန်းခြံထဲသို့ မြင်းရထားကြီးတစီး တငြိမ့်ငြိမ့် လိမ့်ဝင်လာ၏။ ရထားပေါ်မှ အမျိုးသမီးတဦးနှင့် အမျိုးသားတယောက် ဆင်းလာသည်။ သူတို့ကို ကိုရီမေ ကောင်းကောင်း သိပါသည်။ ဝက်သစ်ချမြိုင် ယာတောပိုင်ရှင် မစ္စတာဒင်းနစ်လန်းနှင့် အန်းရှာရမီတို့ ဖြစ်၏။

လူဝီစီးယားနားတွင် ဝက်သစ်ချမြိုင်သည် အချမ်းသာဆုံးနှင့် အလှဆုံး ဖြစ်သည်ဟု ပြောကြ၏။ မစ္စက်အန်းရှာရမီ၏ အဖေသည် ဝက်သစ်ချမြိုင်နှင့် နယ်ချင်းစပ်နေသည့် သစ်ဖြူ တော မြေပိုင်ရှင်ကြီး ဖြစ်သည်။

ဝတ်စုံအနက် ဝတ်လာသည့် မစ္စတာဒင်းနစ်လန်းမှာ အရပ်မြင့်မြင့်နှင့် အလွန် ချောမော ခံ့ညားသူ ဖြစ်၏။ သူက မစ္စအန်းရှာရမီကိုတွဲပြီး ရထားပေါ်မှ ဆင်းခဲ့သည်။

မစ္စရှာရမီသည် တင်ပါးကြိမ်ခွေပေါ်တွင် စကတ်ကြီး ဝဲနေအောင် ဝတ်လာ၏။ ရထား ပေါ်မှ ဆင်းလာပုံမှာ ကျက်သရေ ရှိလှ၏။ ပန်းချီကားထဲမှ မိန်းကလေးတယောက်လို ချောမောလှပပါပေသည်။ ငှက်တောင်စိုက် ပန်းရောင် ဦးထုပ်ဆောင်းလျက်။ ကြည့်လို့ ကောင်းကောင်းဖြင့် သူတို့စုံတွဲကို ကိုရီမေ ငေးကြည့်နေသည်။

မစ္စတာဒင်းနစ်လန်းက ရထားထိန်းကို တခုခုမှာခဲ့ပြီး ဆိပ်ကမ်းရုံးဘက် ထွက်သွား သည်။ ရေကန်ဘက် အန်းရှာရမီ လျှောက်လာ၏။ မြက်ခင်းတနေရာတွင် စကတ်ကြီး ဖြန့်ထိုင်ချလိုက်ပြီး ရေကူးနေသည့် ငန်းတွေကို ငေးကြည့်နေသည်။ ဤမျှ တန်ဖိုးကြီးလှသော အဝတ်အစားနှင့် အခင်းမပါဘဲ မြက်ခင်းပေါ်

ထိုင်ချလိုက်သည့် မြင်ကွင်းကို ကြည့်ပြီး ကိုရီမေ ပါးစပ်အဟောင်းသား ဖြစ်နေသည်။ အန်းရှာရမီသည် လက်အိတ်ကို ဆွဲချွတ်ပြီး ဗန်းတဗန်းဖြင့် ကိတ်မုန့် လည်ရောင်းနေသည့် ဈေးသည်ကလေးထံမှ သကာကိတ်နှစ်လုံး ခေါ်ဝယ်လိုက်သည်။

ပြီးတော့ လှလှပပကလေး ဒူးထောက်လိုက်သည်။ ဒုက္ခပါပဲ၊ သူ့ဂါဝန်တွေ ပေကုန် တော့မှာပဲ။ ကိုရီမေ ပူပူပင်ပင် တွေးနေ၏။ အမျိုးသမီးသည် ကိတ်မုန့်ကို ဖွဲ့ကာ ဖွဲ့ကာဖြင့် ငန်းတွေကို အစာပစ်ကျွေးနေ၏။

အတန်ကြာမှ သူ့ကို တအံ့တသြ ကြည့်နေသည့် ကိုရီမေအား မြင်သွားသည်။ အန်း ရှာရမီက ရုတ်တရက် မုန့်တလုံး ကမ်းပေးရင်း ပြောသည်။

"ရော့... စားပါလား ဟင်"

ကိုရီမေ့မျက်နှာ ဝင်းထိန်သွားသည်။ ကျေးဇူးတင်လွန်းစွာဖြင့် အနားတိုးသွားပြီး မုန့်ကို လှမ်းယူရင်း ကိုက်စားလိုက်သည်။ ပြီးမှ လခြမ်းပုံ ကိုက်ရာကလေးနှင့် မုန့်ကို ကြည့်ပြီး တွေသွားသည်။

"မမ မမက ငန်းတွေ ကျွေးဖို့ ဝယ်ထားတာ မဟုတ်လား ဟင်" အန်းရှာရမီက လက်ထဲမှ မုန့်အကြေတွေကို ငုံ့ကြည့်ပြီး ပြုံးပြုံးကလေး ပြန်ပြော သည်။

"စားပါ၊ မင်းလည်း စားလို့ ရပါတယ်"

ကိုရီမေ သူ့ကို ခဏ ခဏ မြင်ဖူးပါသည်။ ဈေးဝယ်နေသည်ကို မြင်ဖူး၏။ မြင်းစီး သွားသည်ကို မြင်ဖူး၏။ သို့သော် သည်လို နီးနီးကပ်ကပ် တခါမျှ မမြင်ဖူးပေ။ သူ့အဝတ် အစားတွေကြောင့် လှနေသည် ထင်ခဲ့၏။ ဘယ်ဟုတ်လို့လဲ၊ တကယ်လှတဲ့ အမျိုးသမီးပဲ။ ဦးထုပ်အောက်ပိုင်းတွင် ထွက်ကျနေသည့် နီညိုရောင်ဆံပင်တွေ အခွေလိုက် အခွေလိုက်၊ နေရောင်မခသည့် အသားနှင့် မျက်လုံးရွဲကြီးများက ကျက်သရေ ရှိလှ၏။ ပြုံးလိုက်လျှင် ညာဘက်ပါးပေါ်တွင် ချစ်စရာ ပါးချိုင့်ကလေး ပေါ်လာ၏။

ကိုရီမေက ဝမ်းသာအားရ ပြောလိုက်သည်။

"သကာကိတ်မုန့်တွေက အရသာ ရှိလိုက်တာ မမရယ်"

သည်မုန့်မျိုးကို အန်းရှာရမီ တခါမျှ မစားဖူးပါ။ တကိုက် ကိုက်ကြည့်လိုက်သည်။

“ဟုတ်လား၊ အေး… ကောင်းတယ်နော်”

တဆက်တည်း မုန့်သည် ကောင်လေးကို ပြင်သစ်ဘာသာဖြင့် လှမ်းခေါ်လိုက်သည်။

“ဟေ့.. မုန့်သည်လေး လာပါဦးကွယ်၊ နောက်ထပ် ပေးပါဦး”

ကိုရီမေသည် အမျိုးသမီးကို ပို၍ ပို၍ သဘောကျနေ၏။ မုန့်တလုံး ထပ်ပေးတော့-

“ကျေးဇူးတင်ပါတယ် မမရယ်၊ မမ ပြင်သစ်စကား ပြောတာ သိပ်နားထောင် ကောင်းတာပဲ” ဟု ပြောလိုက်၏။

အန်းရှာရမီက ကိတ်မုန့်ကို အားရပါးရ စားရင်း-

“ကိုယ်က ပြင်သစ်မှာ ကျောင်းနေလာတာလေ”

“မမ ပြောတဲ့ လေသံမျိုး တခါမှ မကြားဖူးဘူး၊ ဒါထက် မမက မစ္စအန်းရှာရမီ ပါ နော်”

“ဟုတ်တယ်ကွဲ့၊ မင်း နာမည်ကကော”

“ကျွန်မ နာမည် ကိုရီမေအပ္ပဂျွန်းပါ မမ”

“ဒီမှာ နေလား ဟင်”

“ဟုတ်ကဲ့ မမ၊ ဟိုးအောက်ဘက်က ဆိပ်ကမ်း ရပ်ကွက်မှာ နေပါတယ်၊ မမတို့ ဘယ်ရောက်ဖူးမလဲနော်”

“အေးကွဲ့၊ မရောက်ဖူးဘူး”

ပြောပြောဆိုဆို မုန့်တွေကို ပစ်ကျွေးနေ၏။ အင်း… သူ့လက်ချောင်းကလေးတွေ ကလည်း လှလိုက်တာ၊ ဖြူဖွေးပြီး သွယ်နုနေတာပဲ။ ဆိုးထားတဲ့ လက်သည်းကလေးတွေ မှာလည်း ဖုန်တစက်တောင် မတင်ဘူး။ ကိုရီမေက ဖိနပ်မပါသည့် သူ့ခြေထောက်တွေကို အမျိုးသမီး ဇာဂါဝန်နှင့် ထိမှာ စိုးပြီး ကျုံ့ကျုံ့ယုံ့ယုံ့ ပြင်ထိုင်လိုက်သည်။

“မမကို ကျွန်မ အနှောင့်အယှက် ပေးသလိုများ ဖြစ်နေမလား ဟင်”

“အို… မဖြစ်ပါဘူး၊ ကိုယ့်မှာ ဘာမှ လုပ်စရာ မရှိပါဘူး၊ သူငယ်ချင်းကို စောင့်နေ တာပါ”

“မစ္စတာလန်းက အလုပ်ကိစ္စနဲ့ လာတာ ထင်တယ်နော် မမ”

“ဟုတ်တယ်၊ သစ်ခုတ်သမားတွေ လိုလို့ ကြော်ငြာကပ်မယ် ဆိုလားပဲ၊ ဆိုက်ပရပ်စ် ထင်းရှူးပင်တွေ ခုတ်မလို့တဲ့လေ”

“ဟုတ်လား၊ ဒါဆို အလုပ်သမားတွေ လိုမှာပေါ့နော်”

“အင်း… ဟုတ်တယ်လေ”

“ဝမ်းသာလိုက်တာ မမရယ်၊ ကျွန်မအစ်ကို နှစ်ယောက်စလုံး အလုပ်မရှိကြလို့ မမရဲ့၊ သူတို့ ကောင်းကောင်း သစ်ပင် ခုတ်နိုင်ကြပါတယ်”

“ဟုတ်လား၊ မမက အဲဒါတွေ သိပ်တော့ နားမလည်ဘူး၊ မစ္စတာလန်း ပြောတော့ ရွှံ့တွေ ရေတွေထဲမှာ ခုတ်ရမယ် ဆိုလားပဲ၊ ဟိုဘက်နားက ဝက်သစ်ချမြိုင် ရုံးခန်းမှာ သွား လျှောက်လွှာတင်ခိုင်းပါလား”

ကိုရီမေ မျက်နှာကလေး ရှက်သွေးဖြာသွားသည်။

“သူတို့ စာတွေ သိပ်မတတ်ကြပါဘူး မမ၊ သူတို့ကို လူကိုယ်တိုင် သွားခိုင်းလိုက် ပါ့မယ်၊ ပြောပြတဲ့အတွက် ကျေးဇူး အများကြီးတင်ပါတယ် မမ”

ကိုရီမေ ကမန်းကတန်း ထသည်။ လက်ကို ဂါဝန်တွင် သုတ်သည်။

“ကျွန်မကို ခွင့်ပြုပါဦး မမ၊ သူတို့ကို သွားရှာလိုက်ဦးမယ်၊ သူတို့ ဒီဆိပ်ကမ်း တဝိုက်မှာပဲ ရှိမှာပါ၊ ကျေးဇူးတင်ပါတယ်နော် မမ၊ မုန့်ကျွေးတဲ့ အတွက်ရော”

“ရပါတယ်ကွယ်၊ ရပါတယ်”

ကိုရီမေသည် အန်းရှာရမီကို အသာကလေး ဦးညွှတ်နှုတ်ဆက်ပြီး ပန်းခြံထဲမှ ပြေးထွက် ခဲ့သည်။ အစ်ကိုလုပ်သူများ ဖြစ်သည့် လင်မီနှင့် ဂျော့ကို ပတ်ရှာသည်။ တပြိုင်တည်းတွင် ဘတ်ချ်ကိုလည်း ရှာသည်။ သူက အရေးမကြီး။ အစ်ကိုနှစ်ယောက် အလုပ်ရဖို့က ပိုအရေး ကြီးသည်။ မစ္စရှာရမီနှင့် ဆုံစည်းရခြင်းအတွက် ကိုရီမေ အလွန်ဝမ်းသာနေသည်။

သင်္ကြားစည်ကြီးတွေ ထောင်စီထားသည့် အရိပ်တနေရာမှ တွန်းလှည်းပေါ်တွင် ထိုင်နားနေသည့် ညီအစ်ကိုနှစ်ယောက်ကို တွေ့ရ၏။ သူတို့

နှစ်ယောက်စလုံး ဆံပင်ရောင် ဖျော့ဖျော့နှင့် ဗလကောင်းသူများ ဖြစ်သည်။ သစ်ခုတ်လုပ်ငန်းတွင် လူလိုကြောင်း သတင်း ပြောပြတော့ နှစ်ယောက်စလုံး ထခုန်မတတ် ဝမ်းသာနေကြ၏။ တနေ့လုံးလုပ်ရမည့် အလုပ် မဟုတ်လား။ ဆိပ်ကမ်းတွင် အလုပ်ပါးနေသည်နှင့် အတော်ပင်။

ညီအစ်ကိုနှစ်ယောက် ဘောင်းဘီကိုယ်စီ ဆွဲတင်ပြီး ဝက်သစ်ချမြိုင်ရုံးရှိရာဘက်ကို ပြေးထွက်သွားကြ၏။ ကိုရီမေ က ဘတ်ချ်နှင့် ချိန်းထားသည့် ဝါဂွမ်းဘေထုပ်ကြီးများဆီသို့ ထွက်လာခဲ့သည်။ ဘတ်ချ် ရောက်နှင့်နေပြီ။

"ဆော်ရီးနော်၊ စောင့်နေတာ ကြာပြီလား"

"ရပါတယ်၊ သိပ်မကြာသေးပါဘူး"

လင်မီနှင့် ဂျော့အတွက် သစ်ခုတ်သမား အလုပ်ကိစ္စကို ကိုရီမေ ပြောပြသည်။

"ဟုတ်လား၊ ကောင်းတာပေါ့၊ နိပ်တာပေါ့"

ကိုရီမေက ဘတ်ချ်ကို ပြုံးကြည့်နေသည်။ ဘတ်ချ်သည် ဘယ်လိုကြည့်ကြည့် ကြည့် ကောင်းသူ ဖြစ်သည်။ ခန္ဓာကိုယ် တောင့်တင်းသန်မာ၏။ မျက်နှာကမူ နေလောင်ထားသဖြင့် နီစပ်စပ်။ အင်္ကျီရင်ဘတ် ဟပြဲနှင့်၊ ရင်ဘတ်တွင် အမွေးအမှင်တွေက အပြည့်။ ရင်ဘတ်မွေး တွေ အောက်က အသားမှာလည်း မျက်နှာကဲ့သို့ပင် နီရဲလျက်။

ဘတ်ချ်တွင် မစ္စတာလန်းလို ချောမောခံ့ညားသည့် မျက်နှာမျိုး မရှိပါ။ ကိစ္စမရှိဘူး လေ၊ မစ္စတာလန်းက မစ္စအန်းရှာရမီနှင့် လိုက်သလို ဘတ်ချ်က မိမိနှင့် လိုက်ဖက်ညီနေသည်ပဲ။ ကိုယ့်အတွေးနှင့် ကိုယ် ကိုရီမေ ကျေနပ်နေ၏။

နှစ်ယောက်သား ဆိပ်ကမ်း ဖုန်တောထဲတွင် လမ်းလျှောက်လာခဲ့ကြ၏။ ဖိနပ်မပါ သည့် သူတို့ခြေရာတွေ ဖုန်တောထဲတွင် ထင်ကျန်နေခဲ့သည်။

ဘတ်ချ်က ပြုံးပြီး လက်ထဲမှ စက္ကူပတ်ကလေး ဖြေလိုက်တော့ သကြားချောင်း ကလေး နှစ်ချောင်း ထွက်လာသည်။ တချောင်း လှမ်းပေးရင်း-

"ရော့…နင့်ဖို့"

"အား… ကျေးဇူးပဲ၊ ငါ သိပ်ကြိုက်တာ"

သကြားတောင့် စုပ်ရင်း ဖဲလ်ကိုး ဂိုဒေါင်ကြီးများကို ပတ်ပြီး ဆိပ်ကမ်းရပ်ကွက်ဘက် ကို လျှောက်လာခဲ့ကြ၏။

"နင် လခပေးဖြစ်ခဲ့ရဲ့လား" ဟု ကိုရီမေက မေးသည်။

"အင်း … ပေးခဲ့ပြီးပြီ၊ ငါ ရတဲ့ နေရာက နေရာကောင်းကလေးဟ"

"ဟုတ်လား… တကယ်"

ကိုရီမေက အားတက်သရော ပြန်မေးသည်။

"အဟုတ်ပေါ့"

ဘတ်ချ်က လက်ချောင်းတွေ ချိုးနေရင်း-

"အဲ. . . နေဦး၊ ထောင့်ရှစ်ရာငါးဆယ်ကိုး ခုနှစ် ဆိုတော့ ခြောက်ဆယ်၊ ခြောက်ဆယ့် တခုနှစ်လောက် ဆိုရင် အခြေအနေ ကောင်းပြီ။ တာ မကျိုးရင်၊ ရေ မလျှံရင်ပေါ့လေ"

"နင်က သိပ်တော်ပါတယ်ဟာ"

ဘတ်ချ် မနေတတ် မထိုင်တတ် ဖြစ်သွားပြီး ပြုံးသည်။ ဖဲလ်ကိုး ဂိုဒေါင်ကြီးများကို လွန်တော့ ဆိပ်ကမ်းရပ်ကွက်ထဲ ဝင်ခဲ့ကြ၏။ လမ်းသေး၊ လမ်းသွယ်ကလေးများ ရှုပ်ပွ နေသည့် ရပ်ကွက် ဖြစ်၏။ သို့သော် သည်ရပ်ကွက်တွင် မွေးပြီး ကြီးပြင်းလာသူများဖြစ်၍ သူတို့နှစ်ယောက်အဖို့ မျက်စိလည်စရာ မရှိပေ။

သူတို့ အိမ်ရှေ့ရောက်တော့ ဘတ်ချ်က ပြောသည်။

"အမေ မုန့်မှာလိုက်တယ်ဟ၊ ငါ တခါတည်း ဝယ်သွားမှ ထင်တယ်၊ ညနေကျ နင်တို့အိမ် ငါလာမယ် သိလား"

"ဆက်ဆက်လာနော်"

ကိုရီမေ ဆက်လျှောက်လာခဲ့၏။ အိမ်မရောက်ခင် အဖေ့အသံကို ကြားနေရပြီ။ စိတ်ပျက်လက်ပျက် ပုံစံဖြင့် ပခုံးတွန့်လိုက်မိ၏။

ပြောရင်း ပြောရင်း သူ ခံတွင်းတွေ့သည့် စကားလုံးများ ထွက်သွားပြီးလျှင် ငုံထား သည့် ဆေးရွက်ကြီးရည်တွေကို ရှေ့သွားနှစ်ချောင်းကြားမှ ပျစ်ခနဲ ထွေးထုတ်၏။

အိမ်နီးနားချင်းများသည် သူ၏ တရားနာပရိသတ် ဖြစ်သည်။ အချို့က ပျင်းလို့လာ နားထောင်ခြင်း ဖြစ်၏။ အချို့ကလည်း အဘိုးကြီး အပ္ပဂ္ဂျန်း၏ အာဘော်များကို သဘောကျ ကြသည်။

သို့သော် အားလုံးက အိမ်ထဲမှာ ပူပူလောင်လောင် မနေချင်ကြ၍ သည်ကွပ်ပျစ် ကလေးသို့ ရောက်လာကြခြင်း ဖြစ်၏။ အချို့ယောကျ်ားသားများကတော့ အိမ်မှာ ပူညံ ပူညံလုပ်တတ်သည့် မိန်းမနှင့် ဝေးရာသို့ အေးရာအေးကြောင်း ရောက်လာခြင်း ဖြစ်သည်။ မည်သို့ရှိစေ အဘိုးကြီး အပ္ပဂ္ဂျန်း၏ နိုင်ငံရေးအမြင်ကိုတော့ အားလုံး သဘောကျကြသည်။ သူ့မုတ်ဆိတ်မွေးများနှင့် စုတ်ပြတ်နေသည့်အင်္ကျီကို လေက တဖျပ်ဖျပ် တိုက်ခတ်နေ၏။ လက်နှစ်ဖက်ကို ရှေ့ဆန့်ပြီး စကားဆက်သည်။

“ဒီနေ့ လူ့အဖွဲ့အစည်းမှာ မှားနေတာတွေ ကျုပ်ပြောပြမယ်၊ ချမ်းသာတဲ့ လူတွေက ကျိကျိတက် ချမ်းသာနေကြပြီး ဆင်းရဲတဲ့ လူတွေမှာ စားစရာ မရှိကြဘူး၊ ဒါဟာ ဒီတိုင်းပြည် မှာ တရားဥပဒေ မရှိဘူး ဆိုတာကို ပြတာပဲ။ ဝါရှင်တန်မှာ ထိုင်နေတဲ့ အစိုးရအဖွဲ့က ဘာမှ မလုပ်ဘူး၊ ကျုပ်ပြောတာ မဟုတ်ဘူးလား၊ ပြောကြစမ်းပါ၊ ကျုပ် ပြောတာ မဟုတ်ဘူး လားလို့”

မစ္စတာဂရမ်းဘရဲလ်က အိတ်ထဲမှ ငှက်ပျောသီးတလုံး ထုတ်ဝါးရင်း ထောက်ခံ သည်။

“ဟုတ်တယ်၊ အပ္ပဂ္ဂျန်း ပြောတာ မှန်တယ်”

“မှန်ရမှာပေါ့၊ ချမ်းသာတဲ့ လူတွေက ဘာဂရုစိုက်သလဲ သိလား၊ ပိုပြီး ချမ်းသာဖို့ပဲ ဂရုစိုက်တယ်၊ ဆင်းရဲတဲ့ လူတွေအတွက် ဘာထည့်စဉ်းစားဖူးသလဲ၊ မြစ်ရိုးတလျှောက်မှာ သွားကြည့်စမ်းပါ၊ ဇိမ်ခံလှေကြီးတွေနဲ့၊ အဲဒီလှေကြီးတွေပေါ်မှာ မကောင်းမှုဒုစရိုက်မျိုးစုံ ပါတယ်။ ကျမ်းစာတော်မြတ်ထဲမှာ ပါတဲ့ အတိုင်းပဲ၊ မဖတ်ဖူးကြဘူးလား၊ “ဒုက္ခဝေဒနာ အပေါင်းတို့ကို ဖိတ်ခေါ်သူမှာ သင်ကိုယ်တိုင် ဖြစ်သည်” လို့ ဘုရားသခင်က မိန့်ဆိုတယ်။ သူတို့ နားထောင်သလား၊ တယောက်မှ နားမထောင်ဘူး”

တံတွေး ထွေးလိုက်ပြန်၏။ တံတွေးကြောင်းသည် အမှိုက်ပုံဆီသို့ သက်တံပုံစံ ကွေးကွေးကလေး ထွက်သွား၏။ စားကြွင်း စားကျန်များကို မွှေနေသော ကြောင်တကောင် လန့်ပြေးထွက်သွားသည်။

အဘိုးကြီး စကားဆက်သည်။

“ဒါတွေဟာ စနစ်ရဲ့ချို့ယွင်းမှုတွေပဲ၊ ဒီတိုင်းပြည်မှာ ဘာမှ တရားမျှတမှု မရှိဘူး၊ ခွဲဝေခံစားမှုမျိုး မရှိဘူး။ လူဝီစီးယားနား ပြည်နယ် ဖွဲ့စည်းပုံကိုက မှားနေတယ်၊ တကယ်က တောင်ပိုင်းတခုလုံး မှားနေတာ။ ခင်ဗျားတို့က ကျုပ် အလကား အာချောင်နေတယ် ထင်နေ ကြလား။ ကဲ… ပြောပါဦး၊ ကိုယ့်ကိုယ်ကိုယ် ဟုတ်လှပြီ ထင်နေတဲ့ မစ္စတာဂရမ်းဘရဲလ်”

“ခင်ဗျား ပြောတာ ဟုတ်ပါတယ်၊ မတရားမှုတွေ အများကြီးပါပဲ အပ္ပဂျွန်း”

“သိပ်မှန်တာပေါ့ ဂရမ်းဘရဲလ်၊ မောင်ရင် ဒီမြေပေါ်မှာ မွေးပြီး ဒီမြေပေါ်မှာ နေနေ တယ်၊ မောင်ရင် မြေတလက်မ ပိုင်သလား၊ မြေအားလုံး စိန်ကလဲယား မိသားစု လက်ထဲမှာ ချည်းပဲ၊ သူတို့ပိုင်တဲ့ မြေပေါ်မှာကော သူတို့ နေသလား၊ ဝေးစွ ခြောက်ပါး၊ ဟိုအထက်ဘက် မှာ မြေတွေ လက်ညှိုးထိုးမလွဲ သူတို့ပိုင်မြေတွေ ရှိသေးတယ်။ စာအုပ်တအုပ်ထဲမှာ ဖတ်ဖူး တယ်၊ ကျုပ် စာဖတ်တတ်တယ် ဆိုတာ အားလုံး သိတယ်နော်။ တောင်ပိုင်းတခုလုံးရဲ့ မြေတွေ ကို ဘယ်သူပိုင်လဲ သိလား၊ မြေအားလုံး ရဲ့ ရှစ်ဆယ်ရာခိုင်နှုန်းကို လူဦးရေ တရာခိုင်နှုန်းက ပိုင်တယ်တဲ့ဗျား”

ညစာစားဖို့ အိမ်က မိန်းမ လှမ်းခေါ်နိုး ခေါ်နိုးနှင့် စောင့်နေပြီး ခေါ်သံ မကြားသဖြင့် စိတ်ပျက်နေသည့် မစ္စတာကယ်လ်ဘီက-

“ဟုတ်လား၊ ဒါဆို အပြောင်းအလဲတခုခု ဖြစ်သင့်ပြီပေါ့” ဟု ပြောရင်း ဆေးရွက် ကြီးတွေ ဖွဲ့ငုံပြီး မစ္စတာအပ္ပဂျွန်း စကားအဆက်ကို စောင့်နေသည်။

“ဒီတိုင်းပြည်မှာ ကျွန်ဘယ်လောက်ရှိတယ် ဆိုတာကော ခင်ဗျားတို့ သိကြရဲ့လား၊ လေးသန်းရှိတယ်ဗျ၊ လေးသန်း၊ အဲဒါ တောင်ပိုင်းတခုတည်းကို ပြောတာ။ မင်းမှာ ကျွန် ဘယ်နှယောက်ရှိလဲ ဂရမ်းဘရဲလ်၊ မင်းမှာကော ကယ်လ်ဘီ။ အဲဒီ ကျွန်လေးသန်းကို ဘယ်သူ တွေ ပိုင်တယ် မှတ်သလဲ၊ လူဖြူတသောင်းက ပိုင်သတဲ့ဗျား။ ခင်ဗျားတို့ ကျုပ်တို့အားလုံး လည်း လူဖြူတွေပဲ၊ ကျုပ်တို့မှာ ဘာဖြစ်လို့ လူမည်းကျွန်တွေ မရှိရတာလဲ၊ ဘာလို့ လူမည်း ကျွန်တွေလို အလုပ်လုပ်နေကြရတာလဲ၊ ဒါဟာ စနစ်ရဲ့ …”

“ဒုက္ခပါပဲ အဖေရယ်၊ တော်ပါတော့၊ အမေ ထင်းခွဲခိုင်းတာကော ခွဲပြီးပြီလား”

“လေကြောရှည်နေသည့် ဖအေကြီးကို သည်းမခံနိုင်တော့သဖြင့် ကိုရီမေ ဝင်တား သည်။

အဘိုးကြီး အပ္ပဂျွန်းက ပါးစပ်ကို လက်နှင့် ကာပြီး ချောင်းဆိုးရင်း ဗလုံးဗထွေး ပြန်ပြောသည်။

"ငါ သိပ်နေမကောင်းဘူး ကိုရီမေ"

ခြေထောက်တဖက် ဆန့်ပြီး ရှုံ့ရှုံ့မဲ့မဲ့နှင့် ဆက်ပြောသည်။

"ငါ့ခြေထောက် လုံးဝ မကောင်းဘူး၊ ဟောဒီ နောက်ဘက်ပိုင်းက အရမ်းနာတာ"

"အလကား၊ ဟုတ်တာလည်း မဟုတ်ဘဲနဲ့"

"နေပါဦး၊ နင်ကကော ဘယ်သွား အလေလိုက်နေတာလဲ၊ မအေကြီးကို ကူပြီး ချက်မယ် ပြုတ်မယ် စိတ်မကူးဘူး"

"ပူလွန်းလို့ ဆိပ်ကမ်းဘက်ကို ဘတ်ချ်ဖို့စတာနဲ့ လျှောက်သွားတာ"

ပြောရင်း စိတ်ချဉ်ပေါက်ပေါက်နှင့် စဉ်းစားမိလိုက်သည်။

"လောကကြီးမှာ သူလိုလူချည်း ဆိုရင် ချက်စရာ ပြုတ်စရာတောင် အိမ်မှာ ရှိမှာ မဟုတ်ဘူး"

" ကဲ.. အထဲဝင်တော့"

ကိုရီမေ အထဲဝင်မည် လုပ်တော့ ဘတ်ချ် ရောက်လာသည်။ နှစ်ယောက်သား အိမ်ထဲ ဝင်ခဲ့ကြ၏။

"အဘိုးကြီး ဒီနေ့ ဘာတရား ပေးသလဲ"

"ထုံးစံအတိုင်းပေါ့ဟာ၊ အစိုးရ၊ နိုင်ငံရေး... ဘာညာ ဘာညာပေါ့၊ ဘာနဲ့မှ သူ ခွင်မကျပြန်ဘူး"

သည်းခံ ခွင့်လွှတ်ခြင်းမျိုးဖြင့် ဘတ်ချ် ပခုံးတွန့်ပြသည်။

"ကိုယ့်အထင်တော့ များများ ပြောတဲ့ လူဟာ နည်းနည်းရတာချည်းပဲ"

မစ္စက်အပွတ်လွန်းက သူတို့နှစ်ယောက်ကို ခေါင်းထောင်ကြည့်သည်။ သူ ညစာ ချက်ပြီး နေပြီ။ အခန်းထောင့်ရှိ အဝတ်လျှော်ဇလုံတလုံးနှင့် အလုပ်ရှုပ်နေ၏။ သားနှစ်ယောက်၏ အင်္ကျီတွေကို ရေညှစ်ပြီး မီးဖိုပေါ်တွင် လှန်းနေ၏။ ဒါမှ မနက်ဖြန် ခြောက်မည် မဟုတ်လား။

မီးဖိုထဲတွင် ပူလောင် အိုက်စပ်နေ၏။ ဆပ်ပြာနံ့နှင့် ဟင်းနံ့ ရောနေ၏။

“အခြေအနေ ကောင်းရဲ့လားဟေ့ ဘတ်ချ်” ဟု ရင်းရင်းနှီးနှီး နှုတ်ဆက်သည်။

“ဒီလိုပါပဲ အဒေါ်ရယ်၊ လုပ်တုန်းကိုင်တုန်းပါပဲ”

ဘတ်ချ်က ကိုရီမေ့အမေ မစ္စက်အပ္ပဂျွန်းကို သဘောကျသည်။ ပခုံးနှစ်ဖက် နိမ့်ကျ နေပြီး ဗိုက်ရွှဲနေပြီ။ စီးထားသည့် ခါးစည်းရင်ဖုံးက နှစ်ခြမ်းကွဲနေ၏။ ဖြူဖွေးနေသည့် ဆံပင် တွေကို နားရွက်ပေါ်တွင် ဆံခွနှင့်ထိုးပြီး နောက်တွဲထုံးထားသည်။

“ထင်းနည်းနည်းခွဲလေ ကိုရီမေ၊ အဖေကြီးကို စောင့်နေလို့ကတော့ တသက်လုံး ပြီးမှာ မဟုတ်ဘူး” ဟု လှမ်းပြောသည်။

ကိုရီမေက ပခုံးတွန့်ပြီး ချိတ်ထားသည့် ရဲတင်းကို သွားဖြုတ်ယူလိုက်၏။ ဘတ်ချ်ကပြုံးကြည့်နေပြီးမှ-

“ပေးပါဟာ၊ ထင်းခွဲတာ မိန်းကလေးအလုပ် မဟုတ်ပါဘူး၊ ငါ ခွဲပေးပါ့မယ်”

“နေပါစေဟာ၊ နင် ပင်ပန်းနေပါပြီ၊ မပင်ပန်းဘူးလား”

“မပင်ပန်းပါဘူး၊ ငါ ဒီလောက်တော့ မာပါတယ် ဟယ်၊ ပေး အဲဒီ ရဲတင်း"

အိမ်နောက်ဖေးဘက်ကို နှစ်ယောက်သား ထွက်ခဲ့ကြ၏။

“အဲဒီ အပုံပဲ၊ သိပ်မကျန်တော့ပါဘူး၊ ဂျော့နဲ့ လင်မီ ခွဲထားတာ ထင်တယ်”

“ဒါပေါ့၊ လူငယ်တွေပဲ၊ လုပ်ရမှာပေါ့”

ကိုရီမေက ထင်းပုံနားမှာ ရပ်ပြီး ပြဲနေသည့် အင်္ကျီလက်ကို လိမ်ရင်း-

“ဒီမယ် ဘတ်ချ်”

ဘတ်ချ်က ခွဲဖို့ ထင်းတုံးတွေကို စီနေရင်း-

“ဆို… ဘာလဲ ကိုရီမေ”

ကိုရီမေ့ မျက်နှာကလေး နီမြန်းနေသည်။

“ငါတို့ အိမ်မှာ ညစာစားပြီးမှ ပြန်နော်”

ကိုရီမေက မီးဖိုထဲ ပြန်ဝင်လာပြီး အမေလုပ်သူကို လှမ်းပြောလိုက်သည်။

“အမေ၊ ဘတ်ချ်ကို ညစာကျွေးပြီးမှ ပြန်လွှတ်မယ်”

“အေး... ကောင်းတာပေါ့၊ ကောင်လေးက လူတော်ကလေးပါ”

ကိုရီမေက ပေါင်မုန့်ကို ဖိုထဲမှ ထုတ်ယူနေရင်း မေးလိုက်သည်။

“အမေ အိမ်ထောင်ကျတုန်းက ဘယ်အရွယ်လဲ ဟင်”

“ဆယ့်ခြောက်နှစ်ထဲ ဝင်ရုံပဲ ရှိသေးတယ်၊ ရွေးစရာ မရှိလို့ သူ့ကို ရွေးလိုက်တာတော့ မဟုတ်ဘူး”

ကိုရီမေ စဉ်းစားနေသည်။ ရွေးစရာရှိရင်တော့ အဖေ့ကို အမေ မရွေးလောက်ပါဘူး။

သို့သော် မိမိအနေဖြင့် သည်အကြောင်း ဝေဖန်စရာ အကြောင်း မရှိ။ ဆန်ကုန်မြေလေး ဘဝဖြင့် တစ်နေကုန် စကားပြော၊ တရားဟောနေသည့် အဖေ့ကို အမေ ဘာမျှ မပြော။ အမေသည် ဆင်ခြင်တုံတရား ရှိသည်၊ သဘောကောင်းသည်။ ဆင်းရဲသူ ဆင်းရဲသားများသည် စာ မတတ် ကြ၊ စာ မဖတ်ကြ။ သည်တော့ သူတို့ ဦးခေါင်းထဲတွင် မဆိုးဖြတ်နိုင်သည့် အရာများဖြင့် ပြည့်သိပ်နေတတ်၏။

အမေက နောက်ကြောင်း ပြန်ပြနေ၏။

“ရှာရမီရဲ့ ဝါဂွမ်းအစေ့ထုတ်တဲ့ ကြိတ်စက်မှာ သမီးအဖေနဲ့ အမေ စတွေ့တာ။ ယောကျ်ားတယောက် ဝါကြိတ်စက် လှည့်နေရင် ဝါစေ့ကောက်ဖို့ မိန်းကလေးတွေ အများ ကြီး လိုတယ်လေ။ အဲဒီတုန်းက အမေ ပန်းရောင် ဂါဝန်ကလေးနဲ့ပေါ့၊ လက်ပွပွကြီးတွေ ဝတ်တဲ့ခေတ်လေ။ ကောက်ရိုးဦးထုပ်မှာ ဖဲကြိုးကလေး စည်းလို့၊ ဆံပင်ခွေကလေးတွေက ဦးထုပ်အောက်ပိုင်းမှာ ထွက်ကျလို့ပေါ့။ ကကြ ခုန်ကြတော့ အမေ့ခြေလှမ်းဟာ အပေါ့ပါးဆုံး၊ အလှဆုံးလို့ သူတို့ ဝိုင်းပြောကြတယ်”

သည်နေ့ အမေ့ပုံစံကို ကြည့်ပြီး အမေ ကသည့် မြင်ကွင်းကို ကိုရီမေ တွေးကြည့်ပြီး အံ့သြနေသည်။

“အဲဒီတုန်းက အမေ့ဆံပင်က ဘာရောင်လဲဟင်”

“သမီးဆံပင် အရောင်အတိုင်းပါပဲ၊ အဲဒီတုန်းက အမေက သိပ်ကြည့်ကောင်းတာ။ သမီးအဖေနဲ့ အမေတို့ အတွဲဟာ အလိုက်ဆုံး အတွဲလို့ သူငယ်ချင်းတွေ ပြောကြတယ်”

ကိုရီမေ ဟင်းအိုး မွှေနေသည်။ အမေက အဝတ်ဆက်လျှော်နေ၏။ အမေ့လက်တွေ နီရဲပြီး အသားမာတွေ ပေါက်နေပြီ။ အပေါ်သွားလေးချောင်း ကျိုးနေပြီ။

မီးဖိုချောင်နံရံတွင် ချိတ်ထားသည့် မှန်ကွဲကလေးဆီကို ကိုရီမေ လျှောက်သွားသည်။ မှန်ထဲကို သေသေချာချာ ကြည့်လိုက်၏။ ကြော့ရှင်း သန်မာသည့် လည်တိုင်၊ တင်းရင်း မို့မောက်နေသော ရင်သား၊ ပန်းနုရောင်ပြေးနေသော အသားအရေနှင့် ခန္ဓာကိုယ်ကို မြင်ရ၏။

"အမေ…အမေနဲ့ အဖေနဲ့ ကကြတာ ဘယ်နှခုနှစ်ကလဲ ဟင်"

"အဲ… နေပါဦး၊ သုံးဆယ့်ကိုးခုနှစ်လောက်က ထင်တယ်"

ကိုရီမေ့ ရင်ထဲတွင် တင်းကျပ်ကျပ်ကြီး ဖြစ်သွားသည်။ အိမ်နောက်ဘက်မှ သီချင်း ကလေး တအေးအေးနှင့် ဘတ်ချ် ထင်းခွဲသံ ကြားနေရ၏။

"အလုပ်ပြီးလျှင် ဂျင်နီနဲ့ တွေ့ချင်တယ်၊

ဂျင်နီ ပြောင်းဖူးပေါင်မုန့် ယူလာမယ်၊

အို… အချစ် ဂျင်နီလေးရယ်

ပြောင်းဖူးပေါင်မုန့် ယူခဲ့ကွယ်"

မီးဖိုခန်းထဲတွင် ကိုရီမေ တောင့်တောင့်ကြီး ရပ်နေသည်။ ဘုရား ဘုရား… ဘတ်ချ် နှင့် လက်ထပ်ပြီး မကြာခင် မေမေ့လို ဖြစ်သွားမှဖြင့် ….။

လက်အိတ်ကို ချွတ်ပြီး ငန်းတွေကို အစာကျွေးနေသည့် မစ္စအန်းရှာရမီကို မျက်စိထဲ မြင်လာသည်။ နောင် နှစ်ပေါင်းနှစ်ဆယ် ကြာလည်း သူ့လက်ချောင်းကလေးတွေ ဒီအတိုင်း ရှိနေမယ် ထင်ရဲ့။

နောက်ဖေးလမ်းကြားဘက်ကို ထွက်ခဲ့၏။ အဖေ့လေသံ မပြတ်သေး။ ဘာတွေ ဆက်ပြောနေမှန်း မသိ၊ သဲသဲကွဲကွဲ မကြားရ။ သေသေချာချာ နားစွင့်ကြည့်တော့ စောစောက အကြောင်းအရာကို သူ ပြန်ကောက်နေကြောင်း သိရ၏။

တောင်ပိုင်းတွင် လူဖြူ ခုနစ်သန်းနှင့် ကျွန်လေးသန်း ရှိသည်တဲ့။ ကျွန်ပိုင်သည့် လူဖြူဦးရေက သုံးသောင်းသာ ရှိသည် တဲ့။

ဒါဆို ကျွန် မပိုင်တဲ့လူဖြူဦးရေက ခြောက်သန်းကျော်တာပေါ့။ ဘယ်သူတွေ ဘယ်လောက်ပိုင်သည် အထိတော့ ကိုရီမေ သိသည်။ လူတယောက်၏ ကြီးပွားတိုးတက်မှု လမ်းစသည် ကျွန်တယောက် ပိုင်ဆိုင်ရေး ဖြစ်ကြောင်းလည်း သိ၏။ သန့်ရှင်းသော ဝိညာဉ် တော်ကို ကိုရီမေ တမ်းတသည်။

"ဘုရား၊ ဘုရား"

အမေ လှမ်းအော်သည်။

"ဟဲ့ .. ကောင်မလေး၊ အလကားနေရင်း ဘာလို့ ဘုရားတနေရတာလဲ"

"ဘုရားသခင်က သမီးအတွက် ဘာမှ လုပ်မပေးလို့"

"ဟဲ့ ... နင် ဘယ်လို ပြောလိုက်တာလဲ"

မစ္စက်အပ္ပဂျွန်းက နောက်ဆုံးအင်္ကျီကို လှန်းပြီး လက်ကို ခါးစည်းရင်ဖုံးနှင့် ပွတ်ရင်း ဆက်ပြောသည်။

"နင့်မှာ နေစရာ အမိုးနဲ့ အကာနဲ့ အိမ် မရှိဘူးလား၊ အိမ်စရိတ်ကို ရှာပေးနေတဲ့ အစ်ကိုနှစ်ယောက် မရှိဘူးလား၊ ပြီးတော့ နေ့တိုင်း စားသောက်နေရတယ် မဟုတ်လား၊ ဝတ်စရာ လည်း ရှိနေတာပဲ မဟုတ်လား၊ နင့်ကို လူပျိုလှည့်မယ့် လူတောင် ရှိနေပြီပဲ၊ နင် ဘုရား သခင်ကို ဒူးထောက်ပြီး ကျေးဇူးတင်ကြောင်း တောင်းပန်ရမှာပေါ့၊ ငါ စဉ်းစားတယ်....

"ကဲ... ကောင်းပါပြီ အမေရယ်"

ကိုရီမေ စကားဖြတ် ပြောလိုက်သည်။ ရှေ့ရေးကို တွေးပြီး ရင်တွေ လေးလာ၏။ မိမိထက် ခွန်အားကြီးသည့် အရာတခုက မိမိအား ဖိအားပေးနေသည့်အလား။ ကျွန်တွေ အများကြီး ပိုင်သူတွေက မိမိကိုရော၊ အဖေနှင့် အမေကိုရော ဘတ်ချ်ကိုပါ ဝိုင်းဝန်းဖိစီး နေသည့်အလား။

"မစ္စရှာရမီကို ပန်းခြံထဲမှာ သမီး ဒီနေ့တွေ့ခဲ့တယ်မေမေ" ဟု အဆက်အစပ်မရှိ ပြောလိုက်မိ၏။

မစ္စက်အပ္ပဂျွန်းက ထိုင်ခုံတလုံးကို တွဲလောင်းကျနေသည့် ရင်ဖုံးနှင့် သုတ်ပေးရင်း-

"အဲဒါ အဆန်းလား၊ သူတို့အိမ်သားတွေ ပန်းခြံထဲကို အမြဲလာနေကျပဲဟာ၊

အမေ တော့ အဲဒီဘက် မရောက်လို့ မတွေ့တာ ကြာပါပြီ”

ပြောပြီး မစ္စက်အပ္ပလ္လန်း ရယ်နေသည်။

“ဘာရယ်တာလဲ”

“သမီးအဖေ့အကြောင်း စဉ်းစားမိလို့ပါ၊ သူဟာ ရှည်ရှည်လျားလျား ပုံပြင်တွေကို သိပ်တွေးတဲ့ လူ သိလား၊ သူ ပြောဖူးတယ်၊ သူနဲ့ ရှာရမီ မိသားစုနဲ့ အမျိုးတော်တယ်တဲ့”

“အမျိုးတော်တယ်”

ကိုရီမေ အသံကို မြှင့်လျက် မယုံကြည်နိုင်စွာ ပြန်မေးသည်။

မစ္စက်အပ္ပလ္လန်း ရယ်ပြန်သည်။

“ပေါက်ပေါက်ရှာရှာ ပြောလည်း ပြောတတ်တယ်၊ သူ့အဖေက သူ့ကို ပြောဖူးတယ်တဲ့၊ သူ့အဖေနာမည်က ဂီဒီယန်အပ္ပလ္လန်း တဲ့၊ ဂီဒီယန်ရဲ့အမေက ကျူးဘား ဆွေကြီး မျိုးကြီးထဲကပဲတဲ့၊ သူနဲ့ ရှာရမီသား တယောက်နဲ့ လက်ထပ်တယ်၊ စကားများပြီး ကျူးဘား သူကို မောင်းထုတ်လိုက် တယ်တဲ့၊ အဲဒီမှာတင် အဲဒီအမျိုးသမီး ဆိပ်ကမ်းရပ်ကွက်ကို ရောက်လာပြီး ဂီဒီယန့်အဖေနဲ့ တွေ့ကြတာတဲ့၊ သူမို့ ကြံကြံဖန်ဖန် ဆွေမျိုးစပ်တတ်တယ်”

“အမေ အဲဒါကို ယုံလားဟင်”

“ကတ်သီးကတ်သတ်အေ၊ ညည်းအဖေ ပြောနေတာတွေ တဝက်တောင် ကျုပ် မယုံဘူး၊ ကဲ.. ကဲ ခူးတော့ ခပ်တော့၊ စားကြရအောင်”

ကိုရီမေ ပေါင်မုန့် နွေးရင်း ဆက်တွေးနေ၏။ ကျူးဘား ဆွေကြီးမျိုးကြီးထဲက တဲ့၊ မဖြစ်နိုင်ပါဘူး၊ အထက်တန်းလွှာ အမျိုးသမီးတယောက်က အပ္ပလ္လန်းမျိုးရိုးတယောက်ကို လက်ထပ်သတဲ့။ သို့သော် ဇာတ်လမ်းသည် အတိုင်းအတာတခုအထိ ကိုရီမေကို ဖမ်းစား လျက် ရှိသည်။

အန်းရှာရမီကိုလည်း မျက်စိထဲတွင် ပြန်မြင်လာသည်။ ဘဝတွင် အလှည့်အပြောင်း ကလေး တမျိုးမျိုးရှိခဲ့ရင် သူ့လိုဘဝမျိုး ငါ ရချင်ရမှာပေါ့ ဟူသည့် အတွေးမှိန်မှိန်ကလေး ဝင်လာ၏။ ပုံပြင်ဟု ဆိုစေဦး၊ အန်းရှာရမီနှင့် သွေးသား တော်စပ်နေသည့် ပုံပြင်ဖြစ်၍ စိတ်ထဲ တိမ်းတိမ်းပွေပွေကလေးတော့ ဖြစ်သွား၏။

ထင်းတွေ တပွေ့တပိုက်ကြီးဖြင့် ဘတ်ချ် ဝင်လာသည်။ မစ္စက်အပ္ပဂျွန်း၏ မီးဖို နံဘေးတွင် ချသည်။

“အင်း . . . ဟင်းနံ့တွေကလည်း မွှေးကြိုင်နေတာပါလား” ဟု ပြော၏။

မစ္စက်အပ္ပဂျွန်းက သူငယ်ကို ကြည့်ပြီး “အင်း. . . ငါ့သမီးနဲ့ မတန်အောင် ရည်မွန်တဲ့ ကလေးပါလား” ဟု စိတ်ထဲ တွေးနေ၏။

မစ္စက်အပ္ပဂျွန်းက ထိုင်ခုံတလုံးကို တွဲလောင်းကျနေသည့် ရင်ဖုံးနှင့် သုတ်ပေးရင်း-

“ကဲ… မင်း ထိုင်နှင့်၊ အညောင်းအညာ ဖြေဦး၊ အိမ်က ကောင်တွေလည်း မကြာခင် ပြန်လာကြတော့မှာပါ၊ သက်သောင့်သက်သာနေနော်၊ ဘာမှ အားမနာနဲ့”

ဟု ပြောပြီး ဟင်းပွဲတွေ ချပေးရင်း သမီးလုပ်သူကို လှမ်းပြောသည်။

“ကဲ . . . ကိုရီမေ၊ နင်ပဲ ထိုင်စကားပြောလေ၊ အမေ ဆက်လုပ်မယ်”

ကိုရီမေ ဝင်ထိုင်သည်။

“မြေကွက်ပေါ်မှာ သစ်လုံးအိမ်ကလေး ပြီးလုနေပြီ” ဟု ဘတ်ချ် စကားစသည်။

“ဟုတ်လား၊ လိုအပ်တာပေါ့ကွယ်”

မစ္စက်အပ္ပဂျွန်းက လှမ်းပြောသည်။

“ဟုတ်ကဲ့ အဒေါ်၊ ဆောက်ပြီးပြီးချင်း ကျွန်တော် ပြောင်းနေမှာပါ၊ အခန်းနှစ်ခန်း ပါတယ်၊ နောက်ဘက်မှ ရေကန်လည်း ကျွန်တော် တူးထားပြီးပြီ၊ ကျွန်တော် သူများတွေလို ကျဉ်းကျဉ်းကျပ်ကျပ် မနေတတ်ဘူး ခင်ဗျ”

“ကောင်းတာပေါ့၊ အဆင့်အတန်း မြင့်တာပေါ့၊ မင်းမြေကကော အလားအလာ ကောင်းရဲ့လား”

“ဟုတ်ကဲ့၊ ဝါဂွမ်းကြိုက်မယ့် မြေမျိုးပါပဲ၊ မကြာခင် ကျွန်တော် စရိတ်ကျေမှာပါ”

“မကြာခင် မင်း အိမ်ရှင်မလည်း လိုလာမှာပေါ့၊ ဒါမှ မင်းအိမ် သန့်သန့်ရှင်းရှင်း ဖြစ်မှာကွဲ့”

“ဟုတ်ကဲ့၊ အဒေါ်ပြောတာ မှန်ပါတယ် ခင်ဗျ၊ ကျွန်တော့်အတွက် လိုမှာပါ”

နံဘေးတွင် ထိုင်နေသည့် ကိုရီမေ့ မျက်နှာကို တချက် ငဲ့ကြည့်လိုက်သည်။ ဘတ်ချ် သည် လူချောတယောက် ဖြစ်၏။ ကျန်းမာသန်စွမ်းသူ ဖြစ်၏။ ရိုးသားဖြောင့်မတ်သူ ဖြစ်၏။ အလုပ်ကြိုးစားသူ ဖြစ်၏။ အသောက်အစား မရှိ၊ အကျင့်စာရိတ္တ ကောင်းသူ ဖြစ်၏။ တနေ့နေ့တွင် မူးပြန်လာပြီး မိန်းမကို ရိုက်မည့် လူစားမျိုး မဟုတ်။ သို့စင်လျက် ကိုရီမေ၏ ရင်ထဲမှ တစုံတရာက ပုန်ကန်ဆန့်ကျင်နေ၏။

မစ္စက်အပ္ပဂျွန်း စကားဆက်သည်။

“မိန်းမယူရင် အိမ်ထောင်မှု နိုင်နင်းတဲ့ မိန်းကလေးမျိုး ရှာယူ၊ သိလား၊ အချက် အပြုတ် အချုပ်အလုပ်လည်း ကျွမ်းကျင်ရမယ်၊ ဝါကောက်ချိန်မှာ ဝါခင်းထဲ ဆင်းကူနိုင် ရမယ်”

“ဟုတ်ကဲ့ပါ အဒေါ်”

ဘတ်ချ်က ကိုရီမေကို တချက် ငဲ့ကြည့်ပြီး ပြန်ပြောသည်။

ရေကာတာပေါ်တွင် ရေတွေလျှံတက်လာသလို ရင်ထဲတွင် မတွန်းလှန်နိုင်သည့် အင်အားတမျိုးကို ကိုရီမေ တွန်းလှန်နေရ၏။

“အမေ... စားလို့ ရပြီလားဗျို့”

တံခါးဝမှ အသံတသံ ပေါ်လာသည်။ လင်မီနှင့် ဂျော့ ပြန်လာကြပြီ။ ကိုရီမေ ကျိတ်ပြီး ကျေးဇူးတင်လိုက်၏။ အတွေးခြောက်အိပ်မက်ထဲမှ လန့်နိုးလာခဲ့ခြင်းကြောင့် ဖြစ်သည်။

မစ္စက်အပ္ပဂျွန်းက ကုလားထိုင်တွေ ဆွဲရင်း-

“မင်းတို့အဖေ ကိုလေအိုးကို ခေါ်လိုက်” ဟု ပြောလိုက်သည်။

မျက်နှာပူပူဖြင့် ဘတ်ချ် ဆက်ထိုင်နေ၏။ ညီအစ်ကိုနှစ်ယောက် ပြိုင်တူ နှုတ်ဆက်သည်။

“ဟေး... ဘတ်ချ်၊ နေကောင်းလား”

“အေး... ကောင်းပါတယ်ကွာ”

ကိုရီမေ ဝင်မေးသည်။

"အလုပ် အဆင်ပြေရဲ့လား"

လင်မီက ဖြေသည်။

"အေး... ပြေတယ်ဟ၊ စားကြရအောင်၊ ပြီးမှ ငါ ပြောပြမယ်"

အဖေ့ကိုခေါ်ဖို့ ကိုရီမေ အပြင်ထွက်သွားသည်။ ညီအစ်ကိုနှစ်ယောက် ဝင်ထိုင်သည်။ သူတို့ဆာနေကြပြီ။ အားရပါးရ စားရင်း လုပြောနေကြ၏။ မီးဖိုချောင်မှာ ပူလောင်အိုက်စပ် နေသဖြင့် မစ္စက်အပ္ပဂျွန်းက ပြတင်းပေါက် ထဖွင့်သည်။

ညစာဝိုင်းမှာ စားလို့ မြိန်လှသည်။ ကိုက်လန်နှင့် အသားကြော်ကလည်း လတ်လတ် ဆတ်ဆတ်။ ပေါင်မုန့်၊ သကာချဉ်ရည်နှင့် ကော်ဖီကလည်း ရနံ့တထောင်းထောင်း။

"စားကြ၊ စားကြ၊ အများကြီး ချက်ထားတာ၊ ကိုရီမေ့ လက်ရာလေ၊ သူက အဒေါ်ထက် ဟင်းချက်ကောင်းတယ်ကွဲ့" ဟု မစ္စက်အပ္ပဂျွန်းက သမီးကို ညွှန်း၏။

လင်မီက ကိုက်လန်အစိမ်းကြော်ကို ခေးဖြင့် ကော်ရင်း-

"များမှဖြစ်မှာ အမေရ၊ ကျွန်တော်နဲ့ ဂျော့ အဝအပြဲစားမှာ၊ မနက်အစောကြီး ထပြီး အလုပ်သွားရမှာလေ"

"အလုပ်က အဆင်ပြေပါ့မလား"

မစ္စက်အပ္ပဂျွန်းက မေးသည်။

"ပြေမှာပါ အမေရ"

သားနှစ်ယောက်စလုံး တပြိုင်တည်း ဖြေသည်။ သူတို့၏ လေသံတွေက ဘယ်အလုပ်မဆို မမှုသည့် ပုံမျိုး။

"ကောင်းပါလေ့ကွာ၊ ကောင်းပါလေ့"

မစ္စတာအပ္ပဂျွန်းက ဝင်ထောက်သည်။ သားနှစ်ယောက်က ပြုံးပြုံးကြီးနှင့် ပလုတ်ပလောင်း စားနေကြ၏။ သူတို့က ဖအေကြီးကို ခွင့်လွှတ်ထားကြ၏။ ဘယ်လောက် စကား များများ၊ ဘယ်လောက်ပျင်းပျင်း မမှုသည့်အပြင်

အိမ်နီးနားချင်းတွေ အထင်ကြီးလောက် သည့် စကားလုံးကြီးတွေ ပြောနိုင်သည့်အတွက် ကျိတ်ပြီး ဂုဏ်ယူလို့ပင် နေသေး၏။

"သားတို့လို လိမ္မာတဲ့ ကလေးမျိုးများရရင် အမေ ထပ်တောင် မွေးချင်ပါသေးတယ်"

မစ္စက်အပွဂျွန်း ပြောပြီး သက်ပြင်းချသည်။ စိတ်ထဲရှိလို့သာ ပြောလိုက်မိခြင်းဖြစ်၏။ ဆိပ်ကမ်းရပ်ကွက်တွင် ကလေးတွေ မွေးတိုင်းလိုလို သေဆုံးနေကြ၏။

ညီအစ်ကိုနှစ်ယောက် အလုပ်အကြောင်း လုပြောနေရာမှ အငယ်ကောင် ဂျော့က အစ်ကိုလုပ်သူ လင်မီကို ဆက်ပြောဖို့ တိုက်တွန်းလိုက်၏။

"ကျွန်တော်တို့ သစ်ခုတ်ရမယ့် နေရာက စိမ့်မြေတွေ၊ အကျယ်အဝန်းကတော့ ဒီကနေ နယူးအော်လီယန်းအထိပဲ၊ အဲဒီတကြောလုံး ဝက်သစ်ချမြိုင် အပိုင်လို့ ထင်တာပဲ၊ ကျွန်တော် တို့ကို ပေးတဲ့ နေ့တွက်က မနည်းဘူး၊ တနေ့ကို ခုနစ်ဆယ့်ငါးဆင့်တောင် ရမှာ"

"ခုနစ်ဆယ့်ငါးဆင့် ဟုတ်လား"

အားလုံး တအံ့တဩ ဝိုင်းမေးကြသည်။ ညီအစ်ကိုနှစ်ယောက် ပြိုင်တူခေါင်းညိတ်ကြပြီး ပြန်မေးသည်။

"မဆိုးဘူး မဟုတ်လား"

"အဲဒီ မစ္စတာလန်း ဆိုတဲ့လူဟာ လူကောင်းတယောက်လို့ ထင်ပါတယ်၊ သေကောင် ပေါင်းလဲ ခိုင်းမယ့် လူစားမျိုး မဟုတ်ပါဘူး" ဟု ဘတ်ချ်က ထင်မြင်ချက်ပေးသည်။ မစ္စတာ အပွဂျွန်းက ဝင်ဆွေးနွေးသည်။

"စောင့်ကြည့်ပါဦးလေ၊ အဲဒီ စိမ့်မြေတွေမှာ ဒီအချိန်ဆို သိပ်ငှက်ဖျားထူတာ"

ဂျော့က စိတ်အနှောင့်အယှက် ဖြစ်သွားသည့် လေသံဖြင့်-

"ဟာ.. အဖေကလည်း၊ ကျွန်တော်တို့ ညီအစ်ကိုနှစ်ယောက်ကို ဘယ်ငှက်ဖျားမှ လာမကပ်ရဲဘူး၊ ဒီလောက် ကျန်းမာ တောင့်တင်းတဲ့ဟာကို။ ကိုရီမေ့ သကာချဉ်ရည်က သိပ် အရသာရှိတာပဲကွာ"

ကိုရီမေက ဘာမျှ မပြောဘဲ သကာချဉ်ရည်ဇလုံကို တွန်းပို့ပေးလိုက်သည်။

အစ်ကိုတွေ အလုပ်ရသွားသည့် အတွက်ရော၊ စောစောက လေးလံနေသည့် စိတ်တွေ လွင့်ပါးသွား သည့်အတွက်ပါ ကိုရီမေ ပေါ့ပေါ့ပါးပါး ဖြစ်သွားသည်။

"ပြီးတော့ ရှိသေးတယ် အဖေ" ဟု အစချီပြီး လင်မီက ဆက်ရှင်းပြသည်။

"လူတချို့က စိမ့်မြေငှက်ဖျား ကြောက်တာ မှန်တယ်၊ ဒါပေမဲ့ မစ္စတာလန်းက ရှင်းပြတယ်၊ ငှက်ဖျားရာသီ ရှိပါတယ်တဲ့၊ ဒါပေမဲ့ ဖြစ်ခဲပါတယ်တဲ့၊ အဖျားအနာ ထူပြောတဲ့ နေရာတွေကို သူ မပို့ပါဘူး တဲ့၊ သူ့စိမ့်မြေတွေက ကျန်းမာရေးနဲ့ ညီညွတ်တဲ့နေရာတွေပါတဲ့၊ တယောက်ယောက် ငှက်ဖျားမိပြီး သေသွားမယ် ဆိုရင်လည်း လူတယောက်ကို ဒေါ်လာ ငါးဆယ်နဲ့ သူ အသက်အာမခံ ထားပေးပါ့မယ်တဲ့"

ဒေါ်လာငါးဆယ် ဆိုသည့် စကားလုံးများကို လင်မီက တလုံးချင်း ဖြည်းဖြည်း ပြောသွားသည်။

"ဒေါ်လာ ငါးဆယ်... ဟုတ်လား"

အားလုံး တအံ့တသြ ဝိုင်းမေးတော့-

ဂျော့နှင့် လင်မီ ပြိုင်တူ အသံထွက်သွား၏။

"ဟုတ်တယ် ခင်ဗျ"

ဂျော့က ဆက်ပြောသည်။

"ဒါဆို သူ့စိမ့်မြေတွေမှာ ငှက်ဖျားမရှိဘူး ဆိုတာ မစ္စတာလန်း ယုံကြည်လို့ နေမှာ ပေါ့"

ညစာဝိုင်းမှာ စိုစိုပြည်ပြည်နှင့် ပြီးဆုံးသွားသည်။ ညီအစ်ကိုနှစ်ယောက် စောစော ထဖို့ စောစောအိပ်ရာဝင်သည်။ ဘတ်ချ်က ကိုရီမေကို ဆိပ်ကမ်းဘက် လမ်းလျှောက်ထွက်ဖို့ ခေါ်သည်။ ကိုရီမေက ခေါင်းမူးနေလို့ဟု အကြောင်းပြပြီး ငြင်းလိုက်၏။ အမေကြီးက လိုက်သွားစေချင်သည်။ သမီးလုပ်သူကို သိပ်ဘဝင်မကျချင်။ သို့သော် ကိုရီမေက စဉ်းစားချင် နေသည်။

ဘတ်ချ် ပြန်သွားတော့ ကိုရီမေ ပန်းကန်ခွက်ယောက်တွေ ဆေးကြော သိမ်းဆည်းသည်။ တကယ်တမ်း စဉ်းစားတော့လည်း ဘာမျှ ရေရေရာရာ သိပ်မရှိ။ ဘတ်ချ်ထက် သင့်လျော်မည့်သူ မိမိအတွက် အခြား မရှိနိုင်။

သို့သော် ကိုယ့်ဘဝ ကိုယ် မကျေမနပ် ဖြစ်နေမိ၏။ ပြီးတော့ မရေမရာတွေ လျှောက် တွေးနေ၏။ ဆင်ခြင်တုံတရားရှိဖို့ ကိုယ့်ကိုယ်ကိုယ် ဆုံးမရင်း မဖြစ်နိုင်တာတွေ လျှောက် တွေးနေ၏။

မီးဖိုခန်းထဲမှ နေရာလွတ်ကလေးတွင် ကိုရီမေ့အိပ်ရာ ရှိသည်။ အိပ်ရာထဲ ဝင်ပြီး မကြာမီ အဖေနှင့် အမေ၏ ဟောက်သံကို ကြားရသည်။ ကျိုးနေသည့် သွားထဲမှ လေထွက်နေသည့် အမေ့အသက်ရှူသံကိုလည်း မပြတ်ကြားနေရ၏။ ကိုရီမေ မျက်နှာကို မှောက်အိပ် လိုက်သည်။

※※※

# အခန်း (၂)

## (၁)

စနေလေးပတ် ပြည့်သွားသည်။ အရာတိုင်း ချောချောမွေ့မွေ့ ဖြစ်နေ၏။ မစ္စတာလန်းလို လူကြီးလူကောင်းတယောက်၏ အလုပ်ကို လုပ်ခွင့်ရခြင်းသည် အပွဲဂျွန်း ညီအစ်ကိုအတွက် ကံကောင်းထောက်မခြင်းပင်။ အခြား အခြားသော အလုပ်ရှင်များလို ပရမ်းပတာ မလုပ်။ စနေနေ့တိုင်း လစာပေး ဝန်ထမ်းတယောက်ယောက်က သစ်ခုတ်သမားများ၏ လစာဝက်ကို မိသားစုရှိရာသို့ အိမ်တိုင်ရာရောက် ပို့ပေးသည်။ ကျန်တဝက်ကို လုပ်ငန်းသိမ်းမှ တဦးစီ ထုတ်ပေးဖို့ လစာ စာရင်း ပြုစုထား၏။

ညစာစားတိုင်း ကိုရီမေသည် မစ္စတာလန်းအား ကျေးဇူးတင်လျက် ရှိသည်။ သည်နေ့ ကြာသပတေးနေ့ ဖြစ်၏။ စနေနေ့ရောက်လျှင် လခ ရဦးမည်။ ပုံမှန်ဝင်ငွေ ရှိနေခြင်းမှာ စိတ်ချမ်းသာစရာ ကောင်းလှ၏။

အဖေကြိုက်တတ်သည့် ဟင်းတွေကို ကောင်းကောင်း ချက်ကျွေးနိုင်ပြီ။ သို့သော် သူတို့ စားသောက်နေရသည့် အသီးအနှံများမှာ စိုက်ပျိုးရေး လုပ်ငန်းရှင်ကြီးများက လူမည်း ကျွန်များအား ကျွေးဖို့ စိုက်ခြင်းဖြစ်ပြီး အပိုအလျှံများကို ဈေးတင်ခြင်း ဖြစ်သည်။ သူတို့ ကိုယ်တိုင် စားသည် မဟုတ်။ သို့သော် နပ်မှန်အောင် စားနေရခြင်းအတွက် အရာတိုင်းကို ကျေနပ်နေရမည်ဟု ကိုရီမေ ယုံကြည်လေသည်။

ညစာပြင်ပြီးတော့ အဖေနှင့် အမေကို ခေါ်ဖို့ ကိုရီမေ အိမ်ရှေ့သို့ ထွက်ခဲ့၏။ ဘယ်သူမှ နားထောင်မည့်သူ ရောက်မလာသဖြင့် သေတ္တာခွံပေါ် ထိုင်ပြီး အဖေသည် အမေ့အား တရား ဒေသနာ ဟောကြားတော်မူနေ၏။

မစ္စက်အပွဲဂျွန်းက လင်တော်မောင် ပြောနေသည့် စကားလုံးများကို တဝက်မျှပင် မကြား။ အဝတ်ပြဲများကို အာရုံစိုက်ပြီး ချုပ်နေ၏။

"ညစာ ပြင်ပြီးပြီ" ဟု ကိုရီမေ လာပြောတော့ မအေကြီးက "အေး... ဟုတ်ပြီ၊ ဒီတကြောင်း သိပြီးရင် အမေ ပြီးပါပြီ" ဟု ပြန်ပြော၏။

"အင်း … ငါ့သမီးက အားကိုးရပါတယ်၊ မအေကြီးကို အများကြီး ကူညီဖော်ရတာပဲ" ဟု ပြောရင်း မစ္စတာ အပ္ပဂျွန်း ထိုင်ရာမှ ထသည်။ ဘောင်းဘီကို ဖုန်ခါသည်။

ကိုရီမေက ဘာမျှ ပြန်မပြောဘဲ ပခုံးတွန့်ပြသည်။ ထိုစဉ် နံဘေးလမ်းကြားဆီမှ စူးစူးဝါးဝါး အော်သံတခု ကြားလိုက်ရ၏။ ကိုရီမေက စမေးသည်။

"မစ္စက်ဂရမ်းဘရဲလ် မဟုတ်လား၊ ဘာဖြစ်တာပါလိမ့်"

"ဟုတ်တယ်၊ ဘုရားသခင် . . . သူ ဘာဖြစ်တာပါလိမ့်" ဟု မစ္စက်အပ္ပဂျွန်း ဘုရားတ ပြီး ပြောရင်း လမ်းကြားဆီသို့ လှမ်းကြည့်သည်။

မစ္စက်ဂရမ်းဘရဲလ် အိမ်ပြင်တွင် ရောက်နေ၏။ လူတယောက်က သူ့ကို တစုံတခု ပြောနေ၏။ မစ္စက်ဂရမ်းဘရဲလ် ဆောက်တည်ရာမရ တက်မတတ် ချက်မတတ် အော်ငို နေသည်။

ကိုရီမေ သူတို့အိမ်ဆီသို့ ပြေးချသွားသည်။ အခြားအမျိုးသမီးတယောက်လည်း ပြေးလာ၏။ ကိုရီမေက မစ္စက်ဂရမ်းဘရဲလ်၏ ပခုံးကို ပထမဆုံး ဖက်ပြီး မေးသည်။

"အဒေါ် ဘာဖြစ်တာလဲ ဟင်၊ ဘာသတင်းများ ကြားလို့လဲ"

မစ္စက်ဂရမ်းဘရဲလ်သည် တကိုယ်လုံး သိမ့်သိမ့်ခါအောင် ငိုကြွေးနေ၏။ ကိုရီမေ၏ အမေးကို မဖြေဘဲ "အို… ဘုရားသခင်၊ ကယ်မတော်မူပါ" ဟုသာ ထပ်ကာထပ်ကာ အော်ရင်း ဆက်ငိုနေ၏။ ခါးစည်းရင်ဖုံး ပြူတ်ထွက်ကာ တင်ပါးတွင် ချိတ်နေ၏။ ပြီးတော့မှ အော်ပြောသည်။

"သူတို့ ငါ့ယောကျ်ားကို သတ်လိုက်ကြပြီဟဲ့၊ စိမ့်မြေထဲမှာ ငှက်ဖျားမိလို့ သေပြီတဲ့ ဟယ်၊ မသွားပါနဲ့လို့ ငါ အတန်တန် တားပါလျက်၊ အို… ဘုရားသခင် ကယ်မတော်မူပါ၊ ဒီကလေးတွေနဲ့ ငါ ဘယ်လို ဆက်နေရမလဲ ဟင်"

ကိုရီမေ လန့်ပြီး လက်လွှတ်လိုက်သည်။ အခြားအမျိုးသမီးများလည်း အလန့်တကြား နောက်တွန့်သွားကြ၏။ အားလုံး မျက်နှာတွေ ဖြူဖပ်ဖြူရော် ဖြစ်ကုန်ကြသည်။

အံ့သြတုန်လှုပ်မှုဖြင့် တဒင်္ဂငြိမ်သွားပြီးမှ ဒေ့သည်ကို သတိထားမိကြသည်။ သူတို့ အားလုံး မှတ်မိကြသည့် စနေနေ့တိုင်း လဝက်စာ လာပေးသော

ဝက်သစ်ချမြိုင် လစာပေး ဝန်ထမ်းပါကလား။

ထိုလူ့ကို အမျိုးသမီးတွေ အတင်းဆွဲလွဲပြီး အကျိုးအကြောင်း ဝိုင်းမေးကြသည်။ အခြားအမျိုးသမီးတွေ ဝိုင်းအုံရောက်လာကြ၏။ အချို့ ကလေးတွဲလောင်းဖြင့်။

ဝက်သစ်ချမြိုင်ဝန်ထမ်းက အမျိုးသမီးတသိုက်အား ကရုဏာသက်စွာ ကြည့်နေ၏။ သို့သော် ကုတ်အင်္ကျီလက်မောင်းတွေ ပြုတ်ထွက်ကုန်မည် စိုး၍ သူတို့လက်ထဲမှ ရုန်းထွက် လိုက်သည်။

“ခဏလေးဗျာ၊ ကျွန်တော် အားလုံး ရှင်းပြပါ့မယ်၊ တဆိတ် ငြိမ်ပေးကြပါ ၊ ကျွန်တော့် ကို တမိနစ်လောက် အချိန်လေး ပေးပါဗျာ။ ဟုတ်ပါတယ်၊ သစ်တောထဲမှာ ၄က်ဖျားရောဂါ အနည်းအကျဉ်း မိကြပါတယ်၊ ဒါပေမဲ့ အဆိုးကြီး မဟုတ်ပါဘူး၊ လူအများကြီး နေကောင်း ကျန်းမာကြပါတယ်၊ ကျွန်တော့်ကို လမ်းကလေး နည်းနည်းပေးကြပါဗျာ”

ပြောပြောဆိုဆို သူက မစ္စက်ဂရမ်းဘရဲလ်၏ ကွပ်ပျစ်ပေါ်သို့ တက်ပြီး မတ်တတ် ရပ်သည်။ အမျိုးသမီးတယောက် အသံထွက်လာ၏။

“၄က်ဖျား ဟုတ်လား၊ ရွှံ့တော ဗွက်တောထဲကို အတင်းခေါ်သွားပြီး...”

“မဟုတ်ဘူး မဒမ်၊ ဒီလိုပြောလို့တော့ မရပါဘူး၊ ကျွန်တော်တို့ ဘယ်သူ့ကိုမှ အတင်း မခေါ်ပါဘူး၊ သူတို့သဘောနဲ့ သူတို့ လိုက်လာကြတာပါ ၊ တဆိတ်ငြိမ်ငြိမ်ကလေး နားထောင် ကြပါ ခင်ဗျာ၊ ဖျားနာလို့ သေဆုံးသူများ စာရင်းကို ကျွန်တော် ဖတ်ပြပါ့မယ်”

သူက ကရုဏာသံဖြင့် ဆက်ပြောသည်။

“နာမည်တွေ ဖတ်မပြခင် ကျွန်တော် တခုကြိုပြောပါရစေ၊ မစ္စတာလန်းဟာ ကတိတည်တဲ့ လူကြီးလူကောင်းတယောက် ဖြစ်ပါတယ်၊ သူ့စကားနဲ့အညီ ကွယ်လွန်သူများအတွက် အသက်အာမခံကြေး ထုတ်ပေးမှာ ဖြစ်ပါတယ်၊ အစ်မကြီးတို့အထဲမှာ အသက်ဆုံးရှုံးသူများရဲ့ မိသားစုများပါရင် ဝက်သစ်ချမြိုင်ရုံးမှာ တဦးကို ငွေသား ဒေါ်လာငါးဆယ် သွားရောက် ထုတ်ယူနိုင်ကြပါတယ်။ ကဲ . . . ကျွန်တော် နာမည်စာရင်း ဖတ်ပြပါ့မယ်”

သူက အိတ်ထဲမှ စာရွက်တရွက်ကို ထုတ်ယူလိုက်သည်။ ကိုရီမေသည် ဒူးတွေ မခိုင်ချင်တော့သလို ဖြစ်လာပြီး အနားရှိ အမေ့ကို လှမ်းဖက်ထားလိုက်ရသည်။ နောက်နားတွင် အဖေက ရပ်စောင့်နေ၏။ သူ စ ဖတ်သည်။

“ဂျွန်ဂရမ်းဘရဲလ်၊ ဖီးလစ်ဆိုလာ၊ ဂျိုရှုဝါဟောင်တန်”

နာမည်တခု ဖတ်ပြီးတိုင်း လူအုပ်ထဲမှ စီခနဲ အော်ငိုသံတွေ ထွက်လာ၏။ မစ္စက် ဆိုလာ ဒူးခွေကျသွား၏။ ပြီးတော့ ထိုင်လျက်သား တရှုပ်ရှုပ် ငိုနေသည်။ အားလုံးက သူ့ကို ဝိုင်းပြီး နှစ်သိမ့်နေကြ၏။

“ပီတာခရီးလ်၊ ယန်းလက်ပီဟိုး၊ လဟာနန်ဒိုဂရစ်မာ၊ ဟင်နရီဝေးလ်စ်၊ ဂျော့အပ္ပဂျွန်း၊ လင်မီအပ္ပဂျွန်း”

အမေ့အော်ငိုသံကို ကိုရီမေ ကြားလိုက်၏။ နောက်ထပ် ဘာမျှ မကြားတော့။ ဝိုးတဝါး တချက် သိလိုက်၏။ အော်ဟစ် ငိုယိုနေ၍ အကြောင်းထူးပါတော့မည်လား။

“လာ အမေ၊ အိမ်ပြန်ကြရအောင်”

အမေ့ကို တွဲပြီး ကိုရီမေ ပြန်လာသည်။ မီးဖိုထဲကို တန်းခေါ်သွား၏။ ထမင်းနှင့် ကိုက်လန်ကြော်၊ ပြောင်းဖူးပေါင်မုန့်၊ အားလုံး စားပွဲပေါ်တွင် အဆင်သင့်။ အဖေက ရောက်နှင့်နေပြီ။ အရုပ်ကြိုးပြတ်ပုံစံဖြင့် ထိုင်နေ၏။ သားအမိ ဝင်လာတော့ ကမန်းကတန်း ထရပ်သည်။ မိန်းမကို လှမ်းတွဲပြီး “ကဲ.... မင်း ထိုင်လိုက်၊ ဒီမှာ ထိုင်နော်” ဟု ပြောသည်။ သည်မြင်ကွင်းကို ကြည့်ပြီး ဘာကြောင့် အဖေ့ကို အမေ ချစ်နေရသည့် အကြောင်း ကိုရီမေ သိမြင်လာ၏။ အမေ့ကို အဖေ အမြဲတမ်း ကြင်နာသည်။ အမေက အဖေ့ပေါင်ပေါ်တွင် ဝင်ထိုင်သည်။ အဖေသည် ကလေးတယောက်ကို ချော့သလို အမေ့အား တိုးတိုးကလေး နှစ်သိမ့်စကားတွေ ဆိုနေသည်။

အဖေ့စကားလုံးတွေက နားဝင်ချိုသည်။ ကျမ်းကိုး ကျမ်းကားဖြင့် ဖျောင်းဖျနေ၏။ ကိုရီမေ အပြင်ထွက်ပြီး ကွပ်ပျစ်ပေါ်တွင် ထိုင်လိုက်၏။ အမေ စိတ်သက်သာရာရအောင် အဖေက ပိုလုပ်တတ်လိမ့်မည်။

သေဆုံးသူများ စာရင်းတွင် မပါသည့် တရပ်ကွက်တည်းသားတွေ ရောက်လာကြ၏။ အိမ်ကလေး ပြည့်ကျပ်သွားသည်။ အားလုံး ဝိုင်းပြီး အားပေးကြ၏။

အားလုံး ဝိုင်းပြောသဖြင့် အမေ ညစာ နည်းနည်းစားသည်။ အသုဘ လာမေးသူများ အား ကိုရီမေက မုန့်ပဲသရေစာများဖြင့် ဧည့်ခံသည်။

ဘတ်ချ်တယောက် နောက်တနေ့မနက်မှ ပေါက်ချလာ၏။ သတင်းကြားကြား ချင်း သူ ပြေးချလာခြင်း ဖြစ်၏။ သူက သစ်လုံးအိမ်ကလေး ပြီးသဖြင့် ယာတောတွင် သွားနေနေပြီ ဖြစ်သည်။ သူ့ကို မြင်တော့ ကိုရီမေ ဝမ်းသာသွားသည်။

လုပ်စရာရှိသည့် အသုဘ ကိစ္စအဝဝကို သူနှင့် ဆက်လုပ်ရမည်။ အမေက ဆောက်တည်ရာမရ ဖြစ်နေ၏။ အနားတွင် အဖေ အမြဲတမ်း စောင့်နေရ၏။

အသုဘချဖို့ ကိစ္စအတွက် အလောင်းတွေကို သူ သွားသယ်မည်ဟု ဘတ်ချ်က အဆိုပြုသည်။

ကိုရီမေက-

"အေး... ငါပါ လိုက်ခဲ့မယ်"

"ဟာ... မကောင်းပါဘူးဟာ၊ နင် မလိုက်ခဲ့ပါနဲ့"

"ငါလိုက်မှ ပိုကောင်းမှာပေါ့"

"ဒါမျိုးက မိန်းကလေးတွေအလုပ် မဟုတ်ပါဘူး ကိုရီမေရယ်"

"ငါ့ အစ်ကိုအရင်းတွေရဲ့အလောင်း သွားကောက်ရမှာ လူစိမ်းတယောက်တည်း သွားလို့ ဘယ်ကောင်းမလဲ ဟယ်"

"ငါက လူစိမ်းမှ မဟုတ်တာ၊ ပြီးတော့ ဟိုမှာ ရောဂါတွေ ဖြစ်နေတာ"

"ထမင်းတလုတ်အတွက် ကိုယ့်ကိုယ်ကိုယ် အသေခံသွားတဲ့ သူတို့အကြောင်း တွေးနေရတာထက် စာရင် ရောဂါ ဖြစ်ပြီး လိုက်သေရတာကမှ ကောင်းဦးမယ်"

ဘတ်ချ် ဘာမျှ ဆက်မပြောတော့။ သူ့ကို မြင်းလှည်းပေါ် တင်ပြီး မြို့ပြင်သို့ မောင်းထွက် ခဲ့သည်။

စိမ့်မြေ ဆိုက်ပရပ်စ် ထင်းရှူးတောကြီးမှာ ထူထပ် သိပ်သည်းလှ၏။ နေပြောက်မထိုး နိုင်လောက်အောင် ပင်ချင်းယှက်နေ၏။ သို့သော် တိုက်ခတ်နေသည့် လေက ပူပြင်းလှသည်။ သစ်တောထဲ ဝင်သွားသည်နှင့် မြို့ပေါ်တွင် ပူသည့် အပူရှိန်နှင့် မတူဘဲ မွန်းကျပ်ကာ ချွေးသီး ချွေးပေါက်တွေ ကျလာ၏။

အလောင်းတွေကို လမ်းနံဘေး တဲတလုံးထဲတွင် စီချထား၏။ ဟိုအဝေးဆီမှ သစ်ပင် လှဲသံများ ကြားနေရ၏။ တာဝန်ရှိပုဂ္ဂိုလ်က ယဉ်ယဉ်ကျေးကျေး ဆီးကြို စကားပြော၏။ လူငယ်ကလေးတွေ ခုလို ရေတိမ်နစ်ရသည့်အတွက် စိတ်မကောင်းကြောင်းလည်း ပြော၏။ ပြီးတော့ သေဆုံးသူများနှင့် တော်စပ်ပုံကို ကိုရီမေအား သူက မေးသည်။

စာရွက်တရွက် ထုတ်ပေးပြီး-

"ရော့. . . မင်းအဖေနဲ့ အမေကို ပေးလိုက်နော်၊ ပြီးတော့ ဆိပ်ကမ်းနားက ဝက်သစ်ချ မြိုင် ရုံးခန်းမှာ အသက်အာမခံငွေ သွားထုတ်ပါလို့ ပြော၊ တယောက်အတွက် ဒေါ်လာ ငါးဆယ်စီ ထုတ်ပေးလိမ့်မယ်"

စာရွက်ကို အိတ်ထဲ ထည့်ရင်း ကိုရီမေ စဉ်းစားသည်။ အင်း. . . အဖေနဲ့ အမေကို ပေးလိုက် တဲ့။ အမေက ပရိဒေဝမီး တောက်လောင်နေချိန်။ သည်ငွေကို လုံးဝ စိတ်ဝင်စား လိမ့်မည် မဟုတ်။ အဖေ့ကို ပေးလိုက်ရင်ကော၊ အဖေ ပန်းတွေ ဝယ်မည်၊ ဝိုင်ပုလင်း ဝယ်မည်၊ အမေ စိတ်ချမ်းသာအောင် ဆိုပြီး အဝတ်အစားတွေ ဝယ်ပေးမည်။ မဖြစ်ဘူး၊ ကိုယ့်ဘာသာ ကိုယ် သိမ်းထားပြီး အိမ်စရိတ် လုပ်ရမည်။

အလောင်းနှစ်လောင်းကို လှည်းပေါ်တင်ပြီး ပါလာသည့် အဝတ်စဖြင့် လွှမ်းလိုက် သည်။ အပြန်လမ်းတွင် ကိုရီမေ တချက် နှစ်ချက် ရှိုက်ငိုသည်။ ဘတ်ချ်က သိုင်းဖက်ထား လိုက်၏။ ပြီး သူလည်း ထပ်တူထပ်မျှ ဝမ်းနည်းကြောင်းတွေ ပြောလိုက်လာ၏။

အပ္ပဂျွန်းညီအစ်ကို၏ အသုဘမှာ ဆိပ်ကမ်းရပ်ကွက်တွင် အစည်ကားဆုံး ဖြစ်သွား သည်။ ဖအေကြီးကိုယ်တိုင် ဓမ္မကျမ်းစာများ ရွတ်ဖတ်သရဇ္ဈာယ်ပေးသဖြင့် အထူးခြားဆုံး အသုဘလည်း ဖြစ်လေသည်။

※※※

# (၂)

အသုဘပြီးသည့် နေ့တွင် ဘတ်ချ်တယောက် မြင်းလှည်းကလေးနှင့် ပေါက်ချလာ ပြန်သည်။ ကိုရီမေကို ခေါ်ပြီး အသက်အာမခံ ထုတ်ရန် ဝက်သစ်ချမြို့ရုံးခန်းသို့ သွားဖို့ ဖြစ်၏။

ဆိပ်ကမ်းဘက်ကို မောင်းထွက်လာပြီး လမ်းတွင် ကိုရီမေက မေးသည်။

"နင်လည်း ငါ့အတွက် ဒုက္ခပါပဲဟာ၊ နင့်စိုက်ခင်းကို ပစ်ထားပြီး ထွက်လာလို့ ဖြစ်ရဲ့လား"

"ငါ့မှာ နင့်ထက်ပိုပြီး ဂရုစိုက်စရာ ဘာရှိလို့လဲ ကိုရီမေရယ်၊ ဒီမယ် ကိုရီမေ"

"ဘာလဲ ပြောလေ"

ဘတ်ချ် လည်ချောင်း ရှင်းလိုက်သည်။

"ဟာ. . . ဒီအခြေအနေမှာ ပြောလို့ မကောင်းသေးပါဘူးဟာ၊ ဒါပေမဲ့ နင် သိနေတယ် မဟုတ်လားဟင်၊ ငါ နင့်ကို ဘယ်လောက် ချစ်နေတယ် ဆိုတာလေ"

သူ့မျက်နှာတခုလုံး နီရဲနေပြီး ဆက်ပြောသည်။

"ခုလိုအချိန်မှာ နင် ငါ့ကို ဘာမှ ပြန်ပြောဖို့ မလိုသေးဘူးနော် ကိုရီမေ၊ ငါ့ဘက်ကတော့ ဆောင်းမဝင်ခင် လက်ထပ်ချင်တာပဲ"

ကိုရီမေသည် မရေမရာဖြင့် နှုတ်ခမ်းကို ကိုက်ထား၏။ ရင်ထဲတွင်တော့ ဆွတ်ပျံ့ ကြည်နူးခြင်းမျိုးဖြင့် နွေးသွားသလို ခံစားလိုက်ရသည်။

"ငါ ဘာပြောရမှန်း မသိဘူး ဘတ်ချ်၊ ငါ ယောကျ်ားယူဖို့ သိပ်မစဉ်းစားမိပါဘူး"

"ဒါပေမဲ့ နင် ငါ့ကို လက်ထပ်မှ ဖြစ်မှာ၊ ငါ နင့်ကို စိတ်ချမ်းသာအောင် ထားမှာပါ ဟယ်၊ တကယ်ပြောတာပါ၊ ငါတို့မှာ နေစရာလည်း ရှိပြီ၊ စားစရာအတွက်လည်း ဘာမှ မပူ ရတော့ဘူး၊ ဝါဂွမ်းက စားဖို့ရော မြေငှားခအတွက်ပါ စိတ်ချနေရပြီလေ၊ နင့်ကို ငါ အရူးအမူး ချစ်နေတာ ကိုရီမေ"

ဘတ်ချ်၏ အသံက ရင်ထဲက လာသည့် အသံမျိုး။ ကိုရီမေသည် ဦးထုပ်မှ တွဲလောင်း ကျနေသည့် ကြိုးကလေးနှစ်ချောင်းကို ကျစ်နေသည်။ ပြီးတော့ ခပ်တိုးတိုးကလေး ပြော လိုက်၏။

"အင်း... ဖြစ်ချင်လည်း ဖြစ်သွားမှာပေါ့လေ"

"နင် တကယ်ပြောတာနော် ကိုရီမေ၊ ငါ့လောက် ပျော်တဲ့ကောင် လောကမှာ မရှိတော့ ဘူးဟေ့"

ပြောပြောဆိုဆို ဘတ်ချ်က ဖက်နမ်းသည်။

ကိုရီမေသည် ပြုံးပြုံးကလေးနှင့် မျက်လုံးကို လက်ခုံနှင့် ပွတ်ရင်း နွေးထွေးမှုနှင့် စိတ်ချလုံခြုံမှုကို တပြိုင်တည်း ခံစားနေရ၏။

"ငါလည်း နင်နဲ့ဆို ပျော်မှာပါ"

"ဒါဆို ဆောင်းအမီနော်"

"အင်း"

ဘတ်ချ်က ကိုရီမေကို တမြတ်တနိုး ငဲ့ကြည့်သည်။ ပြီးတော့ ဒုတိယအကြိမ် နမ်းဖို့ ဟန်ပြင်၏။ ကိုရီမေက တဖက်ကို တိုးကပ်ပြီး ပြောသည်။

"မလုပ်နဲ့ဟယ်၊ လူတွေ မြင်ကုန်မယ်"

အစ်ကိုနှစ်ယောက် ဆုံးပြီးကတည်းက စိတ်တွေ လေးလံနေသည့် ကိုရီမေသည် ခုမှ ပေါ့ပေါ့ပါးပါး ဖြစ်သွားသည်။ ဘတ်ချ် သူ့အား ဘယ်လောက် ချစ်နေသည်ကို ကိုရီမေ သိနေ ပါသည်။ အစ်ကိုတွေအတွက် ရသည့် အသက်အာမခံငွေထဲက မင်္ဂလာဆောင်ဖို့ အဝတ်အစား ကလေး၊ ဖိနပ်ကလေး ဝယ်ရင် အပြစ် မဖြစ်တန်ကောင်းပါဘူးနော်။ သင်းအုပ်ဆရာရှေ့မှာ နီဂရိုးမတယောက်လို မတ်တတ်ရပ်ပြီး မင်္ဂလာဆောင်ရရင် ဘယ်မှာ သင့်လျော်ပါမည်လဲ။ ဝက်သစ်ချမြိုင်ရုံးခန်းသို့ လာရောက်သည့် ကိစ္စမှာ ကွယ်လွန်သူ အစ်ကိုနှစ်ယောက် ၏ အသက်အာမခံငွေ ထုတ်ဖို့ ဖြစ်၏။ သို့သော် ဗျာပါရုပ် မဆောင်ဘဲ ခပ်ရွှင်ရွှင် ဖြစ်နေသည်။

ဒုစရိုက်မှုတခုကို ကျူးလွန်မိသလို ကိုယ့်ကိုယ်ကိုယ် စိတ်ထဲ ထင်လိုက်မိသည်။

စားပွဲတွင် ထိုင်နေသည့် စာရေးနှင့်တူသူ လူတယောက်က ကိုရီမေကို ပြုံးပြသည်။ ငါ့ပုံကို ကြည့်ပြီး လာရင်းကိစ္စ သိရင် အသည်းနှလုံးမရှိတဲ့ ကောင်မလေးလို့ ထင်မှာပဲဟု ကိုရီမေ တွေးမိ၏။ ဘတ်ချ်ကိုလည်း သူက အပြုံးဖြင့် နှုတ်ဆက်သည်။

စာရွက်ကို လှမ်းယူရင်း သူက လယ်ဂျာစာအုပ်ကြီးကို လှန်သည်။

“အပွဲဂျွန်း ဟုတ်လား၊ အင်း . . . ဟုတ်တယ်၊ ဒီမှာ တွေ့ပြီ၊ ခင်ဗျားနဲ့ ဘာတော်သလဲ မစ္စတာ”

သူက ဘတ်ချ်ကို လှမ်းမေးသည်။

“ကျွန်တော်က ဒီမိန်းကလေးနဲ့ လက်ထပ်မယ့် အမျိုးသားပါ၊ သူက ကွယ်လွန်သူ နှစ်ယောက်ရဲ့နှမ တော်ပါတယ်”

ကိုရီမေ ရှက်ရှက်နှင့် မျက်လွှာချထားလိုက်သည်။

“အသက်အာမခံကို အိမ်သားတယောက်ယောက်ကိုပဲ ထုတ်ပေးရမယ်”

“ကျွန်မက သူတို့ရဲ့ ညီမအရင်းလေ”

စာရေးက မျက်မှောင်ကုတ်ပြီး-

“မင်းအသက်က ဘယ်လောက်ရှိပြီလဲ”

“ကျွန်မ ဆယ့်ငါးနှစ် ပြည့်တော့မယ်”

“ဝမ်းနည်းပါတယ် မိန်းကလေး၊ တရားဝင် အသက်ပြည့်သူကိုပဲ ထုတ်ပေးရမယ်လို့ ကျုပ်မှာ တင်းကျပ်တဲ့ ညွှန်ကြားချက် ရှိနေလို့ပါ၊ အမေ မလာနိုင်ဘူးလား”

ကိုရီမေက ဘတ်ချ်ကို အားကိုးတကြီး လှမ်းကြည့်သည်။ ဘတ်ချ် ဘာပြောရမှန်း မသိဘဲ ဦးနှောက်ခြောက်နေပုံရသဖြင့် ကိုယ်ဘာသာကိုယ် ဆက်ရှင်းသည်။

“ကျွန်မမှာ အမေရော၊ အဖေရော ရှိပါတယ်၊ ဒါပေမဲ့ အမေက တချိန်လုံး ငိုနေတယ်၊ အဖေက ခွာလို့ မရဘူး၊ အဖေ့လက်ထဲ ရောက်သွားရင်လည်း ဒီ ဒေါ်လာတရာ နှစ်ပတ်တောင် ခံမှာ မဟုတ်ဘူး”

စာရေးက နားလည်မှုရှိစွာဖြင့် ခေါင်းညိတ်ပြီး-

"ဒါပေါ့ ဒါပေါ့၊ ကျွန်တော် သဘောပေါက်ပါတယ်၊ ဒါပေမဲ့ ဒီပိုက်ဆံက ကျွန်တော့် ပိုက်ဆံ မဟုတ်ပါဘူး၊ မစ္စတာလန်းရဲ့ ပိုက်ဆံပါ၊ သူ့ညွှန်ကြားချက်အတိုင်း ကျွန်တော် လုပ်ရ ပါတယ်။ ဒီလို လုပ်ပါလား၊ ဒီစာရွက်ကို မစ္စတာလန်းဆီ ယူသွားပြီး အကျိုးအကြောင်း ပြောပြပါလား၊ ဝက်သစ်ချမြိုင်ကို သိတယ် မဟုတ်လား ဟင်"

"သိပါတယ် ရှင့်"

"ဒါဆို မင့်အမျိုးသားကို မောင်းပို့ခိုင်းပေါ့၊ မစ္စတာလန်းဆီက ခွင့်ပြုချက်ရရချင်း ကျုပ် ထုတ်ပေးပါ့မယ်"

ကိုရီမေ စိတ်ပျက်လက်ပျက် သက်ပြင်းချသည်။ နေပူကျဲကျဲကြီးတွင် ခရီးဝေးကြီး သွားရဦးမည်။

"ရပါတယ် ခင်ဗျ၊ ကျွန်တော် မောင်းပို့လိုက်ပါ့မယ်"

သူက စာတစောင် ကောက်ရေးပြီး ခပ်ပြုံးပြုံး မျက်နှာပေးဖြင့် ပြောသည်။

"ကံကောင်းပါစေဗျာ၊ ကံကောင်းပါစေ"

နှစ်ယောက်သား လှည်းပေါ် ပြန်တက်လိုက်ကြပြီး ဘတ်ချ်က မြင်းကို တက်ခေါက် ကာ စမောင်းသည်။ အပြင်တွင် ပူပြင်းလှသည်။ သူတို့ ဘာမျှ မစားရသေး။ ဆိပ်ကမ်းနား ရောက်တော့ ဘတ်ချ်က ငှက်ပျောသီးနှစ်လုံး ဆင်းဝယ်သည်။ ကိုရီမေ စဉ်းစားနေသည်။ ဩော်.... ချမ်းသာသူများ၊ သူတို့ဘက်က တယ်ကာကွယ်တတ်ကြပါလား။

"စာရေးကြီးက သဘောကောင်းပါတယ်နော်" ပြောတော့ ကိုရီမေက "အင်း" လိုက်သည်။

"နင့်အဘိုးကြီး ပြောပြောနေသလို ချမ်းသာတဲ့ လူတွေ သိပ်မဆိုးကြပါဘူးကွာ"

"သူက သူဌေးမှ မဟုတ်တာ၊ စာရေးပဲဟာ"

"ဟုတ်ပါတယ်၊ မစ္စတာလန်းလိုလူကို ပြောတာပါ၊ အသက်အာမခံ ပေးရမယ်လို့ ဥပဒေမရှိဘူး မဟုတ်လား"

"အဲဒါတော့ ငါလည်း မသိဘူး"

"အေးလေ၊ ဘာပဲဖြစ်ဖြစ် ပိုက်ဆံရမယ် ဆိုတော့ နင့်အမေအတွက် ငါ ဝမ်းသာ ပါတယ်၊ တို့ လက်ထပ်ရင် သူ့အတွက် မပူရတော့ဘူးပေါ့"

"တကယ်က ငှက်ဖျားရှိနေမှန်း သူသိရင် လူတွေကို အဲဒီစိမ့်မြေတွေဆီ မပို့သင့်ဘူး"

"ဒါကတော့ကွာ သူ ဘယ်လိုလုပ် သိနိုင်မလဲ"

"သူ သိပါတယ်၊ ငှက်ဖျားတောထဲကို လူတွေ ပို့တာ သူ့တာဝန်ပဲ"

ဘတ်ချ် ခေါင်းကုတ်သည်။

"နင်ပဲ နင့်အစ်ကိုတွေ ဒီအလုပ်ရအောင် စပ်ပေးတာ မဟုတ်လား ကိုရီမေ၊ ငှက်ဖျားနဲ့ ပတ်သက်ပြီး နင်တို့ စဉ်းစားသလောက်ပဲ သူ စဉ်းစားမှာပေါ့ကွာ၊ နင်က အစ်ကိုတွေ ဆုံးတော့ ဘယ်လို ခံစားနေရတယ် ဆိုတာ နားလည်ပါတယ်ဟာ"

"အေး... ဟုတ်တယ်၊ ငါက ညညမှာ ကယောင်ကတမ်း လျှောက်ပြောနေတဲ့ အမေ့ ကို တွေ့နေရတော့ ငါ စိတ်တွေ ပုံမမှန်ချင်တော့ဘူးနဲ့ တူပါတယ်ဟာ"

ဇက်ကြိုးဆွဲထားသည့် လက်တဖက်ကို ဖြုတ်ပြီး ဘတ်ချ်က ကိုရီမေ့ကို သိုင်းဖက် လိုက်သည်။

"အင်း... နင့်ကို ငါ သိပ်သနားတာပဲဟာ၊ နင် ဘယ်လိုဖြစ်နေတယ် ဆိုတာ ငါ သိတယ်၊ နင် ငိုချလိုက်ပါလားဟာ၊ ပြောချင်တာတွေ ပြောချလိုက်၊ ငါ နားလည်နိုင်ပါတယ်"

"နင် နားလည်နိုင်မယ် မထင်ဘူး ဘတ်ချ်"

ကိုရီမေက သူ့ကို မှီလျက် တိုးတိုးကလေး ပြန်ပြောသည်။ နှစ်ယောက်သား ငြိမ်သွား ကြ၏။ ဘတ်ချ်က လှည်းမောင်းနေရင်း ကိုရီမေကို ဆက်ဖက်ထားသည်။

ဘတ်ချ်က ချစ်ဖို့ ကောင်းသည်မှာ မှန်ပါ၏။ ချိုသာသည်၊ ညင်သာသည်၊ လူကောင်း ကလေးတယောက် ဖြစ်သည်။ သို့သော် မိမိကို သူ နားလည်နိုင်မည် မထင်ပါ။ သူ နားလည် သည် ဆိုခြင်းမှာ မိမိ၏ သောကကို နားလည်ခြင်း ဖြစ်၏။ ဒေါသကို နားလည်နိုင်မည် မဟုတ်ပေ။

ဘတ်ချ်သည် အကြောင်းအရာတခုကို ဖြောင့်ဖြောင့်တွေးပြီး

တည့်တည့်မြင်တတ် သူ လူရိုးလူဖြောင့်တယောက် ဖြစ်သည်။ အလေးအနက် နှိုက်ပြီး တွေးတတ်သူ မဟုတ်။ အေးလေ. . . လက်ထပ်ပြီးရင်တော့ သူ ပြောင်းလဲချင် ပြောင်းလဲလာမှာပေါ့ ။ မိမိသည်လည်း သူ့လို အကောင်းမြင်ဝါဒသမား ဖြစ်ချင် ဖြစ်လာမှာပေါ့။

သူတို့ မြင်းလှည်းသည် ဝါခင်းများကို ဖြတ်မောင်းလျက် ရှိ၏။ ဝါပင်များ ပွင့်နေပြီ ဖြစ်၍ နေရောင်အောက်တွင် ဖွေးဖွေးလှုပ်နေ၏။ နောက်ဆုံးတွင်မှ ဝက်သစ်ချမြိုင်အိမ်ကြီး၏ တံခါးဝသို့ ဆိုက်ရောက်လာခဲ့၏။

အိမ်ကြီးကို ဝက်သစ်ချပင်များကြားမှ ဝိုးတဝါး မြင်ရ၏။ မုခ်ဝရောက်တော့ ဘတ်ချ်က လှည်းကို ရပ်လိုက်သည်။ ကိုရီမေက အိမ်အဝင် လမ်းကျယ်ကြီးဆီကို လှမ်းမျှော် ကြည့်လိုက်သည်။

လမ်းတလျှောက်မှ ဝက်သစ်ချပင်များတွင် ရေညှိ ရေမှော်တွေ တွဲလောင်းကျပြီး ဝက်သစ်ချအိမ်ကြီးကို ကွယ်ထားသည့်ကြားမှ စံအိမ်ကြီး၏ အလှသည် အဝေးကပင် မြင်နိုင် လျက် ရှိလေသည်။ စိုက်ပျိုးခြံမြေတွေနှင့် အိမ်မကြီးကို ခြားထားသည့် သံပန်းခြံစည်းရိုးကြီးကို မျက်စိတဆုံး လှမ်းမြင်နေရ၏။ အိမ်ရှေ့ ဝက်သစ်ချရိပ်မှ မြက်ခင်းပြင်မှာ ကတ္တီပါခင်းထားသလို စိမ်းညို ပြန့်ပြူးနေ၏။

ဝက်သစ်ချရိပ်တွင် ပန်းမျိုးစုံ ပွင့်ဖူးဝေဆာလျက် ရှိသည်။ သည်ဝက်သစ်ချပင်တန်း ၏ ဟိုမှာဘက်တွင်တော့ ဘုရင်တပါး၏ နန်းတော်ကြီးတမျှ ကြီးကျယ် ခမ်းနားသည့် ဝက်သစ်ချမြိုင် စံအိမ်ကြီး ရှိလေသည်။ ကျောက်ဖြူသား တိုင်လုံးကြီးတွေက အမိုးအထိ မြင့်မားသည်ဟု ကိုရီမေ ကြားဖူး၏။ ကိုရီမေသည် ဝက်သစ်ချမြိုင် ဒဏ္ဍာရီတွေ အများကြီး ကြားဖူးထားသူ ဖြစ်သည်။ တံခါးလက်ကိုင် အားလုံးနှင့် ဖယောင်းတိုင်ခွက်တွေ အားလုံး ငွေသားစစ်စစ်တွေ တဲ့။ ငွေ့ဝိုက်ပြီး တက်သွားသည့် ကြောင်လိမ်လှေကားကြီးက အိမ်ကြီး၏ ကျက်သရေဆောင် ဟု ဆိုကြသည်။ လိုက်ကာတွေ၊ ခန်းဆီးတွေက ပိုးဖဲ ဘရိုကိတ်တွေချည်းပဲ တဲ့။

ရောမ မဟော်ဂနီအိပ်ရာခုတင်ကြီးတွေက တလုံးတည်းမှာတောင် တအိမ်သားလုံး အိပ်နိုင်သည်ဟုလည်း ကြားဖူး၏။

အိမ်မုခ်ဝကို ရောက်တော့ “ငါ ဒီက ဝင်သွားရမှာလား ဟင်” ဟု ကိုရီမေက ဘတ်ချ် ကို လှမ်းမေးသည်။

“ဒီ အိမ်အဝင်လမ်းမအတိုင်း ဝင်သွားရင် သူတို့ ကြိုက်ချင်မှ ကြိုက်ကြမှာ၊

ဟောဟို ခြံစည်းရိုးနဲ့ယှဉ်ပြီး အိမ်နောက်ဘက်သွားတဲ့ လမ်းတလမ်းရှိတယ်၊ အဲဒီလမ်းအတိုင်း လိုက် သွားရင် အိမ်နောက်ဘက် လှေကားကို ရောက်မယ် ထင်တယ်”

“အေး . . . ဒါဆို စောင့်နေနော်၊ ခဏပဲ ကြာမယ်”

“ငါ လိုက်ခဲ့ရမလား ဟင်”

“နေပါစေ၊ ရတယ်၊ ငါတယောက်တည်း ဝင်သွားမယ်”

ဘတ်ချ် ပြောသည့်လမ်းအတိုင်း လိုက်လာခဲ့သည်။ အိမ်ကြီးထဲသို့ ဘတ်ချ် ပါမလာ စေချင်သည့် အကြောင်းမှာ သူလိုက်လာလျှင် လမ်းတွင် စကားတွေ ပြောလာလိမ့်မည်။ မိမိက တကိုယ်တည်း သည်အိမ်ကြီး၏ အလှကို ခံစားချင်သည်။

ဝက်သစ်ချစံအိမ်ကြီးအကြောင်း ကြားဖူးသမျှတွေမှာ ယုံနိုင်စရာမရှိအောင် ဒဏ္ဍာရီ ဆန်လှသည်။ သည်အိမ်ကြီးကို ရောက်ဖူးချင်နေသည်မှာ ကြာပြီ။ ခုလို အခွင့်အရေးမျိုး နောက်ထပ်ရဖို့ မမျှော်လင့်နိုင်တော့ပေ။

နောက်ဘက်မှ မြင်ရသည့် အိမ်ကြီး၏ မြင်ကွင်းကိုက ရင်သပ်ရှုမောဖွယ်အတိ ဖြစ်နေ၏။ အမိုးအထိမြင့်သည့် ကျောက်သားတိုင်ကြီးများကို အဝေးမှ လှမ်းမြင်ရသည်။ ကျက်သရေ ရှိလှပါ၏။

အိမ်နောက်ဘေး ဆင်ဝင်ဘက်ကို ကိုရီမေ ပတ်လျှောက်သွားသည်။ စံအိမ်ကြီး၏ နောက်ပိုင်းတွင် အစေခံတန်းလျားတွေ ရှိသည်။ လူမည်းတွေ အေးအေးဆေးဆေး သွားလာ လှုပ်ရှားနေကြ၏။ နီဂရိုးမကလေးများ အားလုံး ဖိနပ်စီးထားကြ၏။ အဝတ်အစား သေသေ သပ်သပ် ဝတ်ထားကြ၏။

ကိုရီမေသည် ကိုယ့်ကိုယ်ကိုယ် ငုံ့ကြည့်လိုက်မိသည်။ ထွက်လာတုန်းက သေသေ သပ်သပ် ဖြစ်အောင် လုပ်ခဲ့ပါလျက် ခုတော့ တကိုယ်လုံး ဖုန်နိုင်းချင်းနှင့် ဖြစ်နေပြီ။ ဖိနပ် မပါသည့် ခြေထောက်တွေကလည်း မည်းသည်းနေ၏။

အိမ်မကြီးနား ရောက်တော့ သွားရည်ယိုချင်စရာ အသားကင်နံ့က ကိုရီမေကို ဆီးကြို နေ၏။ အင်း . . . ညတိုင်း ဒီလို အသားကင်နဲ့များ စားရရင် ဘယ်လောက် ကောင်းလိုက်မလဲဟု တွေးမိ၏။ ကိုရီမေ တွေးပြီး လန့်လာသည်။ သည်လို ပတ်ဝန်းကျင်တွင် မိမိလို စုတ်စုတ် ပြတ်ပြတ် မိန်းကလေး ဘာလာလုပ်တာလဲဟု နီဂရိုးတယောက်ယောက်က လှမ်းမေးမှဖြင့်။

စာရေးလုပ်သူ ရေးပေးလိုက်သည့် စာကို အိတ်ထဲနှိုက်ပြီး

စမ်းကြည့်လိုက်သည်။ အို. . . လာခွင့်ရှိလို့ လာတာပဲဟု အားတင်းလိုက်၏။ နှစ်ထပ်တန်းလျားတလုံး၏ ဝရန်တာအရိပ် တွင် ရေခဲသစ်သားစည်ကြီးကို ခွထိုင်ပြီး လှည့်နေသော နီဂရိုးတယောက်ဆီကို လျှောက်သွား သည်။ သူ ရေခဲမုန့်လုပ်နေခြင်း ဖြစ်၏။ တပေါင်ကို ၂၅ ဆင့်တန်သည့် ရေခဲတွေကို အလျှံ ပယ် သုံးနေခြင်း ဖြစ်သည်။ တန်ဖိုးကို စဉ်းစားကြည့်တော့ ကိုရီမေ မျက်လုံးပြူးသွား၏။

မရွံ့မရဲနှင့် သူ့အနား ကပ်သွားပြီး မေးလိုက်သည်။

"မစ္စတာလန်း အိမ်မှာရှိလား ဟင်"

သူက လှည့်ကြည့်ပြီး ပြန်မေးသည်။

"ဘာပြောတယ်"

"ကိစ္စတခုရှိလို့ မစ္စတာလန်းဆီ လာတာ၊ သူ အိမ်မှာ ရှိသလားလို့ပါ

"စောစောကလေးက ပြန်ရောက်တယ်၊ သွား တံခါးခေါက်ကြည့်လေ"

ကိုရီမေ ဆက်လျှောက်သွားပြီး နောက်ဖေးတံခါးကို ခေါက်သည်။ တံခါးဖွင့်ထား သည်ကို တွေ့ရ၏။ အပြင်တွင် နေပူနေသော်လည်း အထဲတွင် အလင်းရောင်ပျပျသာ ရှိ၏။ ရောမအိမ်ကြီးပါလား။ မြည်းတအုပ်လုံး မောင်းပြီး ဝင်သွားနိုင်မည် ထင်၏။

ခန်းမကြီး၏ တဖက်တချက်တွင် အခန်းတွေ အခန်းတွေကလည်း မနည်းမနော။ အိမ်ရှေ့ပိုင်းကို လှမ်းမြင်ရသည်။ အားလုံး အဖြူရောင် သုတ်ထား၏။ အိမ်ရှေ့တံခါးမကြီး လည်း ပွင့်နေ၏။ ကျောက်ဖြူသား တိုင်ကြီးများနှင့် ဝက်သစ်ချတန်းကိုလည်း တိုးလျှိုပေါက် မြင်နေရ၏။

တံခါးခေါက်သံ ကြားတော့ ကပြားမကလေးတယောက် ထွက်လာသည်။ ကော်တောင့် နေသည့် ဂါဝန်အပြာနှင့်။ ခေါင်းပေါ်တွင် သိုးမွေးတဘက်ကလေး ခြုံထား၏။ နားရွက်တွင် ရွှေနားဆွဲကလေး တွဲလဲကျလျက်။ ကိုရီမေသည် အဝတ်အစား ကောင်းကောင်းမွန်မွန် ဝတ်ထားသူများရှေ့တွင် သိမ်သိမ်ငယ်ငယ် ဖြစ်တတ်၏။ အို... သူက လူမည်း၊ ငါက လူဖြူပဲ ဟု အားတင်းကာ လာရင်းကိစ္စ ပြောလိုက်ပြီး စာရေးဆီက စာရွက်ကလေးပါ ကမ်းပေး လိုက်သည်။

"ကောင်းပြီလေ၊ ခဏ စောင့်ပါ"

ပြောပြီး ကောင်မလေး လှည့်ထွက်သွားသည်။

ကိုရီမေ အတွင်းသို့ လှမ်းဝင်လိုက်သည်။ အလို.. တံခါးလက်ကိုင်က တကယ့် ငွေသားစစ်စစ်ပါကလား။ ဖိတ်ဖိတ်လက်နေသော တံခါးလက်ကိုင်ဖုတွင် လက်ရာထင် သွားသဖြင့် အင်္ကျီလက်မောင်းနှင့် သုတ်လိုက်၏။ ပတ္တာတွေကို ကြည့်လိုက်သည်။ အလားတူ ငွေသားတွေချည်း ဖြစ်၏။

နိမ့်လျှောလျှော၊ အဆင်းလမ်းယောင်ယောင် စင်္ကြံအတိုင်း ရှေ့နည်းနည်း တိုးဝင် သွား၏။ ကြမ်းပြင်ပေါ်တွင် သူ့ခြေရာတွေ ထင်ကုန်သည်။

အပေါ်ထပ်သို့ ဝေ့ဝိုက်တက်သွားသည့် ရောမလှေကားကြီးက ဘာလို့ ပြိုမကျပါလိမ့်။ လှေကားအောက်တွင် တိုင်မရှိ၊ ဒေါက်မရှိ၊ လေထဲတွင် ဝဲနေသလို ထင်ရ၏။ လှေကား လက်ရန်းတိုင်တွေက ဖောင်းကြွ ကနုတ်ပန်းတွေ။

အင်း. . . ဒီလှေကားကြီးကို ဖုန်သုတ်ရရင် တော်တော်စိတ်ညစ်စရာ ကောင်းမှာပဲဟု မဆီမဆိုင် တွေးလိုက်မိ၏။ သို့သော် အိမ်စေတွေက အစွမ်းကုန် တိုက်ထားပုံရ၏။ ဖုန် တမှုန်မျှ မရှိဘဲ ပြောင်လက်နေသည်။

ရှေ့ပိုင်းမှ သတင်းစာဖြန့်သံနှင့်အတူ မစ္စတာလန်း၏ အသံ ကြားလိုက်ရသည်။

“ကျေးဇူးပဲ ဘာသာ၊ အဲဒီ မိန်းကလေး ဘယ်မှာ စောင့်နေတာလဲ၊ နောက်ဖေးမှာ လား”

“ဟုတ်ကဲ့ရှင့်”

"အေး... ငါ လာခဲ့မယ်"

လှေကားခုံအကွယ်မှ သူ ထလာသံ ကြားရ၏။ သတင်းစာ ချိုင်းညှပ်ပြီး စာရွက်ကလေး ငုံ့ဖတ်နေသည်ကို အိမ်ရှေ့မှ တိုးဝင်နေသည့် အလင်းရောင် နောက်ခံဖြင့် လှမ်းမြင်ရ၏။ ထိုစဉ်တွင် ရောမရထားလုံးကြီးတစီး အိမ်ရှေ့တွင် ထိုးဆိုက်လာသည်။

မစ္စတာလန်းက အိမ်ရှေ့တံခါးမကြီးဆီသို့ ပြန်လှည့်သွားပြီး ဧည့်သည်တွေကို ဝမ်းသာ အားရ ကြိုသည်။ အစေခံတွေလည်း ပြေးထွက်လာကြ၏။

“ဟေး... လာကြ၊ လာကြ၊ ဝင်ကြ”

ပြတင်းပေါက်များတွင် အစိမ်းရောင် ပိုးလိုက်ကာတွေ တပ်ဆင်ထားသည်။ သည်ရထား ကြီးကို ကိုရီမေ မြင်ဖူးသည်။ သစ်ဖြူတောမှ ရထားကြီး။ ရထားထိန်းက

ဦးထုပ်ရှည်ကြီးကို မြှောက်ပြီး မစ္စတာလန်းကို နှုတ်ဆက်သည်။

ရထားထဲမှ လူရွယ်တယောက်နှင့် မစ္စအန်းရှာရမီ ဆင်းလာသည်။ လူရွယ်က အန်းရှာရမီ၏ အစ်ကို သစ်ဖြူတောမှ ဂျယ်ရီရှာရမီ ဖြစ်သည်။ ဆိပ်ကမ်းတဝိုက်တွင် သူ့ကို ကိုရီမေ မကြာခဏ တွေ့ဖူးသည်။ သူ့ကိုယ်ပေါ်မှ ဝတ်ကောင်းစားလှများသည် သူ့ရုပ်နှင့် တခြားစီ ဖြစ်၏။ တွေ့ဖူးသမျှထဲတွင် အရုပ်အဆိုးဆုံး လူတယောက်ဖြစ်သည်ဟု ကိုရီမေ ထင်၏။

ဆံပင်က သဲရောင်၊ မျက်လုံးတွေက ကြောင်တောင်တောင်၊ လူက အရုပ်ရှည်ရှည် ကလန်ကလားနှင့်။ သူ့ကိုယ်တွင် အချိုးအစားကျတာ တခုမျှ မရှိ။ နားရွက်တွေက ကြီးလွန်း ပြီး ရယ်လိုက်လျှင် နဂိုပြဲသည့် ပါးစပ်ကြီးက နားတဖက်ဆီကို ရောက်သွားမလား အောက်မေ့ ရ၏။

မစ္စတာလန်းက ဂျယ်ရီရှာရမီကို လှမ်းနှုတ်ဆက်ရင်း မစ္စအန်းရှာရမီကို လက်တွဲ ဆင်းပေး၏။

အန်းရှာရမီက "အန်းတို့ အစောဆုံးလား ဟင်" ဟု မေးသည်။

"ဟုတ်တယ် အန်း၊ စောစောရောက်တော့ ကိုယ် စောစောဝမ်းသာရတာပေါ့"

ဘယ်လောက် ကျက်သရေရှိသည့် မစ္စအန်းပါလဲ။ နှင်းဆမ်းပန်းကလေးလို လန်းဆန်း နေ၏။ အစိမ်းရောင်ဂါဝန်၊ အစိမ်းရောင်ဦးထုပ်နှင့် ဇာပဝါကလေး ခြုံလျက်။ ပြီးတော့ ခပ်ညည်းညည်းကလေး ပြောသည်။

"ရထားထဲမှာ ပူလိုက်တာ၊ ဒီဆင်ဝင်အောက်မှာ ထိုင်ရရင် ကောင်းမယ်နော်၊ အေးနေ တာပဲ"

မစ္စတာလန်းက သဘောတူသည်။

"ကောင်းသားပဲ၊ ဒီက လေပိုရတာပေါ့"

သူက ကုလားထိုင်တွေ ဆွဲခင်းပေးရင်း အစေခံတယောက်ကို ဝိုင်ယူခဲ့ဖို့ လှမ်းပြော လိုက်သည်။

ကိုရီမေသည် သူ့ကိုယ်သူ သတိမထားမိဘဲ မသိမသာကလေး ရှေ့ကို တိုးသွားနေမိ၏။ သူတို့ကို ကြည့်ရသည်မှာ ခမ်းနား ထည်ဝါလွန်းလှပါကလား။

မစ္စအန်းသည် ဂါဝန်ရှည်ကြီး တရွှမ်းရွှမ်းနှင့် လျှောက်လာပြီး ဦးထုပ်ကို

အိမ်ဖော် မိန်းကလေးတဦးအား လှမ်းပေးလိုက်သည်။ ဇာခြုံလွှာကို တခြားတယောက်သို့ ပေး လိုက်၏။

အစ်ကိုလုပ်သူ ကိုရုပ်ဆိုး ဂျယ်ရီ၏ ဖိနပ်မှာ မှန်ကြည့်လို့ ရအောင် ပြောင်လက်နေ၏။ သူက သံပရာခွံရောင် လက်အိတ် စွပ်လာသည်။

ဝင်ထိုင်ရင်း ဂျယ်ရီက ဒင်းနစ်လန်း၏ လက်ထဲမှ သတင်းစာကို လှမ်းကြည့်သည်။ ပြီးတော့ မေးသည်။

"ကမ္ဘာကြီး ဘာဖြစ်နေပြီလဲကွ၊ ကိုယ်တော့ ဒီနေ့ သတင်းစာ မဖတ်ရသေးဘူး"

"ထုံးစံအတိုင်းပါပဲကွာ၊ မစ္စတာဘာကနန်က သူ ထပ်အရွေးမခံဘူးလို့ ပြောနေပြန်ပြီ၊ ကာရိုလိုင်းနားတောင်ပိုင်း ခွဲထွက်ဖို့ ဆိုတာ ခုထိ အဆင်မပြေသေးဘူး"

မျောက်မျက်နှာနှင့် တူသည့် မျက်ခွက်ထဲမှ မျက်လုံးများ ပြူးထွက်လာပြီး ဂျယ်ရီ ဆက်ဝေဖန်သည်။

"လုပ်ပြန်ပြီလား၊ ဒီမယ် ဒင်းနစ်၊ သူတို့ ခွဲထွက်မယ် ခွဲထွက်မယ် လုပ်နေတာ ကမ္ဘာလောက် ကြာပြီပဲ၊ ခုတခါကော တကယ်ပြောတာလို့ မင်း ထင်လား"

"တကယ်ပြော မပြော ဆိုတာ သူတို့ကိုယ်တိုင်ကလွဲပြီး ဘယ်သူမှ မသိနိုင်ဘူး ဂျယ်ရီ၊ မြောက်ပိုင်းက လူတွေကတော့ ဒီကိစ္စ လုံးဝ ခေါင်းထဲမှာ မထားကြတော့ဘူး"

ခွဲထွက်သည် ဆိုသည့် စကားလုံးကို ကိုရီမေ နားမလည်။ ဘယ်က ဘယ်ကို ခွဲထွက် မှာပါလိမ့်။ အန်းက လှေကားထစ်တခုပေါ် ဝင်ထိုင်ပြီး ကျောက်ဖြူသား တိုင်ကြီးကို မှီကာ စကားစတော့မှ ကိုရီမေ ရေးတေးတေး ဖြစ်လာသည်။

"ကာရိုလိုင်းနား တောင်ပိုင်းက ဘယ်လိုလုပ်ပြီး ပြည်နယ်တနယ် ဖြစ်လာနိုင်မှာလဲ"

ဒင်းနစ်က ဆက်ရှင်းပြသည်။

"သူတို့ကလည်း ပြည်နယ်အဆင့်ရဖို့ မမျှော်လင့်ပါဘူး၊ သူတို့ ပွဲလှန့်လိုက်ရင် တောင်ပိုင်းတခွင်လုံး သူတို့နောက် ပါလာမယ် အောက်မေ့ပြီး လှုပ်ရှားနေတာပါ"

အန်းက နှာခေါင်းရှုံ့ပြီး-

“လူဝီစီးယားနားကော ပါမှာလား၊ ဒါဆို ကျွန်မတို့ နယူးယောက်ကို ပေးနေရတဲ့ အခွန်အပြင် ထပ်တိုးလာတော့မှာပေါ့၊ ကျွန်မတော့ အဓိပ္ပာယ်ရှိတယ် မထင်ဘူး”

“အဲဒီလိုတော့ ဘယ်အဖြစ်ခံမလဲကွာ”

ဒင်းနစ်က ပြုံးပြီး ပြောသည်။

“မင်း တကယ် အဲဒီလိုထင်လား ဒင်းနစ်”

“ပွင့်ပွင့်လင်းလင်း ပြောရရင်တော့ မထင်ဘူး၊ တကယ့် တကယ်မှာ တို့တတွေရဲ့ တိုင်းပြည်ဟာ နှစ်ခြမ်းကွဲနေတာ”

ဂျယ်ရီက ကုလားထိုင် နောက်ကျောကို ပစ်မှီလိုက်ပြီး ခြေထောက် ဆန့်လိုက်ရင်း-“အဖေက ခွဲထွက်ရေးကို အမြဲဆန့်ကျင်တယ်၊ အပြင်းအထန် ဆန့်ကျင်တယ်၊ ဒါ သဘာဝကျတယ်လေ၊ သူက စစ်သားဟောင်းကြီးကိုး။ ဒါပေမဲ့ သူ ပြောတာက အဓိပ္ပာယ် ရှိတယ်၊ ပြည်ထောင်စုတော့ အကွဲမခံဘူး၊ မြောက်ပိုင်းက ဝင်တိုက်မှာတဲ့”

ဒင်းနစ်က တုံ့ပြန်သည်။

“ငါတော့ သိပ်နားမလည်ဘူး၊ ငါတို့ကို သူတို့ မကြိုက်ဘဲနဲ့ ဘာလို့ ခွဲထွက်ဖို့ကျတော့ ခွင့်မပြုနိုင်တာလဲ”

ဂျယ်ရီ ရယ်သည်။

“သူတို့က တို့ကို မကြိုက်တာ မှန်တယ်၊ ဒါပေမဲ့ တို့နဲ့တော့ တတိုင်းပြည်ထဲမှာ နေချင်တယ်ကွ၊ ငါ့အဖေ ဗိုလ်မှူးကြီး ပြောတာ မှန်တယ် ဒင်းနစ်”

ဒင်းနစ်က မနှစ်မြို့ဟန်ဖြင့် -

“သိပ်အတွေးမခေါင်ပါနဲ့ ဂျယ်ရီရာ၊ ခွဲထွက်ဖို့ ပြောမိတာလေးလောက်နဲ့တော့ သူတို့ လာမတိုက်တန်ကောင်းပါဘူး”

ဂျယ်ရီက အေးစက်စက်အသံဖြင့် ပြန်ပြောသည်။

“အဲဒီအတွက်နဲ့တော့ လာမတိုက်ဘူးပေါ့ကွာ၊ ဒါပေမဲ့ သူတို့ လက်စွဲစာအုပ်အရ လာတိုက်မှာ၊ လူတိုင်းအတွက် စစ်တိုက်ဖို့က အဓိကတဲ့လေ။ မစ္စစ်စပီမြစ်ဝကို နိုင်ငံခြားသား တွေ လက်ထဲမှာ မြောက်ပိုင်းက

ဆက်မထားနိုင်တော့ဘူး၊ ပြီးတော့ မြောက်ပိုင်းက စက်ရုံ တွေဟာ ဝါဂွမ်းကုန်ကြမ်းအတွက် သွင်းကုန်လိုင်စင်ခွန်တွေ မပေးနိုင်ကြတော့ဘူး။ အဲဒီ အခြေခံတွေနဲ့၊ အဲဒီအခြေအနေနဲ့ ပတ်သက်နေတဲ့ လူတွေက စစ်တိုက်ချင်နေကြတာ”

ဒင်းနစ် ပခုံးတွန့်လိုက်သည်။

ဆင်ဝင်အောက်မှ ထွက်လာသည့် အမွေးပွ ခွေးပုကလေး၏ ခေါင်းကို ပွတ်ရင်း အန်းက စကားဝိုင်းထဲ ဝင်လာသည်။

“ ရှင်တို့ ယောက်ျားတွေဟာ သိပ်ပြီး တဆိတ်ကို တအိတ်လုပ်ချင်ကြတာပဲ၊ ပျော်စရာ ရွှင်စရာကလေးများလည်း ပြောကြဦးမှပေါ့ ၊ နိုင်ငံရေးတွေ ကျွန်မ ငြီးငွေ့လှပြီ။ တခါလာလည်း အင်္ဂလန်က ပဒေသရာဇ်စနစ် ကန့်သတ်ရေး၊ တခါလာလည်း လွတ်လပ် ရေး၊ တော်လှန်ရေး၊ ညီညွတ်ရေး၊ ဖျက်သိမ်းရေး၊ ခွဲထွက်ရေး။ ဟာ.. ရှုပ်ယှက်ကို ခတ်နေ တာပဲ၊ အန်းတော့ အဲဒါတွေ တဝက်တောင် မသိဘူး၊ အဲဒါတွေ ငြင်းခုံနေတဲ့ လူတွေလည်း အန်းနဲ့ အတူတူလို နေမှာပါပဲ”

သူပြောပုံကို သဘောကျပြီး အမျိုးသားနှစ်ယောက် ရယ်ကြသည်။ သူတို့ ပြောနေသည့် အကြောင်းအရာတွေကို ကိုရီမေ နားမလည်ပါ။ သို့သော် စိတ်ဝင်စားနေ၏။ အဖေ ပြောပြော နေသဖြင့် သည်လိုစကားလုံးများကို ကြားဖူးပါသည်။ သို့သော် သူတို့ ပြောပုံက တမျိုး၊ ဆိပ်ကမ်းရပ်ကွက်မှ စကားဝိုင်းနှင့် လားလားမျှမတူ။ သူတို့ စကားဝိုင်းက ပိုနားထောင် ကောင်းသည်။

ကိုရီမေ၏ ခေါင်းပေါ်မှ လှေကားထစ်များနှင့် ဂါဝန်ရှည်ကြီး ပွတ်တိုက်ဆင်းလာသံ ကြားလိုက်ရသည်။ လှေကားဝိုင်းကြီးမှ အရပ်မြင့်မြင့်နှင့် အမျိုးသမီးကြီးတယောက် ဆင်းလာ သည်။ အဖြူရောင် ဂါဝန်နှင့်၊ မုဆိုးမ အမျိုးသမီးများ ဆောင်းသည့် အနက်ရောင် ဇာနားကွပ်နှင့် ဦးထုပ်ကလေး ဆောင်းလျက်။ လက်တဖက်က ကလေးမကလေးတယောက်ကို တွဲလာ၏။

အမျိုးသမီးကြီး ဆင်းလာသည်ကို မြင်တော့ ဆင်ဝင်အောက်မှ သုံးယောက်သား တပြိုင်တည်း ထရပ်ပြီး အရိုအသေပြုကြ၏။

မောင်နှမနှစ်ယောက်က ပြိုင်တူ နှုတ်ဆက်သည်။

“မင်္ဂလာပါ မစ္စက်လန်း”

“မင်္ဂလာပါကွယ်၊ မင်္ဂလာပါ”

ဂျယ်ရီနှင့် ဒင်းနစ်က ဦးညွှတ်နှုတ်ဆက်၏။ အန်းက ဒူးညွှတ်နှုတ်ဆက်၏။ အဘွားကြီး က အန်း၏ ပါးကို နမ်းရင်း တုံ့ပြန်သည်။

"သမီးကို တွေ့ရတာ ဝမ်းသာပါတယ်"

သို့သော် မစ္စက်လန်း၏ လေသံမှာ ဝတ်ကျေဝတ်ကုံ သဘောမျှသာ ဖြစ်၏။

"ကျေးဇူးတင်ပါတယ် မစ္စက်လန်း၊ ဖိတ်တဲ့ အတွက်လည်း ဝမ်းသာပါတယ်"

အမျိုးသမီးကြီးနှင့် စကားပြောရသည့် ဝဋ်မှ ကျွတ်သွားသလို အန်းက စိတ်လက် ပေါ့ပါးစွာဖြင့် ဒင်းနစ်၏ ညီမလေး စင်သီယာကို ဖက်လိုက်သည်။

"ကြည့်စမ်း. . . ထွားလာလိုက်တာ၊ စင်သီယာကလေး ဘယ်နှနှစ်ရှိပြီလဲ ဟင်"

"ဆယ်နှစ်"

"အောင်မယ်လေး. . . ကြည့်ပါဦး၊ အရမ်းချောလာမှာ၊ ဂါဝန်ကလေးကလည်း လှလိုက် တာကွယ်"

စင်သီယာက အလွန် သဘောကျသွားပုံဖြင့် အန်းကို မော့ကြည့်ပြီး-

"မမအန်း တကယ် သဘောကျလို့လား ဟင်"

"တကယ်ပေါ့ကွယ်၊ ဟောဒီ ဖဲကြိုးအနက်ကလေးတွေက စင်သီယာရဲ့ အနက်ရောင် ဆံပင်နဲ့ ဟပ်နေတာပဲ"

"တနေ့မှာ သစ်ဖြူတောကို စင်သီယာ လာခဲ့ဦးမယ်၊ မမအန်း ပြင်သစ်က ဝယ်လာ တဲ့ အဝတ်အစားတွေ ကြည့်ချင်လို့"

"လာခဲ့လေကွယ်၊ ကြိုက်တဲ့ အချိန် လာနော်"

"ဒါဆို မနက်ဖြန် လာမယ်၊ စင်သီယာ မြင်းကလေးတကောင် ရထားတယ်၊ စီးပြီး လာခဲ့မယ်နော်"

"ကောင်းတာပေါ့ကွယ်"

"ဟာ... ပျော်စရာကြီး၊ မေမေ သမီး သွားမယ်နော်"

"အန်းအတွက် သမီး အနှောင့်အယှက် ဖြစ်နေပါဦးမယ်ကွယ်"

အဘွားကြီးက ပြုံးပြီး ခပ်ဟန့်ဟန့် ဝင်ပြောသည်။

"မဖြစ်ပါဘူးရှင်၊ အန်းက ကလေး ချစ်တတ်ပါတယ်"

မစ္စအန်းရှာရမီသည် အလွန်ချစ်ဖို့ ကောင်းသည့် အမျိုးသမီး ဖြစ်သည်။ မစ္စက်လန်း ဘာကြောင့် သဘောမကျတာပါလိမ့်။ ကိုရီမေကတော့ သဘောကျနေ၏။

အဘွားကြီးက သားလုပ်သူကို မေးသည်။

"သား ? ? ? ခန်းမထဲမှာ စောင့်နေတာ ဘယ်က မိန်းကလေးလဲ"

ဒင်းနစ် ခုန်ထသည်။

"ဟာ . . ကျွန်တော် မေ့နေတယ်၊ ဒုက္ခပါပဲ၊ ကျွန်တော့်ကို ခဏလေး ခွင့်ပြုကြပါ"

ဒင်းနစ် အိမ်ထဲ ပြန်ဝင်လာပြီး ဟိုဟိုသည်သည် ကြည့်သည်။ ကိုရီမေက လှေကား မှောင်ရိပ်တွင် ခိုပြီး ရပ်နေ၏။ သည်အနားထိ ဝင်လာတာ ကြိုက်မှ ကြိုက်ပါ့မလားဟုလည်း စိတ်ပူနေ၏။

"ကျွန်မ ဒီမှာပါ မစ္စတာလန်း"

"သြော်.... မင်းက အပ္ပဂျွန်း ညီအစ်ကိုရဲ့ ညီမနော်"

"ဟုတ်ကဲ့ရှင့်"

ကိုရီမေက အင်္ကျီလက်ဖျားကို ဆွဲလိမ်ရင်း-

"မစ္စတာလန်းရှင့် ...... ကျွန်မ . ကျွန်မ ဒီနေ့ ညေ့ခံပွဲရှိမှန်း သိရင် မလာပါဘူး"

"ရပါတယ်ကွယ်၊ ကြီးကြီးကျယ်ကျယ် မဟုတ်ပါဘူး၊ မိတ်ဆွေ အပေါင်းအသင်း နည်းနည်းပါးပါး ဖိတ်ကျွေးတာပါ"

သူက ကိုရီမေ အနေအထိုင် မကျပ်စေရန် ရှင်းပြသည်။ လူမည်းအစေခံတယောက် သူတို့ကို ဖြတ်လျှောက်သွား၏။ လက်ထဲမှ ဗန်းထဲတွင် ခါးသိမ်သိမ် ဖန်ခွက်များနှင့် ဝိုင်ပုလင်း တင်လျက်။

“ကျုပ်စာရေး ရေးပေးလိုက်တဲ့ စာအရဆိုရင် ရှင်းနေပါတယ်ကွယ်”

“ဒါဆို အသက်အာမခံငွေ ကျွန်မ ထုတ်လို့ ရမှာပေါ့နော်”

“အို… ရရမှာပေါ့၊ မင်းမှာ သေမှုသေခင်းဆိုင်ရာ စာရွက်ပါသလား”

“ရှင် … သေမှုသေခင်း ဟုတ်လား”

“သူတို့ ဘာရောဂါနဲ့ သေရတယ်ဆိုတဲ့ စာရွက်ပြောတာလေ”

“သြော် .. ဟုတ်ကဲ့၊ ပါပါတယ်၊ ဒီမှာလေ”

“အေး… ဟုတ်ပြီ၊ ကျေးဇူးပဲ”

သူက ပြောပြောဆိုဆို နံရံမှ ကုလားထိုင်တလုံး ဆွဲပြီး-

“ကဲ… ထိုင်ပါဦး၊ မင်း အဝေးကြီးက လာခဲ့ရတာ ပင်ပန်းမှာပေါ့၊ ခွင့်ပြုမိန့် ကျုပ် ချက်ချင်း ရေးပေးလိုက်ပါ့မယ်”

သူ လှည့်ထွက်သွားပြီး အခန်းတခန်းထဲသို့ ဝင်သွားသည်။ ကိုရီမေ ထိုင်ချလိုက်၏။ သူလည်း မစ္စအန်းလိုပင် အလွန်ယဉ်ကျေးသိမ်မွေ့လွန်းပါကလား။ အလွန်မတန် မွန်ရည်သူပဲ။ အဖေ့အမြင်တွေ မှားနေကြောင်း သဘောပေါက်လာ၏။

စင်သီယာလန်းကို အန်းက အိမ်ထဲ ဆွဲခေါ်လာသည်။ ကိုရီမေ ထိုင်နေသည့် ကုလားထိုင် နှင့် တိုက်မိမည်လုပ်မှ အန်းက မြင်သွားပြီး-

“အိုး… မတော်လို့နော်” ဟု အန်းက တောင်းပန်သည်။ စင်သီယာကလေးက ကိုရီမေကို အထူးအဆန်းသဖွယ် ကြည့်နေ၏။ နေကာဦးထုပ်ဆောင်းပြီး ခြေထောက်တွင် ဖိနပ်မပါသည့် မိန်းကလေးမျိုးကို စင်သီယာ မမြင်ဖူးပေ။

“ကျွန်မ အစ်ကိုကို တွေ့ချင်လို့ စောင့်နေတယ် ဆိုတာလား ဟင်” ကိုရီမေက အူကြောင်ကြောင်နှင့် ထရပ်ပြီး-

“ဟုတ်ကဲ့ပါရှင့် … အဲ… မမ မစ္စအန်းရှင့်၊ ဒီက မလေးနဲ့ မမနဲ့ ဒီအနားမှာ နေမယ် ဆိုရင် ကျွန်မ အိမ်နောက်ဖေးမှာ သွားစောင့်ပါမယ်နော်”

“အို…. ကိစ္စမရှိပါဘူး၊ ထိုင်ပါ၊ ဆက်ထိုင်ပါ၊ မစ္စတာလန်းနဲ့ တွေ့ပြီးပြီလားဟင်”

"ဟုတ်ကဲ့ မမ၊ တွေ့ပြီးပါပြီ၊ သူ ကျွန်မအတွက် ထောက်ခံစာ သွားရေးနေပါတယ်"

"ထောက်ခံစာ ဟုတ်လား၊ ဘယ်လို ထောက်ခံစာလဲ ဟင်"

"ကျွန်မအစ်ကိုတွေအတွက် အသက်အာမခံထုတ်ဖို့ကိစ္စပါ မမ၊ သူတို့ နှစ်ယောက် စလုံး ငှက်ဖျားမိပြီး တောထဲမှာ ဆုံးသွားကြပါတယ်"

"အို.. ဖြစ်မှ ဖြစ်ရလေကွယ်၊ စိတ်မကောင်းလိုက်တာ"

အန်းရှာရမီ စုတ်တသပ်သပ် ပြော၏။

"ဟုတ်ကဲ့၊ ကျေးဇူးတင်ပါတယ် မမ"

စောစောက လူမည်းအစေခံ ပြန်ဝင်လာသည်။

"မေမေကြီးက မေးခိုင်းလို့ပါ ခင်ဗျာ၊ မမလေးအန်း ရှယ်ရီဝိုင် သောက်မှာလားတဲ့"

"အေး အေး သောက်တာပေါ့၊ ဟဲ့... နပိုလီယံ၊ ဒီက အစ်မလေးအတွက်ရော တခွက်ယူခဲ့"

ကိုရီမေ အံ့သြသွားသည်။ အစေခံလုပ်သူလည်း အံ့သြသွားပုံရ၏။ သို့သော် ခိုင်းသည့် အတိုင်း လုပ်သည်။ မစ္စအန်းက ဖန်ခွက်ကို ကမ်းပေးရင်း ပြောသည်။

" ရော့ သောက်လိုက်၊ ခရီးဝေးကြီး လာခဲ့ရတော့ မင်း ပင်ပန်းလာမှာပဲ၊ နေကလည်း ပူလိုက်ပါဘိနဲ့၊ မင်း လမ်းလျှောက်လာတာတော့ မဟုတ်ပါဘူးနော်"

"ကျွန်မသူငယ်ချင်းရဲ့ လှည်းနဲ့ လာခဲ့တာပါ မမ"

ကိုရီမေသည် ဖန်ခွက်ကို သေသေချာချာကိုင်ပြီး ပြန်ထိုင်လိုက်သည်။ ပြီးတော့ အရသာရှိလှသည့် ဝိုင်ကို တစက်ကလေး မဖိတ်ရအောင် သတိထားပြီး တစိမ့်စိမ့် သောက် သည်။ မစ္စအန်း ဖန်ခွက်ကိုင်နည်းအတိုင်း လိုက်ကိုင်သည်။

စင်သီယာက တိုးတိုးကလေး ကပ်ပြောသည်။

"စင်သီယာ မြည်းကြည့်ချင်တယ် မမအန်း"

"ဟာ... မလုပ်နဲ့ စင်သီယာ၊ မမအန်း မတိုက်ရဲဘူး၊ အဘွားကြီး အကြောင်း

သိသားနဲ့”

“ဟုတ်ပါတယ် မမအန်း၊ ဒါပေမဲ့ အစ်ကိုဒင်းနစ်ကတော့ စင်သီယာ စမ်းချင်ရင် စမ်းခွင့် ပေးတယ်”

“ဒီအိမ်ကြီးမှာ ဒင်းနစ် လုပ်နိုင်ပြီး မမ မလုပ်နိုင်တာတွေ အများကြီး စင်သီယာရဲ့၊ ကဲ . . ကဲ... ဘာမှ မဖြစ်တန် ကောင်းပါဘူး၊ နည်းနည်း မြည်းကြည့်နော်”

ရောမ စကတ်ကြီး မပြီး စင်သီယာဘက် တိုးသွားသည်။

“အင်း... ကြိမ်ခွေ ခါးမှာ ဝတ်ရတာကလည်း တဒုက္ခ”

စင်သီယာ့ခေါင်းပေါ် ကျော်ပြီး အန်းရှာရမီက ကိုရီမေ့ကို လှမ်းပြောသည်။ ခါးပေါ် တွင် ကြိမ်ခွေတင်ပြီး စကတ်ဝတ်ရလျှင် ဘယ်လိုနေလဲဟု ကိုရီမေ တွေးကြည့်နေ၏။ တခါမျှ မဝတ်ဖူးသေး။ ဘယ်လို ဝတ်နိုင်မည်နည်း။ ကြိမ်ခွေတခွေ၏ တန်ဖိုးမှာ ခြောက်ဒေါ်လာ ရှိသည်။ ပြီးတော့ ပိတ်စရှစ်ကိုက်လောက် ကုန်သဖြင့် ဆင်းရဲသားများ မတတ်နိုင်ကြ။

“ဝိုင်ကြိုက်ရဲ့လား စင်သီယာ”

မစ္စအန်းက စင်သီယာကို မေးသည်။

စင်သီယာ ခေါင်းညိတ်သည်။

“သောက်ချင် ဆက်သောက်လေ၊ မေမေ့ကို ပြန်မပြောရဘူးနော်”

“မမအန်းအတွက် မကျန်ဘဲ နေမှာပေါ့”

“ရပါတယ်၊ မမက ထပ်တောင်းမှာပေါ့”

“မမအန်းက သိပ်သဘော ကောင်းတာပဲ”

စင်သီယာ ဝိုင်ကို စိတ်ကြိုက်သောက်နေ၏။ ကိုရီမေက သဘောကျပြီး ရယ်နေသည်။ အန်းက ကိုရီမေကို ကြည့်ပြီး မေးသည်။

“မင်းကို ကိုယ် တွေ့ဖူးသလိုလိုပဲ”

“လွန်ခဲ့တဲ့ တလလောက်က တွေ့ဖူးတယ် မမ၊ ပန်းခြံထဲမှာလေ၊

ကျွန်မကိုတောင် မမ မုန့်ကျွေးသေးတယ်”

“သြော်… အင်း… မှတ်မိပြီ၊ သစ်ခုတ်လုပ်ငန်းတွေ ရှိတဲ့အကြောင်း မင်းကို ကိုယ် ပြောလိုက်တာ မဟုတ်လား"

“စိတ်မကောင်း မဖြစ်ပါနဲ့ မမရယ်၊ မမက စေတနာနဲ့ ကူညီတာပဲ"

“ဒါပေမဲ့ ကိုယ် ဘယ်စိတ်ကောင်းနိုင်ပါ့မလဲကွယ်၊ ဘာလုပ်ပေးရမလဲ ဟင်"

“ရပါတယ် မမရယ်၊ ကျေးဇူးတင်ပါတယ်၊ လုပ်စရာရှိတာတွေ မစ္စတာလန်း လုပ်ပေး နေပါတယ်”

“ဟုတ်လား၊ ဘာပဲဖြစ်ဖြစ်လေ လိုအပ်ရင်တော့ ပြောနော်၊ သိလား”

“မမအန်း၊ အပြင်သွားရအောင်၊ စင်သီယာ့ မြင်းပုကလေးကို ပြချင်လို့”

စင်သီယာက ခေါ်သည်။ သူတို့နှစ်ယောက် ထွက်သွားကြသည်။ သူတို့ အသံတွေ တဖြည်းဖြည်း ဝေးသွား၏။ နောက်ထပ် ရထားတစီး ဆိုက်လာ၏။ အမျိုးသမီးတွေ၊ အမျိုးသားတွေ ဆင်းလာကြ၏။ မစ္စက်လန်းက သူတို့ကို ကြိုနေသံ ကြားရ၏။ ဒင်းနစ် မကြာခင် ထွက်လာမည့် အကြောင်း ပြောနေသံလည်း ကြားရ၏။

မစ္စတာလန်း ပြန်ပေါ်လာသည်။

“ကဲ… ရော့.. မင်း ဒီစာကို စာရေးကြီးဆီ ပြန်ယူသွား၊ သူ ငွေထုတ်ပေးလိမ့်မယ်၊ မင်း စာရေးတတ်သလား”

“သိပ်မရေးတတ်ဘူးရှင့်၊ ဒါပေမဲ့ ကျွန်မနာမည်တော့ ပေါင်းတတ်ပါတယ်”

“ဒါဆို ရတယ်လေ၊ ဟောဒီနေရာမှာ မင်းနာမည်ကို လက်မှတ်ထိုး၊ မရေးတတ်ရင် ကိုယ်စားလှယ်တယောက် လိုတဲ့အကြောင်း ကျုပ် ပြောမလို့”

“ဟုတ်ကဲ့၊ ကျေးဇူးတင်ပါတယ်ရှင့်”

“မင်းအမေကို တဆိတ်ပြောပြပါ၊ ကျုပ် အားလုံးအတွက် လုံးဝ စိတ်မကောင်းပါဘူးလို့”

“ဟုတ်ကဲ့ရှင့်”

"တောထဲမှာ ငှက်ဖျားဖြစ်လာတဲ့ ကိစ္စနဲ့ ပတ်သက်ပြီး ကျုပ်တို့ အကြီးအကျယ် စိတ်မချမ်းမသာ ဖြစ်ကြရတယ်၊ တတ်နိုင်သမျှ ကြိုးစားပြီး ကာကွယ်တဲ့ကြားက အဖိတ် အစဉ်တွေ ရှိလာတာ"

"ဟုတ်ကဲ့ရှင့်"

သူ့ကို မော့ကြည့်လိုက်တော့ တကယ် စိတ်ထိခိုက်နေဟန်။ ဩော်. . . လူသူတော် ကောင်း တယောက်ပဲ။ သူတော်ကောင်းစိတ် ရှိလို့လည်း ခုလို လျော်ကြေးပေးတာပေါ့နော်။ ဒေါ်လာတရာဆိုတာ နည်းတဲ့ငွေ မှတ်လို့…။

ဝိုင်ပုလင်းတွေ အပို့အယူလုပ်နေသည့် စားပွဲထိုး သူတို့အနားသို့ ဖြတ်သွားသည်။

ဝတ်ထားသည့် ဝတ်စုံမှာ ကြော့ကော့နေ၏။ သူ့ကိုယ် သူ ကျေနပ်နေပုံမျိုး။ သူ့ဘဝ သူ ပျော်နေပုံမျိုး။ ဆိပ်ကမ်းရပ်ကွက်မှ လူတွေ၏ မျက်နှာတွင် မတွေ့ရသည့် အမူအရာမျိုး။ သည်လို အခိုင်းအစေအဖြစ်နှင့် နေရသည့်ဘဝကို တွေးကြည့်လိုက်မိ၏။ မမျှော်လင့်ရဲသည့် ဘဝမျိုး။

ကျွမ်းကျင် လူမည်းစားပွဲထိုးတယောက်၏ ဈေးမှာ ဒေါ်လာသုံးထောင် ရှိသည် မဟုတ်လား။

ခေါင်းထဲတွင် လျှပ်စီးတချက် လက်သွားသည်။ မစ္စတာလန်း၏ လုပ်ငန်းခွင်တွင် နီဂရိုးတွေ လက်ညှိုးထိုးမလွဲ ရှိနေသည်ပဲ။ လူမည်း အလုပ်ကြမ်းသမားတယောက်၏ တန်ဖိုးပင်လျှင် ကျွန်ဈေးတွင် ဒေါ်လာငါးရာ ပေါက်သည်။

လူဖြူနှစ်ယောက် သေဆုံးသွားခြင်းအတွက် ရသည့် လျော်ကြေးက ဒေါ်လာတရာ တည်း။ လူမည်း အလုပ်ကြမ်းသမားနှစ်ယောက် သေလျှင်ပင် ဒေါ်လာတထောင် ဆုံးရှုံးမည် ဖြစ်၏။ လက်စသတ်တော့ အန္တရာယ်ပြွမ်းသည့် အလုပ်ကို ဈေးပေါသည့် လူဖြူတွေကို ငှားခိုင်းခြင်းပဲ။ သေတော့လည်း ဈေးသက်သာသည်လေ။ ကိုရီမေ လှည့်ထွက်လာခဲ့သည်။ ထိုလူ၏ မျက်နှာကို မော့မကြည့်ခဲ့တော့။

မီးဖိုဆောင်တဝိုက်တွင် နီဂရိုးချာတိတ်ကလေးတွေ စောင့်နေကြ၏။ ဧည့်သည်များ ၏ စားကြွင်းစားကျန်များကို စောင့်နေကြခြင်း ဖြစ်သည်။

ကိုရီမေအတွက် တံခါးလာဖွင့်ပေးမည့်သူ မရှိသဖြင့် ကိုယ့်ဘာသာ ဖွင့်ထွက်ခဲ့သည်။ ဝါဂွမ်းဂိုဒေါင်ကြီးများ၏ အရိပ်တွင် နေ့လယ်နေ့ခင်း နီဂရိုးတွေ

အပန်းဖြေနေကြ၏။

ကျေးလက်သီချင်းတွေ သံပြိုင်ဆိုနေကြ၏။ သူတို့အားလုံး သီချင်းဆိုတတ်ကြသည်။ ကြားရသည့် သီချင်းသံကြောင့် ကိုရီမေ ခြေလှမ်းတွန့်သွားသည်။

"လူမည်းတွေ ဝါကောက်တယ်၊

တို့ဘဝက ကြမ်းတမ်းတယ်၊

တို့လူမည်းတွေ ဝါကောက်တယ်၊ ဒါပေမဲ့ လူဖြူဆင်းရဲသားတော့ မဖြစ်ချင်ဘူးကွယ်..."

ကိုရီမေသည် ဂိုဒေါင်တခု၏ ထောင့်တွင် ရပ်နေမိ၏။ သူ့ကို နီဂရိုးတွေ သတိမထားမိကြ။ သီချင်းတွေ ဆက်ဆို နေကြ၏။

"အို... ဘုရားသခင်၊

လူမည်းဘဝပဲ ရလိုပါသည် အရှင်

ဘဝလမ်း ကြမ်းတမ်းပါစေ သခင်၊

လူဖြူဆင်းရဲသားတော့ မဖြစ်စေချင်"

ဝါခင်းထဲကို ကိုရီမေ ဖြတ်ပြေးချသွားသည်။ လမ်းပေါ် ရောက်တော့ ဘတ်ချ်က ဆီးမေးသည်။

"ဟယ် .. ဘယ်လိုဖြစ်လို့ ပြေးလာရတာလဲ ကိုရီမေ"

ကိုရီမေ ဘာမျှ မဖြေနိုင်သေး။ ဘတ်ချ် မျက်မှောင်ကုတ်သွား၏။

"ဘာလဲ၊ မင်းကို မောင်းထုတ်လိုက်ကြလို့လား"

"မဟုတ်ဘူး မဟုတ်ဘူး၊ သူက ကောင်းပါတယ်၊ ဝမ်းနည်းကြောင်းလည်း ပြောဖော် ရပါတယ်"

ကိုရီမေက နဖူးပေါ်တွင် လက်ကာပြီး ဝက်သစ်ချမြိုင် စံအိမ်ကြီးကို လှမ်းမျှော်ကြည့်နေ၏။

"သူက... သူက ပြောတယ်၊ စိတ်မကောင်းပါဘူး တဲ့"

“ဒါဆို သူက လူကောင်းပေါ့၊ နင့်ကို ငါ ပြောသားပဲ၊ မစ္စတာလန်းဟာ လူကောင်း တယောက်ပါလို့၊ လာ လာ . .. တက်၊ ဒါမှ မမှောင်ခင် တို့ ပြန်ရောက်မှာ၊ ကဲ... နယ်လီရေ၊ ဆွဲလိုက်စမ်း”

ကိုရီမေ သူနှင့်အတူ ယှဉ်ထိုင်လာသည်။ ပြောဖို့ စကားလုံးတွေ အပြေးအလွှား ရှာနေ၏။ ဘတ်ချ်က သူတို့ရှေ့ရေးတွေကို စိတ်ကူးယဉ်ယဉ်ဖြင့် ပြောလိုက်လာ၏။ လက်ထပ် ပြီးရင် သစ်လုံးအိမ်ကလေးမှာ ဘယ်လိုနေမည်၊ ဝါဂွမ်းတွေ ဘယ်လောက်ထိ စိုက်မည်၊ စသည် စသည်...။

“သေကောင်ပေါင်းလဲ အလုပ်လုပ်ရမှာပေါ့နော်”

ကိုရီမေက ဖြတ်ပေးလိုက်သည်။

“ဒါပေါ့၊ အလုပ်မလုပ်ရင် ဝါဂွမ်း ဘယ်ရမလဲ၊ ဒါပေမဲ့ ငါ လုပ်နိုင်တယ်လေ၊ ပင်ပန်းစမ်းပါစေ၊ ဒီလိုပဲ မြေငှားခ ပေးနိုင်အောင် လူတိုင်း လုပ်ကြရတာပဲ”

“အင်း . . . တော်တော်ပင်ပန်းမှာပဲ၊ မြေငှားခရအောင် မိုးလင်းကမိုးချုပ် ကွင်းထဲဆင်း၊ ငါကလည်း နင့်နောက် လိုက်ကူ၊ ခိုင်းရမယ့် လူက တယောက်မှ မရှိ၊ အိမ်အလုပ်က တဖက်”

“ကိုရီမေရယ်၊ အခန်းက နှစ်ခန်းတည်း ရှိတာပါကွာ၊ အိမ်ရှင်းဖို့ သိပ်အချိန် မကုန်ပါဘူး”

“ဝါကောက်ချိန် ကျတော့ကော၊ ပြောင်းခုတ်ချိန် ကျတော့ကော၊ ကလေးတွေ မွေးလာ ရင်ကော…”

“အဲဒီတော့လည်း ပိုက်ဆံစုပြီး နီဂရိုးတယောက်လောက် ဝယ်တာပေါ့ကွာ”

ကိုရီမေက မျက်မှောင်ကုတ်ပြီး ဘတ်ချ်ကို ကြည့်သည်။

“နီဂရိုးတယောက် ဟုတ်လား”

"ဟာ.. သေတော့မှာပဲ၊ ငါ ဆင်းရဲတာ ငါ့အပြစ်လားဟာ”

ကိုရီမေ လေသံပျော့သွားသည်။

“မဟုတ်ပါဘူးဟာ၊ အဲဒီလို မဟုတ်ပါဘူး၊ နင့်အပြစ် မဟုတ်ပါဘူး၊ နင် ဘယ်လောက် ကြိုးစားတယ် ဆိုတာ ငါ သိပါတယ် ဘတ်ချ်ရယ်”

“နင် သိပ်မသိတဲ့ အကြောင်းတွေ မပြောနဲ့ဟာ”

"အေးပါ... အေးပါ... မပြောတော့ပါဘူး”

“အဲဒီလိုမှပေါ့ ၊ နင်နဲ့ ငါနဲ့ လက်ထပ်မယ်၊ ဆောင်းမဝင်ခင်နော်၊ အားလုံး အဆင်ပြေ မှာပါဟာ”

ကိုရီမေ့ ကျောထဲတွင် တောင့်ခနဲ ဖြစ်သွားသည်။ လက်ကိုင်ကို တအားဆုပ်ထား လိုက်၏။

“ဆောင်းမဝင်ခင် လက်ထပ်လို့ မဖြစ်ဘူး”

“သိပ်မြန်လွန်းလို့လား၊ ဒါဖြင့်လည်း ခရစ္စမတ်ပေါ့ဟာ”

“ဘယ်တော့မှ ဖြစ်မှာ မဟုတ်ဘူး”

“ဟာ.. ဘယ်လို ဖြစ်တာလဲ၊ နင်ပဲ ခေါင်းညိတ် ပြီးတော့”

“အေး အဲဒါတွေ နင် မေ့လိုက်တော့၊ ငါ အလုပ်လုပ်ချင်သေးတယ်၊ ငါ့ဘဝကို ငါ ထူထောင်ချင်သေးတယ်၊ ငါ့ ကိုယ်ငါ အောင်မြင်အောင် လုပ်မယ်။ ဒီမယ် ဘတ်ချ်ဖို့စတာ၊ ငါပြောတာ နင် ကြားလား၊ ငါ့ကို လူတွေ တလေးတစား ဖြစ်လာတဲ့အထိ ငါ ကြိုးစားမယ်”

“ဒါဆို နင် ငါ့ကို ကတိပေးထားတာတွေကကော”

“အဲဒါတွေ ငါ ပြန်ရုပ်သိမ်းတယ်”

“ဒါဆို နင့်ကို ငါ လှိုက်လှိုက်လှဲလှဲ ချစ်နေတာ ဘယ့်နှယ် လုပ်မလဲ၊ ဒါလောက် ငါ ဖွဲ့ရှိရှိ စောင့်နေတာကိုကော နင် ထည့်မတွက်တော့ဘူးလား”

“ဒုက္ခပါပဲဟာ၊ ငါ စိတ်မကောင်းပါဘူး ဘတ်ချ်”

ကိုရီမေ အသံကလေး တုန်တုန်ယင်ယင် ဖြစ်လာသည်။ ဘတ်ချ်၏ အသံမာလာသည်။

“နင် အဲဒီလို အဓိပ္ပာယ်မရှိ လျှောက်လုပ်ရင် တနေ့ ဒုက္ခတွေ့မယ် ကိုရီမေ”

“မတွေ့စေရပါဘူး၊ နင် စောင့်ကြည့်နေ

“နင့်ကို ရိုးရိုးသားသား တောင်းရမ်း လက်ထပ်ယူမယ့် ငါ့ကို နင်က

မတူမတန်ဘူး ထင်နေပြီပေါ့လေ၊ ကိုရီမေရယ် နင့်ကို ငါ ဘယ်လောက် ချစ်တယ်ဆိုတာ နင် သိနေရက် သားနဲ့”

“အို… တော်ပါတော့”

“နင်ပြောပုံက ငါဟာ လူမည်း တယောက် ကျနေတာပဲ”

“နင်က လူမည်း မဟုတ်ပါဘူး၊ နင် လူဖြူစစ်စစ်ပါ၊ ဒါပေမဲ့ လူမည်းတယောက် နဲ့ ဘာထူးလဲ”

“ငါက လူဖြူလေ၊ ဘာလို့ မထူး…”

“ဘယ်လောက် ခြားနားလဲ ငါ ပြောပြမယ်”

ကိုရီမေ ဒေါသသံကလေး စွက်လာသည်။

“နင် ဝေလီဝေလင်းမှာ ထပြီး ဝါခင်းထဲ ဆင်းရတယ်၊ နီဂရိုးတယောက်နဲ့ ဘာထူး လဲ၊ မိုးစုံးစုံးချုပ်မှ အိမ်ပြန်ရတယ်၊ နီဂရိုးတယောက်နဲ့ ဘာထူးလဲ၊ သေတော့လည်း မွေးကတည်းကအတိုင်း သေရမယ်၊ နီဂရိုးတယောက်နဲ့ ဘာထူးလဲ။

ဒါပေမဲ့ နင်က နီဂရိုး မဟုတ်ဘူး၊ လူဖြူ၊ ဒါပေမဲ့ နင် ဖျားလို့ နာလို့ ကွင်းထဲ မဆင်း နိုင်ရင် ဘယ်သူ နင့်ကို လာလုပ်ပေးမလဲ၊ ဝါခင်းပျက်တဲ့ နှစ်မှာ နင့်ကို ဘယ်သူက ကျွေးထား မလဲ၊ နီဂရိုးတယောက်နဲ့ ဘယ်လောက် ခြားနားသလဲ ဆိုတာ အဲဒါပဲ၊ ကဲ.. နင် ဘာပြော မလဲ”

ဘတ်ချ်တယောက် ပါးစပ်အဟောင်းသား ဖြစ်နေ၏။ ကိုရီမေ ဆက်ပြောသည်။

“ငါ နင့်ကို လက်ထပ်လိုက်ပြီ ဆိုပါတော့၊ ငါ့လက်တွေ စုတ်ပြတ်ကုန်တဲ့အထိငါ အလုပ်လုပ်ရမယ်၊ ချက်ရ ပြုတ်ရမယ်၊ ဝါကောက်ရမယ်၊ ကလေးတွေ ကျွေးမွေးပြုစု ရမယ်။ နင့်ကို မြည်းကန်လို့ သေပြီ ဆိုပါတော့၊ ငါ ဘာဆက်လုပ်ရမလဲ၊ မြေခ မပေးနိုင်လို့ ပြန်အပ်၊ သူများအိမ်မှာ အဝတ်လျှော်၊ ကြမ်းတိုက် အလုပ်မျိုးသွားလုပ်၊ နီဂရိုးမတွေ အလကား လုပ်ပေးနေတဲ့ အလုပ်မျိုးကို ငါသွားလုပ်ရင် ဘယ်လောက်ရမယ်လို့ နင်ထင်သလဲ။ မဖြစ်ဘူး ဘတ်ချ်၊ နင့်ကို ငါ ယူလို့ မဖြစ်ရေးချ မဖြစ်ဘဲ၊ လူဖြူဆင်းရဲသား ဖြစ်ရတာထက် လူမည်း တယောက် ဖြစ်ရတာကမှ ကောင်းဦးမယ်”

※※※

# အခန်း(၃)

## (၁)

ဒင်းနစ်က အန်းကို သူ ပြန်ပို့ပေးရမည်လား မေးတော့ ယောက်ဖလောင်းက အလိုက် သိစွာဖြင့် သူ မြို့ထဲသွားစရာ ရှိသည်ဆိုကာ လမ်းဖွင့်ပေးသည်။ သစ်ဖြူတောသို့ အသွားလမ်းတွင် ဒင်းနစ်က အန်းကို စတုတ္ထအကြိမ်မြောက် လက်ထပ် ခွင့်တောင်း၏။ အန်းက မျက်တောင်ကော့ကော့ရှည်ရှည်ကြီးများနှင့် မျက်လွှာကို ချကာ ပြန်ပြောသည်။

"အန်း မစဉ်းစားရသေးပါဘူး ဒင်းနစ်ရယ်၊ ဖြည်းဖြည်းပေါ့၊ ဘ၀တလျှောက်လုံး ကိစ္စကို အလောတကြီး မဆုံးဖြတ်ပါရစေနဲ့"

ဒင်းနစ် ပျော်နေသည်။ မိန်းကလေးပီပီ အန်းတယောက် မိန်းမဆန်နေရခြင်းဖြစ်ပြီး ခေါင်းညိတ်မည်ကို သိနေသောကြောင့် ဖြစ်၏။

"မင်း ကိုယ့်ကို တမင် ရယ်စရာလုပ်နေတာလား အန်း"

"မဟုတ်ပါဘူးကွယ်၊ တကယ် မဆုံးဖြတ်ရသေးလို့ပါ"

မှောင်စပြုနေပြီဖြစ်၍ အန်း၏ မျက်နှာကို ဒင်းနစ် မမြင်ရသဖြင့် အကဲမခတ်နိုင် တော့ပေ။

သစ်ဖြူတောအိမ်ကြီးကို ရထားဆိုက်တော့ ဒင်းနစ်က မေးသည်။

"ကိုယ့်ကို အိမ်ထဲ မဖိတ်တော့ဘူးလား ဟင်"

"ဖိတ်ဖို့ လိုသေးလို့လား၊ ဝင်ပေါ့"

နှစ်ယောက်သား ရယ်ကြသည်။ သစ်ဖြူတောအိမ်ကြီးမှာ ရှေးဟောင်း ဂရိတ်ဝတ် ကျောင်းတော်ကြီးနှင့် တူ၏။ မှုန်ရေးရေးအလင်းရောင်တွင် ဂရိတ်ရှေးဗိသုကာလက်ရာပုံစံ မြင်းမိုရ်ပိတ်နှင့် အိမ်ရှေ့မှ ကျောက်တိုင်ကြီး ဆယ်လုံးကို မြင်နေရ၏။ အိမ်အဝင် ရောမတံခါးရွက်ကြီးနှစ်ရွက်မှာ လေးထောင့်တိုင်ပုံကြီး နှစ်လုံးကြားတွင် တည်ရှိ၏။ တံခါးမကြီးမှ ဝင်သွားလျှင် ပင်မခန်းဆောင်ကြီးထဲ

ရောက်သွားသည်။ နှစ်ယောက်သား လှမ်းဝင်သွားရင်း အန်းက ဦးထုပ်နှင့် ခြုံထဘက်ကို အစေခံတယောက်ထံ ကမ်းပေး လိုက်သည်။ ပြီးတော့ ဒင်းနစ်ကို ဦးဆောင်ကာ ဧည့်ခန်းဆီ ခေါ်သွား၏။ ဧည့်ခန်းထဲမှ မီးလင်းဖိုကြီးက မဟူရာရောင် ကျောက်သားဖြင့် တည်ဆောက်ထားပြီး အခြားအခန်းများ တွင်မူ အဖြူရောင် ကျောက်သားမီးလင်းဖိုများ ဖြစ်၏။ ရှာရမီမျိုးဆက်၏ ထွေပြားဆန်းကြယ် မှုကို နှစ်သက်သော သင်္ကေတ ဖြစ်၏။

အောက်ထပ် တံခါးလက်ကိုင်ဖုများသည် ငွေသားစစ်စစ်များ ဖြစ်ကြပြီး အပေါ်ထပ် တွင်မူ ကြေးလက်ကိုင်များ တပ်ဆင်ထားသည်။ ကြေးသားပေါ်တွင် ပန်းရောင်နှင့် အပြာ ရောင် ပန်းပွင့်များ ပါလိုက်သေး၏။

သစ်ဖြူတော မည်မျှခမ်းနား ထည်ဝါသည် ဖြစ်စေ ဒင်းနစ်ကမူ ဝက်သစ်ချမြိုင်ကို ပိုသဘောကျသည်။ ဝက်သစ်ချမြိုင်သည် မိမိ၏ ချက်မြှုပ်ရာ အိမ်ကြီး မဟုတ်လား။ သည်အိမ် ကြီးတွင်ပင် ခေါင်းချဖို့ စိတ်ကူးထား၏။

မိုလ်မှူးကြီးရှာရမီ ထွက်လာပြီး ဒင်းနစ်ကို ဧည့်ခန်းထဲတွင် နှုတ်ဆက်သည်။ အရပ် မြင့်မြင့်နှင့် အသက်ငါးဆယ်ရွယ်ရှိပြီး နှုတ်နည်းသူ ဖြစ်၏။ ဆံပင်တွေ ဖြူနေပြီ။ အသိအကျွမ်းများက သူ့ကို လေးစားကြ၏။

ခဏ စကားပြောပြီး ဧည့်ခန်းထဲမှ ပြန်ထွက်သွားသည်။ အန်းက ဆိုဖာပေါ်တွင် စကတ်ကြီးကို ဖြန့်ထိုင်ပြီး အာလာပ သလ္လာပ ပြောသည်။ ရာသီဥတုမှာ ပူအိုက်လှသည်။

"ဆာရာတိုဂါကနေ အဖေ အတင်းပြန်မယ်ဆိုလို့ အန်း ပြန်လိုက်လာရတာ၊ စိတ်တို လိုက်တာ မပြောနဲ့တော့"

"တနွေလုံးနေဖို့ စိတ်ကူးထားလို့လား"

"ဒါပေါ့၊ ဒါပေမဲ့ အဖေက အလုပ်ကြပ်တယောက် ငှားထားခဲ့တယ် မဟုတ်လား၊ သူ့ကို စိတ်မချလို့ဆိုပြီး ပြန်လာတာလေ၊ အန်းတယောက်တည်း နေခဲ့ပါရစေ ပြောလည်း မရဘူး၊ ဩော်... ဒင်းနစ်"

"ဘာလဲ၊ ပြောလေ အန်း"

"အန်း ဖွင့်ပြောဖို့ လိုမယ် ထင်လို့၊ ဆာရာတိုဂါမှာ အန်း ဗရုတ်ကျခဲ့တယ်"

ဒင်းနစ် ခပ်တိုးတိုး ရယ်သည်။

ကိုယ်တော့ မယုံပါဘူး”

“တကယ်ပြောတာ၊ အမျိုးသမီးအသိုင်းအဝိုင်းက အန်းကို တောင်ပိုင်းသူဖို့မလေးတဲ့”

“ဒီမယ် အန်း၊ အဘွားကြီး အသိုင်းအဝိုင်းက မိန်းကလေးတယောက်ကို ဖို့ကျတယ် ပြောရင် အမျိုးသားတွေက သူတို့သမီးတွေကို မျက်စိမကျဘဲ မင်းကို မျက်စိကျလို့ နေမှာပေါ့”

အန်း ရယ်သည်။

“ဒင်းနစ်က သိပ်နားလည်တာပဲ၊ ဒါပေမဲ့ ပြောစရာတော့ ရှိတယ်၊ အဲဒါ ဘာလဲဟင်”

ဒင်းနစ်က ကော်ဇောပေါ်မှ တစုံတခုကို လှမ်းကောက်ရင်း-

“မင်းအိတ်ထဲက ထွက်ကျလာတာ” ဟု ပြောပြီး ဇဝက်သာ နှာရှူဘူးကလေးကို ကမ်းပေးလိုက်သည်။ နှာဘူးကလေးကို ရွှေချည်ထိုး အဝတ်ကလေးထဲတွင် ထည့်ထား၏။ ဒင်းနစ်က ရယ်ချင်ပက်ကျိပုံစံမျိုးဖြင့် မေးသည်။

“ဒါ ဘာလုပ်ဖို့လဲ ဟင်”

“ဇာတ်ခုံပေါ်မှာ သုံးတာလေ ဒင်းနစ်”

အန်းက အမှန်အတိုင်း ဖြေလိုက်သည်။

“အင်း... ထင်တော့ ထင်လိုက်သား”

“ဟုတ်လား၊ ဒင်းနစ်ကို ဘယ်တော့မှ လိမ်လို့ မရမှန်း သိတယ်လေ”

“မင်းလည်း မလိမ်တတ်ပါဘူး အန်း”

ဒင်းနစ်က ငုံ့ပြီး နမ်းဖို့ ကြိုးစားသည်။ အန်းက ရှောင်လိုက်ပြီး-

“အဲဒီလိုဆိုရင် ဒင်းနစ် ပြန်တော့”

“မင်းက သိပ်လှနေတော့ ကိုယ် မပြန်ချင်သေးဘူး”

“ဖယောင်းတိုင် မီးရောင်အောက်မှာဆို လူတိုင်း လှနေတာပါပဲ၊ ကဲ . . .

ပြန်ပါတော့”

ဒင်းနစ်က အန်းကို အလေးအနက် ငေးကြည့်နေသည်။ ရောမ စကတ်ကြီးထဲတွင် အန်းသည် ပန်းပွင့်ကြီးတပွင့်နှင့် တူနေသည်။ ပခုံးကလေးနှစ်ဖက် ဝိုက်ကျနေပုံနှင့် ခါးကျဉ် ကျဉ်၊ ရင်ထွားထွား ကိုယ်နေဟန်မှာ မြင်သူ ငေးလောက်ပါပေ၏။ ရွှေညိုရောင် ဆံပင်တွေက ခေါင်းပေါ်တွင် အလှိုင်းလှိုင်းထလျက်။ နှုတ်ခမ်းအစုံကို တင်းတင်းစေ့ထားလျှင် ခေါင်းမာမည့်ပုံ ပေါ်နေ၏။

ဒင်းနစ် သေသေချာချာ ကြည့်နေမှန်း သိသဖြင့် အန်းက ပြုံးပြုံးကလေး နေပေး၏။ ပြီးတော့ မေးသည်။

“ကဲ … ဘာနဲ့ တူသလဲ ပြော”

အမြဲတမ်း အမှန်အတိုင်း ပြောလေ့ရှိသည့် ဒင်းနစ်က လက်တန်းဖြေသည်။

“ဘာနဲ့တူသလဲဆိုတော့ နှင်းဆီပန်းတွေ၊ နှင်းပန်းတွေပေါ်မှာ ကြီးပြင်းလာတဲ့ မိန်းကလေးနဲ့ တူတာပေါ့။ ပန်းပွင့် တွေက လွဲပြီး ဘာမှ မသိတဲ့ မိန်းကလေးနဲ့ တူတာပေါ့ ။ ကိုယ်သာ တတ်နိုင်ရင် အဲဒီလို အဖြစ်မခံဘူး”

“ကြည့်စမ်း၊ ကျွန်မကို ဘယ်ယောက်ျားကလေးမှ အဲဒီလို မဝေဖန်ဖူးဘူး။ နှင်းဆီပန်း တွေ၊ နှင်းပန်းတွေ ဟုတ်လား။ ဒါကြောင့် ရှင့်အမေက ကျွန်မကို သဘောမကျတာပေါ့လေ ဟုတ်လား”

ဒင်းနစ် ရယ်သည်။

“အမေက ဘယ်သူ့ကိုမှ သဘောမကျပါဘူးလေ၊ ကိုယ်တို့ခေတ် တခေတ်လုံးကို သူက ကြည့်မရတာ၊ ခေတ်လူငယ်တွေဟာ ယဉ်ကျေးမှုကို နားမလည်ကြဘူး တဲ့”

“ဒါပေမဲ့ ဒင်းနစ်ကိုတော့ ချစ်ပါတယ်။ သားဦးလည်း ဖြစ်ပြန်၊ ပြီးတော့- - - ဒင်းနစ် က ကျန်းကျန်းမာမာနဲ့ ဘယ်တုန်းကမှ သူ့ကို ဒုက္ခမပေးခဲ့တော့ သားကြီးမှ သားကြီး ဖြစ်နေတာပေါ့”

“မင်းလည်း ကျန်းမာတာပဲ၊ မဖျားဘူး မနာဖူးဘူး မဟုတ်လား”

“ဟင့်အင်း . . . သိပ်မဖြစ်ဖူးပါဘူး၊ ဒါပေမဲ့ အန်းကို သူ မကြည်ပါဘူး၊ ဒင်းနစ်ကို မေးချင်တယ်၊ သူ မကြိုက်တာ အန်း ဘာလုပ်မိလို့လဲ၊ သူ ဆက်ဆံပုံက

အလွန်ယဉ်ကျေးပြီး ချက်လက်မှတ်အတုလုပ်တဲ့ လူတယောက်ကို ခွင့်လွှတ်ပြီး ဆက်ဆံသလိုမျိုး အန်းကို ဆက်ဆံနေတယ် ထင်တာပဲ”

ဒင်းနစ်က သူ့လက်နှစ်ဖက်ကို လှမ်းဆွဲပြီး ပြောသည်။

“အမေက သိပ်လေးနက်တယ် အန်း၊ လေးလေးနက်နက်ရှိတဲ့ မိန်းကလေးတွေကို ပိုသဘောကျတယ်။ ဒါပေမဲ့ အဲဒါ ပြဿနာ မရှိဘူးလေ၊ ကိုယ်က မင်းကို ပိုသဘောကျ တာပဲ”

အန်းက ပြုံးပြုံးကလေး ပြန်ပြောသည်။

“ကျေးဇူးတင်ပါတယ် ဒင်းနစ်၊ အန်းလည်း ဒင်းနစ်ကို သဘောကျပါတယ်၊ ဒင်းနစ် က ရိုးသားတယ်၊ ပြီးတော့ ကိုယ့်ကိုယ်ကိုယ် ယုံကြည်မှုရှိတယ်၊ အန်းလည်းပဲ ဒင်းနစ်လို သိပ်ဖြစ်ချင်တာပဲ”

နှစ်ယောက်သား နောက်ထပ်နာရီဝက်တိုင် စကားပြောနေကြစဉ် ဗိုလ်မှူးကြီး ရှာရမီက မိုးချုပ်ပြီ ဖြစ်ကြောင်း အစေခံတယောက်နှင့် လာသတိပေးတော့မှ ဒင်းနစ် ပြန်လာ ခဲ့၏။ ထိုညက အန်း၏ နှုတ်ဆက်အနမ်းကို ဒင်းနစ် မရခဲ့။

# (၂)

နောက်တနေ့ ပူပူလောင်လောင် အချိန်ကြီးတွင် အိပ်ရာမှ နိုးလာသည်။ မနိုးတဝက် နိုးတဝက်ဖြင့် စိတ်ပျက် လက်ပျက် တွေးနေမိ၏။ ဆာရာတိုဂါမှာဆို ဘယ်လောက် ကောင်းလိုက်မလဲ။ နောက်ရောက်လာသည့် အလုပ်ကြပ်ကို မျက်နှာလွှဲရလျှင် စက်တင်ဘာ လလောက်ဆို အဖေ နောက်တခေါက် လိုက်ပို့တန် ကောင်းပါရဲ့။

ခြင်ဆန်ခါကို မ တင်ပြီး လူခေါ်ခေါင်းလောင်းကြိုးကို ဆွဲလိုက်၏။ ကော်ဖီဗန်းနှင့် မမ်မီ ဝင်လာတော့ လှမ်းနှုတ်ဆက်လိုက်သည်။

"မင်္ဂလာ နံနက်ပါ ကြီးတော်"

"မင်္ဂလာ ညနေခင်းပါ"

အန်းက ရယ်ပြီး ပြန်မေးသည်။

"ဘယ်အချိန် ရှိသေးလို့လဲ ကြီးတော်ကလည်း"

"အိပ်ရာဝင်ချိန်တောင် ပြန်ရောက်တော့မယ်၊ တကတဲ အိပ်လိုက်တာ"

မမ်မီက ကော်ဖီဗန်းကို စားပွဲကလေးပေါ်တွင် တင်သည်။ ကော်ဖီရဲ့ဖို့ အန်း ထထိုင် တော့ နောက်ကျောဘက်တွင် ခေါင်းအုံးတလုံး ထိုးထည့်ပေးသည်။

"မလေး ကိစ္စရှိသေးတယ် ဆို၊ အိပ်နေလိုက်တာ နေ့တဝက် ကုန်သွားပြီ"

"အန်းကို ကြီးတော် ပူညံ ပူညံ ဆက်လုပ်ရင် ဝါခင်းထဲမှာ ဝါ ကောက်ခိုင်းလိုက်မယ်၊ လူစီလီနဲ့ပဲ အဝတ်လဲတော့မယ်"

မမ်မီအတွက် သည်ခြိမ်းခြောက်မှုမျိုးက ရိုးနေပြီ။ ဂရုမစိုက်တော့။ ဆက်ဆူမြဲ ဆူ၏။ ရာသီဥတု ဘယ်လောက်ပူပူ မမ်မီသည် ကော်တောင့်နေသည့် ချည်ထည်ဝတ်စုံ၊ ခေါင်းစည်းပဝါ နှင့် အမြဲ သပ်ရပ်နေတတ်၏။

"ကဲ… မထဘူးလား၊ ထမလား ပြော"

"ထပါ့မယ် ကြီးတော်ရယ်၊ ခဏလေးနော်၊ ရေအေးချိုးဖို့ လုပ်ပေး"

" ရမယ် ရမယ်"

မမ်မီသည် သူ့ခန္ဓာကိုယ်ကြီးကို လိမ့်လိမ့် လိမ့်လိမ့်နှင့် သယ်ပြီး အခန်းထဲမှ ထွက်သွား သည်။ အန်းက ကော်ဖီခွက်ကို ချပြီး ခြေညှပ်ဖိနပ် ကောက်စွပ်ကာ ရေတိုင်ဆီ ထသွား၏။ မျက်နှာကို ရေနှင့် ပက်၏။ ပြီးတော့ မှန်ကြည့်သည်။

ဂျယ်ရီ ပြောဖူးသည်ကို သတိရပြီး ပြုံးလိုက်၏။ မိမိ၏ အသက်တဝက်လောက်က မှန်ရှေ့တွင် အချိန်ကုန်သည် တဲ့။ ကပိုကရိုဖြင့် အိပ်ရာထဲက ထသည့် ပုံစံသည်ပင် မှန်ထဲတွင် လှနေနှင့်ပြီ။ ဒင်းနစ် မျက်စိကျနေသည်မှာ မဆန်းလှပါ။

အင်း... တခုခု ဆုံးဖြတ်ရတော့မည်။ နောက်အပတ်ဆို နှစ်ဆယ်ပြည့်မွေးနေ့ လုပ်ရ တော့မည်လေ။ နှစ်ဆယ်ဆိုသည်မှာ အလွန်ပြဿနာကြီးသည့် အသက် ဖြစ်သည်။ နုပျိုခြင်း တို့ ကုန်ဆုံးချိန် ဖြစ်၏။ အရွယ်ရောက်သည့် မိန်းမတယောက်၏ ဘဝထဲသို့ တရွတ်တိုက် ပါသွားသည့်အသက် ဖြစ်၏။

လက်ထပ်ဖို့တော့ အချိန်တန်ပြီ။ အန်း၏ဘဝတွင် ဘယ်လို ဆုံးဖြတ်ချက်မျိုးကိုမျှ မချခဲ့ဖူးပေ။ ဘဝသည် အဝတ်အစား ရွေးခြင်းလောက်က လွဲပြီး သူ့အလိုလို အဆင်ပြေ ချောမွေ့နေခဲ့၏။

ဒင်းနစ်ကို လက်ထပ်လိုက်လျှင်တော့ ဘဝလုံခြုံမှုအတွက် စိတ်အေးရမည်မှာ မုချဖြစ်၏။ မှန်ရှေ့မှာရပ်ရင်း အန်းသည် လက်မလွှတ်သင့်သည့် အခွင့်အလမ်းကို စဉ်းစားနေ လေသည်။

ထိုစဉ် တံခါးခေါက်သံ ပေါ်လာ၏။ မမ်မီ ရေချိုးပေးဖို့ ဝင်လာသည် အထင်ဖြင့် ဝင်ခဲ့လေဟု လှမ်းပြောလိုက်သည်။ တံခါးကို တွန်းဝင်လာသူက ဂျယ်ရီ။ သူ့လက်ထဲတွင် စက္ကူဖာ တခု ပါလာ၏။

"ဩော်. . . နင် အိပ်ရာက နိုးသေးသကိုး"

"နိုးတာပေါ့၊ မနိုးတော့ကော ဘာဖြစ်လဲ"

အန်းက အစ်ကိုလုပ်သူ ဂျယ်ရီကို ချစ်သည်။ ဝီရီလ်ဟု အမေ့နာမည်အတိုင်း မှည့်ထား သော်လည်း အမေက ဂျယ်ရီဟု ခေါ်သဖြင့် ဂျယ်ရီဟု တွင်နေခြင်း ဖြစ်သည်။ ဂျယ်ရီသည် အရုပ်ဆိုးသလောက် ပျော်ပျော်နေတတ်သူ ဖြစ်သည်။ မောင်နှမနှစ်ယောက် မကြာခဏ ရန်ဖြစ်သော်လည်း အန်းက ဂျယ်ရီကို လေးစားသည်။

"ရော့ … နင့်ဖို့ လက်ဆောင်တဲ့"

"ဘာလက်ဆောင်လဲ ဟင်"

"ဘယ်သိမလဲ၊ သူ့အစေခံတယောက်နဲ့ ဒင်းနစ် ပို့လာတာ"

ဂျယ်ရီက အပြာရောင်ဇာ လွှမ်းထားသည့် ကုလားထိုင်တွင် ဝင်ထိုင်ရင်း ပြောသည်။

"ဟုတ်လား"

အန်းက ကော်ဇောပေါ်တွင် ထိုင်ချပြီး စက္ကူဖာကြိုးတွေကို ဖြေနေသည်။ အဖုံးပွင့် သွားတော့ အဖြူရောင် နှင်းဆီပွင့်တွေကို တွေ့ရ၏။

"ဟိုက် … တအားလှပါကလား၊ ဒါထက် နင် ဒင်းနစ်ကို လက်ထပ်မှာလား၊ ဆက်ပြီး အူကြောင်ကြောင် လုပ်နေမှာလား" ဟု ဂျယ်ရီက မေးသည်။

တင်ပျဉ်ခွေ ထိုင်လျက်က ပန်းပွင့်တွေကို ကြည့်ရင်း အန်း ဖြေသည်။

"မသိသေးပါဘူး၊ ဂျယ်ရီနဲ့ ဘာဆိုင်လဲ" ဟု ပြန်ပက်သည်။

ဂျယ်ရီက လက်တံရှည်ကြီး နှစ်ဖက်ကို ရှေ့ဆန့်ပြီး ပြောသည်။

"တောင်းပန်ပါတယ်ဗျာ၊ ဒင်းနစ်တယောက် ရူးမတတ် ခံစားနေရတာ မကြည့်ရက် လို့ပါ"

"ကဲ… တော်ပါတော့၊ အန်းကို ရယ်စရာဖြစ်အောင် လူတွေ လုပ်နေကြတာ"

ဂျယ်ရီ ဘာမျှ မပြောတော့ဘဲ လေချွန်နေသည်။ အန်းက နှင်းဆီပွင့်တွေကို မီးလင်းဖို ဘောင်ပေါ်တွင် သွားတင်ရင်း မေးသည်။

"ကဲ… ဆိုပါဦး၊ ဒင်းနစ်ကို အန်း လက်ထပ်ရမှာလား"

ဂျယ်ရီက လေချွန်ရပ်ပြီး-

"လက်ထပ်ရမှာပေါ့၊ ဒင်းနစ်လောက်တော်တဲ့လူ ဘယ်မှာရှိမှာလဲ၊ နင် ဘာတွေ ဒါလောက် အတွေးခေါင်နေတာလဲ"

"အတွေးခေါင်တာ ဖြစ်ချင်လည်း ဖြစ်မှာပေါ့၊ သူက သိပ်ချမ်းသာတယ်၊ အန်းတို့ လည်း ချမ်းသာတာပါပဲ။ ဒါပေမဲ့ ဝက်သစ်ချမြိုင်က၊ အင်း . . .

ဝက်သစ်ချမြိုင်နဲ့ မတူသလို ပဲ။ မစ္စက်လန်းဟာ ဝက်သစ်ချမြိုင်ရဲ့မဏ္ဍိုင်ပဲ၊ သကော်တပဲ။ သူနဲ့ ဆက်ဆံရတာ ခက်မယ် ထင်တယ် ဂျယ်ရီ”

“ငါတော့ မထင်ပါဘူး၊ နင်နဲ့ဆို အဆင်ပြေမှာပါ”

“ဒင်းနစ်က သူ့အမေလိုမျိုး အန်းကို စီမံခန့်ခွဲခိုင်းရင်ကော။ ဗီရိုတံခါးတွေဖွင့်၊ ငွေထည်ပစ္စည်းတွေ အပတ်တိုင်းစစ်၊ ခန်းဆီးတွေ၊ စားပွဲခင်းတွေ ရေ၊ အလုပ်သမားတွေ အတွက် အဝတ်ချုပ်ပေးဖို့ ပိတ်စညှပ်ရင် တလက်မ မပုပ်ရအောင် စောင့်ကြည့်...”

ဂျယ်ရီ ရယ်သည်။

“သေတော့မှာပဲ၊ ဒင်းနစ်က ငတုံးမှ မဟုတ်ဘဲဟ”

“ဒါဆို အန်းကို ငတုံးလို့ ပြောချင်တာပေါ့၊ ဟုတ်လား၊ အန်းကိုယ် အန်း သိတယ်၊ အန်းက သိပ်တော့ မတော်ဘူး၊ ဒါပေမဲ့ လူတွေ ထင်သလို အူတူတူ အတတတော့ မဟုတ်ဘူး”

အန်း စိတ်လိုက်မာန်ပါ စကားဆက်သည်။

“အန်း စန္ဒရား ကောင်းကောင်းတီးနိုင်တယ်၊ ကောင်းကောင်း ကတတ်တယ်၊ ပြင်သစ် စကား ကောင်းကောင်းပြောနိုင်တယ်၊ ဆရာမက အန်း ပြင်သစ်စကား ပြောတာကို သိပ်ချီးမွမ်း တာ။ အမေရိကန်ဆိုတာ အလကား နွားရိုင်းစီးနေတဲ့ လူမျိုးတွေတဲ့၊ ပြီးတော့ ဇာထိုး ပန်းထိုး တတ်တယ်၊ ဧည့်သည်ကို ကောင်းကောင်း ဧည့်ခံတတ်တယ်”

ဂျယ်ရီက ခေါင်းတညိတ်ညိတ်နှင့် နားထောင်နေရာမှ-

“အဲဒါ ပြောတာပေါ့၊ နင်နဲ့ ဒင်းနစ်လန်းနဲ့ဆိုရင် နေနဲ့လ ရွှေနဲ့မြပေါ့” ဟု မှတ်ချက် ချသည်။

အန်းက မီးလင်းဖိုခုံပေါ်သို့ မှီလိုက်ပြီး အမေ့ကို သတိရနေသည်။ အမေသာရှိလျှင် တိုင်ပင်လို့ ရမည်။ အန်း ဆယ်နှစ်သမီးအရွယ်တွင် အမေ ကွယ်လွန်ခဲ့သည်။ အမေ့ကို ကောင်းကောင်း မှတ်မိသည်။ ဆံပင်အနက်ရောင်နှင့်၊ အလွန်ချစ်စရာ ကောင်းပြီး ပျော်ပျော် ရွှင်ရွှင် နေတတ်သည့် အမျိုးသမီး ဖြစ်၏။ မစ္စက်လန်းနှင့် ဘာမျှ မဆိုင်။

ရောမ ရေချိုင့်ကြီးနှစ်ခု ကိုင်ပြီး မမ်မီ ဝင်လာသည်။

“မာစတာဂျယ်ရီ၊ ဘာလို့ ဝင်လာတာလဲ၊ မလေးကို ရေချိုးပေးမလို့၊ ဘာအလုပ်ရှိလို့ ဒီရောက်နေတာလဲ၊ ဝါခင်းထဲ ဆင်းပါတော့လား”

အန်းက ဖြတ်မေးသည်။

“အလုပ်ကြပ်လူသစ်ကို ဂျယ်ရီက တွေ့ပြီးပြီလား”

“တွေ့ပြီးပြီပေါ့၊ နာမည်က ဂီးလ်ဒေး တဲ့၊ မျက်နှာပြုပြုနဲ့၊ စကားပြောရင်တော့ မြောက်ပိုင်းသား အတိုင်းပဲ”

“မြောက်ပိုင်းသား ဆိုရင် ဝါဂွမ်းအကြောင်း သူ ဘာသိမှာလဲ”

“သူ တောင်ပိုင်း ရောက်နေတာ ကြာပြီလို့ ပြောတယ်၊ အလုပ်သမားတွေအပေါ် ဆက်ဆံတာတော့ သိပ်ရိုင်းတယ်၊ ဒီအတိုင်းဆို တို့နဲ့ ကြာကြာဖြစ်မယ် မထင်ပါဘူး”

“ကဲ... မာစတာဂျယ်ရီ၊ ထွက်တော့လေ”

မမ်မီ အမိန့်ပေးတော့ ဂျယ်ရီ မတ်တတ်ထရပ်သည်။

“သွားပါ့မယ်ဗျာ၊ ဒီနေ့ ဘာအစီအစဉ်ရှိလဲ အန်း”

“မြို့ထဲဘက်ကို မြင်းစီးထွက်မလားလို့”

“ဒါလောက်ပူတာ နင့်ခေါင်းထဲက ဦးနှောက်တွေ အရည်ပျော်သွားလိမ့်မယ်”

“ကိစ္စမရှိဘူး၊ သွားစရာ ကိစ္စလည်း ရှိနေလို့”

ဘာမျှ ဆက်မပြောတော့ဘဲ ဂျယ်ရီ အခန်းထဲမှ ထွက်သွားသည်။

မမ်မီက ရေအေးချိုးပေးပြီး အန်းကို မြင်းစီးအင်္ကျီ ဝတ်ပေးသည်။ အန်း၏ ခန္ဓာကိုယ် အလှ ပို၍ ပေါ်လွင်လာ၏။ တအိမ်လုံး တိတ်ဆိတ်ငြိမ်သက်နေ၏။ ဗိုလ်မှူးကြီး ကွင်းထဲမှ ပြန်ရောက်လာဟန် မတူသေး။ ဂျယ်ရီလည်း ထွက်သွားပြီ ထင်၏။

မီးဖိုဆောင်ဘက် လျှောက်သွားတော့ ချာတိတ်ကလေးတွေ အန်းကို ဝိုင်းနှုတ်ဆက် ကြသည်။ အန်းက ချာတိတ်တွေကို သဘောကျတတ်၏။ မုန့်ကျွေးတတ်၏။

ထမင်းချက်ဆီမှ ဘီစကွတ်နွေးတချို့ တောင်းပြီး ဝါးရင်း ပြန်ထွက်လာခဲ့သည်။ မြင်းထိန်းပလေတိုက အန်းကို မြင်းပေါ် တင်ပေး၏။ ပြီးတော့ အန်းနောက်မှ သူ မြင်းနှင့် လိုက်လာခဲ့သည်။ အိမ်အဝင် လမ်းမကြီးအတိုင်း စီးထွက်လာခဲ့ကြရာ သံတံခါးကြီး ပွင့်နေ သည်ကို တွေ့ရ၏။ လမ်းတွင် ကွင်းထဲမှ လှည်းကြီးတစီးနှင့် လှည်းနံဘေးမှ မြည်းပေါ်တွင် လူဖြူတယောက် ပါလာသည်ကို တွေ့ရ၏။ ထိုလူသည် လှည်းမောင်းသမား လူမည်းအား အော်ဟစ် ငေါက်ငမ်းနေ၏။

"ဟေ့ ... မေည်းကောင် အစုတ်ပလုတ်၊ ဟိုမှာ မြန်မြန်လမ်းဖယ်ပေးပါလား"

အန်း မျက်မှောင်ကုတ်သွားသည်။ နီဂရိုးများအား ရိုင်းရိုင်းပျပျ ဆက်ဆံသည်ကို အန်းမကြိုက်။ မြင်းကို အသာအရှိန်လျှော့ပြီး ပြောလိုက်သည်။

"ကိစ္စမရှိဘူး၊ လွတ်တယ်၊ ကျွန်မ သွားလို့ ရပါတယ်၊ ကျေးဇူးပဲ"

မြည်းပေါ်မှ လူဖြူက အန်းကို သေသေချာချာ အကဲခတ်ပြီး ဦးထုပ်ကို ချွတ်ကာ ဦးညွှတ်သည်။

"လေးစားပါတယ် ခင်ဗျာ၊ ဝံ့စားလွန်းတယ် မထင်ပါနဲ့နော်၊ ခု ကျွန်တော် တွေ့ရတာ မစ္စရှာရမီပါလား ခင်ဗျာ"

သူ့စကားလုံးတွေက ဇွတ်ယဉ်ကျေးပြနေသည့် စကားလုံးများ ဖြစ်၏။ သို့သော် လေသံက ယဉ်ကျေးခြင်း အလျှင်းမရှိသည့် နယူးအင်္ဂလန်လေသံ။

"ဟုတ်တယ်၊ ကျွန်မ မစ္စရှာရမီပါ"

အန်း ဆက်ထွက်မည်ပြုတော့ သူက မြည်းကို မလွတ်မကင်း လုပ်ရင်း-

"တွေ့ရတာ ဝမ်းသာပါတယ် ခင်ဗျာ၊ ကျွန်တော်က မစ္စရှာရမီအဖေ နောက်ငှားထားတဲ့ အလုပ်ကြပ် ဂီးလ်ဒေးပါ"

သူက နှုတ်ခမ်းကို လျှာနှင့်လျက်ပြီး အန်းကို တခါထပ်ကြည့်ပြန်၏။ ရွံရှာစက်ဆုပ် မှုဖြင့် အန်း၏ နှာခေါင်းဖျားကလေး တလှုပ်လှုပ် ဖြစ်လာသည်။

"ကဲ... ကျွန်မ သွားမယ်"

"ဟုတ်ကဲ့ပါ ခင်ဗျာ၊ ကျွန်တော့်ကို ခိုင်းစရာရှိရင် အချိန်မရွေး ခိုင်းနိုင်ပါတယ် ခင်ဗျာ"

အန်း ဘာမျှ ဆက်မပြောဘဲ မြင်းကို သူ့နံဘေးမှ ဖြတ်စီးထွက်လာခဲ့သည်။

စိတ်ထဲ ကသိကအောက် ဖြစ်နေ၏။ အဖေနှင့် ဂျယ်ရီကို ပြောပြီး ဒီလိုလူမျိုးကို ရှင်းပစ်ရမည်။

ဝါဂွမ်းလွှင်ပြင်ကျယ်ကြီးကို ဖြတ်စီးလာခဲ့၏။ လမ်းဘေးတဖက်တချက်မှ ပင်မြင့် ပင်စောက်တွေပေါ်တွင် ရေညှိပင်များ တွဲလောင်းကျလျက်။ ဝါပင်တွေ အဖူးလိုက်လာပြီ။ ဂီးလ်ဒေးကို ဖြစ်နေသည့် ဒေါသတို့ ပျက်ပြယ်စပြုပြီ။ မကြာခင် သစ်ဖြူတော ဝါဂွမ်းမြေသည် နှင်းလွှင်ပြင်ကြီးလို ဖွေးဖွေးလှုပ်လာတော့မည်။

ပလေတိုက အန်း၏ မြင်းကို အမီလိုက်စီးလာပြီး-

"မမလေး"

"ဘာလဲ ပလေတို"

"အလုပ်ကြပ် လူသစ်က သိပ်မကောင်းဘူးနော်"

"တော်ပါပြီဟယ်၊ သူ့အကြောင်း မပြောစမ်းပါနဲ့၊ သူ ကြာကြာခံမှာလည်း မဟုတ်ပါဘူး"

"ဟုတ်ကဲ့ မမလေး"

ပလေတို နောက်ချန်ပြီး ဖြည်းဖြည်းစီးလိုက်လာသည်။ ရှေ့မှ လမ်းမကြီးသည် သစ်ပင် ရိပ်များအောက်တွင် ဖဲပြားတချပ် ဖြန့်ချထားသကဲ့သို့ တမျှော်တခေါ်ကြီး ပြန့်ပြူးနေ၏။

အန်း၏ ရင်ထဲတွင် ငြိမ်းချမ်းခြင်းဖြင့် ပြန်လည်တည်ငြိမ်စ ပြုလာသည်။ ဂီးလ်ဒေးကို ခေါင်းထဲမှ မောင်းထုတ်ပစ်လိုက်ပြီ။ ဟိုအဝေးမှ တလည်းပင်တန်းကြီးကို လှမ်းမြင်ရပြီ။

သည်တလည်းပင်တန်းကြီးသည် သစ်ဖြူတောနှင့် ဝက်သစ်ချမြိုင်၏ နယ်နိမိတ်စည်းရိုး ဖြစ်သည်။

ထိုစဉ် သူ့နာမည်ကို တစုံတယောက် အော်ခေါ်နေသံ အန်း ကြားလိုက်သည်။ ဟင် - - -ဒင်းနစ် ပါလား။ သူ ဝါခင်းတွေ ဖြတ်ပြီး အသော့နှင်လာနေ၏။ အန်းက မြင်းကို ဇက်သတ်ပြီး အသာရပ် စောင့်နေလိုက်၏။ ခါးသိမ်သိမ်၊ ပခုံးကျယ်ကျယ်နှင့် ဒင်းနစ်၏ ကိုယ်နေဟန်မှာ ကျားကျားလျားလျား ရှိလှသည်။ အားကောင်းမောင်းသန် ပုံစံမျိုး။ သူ့တွင် ဦးထုပ်လည်း မပါ၊ ကုတ်အင်္ကျီလည်း ဝတ်မထား၊ နေလောင်ထားသည့် ဆံပင်တွေက လေထဲ တွင် တလွင့်လွင့်။

အနားရောက်တော့ သူ စကားစသည်။

"ကြည့်စမ်း၊ ကိုယ့်လောက် ကံကောင်းတဲ့လူ ဇမ္ဗူမှာ ရှိမယ် မထင်ဘူး၊ နေကောင်း လား၊ ဘယ်သွားမလို့လဲ"

"ကောင်းပါတယ်၊ ဘယ်ရယ်လို့ မဟုတ်ပါဘူး"

"သိပ်ချစ်ဖို့ ကောင်းတာပဲ၊ မျက်နှာကလေးက ရေခဲမုန့်လို အေးလို့ မြလို့"

အန်း ပြုံးတော့ ပိုလို့ ချစ်ဖို့ ကောင်းသွားသည်။

"ကျေးဇူးတင်ပါတယ်၊ နှင်းဆီပန်းတွေ အတွက်လည်း ကျေးဇူးတင်ပါတယ်၊ သိပ်လှ တာပဲ"

နှစ်ယောက်သား မြင်းနှစ်စီးယှဉ်လျက် အသားကျ ဆက်စီးလာခဲ့ကြသည်။

"ပြတင်းပေါက် ဖွင့်ကြည့်လိုက်တော့ နေရောင်ထွက်ထွက်ချင်း ပွင့်နေတာတွေ လှမ်းမြင်တာနဲ့ ဆင်းခူးတာ၊ နှင်းဆီတွေက မင်းနဲ့ သိပ်တူတာပဲ"

"ခု ဘယ်သွားမလို့လဲ ဟင်"

"အခင်းထဲကိုပေါ့၊ ဒီနှစ် ဝါတွေ ပွင့်တာ သိပ်မြန်တာပဲ၊ အလုပ်ကြပ် လူသစ်ကို တွေ့ပြီး ပြီလား"

"သိပ်စိတ်ပျက်ဖို့ ကောင်းတဲ့ လူပဲ၊ လုံးဝ မကြိုက်ဘူး၊ ဂျယ်ရီနဲ့ အဖေ့ကို ပြောရမယ်၊ ဒင်းနစ်ကော..."

အန်းက စကားလမ်းကြောင်း ပြောင်းပြီး မေးလိုက်သည်။

"ငှက်ဖျားတွေ ဖြစ်နေတယ် ဆိုတော့ သစ်တွေ ဆက်ခုတ်ဦးမှာလားဟင်"

"ခုတ်မှာပေါ့၊ ခု ပြီးသွားပါပြီ၊ ဖြစ်သွားတဲ့အတွက် ကိုယ် အရမ်းစိတ်မကောင်း ဖြစ်ရတယ် အန်း"

"အန်းလည်း စိတ်မကောင်းဘူး ဒင်းနစ်၊ စိတ်ထဲမှာ တာဝန်ရှိနေသလို ခံစားရတယ်၊ တနေ့ အပ္ပဂျွန်းကောင်မလေးကို ပန်းခြံထဲမှာတွေ့လို့ ဒင်းနစ် သစ်ခုတ်သမားတွေ ခေါ်နေတဲ့ အကြောင်း အန်း ပြောလိုက်တာ၊ မနေ့က ဝက်သစ်ချမြိုင်မှာ တွေ့တော့ သူ့အစ်ကို နှစ်ယောက် ဆုံးသွားပြီတဲ့"

“ဒါပေမဲ့ မင်းအပြစ် မဟုတ်ပါဘူး အန်း၊ ဘာမှ စိတ်မကောင်း မဖြစ်ပါနဲ့”

“ဒါပေမဲ့ ရင်ထဲမှာ တမျိုးကြီးပဲ၊ သူတို့ ဘယ်မှာနေလဲ သိလားဟင်၊ ဘာများ လိုသေး လဲ မသိဘူး၊ တခုခု လုပ်ပေးရရင် ကောင်းမလားလို့”

“သူတို့ ဘယ်နေမှန်း ကိုယ် မသိဘူး၊ ခေါင်းထဲမှာ ထားမနေပါနဲ့ကွာ၊ သေဆုံးသူ တွေအတွက် ကိုယ် လျော်ကြေး ပေးလိုက်ပါတယ်၊ သူတို့ ဘာမှ မလိုလောက်ပါဘူး”

အန်းက အံ့သြလေးစားစွာ ဒင်းနစ်ကို လှမ်းကြည့်သည်။

“ဟုတ်လား၊ ကြည့်စမ်း၊ အန်း ခုမှ စိတ်အေးရတယ်၊ ဒင်းနစ်က သိပ်ကြင်နာတတ် တာပဲ၊ ဘယ်သူမှ ဒင်းနစ်လောက် မရက်ရောကြဘူး သိလား”

ဒင်းနစ်က သူ့ကို မြှောက်ပင့်ပြောလျှင် နေတတ်သူ မဟုတ်။ ချက်ချင်း စကားလွှဲ ပစ်သည်။

“ဆောင်းမတိုင်ခင် သစ်ခုတ်လုပ်ငန်း ပြီးသွားမှာပါ၊ အဲဒီနေရာတွေ ရှင်းသွားရင် ကိုယ် စပါးစိုက်မယ်၊ သစ်ကလည်း ဈေးကောင်းမီလိုက်တော့ မဆိုးပါဘူး”

“ဒင်းနစ် ဆုံးဖြတ်လိုက်ရင် မှန်တာချည်းပဲ”

အန်းက တလေးတစား ပြောသည်။ ခုအချိန်ဆိုလျှင် ချမ်းသာသည့် စိုက်ပျိုးရေး မြေပိုင်ရှင်ကြီးများသည် မြောက်ပိုင်းတွင် သွားပြီး ဖိမ်ခံနေကြသူ များသည်။ ဒင်းနစ်ကမူ ဝက်သစ်ချမြိုင်လို ရောမလုပ်ငန်းကြီးများကို တယောက်တည်း ပိုင်ပိုင်နိုင်နိုင် တာဝန်ယူ ထား၏။ ဘယ်မှ မသွား။

“ဆုံးဖြတ်ချက် မှန်တယ်ရယ်လို့ မဟုတ်ပါဘူးကွာ၊ ကိုယ့်ရည်ရွယ်ချက်ကတော့ ကြီးတယ်၊ ကဲ . . . ရောက်ပြီ၊ ခဏတော့ ဝင်ပါဦး”

ဝက်သစ်ချမြိုင် အဝင်ဝရောက်တော့ ဒင်းနစ်က ပြောလိုက်ခြင်း ဖြစ်၏။ အန်းသည် သူနှင့်အတူ မြင်းကို ယှဉ်စီးပြီး လိုက်ဝင်သွားသည်။ စိတ်ထဲတွင် ထူးထူး ခြားခြား ပေါ့ပါးရွှင်ပျနေ၏။ ဒင်းနစ်၏ အေးဆေးသော၊ ကိုယ့်ကိုယ်ကိုယ် ယုံကြည်မှုအပြည့် ရှိသော ပုံသဏ္ဍာန်သည် အခြား အခြားသော ပေါ့လျှုံလျှုံ ယောကျ်ားများနှင့် မတူဘဲ တမူကွဲ နေ၏။

စံအိမ်ကြီးကို ရောက်တော့ ဒင်းနစ်က အန်းကို မြင်းပေါ်မှ ကူဆင်းပေးသည်။

လေထု ထဲတွင် ဇီဇဝါရနံ့ သင်းပျံ့နေ၏။ ဒင်းနစ်က တပွင့်ခူးပြီး အန်း၏ အင်္ကျီရင်ဘတ် ကြယ်သီး ပေါက်တွင် ထိုးပေးသည်။ ပြီးတော့ ပလေတို မကြားအောင် အသံနှိမ့်ပြီး ပြော၏။

"သိပ်ချစ်ဖို့ ကောင်းတာပဲ"

ပြီးတော့ ပလေတိုကို လှမ်းခေါ်သည်။ မီးဖိုထဲတွင် တခုခုသွားစားဖို့ ပြောသည်။ ပြီးမှ အန်းနှင့်အတူ ဆင်ဝင်အောက်သို့ ဝင်ခဲ့ပြီး မေးသည်။

"ကိုယ်တို့ သံပရာရည် သောက်ကြရအောင်လား"

"ကောင်းသားပဲ၊ ရေခဲများများ ထည့်ပေးနော်"

"ကောင်းပြီ အန်း"

သူ ထွက်သွားတော့ အန်းတယောက်တည်း ရပ်ကျန်ရစ်၏။ ကျောက်သားတိုင်ကြီး တတိုင်ကို ကြိမ်လုံးနှင့် ခပ်ဖြည်းဖြည်းရိုက်ရင်း တွေးနေသည်။

သည်အိမ်ကြီးကို အကြိမ်ကြိမ် ရောက်ဖူးသည်။ သို့သော် သည်အိမ်ကြီး၏ ကြီးမား သော အစဉ်အလာနှင့် ဒဏ္ဍာရီဆန်လှသော ခမ်းနားထည်ဝါမှုကို သည်နေ့လို တခါမျှ မခံစား ခဲ့မိဖူးပေ။ သည်နေရာကား မိမိဘဝမြှုပ်နှံရာ ဖြစ်ကောင်း ဖြစ်မည့် နေရာပေတကား။

ရှုမဆုံးတော့သည့် စိုက်ပျိုးမြေများ၏ အောက်ဘက်တွင် ဒယ်လ်ရှိုင်းမြို့ကလေး ရှိသည်။ မဟာဆန်လှသည့် ယာတောအိမ်ကြီးများကို အစွဲပြု၍ ဒယ်လ်ရှိုင်းကို နန်းပြာသာဒ် မြို့ကလေးဟု တင်စားခေါ်ဝေါ်ကြ၏။ ဒယ်လ်ရှိုင်းမှ စိုက်ပျိုးခြံများသို့ သွားရာလမ်းများသည် အမေရိကန်တွင် အလှဆုံးလမ်းများ ဖြစ်လေသည်။ နန်းပြာသာဒ်နှင့် တင်စားသည့် ယာတော အိမ်ကြီးပေါင်း များစွာထဲတွင် ဝက်သစ်ချမြိုင်သည် အကြီးကျယ် အခမ်းနားဆုံး ဖြစ်၏။

လွန်ခဲ့သည့် နှစ်ပေါင်းများစွာက လန်းမျိုးဆက်တို့သည် ပြင်သစ်မှ ရှုခင်းပန်းချီဆရာ တယောက်ငှားပြီး ပန်းခြံနှင့် အိမ်အတွက် ပုံထုတ်ခဲ့ကြသည် ဆို၏။

ပင်မြင့် ပင်စောက်တွေ၊ စားပင်တွေ၊ ပန်းပင်တွေကို သူ့နေရာနှင့်သူ အနုပညာ မြောက်စွာ ပန်းချီကားအတိုင်း ဖန်ဆင်းနိုင်ခဲ့သဖြင့် ဝက်သစ်ချမြိုင်သည်

ကောရာဇ်တပါး စံမြန်းရာ နန်းဥယျာဉ်နှင့် တူနေခြင်း ဖြစ်လေသည်။

အိမ်ကြီးတွင် သုံးထားသည့် သစ်သားများမှာ ခြံထွက် ဆိုက်ပရပ်စ် သက်ရင့် ထင်းရှူးသားများ ဖြစ်ပြီး ဝရန်တာ ပတ်ပတ်လည်ရှိ ဒေါက်တိုင်များက ဂရိတ်ပုံစံများ ဖြစ်၏။

အိမ်ရှေ့မျက်နှာစာ အဝင်ဝ နှစ်ထပ်တံခါးရွက်ကြီးများက မှန်အပြည့် တပ်ထား၏။ မြစ်ဘက်ကို ကျောပေးပြီး ဆောက်ထားသည့် အိမ်ကြီးဖြစ်၍ မနက်အစောဆုံး နေရောင်ခြည် သည် သက်တံသဖွယ် အိမ်ထဲသို့ အလျင်ဆုံး တန်းဝင်နေ၏။ အလင်းရောင်သည် ဧရာမ ခန်းဆောင်ကြီးကို ဖြတ်ကာ အိမ်နောက်ဘက် ဝရန်တာသို့တိုင် တိုးလျှိုပေါက်ဝင်သွားသည်။

အိမ်မကြီးထဲတွင် အစေခံတွေ နေသည့် အခန်းများ မပါ အိပ်ခန်းပေါင်းသုံးဆယ် ရှိသည်။

သစ်ဖြူတောအိမ်ကြီး ဆောက်တုန်းက ရှာရမီဘိုးဘွားများသည် အဖြူနှင့် အနက် ရောင် မီးလင်းဖို ကျောက်သားများကို အီတလီမှ မှာယူတင်သွင်းခဲ့၏။ လန်းဘိုးဘွားများက အီတလီကျောက်ပြားများကို အားလုံး အဖြူရောင်ချည်း သုံးခဲ့၏။ ပတ္တာ၊ မင်းတုပ်နှင့် တံခါး လက်ကိုင်အားလုံးက ငွေသားစစ်စစ်တွေ။ မီးလင်းဖိုကြီးတခုစီ၏ အပေါ်မှ ဖယောင်းတိုင် မီးပဒေသာ ပန်းဆိုင်းများကလည်း ငွေရောင်တဖိတ်ဖိတ်။

ခန်းဆီးတွေအားလုံးမှာ ဘရိုကိတ်နှင့် ပိုးသားတွေချည်း။ အိမ်သုံးပရိဘောဂများမှာ ထုကြီးထည်ကြီးတွေချည်း ဖြစ်၏။ အညာတွင် လုပ်ပြီး ဗိသုကာကိုယ်တိုင် သယ်ယူကာ ဝက်သစ်ချမြိုင်ရောက်မှ တပ်ဆင်ဖြစ်သည်။

သို့သော် ဝက်သစ်ချမြိုင်၏ ကျက်သရေမှာ လှေကားကြီး ဖြစ်၏။ သည်လှေကား ကြီးကို အကြိမ်ကြိမ် ပြန်ဆောက်ရသည်ဟု အန်း ကြားဖူးသည်။ ဒင်းနစ်၏အဘိုး ဒေးဗစ်လန်း လက်ထက်တွင် သည်အိမ်ကြီးကို တည်ဆောက်ခြင်း ဖြစ်သည်။ သူက ဝက်သစ်ချမြိုင်ကို လူဝီစီးယားနားတွင် အခမ်းနားဆုံး အိမ်ကြီးဖြစ်အောင် တည်ဆောက်ချင်သည်။

ကျောက်သားတွေ၊ ပိုးဖဲကတ္တီပါတွေနှင့် အလှဆင်ရုံဖြင့် မကျေနပ်။ ဒါတွေက ပိုက်ဆံ ရှိလျှင် ဆိပ်ကမ်းအလုပ်သမားလည်း ဝယ်ဆင်နိုင်သည်။

ဒေးဗစ်လန်းသည် ဘိုးစဉ်ဘောင်ဆက်၏ အမွေအနှစ် သရုပ်သကန်ကို ပေါ်လွင်အောင် ဖော်ထုတ်ချင်၏။ သားအစဉ် မြေးအဆက်အတွက်

ရုန်းကန်လှုပ်ရှားခဲ့ရသည့် မဟာအစဉ် အလာကို ပေါ်လွင်စေချင်၏။ သူ၏ ဘိုးဘွားများသည် လူဝီစီးယားနား တောကြီးမျက်မည်း ဘဝတွင် ရောက်လာကြသူများ ဖြစ်သည်။ တောရိုင်းမြေတွေကို ခုတ်ထွင်ရှင်းလင်းကာ ဝက်သစ်ချမြိုင် ဖြစ်လာအောင် ဖန်ဆင်းခဲ့ကြသူများ ဖြစ်သည်။

လန်းမျိုးဆက်သွေးတို့သည် လူ့လောကထဲသို့ ဝင်လာကြမည်၊ ထွက်သွားကြမည်၊ မွေးလာကြမည်၊ ကြီးလာကြမည်၊ လက်ထပ်ကြမည်၊ သေဆုံးကြမည်။ သူတို့ အားလုံးသည် ခေတ်ဦးပိုင်း၏ ပုံရိပ်မှားများကို သိထားကြလိမ့်မည်၊ ခေတ်နှောင်းပိုင်း၏ အနိဋ္ဌာရုံများကို လည်း နားလည်ထားကြလိမ့်မည်။ သို့သော် ဘဝခရီးကို ဆက်လျှောက်ဖို့တော့ သူတို့အားလုံး သတ္တိရှိနေကြလိမ့်မည်။

သည်ကိစ္စနှင့် ပတ်သက်ပြီး ဒေးဗစ်လန်းက သူ့မိန်းမကို ပြောသည်။

"ဟုတ်တယ်လေ၊ ဘဝဆိုတာ ချားရဟတ်လို လည်နေတာပဲ"

"ကျွန်မကတော့ ဒီလို တွေးချင်တယ်၊ ဘဝဆိုတာ ကြောင်လိမ်လှေကားလို တဖြည်း ဖြည်း တက်သွားတာမျိုးလို့"

ဤသို့ဖြင့် သည်လှေကားကြီးကို အမျိုးမျိုး ပုံထုတ်တည်ဆောက်ခဲ့ခြင်း ဖြစ်လေ သည်။ ဗိသုကာဆရာများ အစွမ်းကုန် ကြိုးစားကြရသည်။ လနှင့်ချီ ကြာ၏။ အကြိမ်ကြိမ် ဖျက်၊ အကြိမ်ကြိမ် ပြန်ဆောက်ရသည်။ ဒုတိယထပ်အထိ အထောက်အကူ မရှိဘဲ လေထဲ ဝေ့ဝိုက်တက်သွားသည့် လှေကားကြီး။

ဖယောင်းတိုင် မီးပန်းဆိုင်းကြီး ထွန်းလိုက်သည့်အခါ လက်ထွင်း ကနုတ်လက်ရန်း တိုင်များသည် မီးရောင်တွင် လှချင်တိုင်း လှနေတော့သည်။

အခြား အခြားသော အိမ်များမှ လှေကားများလို အပေါ်ထပ်သို့ တက်ဖို့ သက်သက် ရည်ရွယ်ပြီး တည်ဆောက်ထားခြင်း မဟုတ်။ ဝက်သစ်ချမြိုင် လှေကားကြီးသည် အောက်မေ့ ဖွယ် ကျောက်စာတိုင်ကြီးတခုလို တည်ရှိခဲ့၏။

သည်လှေကားကြီးပေါ်တွင် အချစ်ဇာတ်လမ်းများစွာ ဖြစ်ပေါ်ခဲ့၏။ သည်လှေကား ကြီးပေါ်တွင် လန်းအမျိုးသမီးများသည် ရောမစကတ်ကြီးတွေ ဝဲကာ ဝဲကာဖြင့် ဆင်းလာ ခဲ့ကြသည်။ ရင်အုပ်ကျယ်ကျယ်နှင့် လန်းအမျိုးသားများသည်လည်း သည်လှေကားကြီးမှ အခံ့အညား ဆင်းလာခဲ့ကြသည်။

သည်လှေကားကြီးသည် အတက်၊ အဆင်းအတွက်

သက်သက်တည်ဆောက်ထားခြင်း မဟုတ်၊ သမနိရှည်စွာ တင်ကျန်မည့် လန်းမျိုးဆက်သွေးတို့အတွက် အမှတ်ရစရာ ပြယုဂ်တခု အဖြစ် တည်ဆောက်ထားခဲ့ခြင်း ဖြစ်၏။

အန်းသည် လှေကားရင်းတွင် ရပ်ရင်း ဝေ့ဝိုက်တက်သွားသော လှေကားထစ်များကို ငေးကြည့်နေသည်။ တဖက်တချက်တွင် ဒင်းနစ်၏ ဘိုးစဉ်ဘောင်ဆက် ပုံတူပန်းချီ ကားကြီးများ ချိတ်ထား၏။ နာမည်တွေ အားလုံး အန်း မသိ။ သို့သော် သည်ပန်းချီကားကြီးများထဲမှ တယောက်သည် မိမိနှင့် အမျိုးတော်နေမှန်းတော့ သိနေ၏။

မိမိနှင့် ဒင်းနစ်သည် မျိုးဆက်ရေစီးကြောင်း တကြောင်းတည်းမှ စီးဆင်းခဲ့ကြောင်း သိထား၏။ သူနှင့် လက်ထပ်ရလျှင် မပျော်နိုင်စရာ အကြောင်း မရှိဟုလည်း မြင်လာ၏။

ခန်းမဆောင်ထဲ ဒင်းနစ် ပြန်ဝင်လာသည်။ ချောမောလျက်။ ခံ့ညားလျက်။ မိန်းကလေး တိုင်း မနာလိုဖြစ်ရမည့် လက်ထပ်ပွဲကို အချိန်ဆွဲနေမိခြင်းအတွက် ကိုယ့်ကိုယ်ကိုယ် ကျိန်ဆဲ လိုက်မိ၏။

လှေကားရင်းတွင် ဆုံမိကြတော့ ဒင်းနစ်က အန်း၏ ကိုယ်ကလေးကို ရင်ခွင်ထဲ ဆွဲသွင်း လိုက်သည်။ ခဏနေတော့ အန်းက လူချင်းခွာလိုက်ပြီး ဒင်းနစ်ကို သေသေချာချာ ကြည့်သည်။ သူနှင့် နီးစပ်မှုတွင် ပျော်ရွှင် ကျေနပ်နေမိ၏။

ဒင်းနစ်က ဘာမျှ မပြောဘဲ လက်တဖက်ကို အန်း၏ပခုံးပေါ် တင်ကာ တဖက်က ခါးကို သိုင်းဖက်ထား၏။ အန်းတွင် ရုန်းထွက်လိုစိတ်များ အားပျော့သွားပြီ။ သည်တော့မှ ဒင်းနစ်က ချစ်သူ၏ နှုတ်ခမ်းအစုံကို နမ်းသည်။ ဘယ်ရွေ့ ဘယ်မျှ ချစ်နေမိကြောင်းလည်း တိုးတိုးကလေး ပြောနေ၏။

အန်းက သူ့ပခုံးပေါ် ခေါင်းမှီပြီး ကြေးနီရောင် ပေါက်နေသည့် သူ့ဆံပင်တွေကို ဖွနေ၏။ လက်ထပ်ဖို့ ဒင်းနစ် ထပ်ပြောတော့ အန်း ခေါင်းညိတ်သည်။ သို့စင်လျက် စိတ်ထဲ မတင်မကျဖြစ်နေဆဲ။ မိမိ၏ ဒုတိယအသံက မေးနေသည်ကို ပြန်ကြားနေ၏။ စိတ်ကူးယဉ် အချစ်ထက် သူ ဘာတွေများ ထပ်ပေးနိုင်မှာလဲ။ တိကျသည့် အဖြေကို စဉ်းစားမရသဖြင့် မကျေမနပ် ဖြစ်သွား၏။

ဒင်းနစ်ဘက်ကမူ အပျော်ကြီးပျော်မှာ သေချာနေသည်။ ရင်ထဲမှ ဆွတ်ပျံ့စွာ လှုပ်ရှား နေမှုက သူ့မျက်နှာတွင် ထင်ဟပ်နေ၏။

အန်းက အလေးအနက် မေးခွန်းထုတ်သည်။

“လက်ထပ်တယ် ဆိုတာ ဘဝမှာ အရေးအကြီးဆုံး မှတ်တိုင်တခုလို့ ကြားဖူးတယ်၊ နောင် နှစ်ပေါင်းသုံးဆယ်ကြာရင် အန်း ဘာဖြစ်စေချင်တယ် ဆိုတာ ခုနေ အန်း ဘယ်လိုလုပ် သိမလဲ”

ဒင်းနစ် ခပ်တိုးတိုး ရယ်သည်။ ပခုံးပေါ်မှ ဆံခွေကလေးတခုကို ယူနမ်းရင်း-

“ဖြစ်စေချင်တာ အကုန်ဖြစ်ရမှာပေါ့ အန်းရဲ့”

“ဒင်းနစ်က သိပ်ကို ချစ်ဖို့ ကောင်းတာပဲ”

သူ့ပခုံးနှစ်ဖက်ကို ခိုတွဲပြီး အန်း ပြန်ပြောမိသည်။ ရင်ထဲတွင် တသိမ့်သိမ့် ကြည်နူး နေ၏။ ရှေ့သွားနောက်လိုက် ညီလှသည့် သတို့သမီးနှင့် သတို့သားပုံစံကို မြင်ယောင်လာပြီး ရင်တွေခုန်နေ၏။ နှစ်ပေါင်းများစွာ လူတွေပါးစပ်ဖျားတွင် ပြောစမှတ်ပြုနေရမည့် မင်္ဂလာ ဆောင် ဖြစ်လာမည်မှာ မုချဟု ယုံကြည်ထားလိုက်၏။

ခဏနေတော့ ဧည့်ခန်းထဲ သွားပြီး ဆိုဖာတလုံးပေါ်တွင် ယှဉ်ထိုင်လိုက်ကြသည်။ ရေခဲစိမ်သံပရာရည်သောက်ရင်း ဒင်းနစ်က အန်းကို သိုင်းဖက်ထားသည်။ ကြည်နူးမှု အပြုံး ကိုယ်စီဖြင့် စကားမပြောဖြစ်ကြတော့။ ငြိမ်နေကြ၏။

# (၃)

အောက်တိုဘာလ ပထမပတ်ထဲတွင် မစ္စက်လန်းသည် ဝက်သစ်ချမြိုင်အိမ်ကြီး၏ နှစ်ဝက်သန့်ရှင်းရေးလုပ်ဖို့ အလုပ်သမားများနှင့် စီမံခန့်ခွဲလျက် ရှိသည်။ အလုပ်ပြီးသွားတော့ ခိုင်းသည့်အတိုင်း ဖြစ် မဖြစ်၊ ထောင့်စေ့ မစေ့ လိုက်ကြည့်သည်။ ခြေလှမ်းတိုင်း ခါးရှိသော့တွဲကြီးမှ အသံတချွင်ချွင် မြည်လျက်။

မစ္စက်လန်းသည် ဝက်သစ်ချမြိုင်ကို ချစ်သည်။ မွေးပျံ့နေသော အဝတ်ဗီရိုတွေ၊ ပြောင်လက်နေသော ကြမ်းခင်းတွေ၊ ဖုန်တွေ တက်နေသည့် နှစ်ချို့ဝိုင်ပုလင်းများ ထားရာ မြေအောက်ခန်းထဲမှ စင်တွေကို သံယောဇဉ်ကြီးသည်။ ပြီးတော့ ငွေထည်ပစ္စည်းတွေ၊ ဖန်ထည် ပစ္စည်းတွေ၊ ပန်းကန်ခွက်ယောက်တွေ။

ဝက်သစ်ချမြိုင်သည် မိမိ၏ကမ္ဘာ ဖြစ်သည်။ သည်ကမ္ဘာကို ဂုဏ်သိက္ခာကြီးစွာ အုပ်ချုပ်ခဲ့သည်။ အစေခံအားလုံး ကျိုးကျနေပြီးသား ဖြစ်၏။ အလစ်အဟာ မရှိ၊ ကွက်တိ။ အလုပ်ချိန် တွင် မခိုမကတ် အလုပ်လုပ်ကြရ၏။ အလုပ်ပြီးချိန်တွင် အပြည့်အဝ အနားယူကြရ၏။ အပူ အပင်မရှိ၊ ပကတိ အေးဆေး၏။

အချို့ အိမ်ရှင်မများ အိမ်ကို လူငှားဖြင့် စီမံခန့်ခွဲလျက် ရှိသည်။ မစ္စက်လန်း နားမလည် နိုင်။ နာမကျန်းဖြစ်၍ အိပ်ရာထဲက မထနိုင်သည့် အခါမျိုးတွင်သာ ခါးမှ သော့တွဲကို ဖြုတ်ပြီး နပိုလီယံအား ပေးလေ့ရှိ၏။

အိမ်မှုကိစ္စအဝဝကို နပိုလီယံ ကလေးဘဝကပင် မစ္စက်လန်း သင်ပေးထားပြီး ဖြစ်၏။ ကျန်အစေခံများအပေါ် အုပ်ချုပ်ရသဖြင့် နပိုလီယံသည် သူ့ကိုယ်သူ ဂုဏ်ယူမဆုံး ဖြစ်နေ၏။ အိမ်နောက်ဘက် ဝရန်တာတွင် အိမ်စေယောက်ျားကလေးများက ဆောင်းတွင်းသုံး ကော်ဇောများနှင့် ခန်းဆီးလိပ်များကို ဖြန့်ကာ ပိုးမွှားများရန်မှ ကာကွယ်ရန် နွေ့တုန်းက ထည့်လိပ်ထားသည့် ဆေးရွက်ကြီးများအား ခါထုတ်နေကြ၏။ မိန်းကလေးများက စားပွဲခင်းများ၊ ခန်းဆီးများ ထည့်သည့် ဗီရိုများကို သန့်ရှင်းရေး လုပ်နေကြသည်။

မစ္စက်လန်းသည် ကော်ဇောဖြန့်နေကြသည့် ကောင်လေးများကို တချက်ကြည့်ပြီး ခန်းမဆောင်ထဲသို့ ပြန်ဝင်သွားသည်။ ကောင်မလေးတယောက်ကို ဖယောင်းတိုင် ထွန်းခိုင်းပြီး မြေအောက်ခန်းထဲသို့ တယောက်တည်း

ဆင်းလာခဲ့သည်။ မြေအောက်ခန်းမှာ လေးပေထုသည့် ကွန်ကရစ်နံရံများဖြင့် တည်ဆောက်ထား၏။ စင်များပေါ်တွင် ပင့်ကူအိမ်တွေ တွယ်နေသည့် ရှေးဟောင်းအရက်ပုလင်းများ တန်းစီလျက်။ သည်အရက်ပုလင်းများသည် မည်သည့်အရာနှင့်မျှ အစားထိုးမရသဖြင့် ဝက်သစ်ချမြိုင်၏ အမှတ်ထင်ထင် အခမ်းအနားများအတွက်မှ လွဲ၍ ဘယ်တော့မျှ ထုတ်သုံးသည့် အစဉ်အလာ မရှိ။

တနေရာတွင် မီးခံသေတ္တာကြီး ရှိသည်။ အိမ်ပေါ်တွင် ထားဖို့ မသင့်လျော်သည့် အတွင်း ပစ္စည်းများ ထားသော မီးခံသေတ္တာကြီး ဖြစ်၏။

မြေအောက်ခန်းထဲတွင် အားလုံး သူ့နေရာနှင့်သူ ရှိနေသဖြင့် မစ္စက်လန်းသည် အပေါ် သို့ ပြန်တက်ခဲ့သည်။ ဖယောင်းတိုင်ကို ကောင်မလေးအား ပြန်ပေးပြီး နပိုလီယံကို လှမ်း ပြောသည်။

"ကောင်လေးတွေ ကော်ဖောလိပ် ခါပြီးရင် ငါ့ကိုပြော၊ ငါ စာကြည့်ခန်းထဲမှာ ရှိမယ်"

"ဟုတ်ကဲ့ မေမေကြီး"

နပိုလီယံက ခါးအထိ ဦးညွှတ်ပြီး ပုံစံကျ ဘဏ္ဍာစိုးတယောက်၏ အမူအရာမျိုးဖြင့် ပြန်ပြောသည်။

"ဪ.. . မေမေကြီး၊ လက်ကိုင်ပဝါ ကျကျန်နေခဲ့တယ် ခင်ဗျ"

အေး အေး.. . ကျေးဇူးပဲ နပိုလီယံ"

နပိုလီယံက ဆောင်းတွင်း ခန်းဆီးတွေ ချိတ်ဆွဲခန်းတွင် လိုက်ချိတ်နေသည့် ကောင်လေး တသိုက်ကို စေ့စေ့စပ်စပ် လိုက်ကြည့်နေ၏။ သူသည် ဝက်သစ်ချမြိုင်တွင် မွေးလာသူ ဖြစ်သည်။ သူ့အဖေ၊ အမေများလည်း အလားတူပင်။ သူ့အလုပ်တွင် သူ အကျေနပ်ကြီး ကျေနပ် နေသူ ဖြစ်၏။ ဂုဏ်ယူနေသူ ဖြစ်၏။ မစ္စက်လန်းက လှေကားခုံတဖက်သို့ ချိုးကွေ့မသွားမီ သူ့ကို ကျေးဇူးတင်သည့် မျက်လုံးများဖြင့် ကြည့်သွားသည်။

စာကြည့်ခန်းထဲ ရောက်တော့ စာရင်းစာအုပ် အထပ်ကြီးကို ကြည့်ပြီး မဖွင့်သေးဘဲ အခန်းပတ်ပတ်လည်ကို ကြည့်လိုက်သည်။ မီးလင်းဖိုပေါ်မှ တောနှင်းဆီသားနှင့် လုပ်ထား သည့် ပန်းအိုးထဲတွင် ဒေလီယာပွင့်များသည် တောက်ပသည့် နေရောင်ခြည်တွင် ရောင်စုံဖြာ နေ၏။

မကြာခင် နေခြည်ဖျော့သွားတော့မည်။ နှင်းမြူတွေ မှောင်လာတော့မည်။

သည့်အတွက် အချိန်မီ အိမ်ရှင်းနေရခြင်း ဖြစ်၏။

"မေမေကြီးက ဒီလို လုပ်ခိုင်းတာ. မေမေကြီးက ဒီလိုပြောတာ... မေမေကြီးက..."

အလုပ်လုပ်ရင်း အစေခံများ ပြောဆိုနေသံတွေ ကြားနေရ၏။ အသံမထွက်ဘဲ တိုးတိုး ကလေး ဆုတောင်းလိုက်၏။

"တပည့်တော်မ၏ ဝက်သစ်ချမြိုင်အပေါ် သံယောဇဉ်ကို သူတို့ မသိကြပါစေနဲ့ ဘုရား ယောကျ်ားဆုံးပြီးကတည်းက ပထမဆုံးအကြိမ်အဖြစ် မိမိပိုင်ကမ္ဘာကို စွန့်လွှတ်ဖို့ သန္နိဋ္ဌာန်ချလိုက်ပြီး ဖြစ်သည်။ ဒင်းနစ် လက်ထပ်တော့မည်မှာ သေချာနေပြီ။ ကြက်မကြီး က ကြက်သားကလေးကို အတောင်အောက်တွင် အုပ်ထားသလို ဆက်လုပ်လို့ မရတော့ပြီ။ အိမ်ထောင်၏ အာဏာကို အမြဲတမ်း လွှမ်းခြုံစိုးမိုးထားသည့် ယောက္ခမမျိုး မဖြစ်စေဖို့ ကိုယ့်ကိုယ်ကိုယ် ဆုံးဖြတ်ပြီး ဖြစ်၏။ သို့သော် ဒင်းနစ် လက်ထပ်မည့် မိန်းကလေးကြောင့် သည်ဆုံးဖြတ်ချက်မှာ အကောင်အထည်ဖော်ဖို့ ခပ်ခက်ခက် ဖြစ်နေ၏။ သူယူမည့် မိန်းကလေး က သစ်ဖြူတောမှ မျက်လုံးလှလှနှင့် ခပ်တုံးတုံး ပုံ့တံတံ ကောင်မကလေး။

ဟိုးနှစ်ပေါင်းများစွာမှ ကိုယ့်ပုံရိပ်ကို ကိုယ်ပြန်မြင်လာသည်။ ပိန်ပိန်သွယ်သွယ်နှင့် အေးအေးငြိမ်ငြိမ် မိန်းကလေး။ အလှကြီး မဟုတ်သော်လည်း ဣန္ဒြေကြီးသည်။ နာမည်က ဖရန်းစက်ဂျူဟာန်။ မြစ်ရိုးတလျှောက်၌ လှေတည်ဆောက်ရေးတွင် နာမည်ကြီးသည့် လုပ်ငန်း ရှင်ကြီး၏ သမီး။

ဆီဘက်စတိန်းလန်းကို လက်ထပ်တော့ တာဝန်ကျေ ဇနီးတယောက် ဖြစ်ရမည်ဟု ယုံကြည်ခဲ့၏။ ဝက်သစ်ချမြိုင် သခင်မတယောက်အဖြစ် အပြည့်အဝ ခံယူဖို့ ကြိုးစားခဲ့၏။ သို့သော် ကျန်းမာရေး မကောင်းသဖြင့် ဘဝသည် ထင်သလောက် အဆင်မချောခဲ့ပေ။ ဒင်းနစ်ကို မွေးပြီးတော့ ရှိသမျှအားအင်တွေ ကုန်ခန်းသလို ဖြစ်သွားခဲ့၏။ နောက် ဆက်တိုက် မွေးသည့် ကလေးလေးယောက်စလုံး မွေးမွေးချင်း ပျက်စီးကြ၏။ ဆဋ္ဌမမြောက် စင်သီယာ ကလေးကျမှ အဖတ်တင်သည်။ ထိုအချိန်တွင် ဖရန်းစက် ဆံပင်တွေ ဖြူစပြုနေပြီ။

ဒင်းနစ် လူလားမြောက်လာတော့ သောကအားလုံး ပြေကာ သားကြီးမှ သားကြီး ဖြစ်ခဲ့ရ၏။ ဒင်းနစ်သည် သူ့ အဘိုးများလို အားကောင်းမောင်းသန် ယောကျ်ားပီသသူ တယောက် ဖြစ်၏။ အဖေဆုံးတော့ ဒင်းနစ်သည် ဝက်သစ်ချမြိုင်၏ အိမ်ရှေ့ဥပရာဇာ ဘဝမှ အရှင်သခင်ကလေး ဖြစ်လာခဲ့သည်။ ဝက်သစ်ချမြိုင်သည် အစဉ်အလာအရ ပိုင်ပိုင် နိုင်နိုင် စီမံအုပ်ချုပ်နိုင်သည့်

မျိုးစဉ်အဆက်ဆက်၏ လက်ထဲသို့ ကျရောက်စမြဲ မဟုတ်လား။

သည်အချိန်တွင် အန်းရှာရမီသည် ကျောင်းပြီးသဖြင့် ပါရီမှ ပြန်ရောက်လာခဲ့သည်။ အဝတ်အစားတွေ တလှေတိုက်ဖြင့် ပြန်ရောက်လာခြင်း ဖြစ်၏။ ကလေးမသည် အဝတ် အစားနှင့် သူ့အနားတွင် ဝိုင်းဝိုင်းလည်နေသည့် ယောက်ျားလေးများမှ လွဲ၍ ဘာကိုမျှ စိတ်မဝင်စား။ အန်းရှာရမီသည် မအေတူ မိန်းကလေး ဖြစ်သည်။ အန်းတို့ အမေနှင့် ဗိုလ်မှူး ကြီးရှာရမီသည် ဆာဗာနာတွင် တွေ့ခဲ့ကြ၏။ ရှာရမီလို ပုဂ္ဂိုလ်က ရှန်ပိန်တမြမြနှင့် သည် မိန်းကလေးကို ဘာကြောင့် မျက်စိကျခဲ့ပါလိမ့်။ ဖရန်းစက် လုံးဝ နားမလည်ခဲ့ပေ။

ဒင်းနစ်က အန်းကို အရူးအမူး ဖြစ်နေပြန်ပြီ။ သည်မိန်းကလေးတွင် ဦးနှောက်မရှိမှန်း ဖရန်းစက်ခေါ် မစ္စက်လန်း အတိုင်းသား မြင်နေခဲ့သည်ပဲ။

မည်သို့ရှိစေ သူတို့ လက်ထပ်ကြတော့မည်။ ဝါကောက်ချိန်ပြီးလျှင် မင်္ဂလာဆောင် ကြတော့မည်။ တနေ့တွင် သားက မအေကို ပွင့်ပွင့်လင်းလင်း ဆွေးနွေးသည်။

“မေမေ သူ့ကို သဘောမကျမှန်း ကျွန်တော် သိပါတယ်၊ ဒါပေမဲ့ ကျွန်တော် သဘောကျတယ်လေ၊ ဒီကိစ္စ ကျွန်တော်နဲ့သာ ဆိုင်တယ်၊ မေမေနဲ့ မဆိုင်ဘူး ထင်တယ်”

“ဟုတ်ပါတယ်၊ မဆိုင်ပါဘူး ဒင်းနစ်၊ မေမေ စိတ်မကောင်းပါဘူး”

“မေမေ ဘာလို့ သူ့ကို သဘောမကျတာလဲ ဟင်”

“ပိုက်ဆံသုံးဖို့နဲ့ အဝတ်အစားကလွဲပြီး တခြား ဘာမှ စိတ်မဝင်စားတဲ့ မိန်းကလေး တိုင်းကို မေမေ သဘောမကျဘူး”

“ဟာ .. မဟုတ်သေးပါဘူး မေမေရာ၊ ပြီးတော့ အဲဒါ မဟုတ်ပါဘူး”

ဖရန်းစက် ဘာမျှ ဆက်မပြောတော့။ ဆက်ပြောနေလျှင် တရားနည်းလမ်းကျမည် မထင်။ သို့သော် မိမိ မမှားကြောင်းကိုကား သေသေချာချာ ယုံကြည်နေ၏။

သည်နေ့တနေ့လုံး စာကြည့်ခန်းထဲတွင် ခေါက်တုံ့ခေါက်ပြန် လျှောက်နေမိ၏။ အန်းဆိုသည့် မိန်းကလေးကို ဝက်သစ်ချမြိုင်၏ အရှင်သခင်မ နေရာတွင် ထားကြည့်မိ၏။ ဒင်းနစ်၏ဘဝ ဘယ်လို ဖြစ်သွားမည်လဲ။

တဖက်ခန်းမှ ပြေင်သစ်စာသင်နေသည့် စင်သီယာ့အသံကို ကြားနေရ၏။ ဆရာမနှင့် စကားပြော လေ့ကျင့်နေချိန် ဖြစ်သည်။ သူတို့ စကားသံထဲတွင် အန်း၏ နာမည် ပါပါလာ သည်ကို သတိထားမိလိုက်၏။ ဆရာမက သူ့ကို ကြိုက်သည့် အကြောင်းအရာကို ပြောဖို့ လွှတ်ပေးထားခြင်း ဖြစ်သည်။ မှားသည့် နေရာတွင် ဝင်ပြင်ပေး၏။

"အန်းက အရမ်းလှတယ် ဆရာမ၊ အဝတ်အစားလည်း အရမ်း ဝတ်တတ်တယ်၊ သူဟာ အလှဆုံးသတို့သမီး ဖြစ်လာမှာ သေချာတယ်၊ မေမေ ခွင့်ပြုရင် သူ့ဆီကို စင်သီယာ နေ့တိုင်း သွားလည်မယ်၊ သူ့မင်္ဂလာဝတ်စုံကို ဘရာဆယ်က လာတဲ့ ဇာအစစ်တွေနဲ့ ချုပ်မှာတဲ့၊ ခါးစည်းတင်ပုံခွေတွေကလည်း ကြိမ်မဟုတ်ဘူး တဲ့၊ စတီးအစစ်နဲ့ လုပ်မှာတဲ့"

ဖရန်းစက် မျက်လုံးပြူးသွားသည်။ ဇာအစစ်တွေတဲ့၊ တထည်ကို ဒေါ်လာထောင့် ငါးရာလောက် ကုန်မည်။ မိမိတသက်တာတွင် တခါမျှ ဝတ်ဖို့ မစဉ်းစားခဲ့သည့် အဝတ် မျိုးတွေ။ သူ့သမီး ပန်ချင်တယ် ဆိုရင် ဗိုလ်မှူးကြီးရှာရမီက ကြယ်တွေများ ခူးပေးမည်လား မသိ။

ဒင်းနစ် စာကြည့်ခန်းဝ ရောက်လာသည်။ မြင်းစီးဝတ်စုံနှင့် လက်အိတ်စွပ်ထား သည့် လက်တွင် ကျာပွတ်ကို ကိုင်လျက်။

"သား အပြင်သွားမလို့လား"

"ဟုတ်ကဲ့ မေမေ၊ သစ်ဖြူတော သွားလိုက်ဦးမယ်၊ ညစာ ပြန်မစားတော့ဘူး"

"ကိုကြီးဒင်းနစ်"

စင်သီယာ့ အော်ခေါ်သံ ကြားလိုက်ရ၏။

"သစ်ဖြူတော ရောက်ရင် မမအန်းကို ပြောလိုက်နော်၊ စင်သီယာ သတိရပါတယ်လို့"

"အေး အေး... ပြောလိုက်မယ်"

ဒင်းနစ်က ပြုံးပြုံးကြီး ပြန်ပြောရင်း-

"မေမေ... အလုပ်များနေလား ဟင်"

"ရပါတယ်၊ သား ဘာပြောစရာ ရှိလို့လဲ"

ဒင်းနစ်က စာကြည့်ခန်းတံခါး ပိတ်လိုက်ပြီး-

"ဒီဇင်ဘာလ ခြောက်ရက်နေ့မှာ မင်္ဂလာဆောင်ဖြစ်မယ်လို့ ပြောမလို့ပါ၊ ပြီးတာနဲ့ ကျွန်တော်နဲ့ အန်း ကမ်းခြေကို ခရီးထွက်မယ်၊ မြောက်ပိုင်း မသွားတော့ဘူး၊ သိပ်အေးမှာ"

ဖရန်းစက်က စားပွဲတွင် ထိုင်လျက် စာရင်းစာအုပ်တွေ လှန်ရင်း-

"သွားလေ၊ ဘယ်လောက် ကြာမှာလဲ"

"တလလောက်ပေါ့"

"အင်း. . . တော်တော် ကြာမှာပါလား၊ အလုပ်ပူတဲ့ အချိန်ကြီးနော်၊ ဒါဆို ကြံ့ကြိတ် ချိန် ပြန်မရောက်နိုင်ဘူးပေါ့"

ဒင်းနစ်က ပြုံးပြီး-

"ကျွန်တော် မရှိလည်း ဖြစ်ပါတယ် မေမေ၊ တခါတလေပဲ၊ လက်ထပ်တယ် ဆိုတာ တသက်မှာ တခါပဲဖြစ်တဲ့ကိစ္စပါ မေမေ၊ အန်းက ကမ်းခြေကို သိပ်သဘောကျတာ"

"အင်း.... စိုက်ပျိုးရေးသမားတယောက်ကို ယူရင် ဒီလိုရာသီမှာ မင်္ဂလာခရီးတိုပဲ ထွက်သင့်တယ် ဆိုတဲ့ အတွေးမျိုး သူ့ခေါင်းထဲ ဝင်မယ် မထင်ဘူး"

ဒင်းနစ် မျက်နှာ မည်းသွားသည်။

"ဒီမယ် မေမေ၊ ကျွန်တော် မေမေ့ကို ပြန်မပြောချင်ပါဘူး၊ ဒါပေမဲ့ မေမေ့ဟာ မလွန် လွန်းဘူးလား"

မေမေ ဖရန်းစက် သက်ပြင်းချသည်။

"ဆောရီး ဒင်းနစ်"

ဒင်းနစ်က စားပွဲပေါ် လက်ထောက်လိုက်ပြီး-

"မေမေ ပြောပြီး စိတ်မကောင်း ဖြစ်တာချည်းပဲ၊ သူ့အတွက် မဟုတ်တောင် ကျွန်တော့် အတွက်တော့ နည်းနည်းကြည့်သင့်ပါတယ် မေမေ"

"အင်း. . . ဟုတ်တာပေါ့၊ ဒါပေမဲ့ မေမေ ဘယ်တော့မှ မရိုင်းပါဘူး"

“ဒါပေမဲ့ မေမေ သူ့ကို မကြည်ဖြူဘူး ဆိုတာ သူ သိနေတယ်၊ မေမေက သူ့ကို အနာကြီးရောဂါသည်လို ဆက်ဆံနေတာလို့ ကျွန်တော့်ကို တခါမက ပြောဖူးတယ်”

ဖရန်းစက်က ဒင်းနစ်၏ လက်ကို လှမ်းဆုပ်ပြီး မျက်လွှာပင့် ကြည့်ရင်း ပြုံးသည်။

“ဒီမယ် ဒင်းနစ်၊ မေမေဟာ သားကို ရင်ခွင်ထဲမှာ အမြဲထည့်ထားချင်တဲ့ အမေမျိုး မဖြစ်အောင် အမြဲထိန်းခဲ့တယ်၊ ဒါပေမဲ့ အခါခပ်သိမ်းတော့ မအောင်မြင်ဘူး၊ အဲဒါက မင်းဘဝ အတွက်ကြောင့်၊ မင်း ပျော်ရွှင်မှု ရစေချင်လွန်းလို့၊ ဒါပေမဲ့ ရံခါမှာ အဲဒီလို မပေါ်လွင်ဘဲ မေမေ့အတွက်လို ဖြစ်ဖြစ်သွားတယ်”

“ကျွန်တော် နားလည်ပါတယ် မေမေ၊ ဒါပေမဲ့ လက်စနဲ့ မေမေ့ကို မေးပါရစေ”

"မေးလေ၊ မေးပါ”

ဒင်းနစ်က စကားလုံး ရွေးပြောသည်။

“အန်းလို ချစ်စရာကောင်းတဲ့ မိန်းကလေးတယောက်ကို မေမေ ဘာလို့ သဘောမကျနိုင်တာလဲဟင်၊ ပြီးတော့ မေမေ သူ့ကို မကြည်ဖြူနိုင်ဘူး ဆိုရင် ဘယ်လိုလုပ်ပြီး တအိမ် တည်း နေလို့ ဖြစ်မလဲ”

ဖရန်းစက် ရင်ထဲတွင် လှုပ်ခါသွားသည်။ သို့သော် ဣန္ဒြေတော့ မပျက်၊ ဒင်းနစ်၏ အမြင် မမှားကြောင်း သိနေ၏။ ဒင်းနစ် စကားဆက်သည်။

“အဖေရှိရင်လည်း အကောင်းသား၊ ကျွန်တော်တို့ မြို့ထဲမှာ အိမ်ခွဲနေလို့ ရတာပေါ့၊ ဒါပေမဲ့ ခုအခြေအနေက ဝက်သစ်ချမြိုင်မှာ ရှိနေမှ ဖြစ်မှာ”

ဖရန်းစက် မတ်တတ်ထရပ်သည်။ အသံကို ထိန်းနိုင်ပါစေဟု ကျိတ်ပြီး ဆုတောင်း လိုက်၏။ ပြီးတော့ ခပ်လေးလေး ပြန်ပြောသည်။ မျက်လုံးများက သားကို စိန်းစိန်းကြည့်လျက်။

“မေမေ နားလည်ပါတယ်၊ စင်သီယာကို ခေါ်ပြီး မေမေ နိုင်ငံခြားသွားမယ်၊ သူ့ပြင်သစ်စကား ပိုကောင်းလာဖို့ အတွက်လေ၊ သားတို့ မင်္ဂလာဆောင်ပြီးပြီးချင်း သွားမယ်၊ အမေရိကန်ကို ပြန်လာရင်လည်း ဝက်သစ်ချမြိုင်ကို ပြန်မလာသေးဘူး”

ဒင်းနစ် ပြုံးလိုက်ပြန်သည်။

“မေမေဟာ အမြော်အမြင်အကြီးဆုံး မေမေပါ၊ ကျေးဇူးတင်ပါတယ်

မေမေရယ်”

ဖရန်းစက်က လက်နှစ်ဖက်ဖြင့် ဒင်းနစ်၏ ပါးနှစ်ဖက်ကို ကိုင်ပြီး-

“ဒင်း.... သားဟာ မေမေ့အချစ်ဆုံးပါ ၊ သားကိုယ်တိုင် ရွေးပြီး လျှောက်တဲ့လမ်းကြောင်း မှာ ဖြောင့်ဖြူးပါစေလို့ မေမေ ဆုတောင်းပါ့မယ်။ ကဲ.. . ကဲ . . . သစ်ဖြူတောကို ပြေးချေဦး၊ အန်းကို ပြောလိုက်ပါကွယ်၊ မေမေ သူ့ကို သတိရပါတယ်လို့”

“မေမေဟာ သိပ်ချစ်ဖို့ ကောင်းတဲ့ မေမေပါ မေမေ”

ဒင်းနစ်က မအေကို ငုံ့နမ်းပြီး ထွက်သွားသည်။ သူ လှေကားမှ ပြေးဆင်းသွားသံကို ဖရန်းစက် ကြားနေရ၏။ မီးလင်းဖိုဆီသို့ လျှောက်သွားသည်။ ပန်းအိုးထဲမှ ဒေလီယာပွင့်တွေ ကို ယူပြီး ခြေမွပစ်လိုက်၏။ ပွင့်ဖတ်တွေ မီးလင်းဖိုခုံပေါ်သို့ တဖွားဖွား ကြွေကျသွားသည်။

ကိုယ့်တာဝန် ကိုယ်ကျေအောင် မိမိလောက် ကြိုးစားခဲ့သူသည် ကမ္ဘာမှာ ရှိနိုင်ပါမည် လား။ ဘယ်လောက်ခက်ခဲ ပင်ပန်းခဲ့သည်ကို ဘယ်သူမျှ မသိကြ။ ဘုရားရှိခိုးကျောင်းဝင်းထဲမှ အုတ်ဂူသေးသေးကလေး လေးခုကိုလည်း မိမိကလွဲပြီး ဘယ်သူမျှ သတိမရကြတော့။

ရင်ထဲတွင် ပူလောင်ခြင်းနှင့်အတူ နာကျင်လာသည်။ စိတ်ကို ထိန်းရတိုင်း နှလုံးခုန်သံ မမှန်ချင်။ ရင်ဘတ်တခုလုံး မို့မောက်တက်လာသလို ထင်ရ၏။ သို့သော် ကိုယ့်ကျန်းမာရေး ကို ဘယ်တော့မျှ ရှေ့တန်းမတင်ခဲ့၊ ဝေဒနာကို မကြေညာခဲ့။ အမြဲကျိတ်ခံခဲ့၏။

ဒါတွေကို သည်သူငယ်နှင့် သည်ကလေးမ မည်သို့နားလည်နိုင်ကြပါမည်လဲ လည်ချောင်းထဲသို့ အလုံးကြီး ဆို့တက်လာ၏။ မီးလင်းဖိုပေါ်တွင် နဖူးမှောက်ချပြီး မှီထား လိုက်၏။ အေးမြမြကျောက်သားနှင့် ထိတွေ့လိုက်ရတော့ နေသာသလိုလို ရှိသွား၏။

စောစောက သူနမ်းသွားသည့် ပါးပြင်ပေါ်သို့ မျက်ရည်ပေါက်တွေ လိမ့်ကျလာသည်။ ပြီးတော့ ဒေလီယာ ပွင့်ဖတ်များပေါ်သို့ တပေါက်ပေါက် ကျနေ၏။

ဖရန်းစက်သည် စိတ်မှတ်မဲ့စွာဖြင့် မီးလင်းဖိုနံရံကို လက်သီးနှင့် ထိုးနေမိ၏။ သားကြီး ကို ဝက်သစ်ချမြိုင်၏ အိမ်ရှေ့ဥပရာဇာတဦးသဖွယ် မိမိဂုဏ်ယူ အားကိုးခဲ့၏။ ခုတော့ အမှား ကြီး မှားခဲ့ပြီ။ သည်လက်ထပ်ပွဲနှင့် ပတ်သက်၍ မိမိ

မှားနေသည်လား၊ သူ မှားနေခြင်းလား။ ခုတော့ ရှင်းသွားပြီ။ ဝက်သစ်ချမြိုင်မှ ထွက်သွားတော့မည်။ ဝတ္ထုစာအုပ်တွေထဲ တွင် တွေ့နေကျ ယောက္ခမမျိုး အဖြစ်ကိုတော့ အရောက်မခံနိုင်။ ပခုံးတွန့်လျက် အဟောင်းက အသစ်အတွက် နေရာဖယ်ပေးလိုက်ရုံပေါ့ဟု တွေးလိုက်၏။

ဒင်းနစ်နှင့် အန်းတို့၏ မင်္ဂလာပွဲကို ငြိမ်သက်မှုန်ရီနေသည့် ဝါကောက်ချိန်နှင့် ကြံကြိတ် ချိန် အကြားကာလတွင် ကျင်းပသည်။

အန်းရှာရမီသည် ဇာလေးဆယ့်နှစ်ကိုက်ဖြင့် ချုပ်ထားသည့် သတို့သမီး ဝတ်ရုံရှည် ကြီးကို ဝတ်ကာ သစ်ဖြူတော၏ ဧရာမခန်းမကြီးထဲတွင် မတ်တတ်ရပ်လျက် ရှိသည်။ မျက်နှာဖုံးကိုတော့ မြစ်ပြင်ပေါ်တွင် မှိုင်းပျပျ မှုန်ရီနေသည့် မြူတွေနှင့် တူသည်ဟု ဒင်းနစ်က တင်စားသည်။

မင်္ဂလာလက်စွပ်၏ အတွင်းဘက်တွင် ရေးထိုးထားသည့် စာတန်းက ဒင်းနစ်လန်းမှ အန်းရှာရမီသို့။ ၁၈၅၉ ခုနှစ် ဒီဇင်ဘာလ ၆ ရက်။

ဧည့်သည်တရာသာ ဖိတ်သည်။ မဖိတ်ဘဲနှင့် မင်္ဂလာလက်ဖွဲ့ပစ္စည်းများနှင့် ဂုဏ်ပြုဖို့ ရောက်လာသည့် ဧည့်သည်က နှစ်ရာ။ သည်မြစ်ရိုးတလျှောက်တွင် အခမ်းနားဆုံး၊ အစည် ကားဆုံး မင်္ဂလာဆောင်အဖြစ် အားလုံး အတည်ပြု လက်ခံကြသည်။

မင်္ဂလာပွဲပြီးတော့ ပရိသတ်တဝက်လောက်က မင်္ဂလာခရီးထွက်မည့် သတို့သားနှင့် သတို့သမီးကို ဆိပ်ကမ်းသို့ လိုက်ပို့ကြ၏။

ဒင်းနစ်နှင့် အန်းတို့သည် နယူးအော်လီယန်းသို့ စုန်ဆင်းကြမည် ဖြစ်သည်။ စိန့်ချားလ် ဟိုတယ်တွင် တည်းပြီး ကမ်းခြေသို့ သူတို့ ခရီးဆက်ကြမည် ဖြစ်၏။

သဘော်ဆိပ် ရောက်တော့ ဒင်းနစ်က အန်းကို ရထားပေါ်မှ တွဲဆင်းပေးသည်။ စကတ် ကို ချောမွေ့ပြေပြစ်အောင် ဆွဲဆန့်ပြီး အန်း ဆင်းလာ၏။ သားမွေးအနွေးထည်ကို လည်တိုင် ရင်းအထိ ဆွဲစေ့လိုက်၏။ ဆိပ်ကမ်းတဝိုက်တွင် လေတွေတိုက်ပြီး အေးနေသည်။ အန်း၏ ဘဝတွင် အလှဆုံးအချိန် ဖြစ်၏။

သူတို့သေတ္တာတွေ တင်လာသည့် လှည်းတစီး ဆိုက်လာသည်။ ဒင်းနစ်က သူ့ကောင်ကလေးတွေကို ပစ္စည်းတွေ စနစ်တကျ ချဖို့ ပြောနေ၏။ ပစ္စည်းတွေ ချနေသဖြင့် နံဘေးသို့ အန်း ကပ်ပေးလိုက်သည်။

ဆိပ်ခံပေါ် မတက်မီ နှုတ်ဆက်နေကြသည့် မိတ်ဆွေတွေ၊ ဆုမွန်ကောင်း တောင်းပေး နေကြသည့် အပေါင်းအသင်းတွေက ကုန်နိုင်သည် မရှိ၊ အန်း

ပင်ပန်းစပြုလာပြီ။

ဆိပ်ခံပေါ်တက်ဖို့ စောင့်နေသည့် နွမ်းနွမ်းပါးပါး လူတယောက်၏ ကော်ဇောအိတ် ကြီးနှင့် တဖက်ကို လှည့်လိုက်သည့် အန်း၏ စကတ် အတွင်းခံခွေကြီး ထိသွားသဖြင့် တောင်းပန်ဖို့ ဟန်ပြင်လိုက်သည်။ သေသေချာချာကြည့်လိုက်တော့ လားလား အဖေ အလုပ် ဖြုတ်လိုက်သည့် အလုပ်ကြပ် ဂီးလ်ဒေး ပါလား။

အန်း နောက်တွန့်သွားသည်။ သူက စားတော့ ဝါးတော့မတတ် စိုက်ကြည့်နေ၏။ ပစ္စည်း တွေ သယ်ချနေသည့် နီဂရိုးတွေနှင့် ဆိပ်ခံအတက်လမ်း ပိတ်နေပြီ။ အန်း ရှောင်ပြေးဖို့ နေရာ မရှိတော့။

ဂီးလ်ဒေးက အေးစက်စက် အမူအရာဖြင့် ဦးထုပ်ချွတ်လိုက်ပြီး အန်းကို ဆက်ကြည့် နေသည်။ အန်းက မြစ်ဘက်ကို မျက်နှာလွှဲပစ်လိုက်၏။ သူ့ကို မကြိုက်ကြောင်း ပြောစဉ်က ဂျယ်ရီပြောစကားကို ပြန်ကြားနေမိ၏။

အဖေကလည်း သူ့ကို ထုတ်ပစ်တော့မည့်ဆဲဆဲ တဲ့။ ဂီးလ်ဒေးက “မျိုးစပ်” လုပ်ငန်း ကို မေရီလင်မှာ လုပ်ခဲ့ဖူးတဲ့ အကြောင်း ဖေဖေ သိသွားသည် ဆို၏။ မျိုးစပ်လုပ်ငန်းအကြောင်း အန်း တခါမျှ မကြားဖူးခဲ့။ ဂျယ်ရီကို မေးကြည့်တော့ မျက်နှာပျက်သွားသည်။ လွတ်ခနဲ ထွက်သွားသည့်အတွက် ဂျယ်ရီ သူ့ကိုယ်သူ ဒေါသဖြစ်နေ၏။ သို့သော် ရှင်းမပြ၍ မဖြစ်တော့။

မေရီလင်နှင့် ဗာဂျီးနီးယားတွင် အားကောင်းမောင်းသန် နီဂရိုးများနှင့် နီဂရိုးမများကို တိရစ္ဆာန်များသဖွယ် သားစပ်ပြီး မွေးလာသည့်ကလေးများကို ကျွန်ဈေးပို့သည့် လုပ်ငန်း ဖြစ်သည်။ သားမွေးအားကောင်းသည့် နီဂရိုးမများကိုလည်း ကြော်ငြာပြီး ကျွန်ဈေးတင်သည်။

သည်အကြောင်း ကြားရစဉ်က အန်းတယောက် အော့ချင် အန်ချင် ဖြစ်သွားပြီး ဂီးလ်ဒေး ဆိုသူကို မျက်နှာမကြည့်ချင်အောင် စက်ဆုပ်ရွံရှာသွားခဲ့၏။ ယခု မျက်နှာချင်းဆိုင် ပြန်တွေ့တော့ ရင်ထဲတွင် ဒေါသတွေ လှိုင်းထလာပြန်သည်။

သူ့နှုတ်ခမ်းများက မလိုတမာ အပြုံးမျိုး ပြုံးပြီး-

“နေကောင်းပါတယ်နော် မစ္စအန်း၊ အခမ်းနားဆုံး မင်္ဂလာပွဲကြီးလို့ ကျွန်တော် ကြား ပါတယ်”

အန်းက သေတ္တာတွေ သယ်ချနေသည့် လူတန်းကြီးကို စိတ်မရှည်နိုင်စွာ လှမ်းကြည့် လိုက်သည်။ ကြာလိုက်တာ၊ ပြီး မပြီးနိုင်ဘူး။ သည်သတ္တဝါက

မိမိအသားကိုများ လာထိလျှင် အသံကုန် အော်ဟစ်မိမည်လား မသိ။ သို့သော် သူ ဘာမျှ မလုပ်ပါ။

သူက ခပ်ဖြည်းဖြည်း ပြောသည်။

“ကျွန်တော် သွားမှာပါဗျာ၊ ခင်ဗျား ကျွန်တော့်အတွက် နောက်ထပ် စိတ်အနှောင့် အယှက် ဖြစ်စရာ မလိုတော့ပါဘူး၊ တခုပဲ စိတ်မကောင်း ဖြစ်မိတယ်၊ ခင်ဗျားတို့ရဲ့ မင်္ဂလာ ခရီးထွက်မယ့် အခေါက်နဲ့မှ ကျွန်တော်နဲ့ တလှေတည်းစီး ဖြစ်ရတယ်၊ ခင်ဗျား ကျွန်တော့်ကို ဘယ်လောက် မုန်းနေတယ် ဆိုတာ ကျွန်တော် သိပါတယ် မစ္စအန်း”

“ရှင့်ကို ကျွန်မ စိတ်မဝင်စားပါဘူး”

“ဟုတ်ကဲ့၊ ကျွန်တော် ယုံပါတယ်၊ ကျွန်တော်ကတော့ တွေ့ချင်နေတာပါ၊ ခင်ဗျား တိုင်လို့ ကျွန်တော် အလုပ်ပြုတ်ခဲ့ရတယ် ဆိုတာ ကျွန်တော် ကြားပြီးပါပြီ၊ အဲဒီကိစ္စမှာတော့ ခင်ဗျားရုပ်ကလေးနဲ့ စိတ်ဓာတ်ဟာ တခြားစီပဲနော်”

“ရှင် ကျွန်မ လမ်းပိတ်နေတယ်၊ ဖယ်ပေးပါ”

“ဩော်... ဟုတ်ကဲ့၊ ပထမတန်းစား ဟိုတယ်ကြီးတွေမှာ ခင်ဗျား ဖိမ်ခံနေချိန် ဂီးလ်ဒေးတယောက် အလုပ်လက်မဲ့ဘဝ ရောက်နေပြီ ဆိုတာတော့ သတိရနေပါဗျာ”

“ကဲ .. ရှင် ပါးစပ်ပိတ်တော့”

အန်းက သွားကို တင်းတင်းစေ့ပြီး ပြောလိုက်သည်။ လမ်းရှင်းသွားပြီဖြစ်၍ ဆိပ်ခံ ပေါ် လှမ်းတက်ခဲ့၏။ ဆိပ်ခံပေါ်တွင်လည်း နှုတ်ဆက်ဖို့ စောင့်နေသူတွေ အများကြီး။ သတို့သမီးအရံ မိန်းကလေးတဦးဖြစ်သည့် ဆာရာပါစယ် အော်ပြီး ပြေးလာသည်။

“ဒီမှာဟေ့ . . . ဒီမှာ၊ မင်း ပျောက်သွားတာကလည်း ပုံပြင်ထဲက သတို့သမီးကလေး ကျနေတာပဲကွယ်”

အန်းက အသက်ရှူမှန်အောင် ကြိုးစားရင်း-

“ဒင်းနစ်ကောဟင် ဆာရာ”

“ကိုယ် ဒီမှာလေ”

လူအုပ်ထဲမှ ဒင်းနစ် ထွက်လာသည်။ သူ့ကြည့်ရသည်မှာ အရမ်းပျော်နေပုံ

ဆာရာ့ လက်ထဲမှ အန်းကို ဆွဲယူပြီး-

"သေတ္တာတွေအားလုံး တင်ပြီးပြီ၊ ကိုယ်တို့ တက်လို့ရပြီး အန်း"ဟု ဆိုတော့ သူ့လက် ကို အန်း တင်းတင်းဆုပ်ထားလိုက်မိသည်။

မီးသဘော်ကြီးပေါ် လှမ်းအတက်တွင် ထုံးတမ်းစဉ်လာအရ မိတ်ဆွေ အပေါင်းအသင်း များက သားသမီးတွေ ပွားစီးစေဖို့ ဆန်စေ့များဖြင့် ပက်ဖျန်းပေးကြ၏။ အန်း၏ ဦးထုပ်နှင့် ကိုယ်ပေါ်တွင် ဆန်စေ့တွေ ဖွေးသွားသည်။ နှစ်ယောက်စလုံး ပျော်ပျော်ပါးပါး ရယ်ကြ၏။

နှစ်ယောက်သား သီးသန့်ကေဘင်ခန်းရှိရာသို့ ပြေးချသွားကြ၏။ ဒင်းနစ်က အခန်း တံခါးပိတ်ပြီး ချက်ချလိုက်ရင်း-

"မဟုတ်ရင် သူတို့ အခန်းထဲအထိ လိုက်လာကြမှာ"

ဆန်စေ့တွေ ခါချရင်း ဒင်းနစ်က ပြော၏။ အန်းက သူ့လည်ပင်းကို ခိုတွဲရင်း-

"မောင့်ကို ကျွန်မ သိပ်ချစ်တယ်ကွယ်"ဟု လှိုက်လှိုက်မောမော ပြောနေ၏။

ဒင်းနစ်က ပြန်ဖက်ရင်း တုံ့ပြန်သည်။

"မောင်လည်း အတူတူပါပဲ အချစ်ရယ်"

အန်းက ဆက်ပြောသည်။

"မောင့်ကို ဘယ်လောက် ချစ်တယ်ဆိုတာ ခုမိနစ်ပိုင်းအတွင်းကျမှ ပိုသိလာတာ၊ ဘယ်နေနိုင်ပါ့မလဲနော်၊ မောင်က သိပ်ချစ်ဖို့ ကောင်းတာကိုး၊ လက်ထပ်ဖြစ်တဲ့အတွက် အန်းတော့ ဝမ်းသာလို့ မဆုံးဘူး"

ဒင်းနစ်က ဇနီးအသစ်စက်စက်ကလေးကို နမ်းသည်။ ထိုတဒင်္ဂတွင် အန်းသည် ရောမ ရဲတိုက်ကြီးတခုထဲသို့ ရောက်သွားသလို ခံစားလိုက်ရ၏။

# (၅)

အန်း အိမ်ပြန်ရောက်လာတော့ ဝက်သစ်ချမြိုင်မှ အစေခံများက သီချင်းဆို၍ ကြိုဆို ကြသည်။ မစ္စက်ဖရန်းစက်လန်း ဦးဆောင်၍ လန်းအမျိုးအနွယ်အားလုံး ဆင်ဝင်အောက်တွင် တန်းစီပြီး ကြိုကြ၏။

အန်းသည် အားလုံး၏ အနမ်းများ၊ အပြုံးများကို သိမ်ငယ်ရှက်ရွံ့ခြင်း မရှိ၊ ပကတိတည်ငြိမ်စွာဖြင့် ခံယူလေသည်။ သို့သော် သူတို့အားလုံး မိမိအား အကဲခတ်နေကြကြောင်း ကောင်းကောင်းသိနေ၏။

အိပ်ခန်းကြီးထဲတွင် ခရီးသွားဝတ်စုံကို လဲသည်။ အပြာရောင် ပဆစ်ကွက်ပုံစံနှင့် အဖြူရောင် ကော်လာဂါဝန်ကို ဝတ်လာခဲ့၏။ အိမ်ရှင်မများ ဆောင်းသည့် အဖြူရောင် ချည်ချောထည် ဦးထုပ်တွင် အပြာရောင် ဇာနားကလေးများ ကွပ်ထား၏။ အိမ်ရှင်မတယောက်၏ နေရာကို ညစာဝိုင်းတွင် ပထမဆုံးဝင်ရမည့်ပွဲ ဖြစ်၏။ အားလုံး ဧည့်သည်နှစ်ဆယ် ရောက်နေ၏။ အဖေနှင့် ဂျယ်ရီ အပါအဝင် နှစ်ဖက်စလုံးမှ ဝမ်းကွဲတွေ အားလုံးပါ၏။ မစ္စက်လန်းက မနက်ဖြန်တွင် ဥရောပသို့ ခရီးထွက်မည်။ ဘုရားသခင် မတာပဲ ဟု အန်း၏စိတ်ထဲမှ ကျိတ်တွေးနေ၏။

အဘွားကြီးက အားလုံးနှင့်ဝေးရာ စားပွဲတဖက်စွန်းတွင် ထိုင်သည်။ ဒင်းနစ်က မအေ့အနားတွင် ကပ်ထိုင်၏။ စင်သီယာက အန်း၏အနားတွင် လာထိုင်၏။ ယောက်မ လုပ်သူကို အရိပ်တကြည့်ကြည့်ဖြင့်။

စားသောက်ပြီးစီးလို့ အမျိုးသမီးတွေ ပြန်ဖို့ ဟန်ပြင်နေစဉ် မစ္စက်လန်းက စားပွဲထိပ်မှထလာပြီး သော့တွဲကြီးကို အန်းလက်သို့ အပ်သည်။ အန်းက အဘွားကြီး၏ နဖူးပြင်ကို နမ်းရင်း ကျေးဇူးတင်ကြောင်း ပြောလိုက်၏။

ဒင်းနစ်၏ ဦးလေးက သတို့သမီးအတွက် အရက်ခွက်ကို မြှောက်ပြီး ဆုတောင်း လိုက်၏။ အန်းက ကျေးဇူးတင်ပါကြောင်း ထပ်ပြောလိုက်သည်။ ပြီးတော့ သော့တွဲကြီးကို ခါးတွင် ချိတ်လိုက်၏။

ခါးသိမ်သိမ်ကလေးတွင် သော့တွဲကြီးကို ချိတ်ထားရသည်မှာ ကသိကအောက် နိုင်လှ၏။ သည်လို အခမ်းအနားမျိုးကိုလည်း အန်း စိတ်ညစ်လှသည်။ ဒင်းနစ်နှင့် အပေါ်ထပ် တက်လာတော့ ခန်းမထဲတွင်

ဖယောင်းတိုင်တွေ လိုက်နုတ်နေသည့် နပိုလီယံကို လှမ်းမြင် သဖြင့် ခေါ်လိုက်သည်။

သော့တွဲကို ခါးမှ ဖြုတ်လျက်-

"နပိုလီယံ၊ နောက်အပတ်ထဲမှာ အိမ်ကို စီမံခန့်ခွဲဖို့ အမျိုးသမီးတယောက်ရမယ်၊ ဒီအတောအတွင်း နင်ပဲ ကြည့်ထိန်းထား၊ ရော့ . . . သော့တွဲ"

"ဗျာ... ကျွန်တော် သော့ကိုင်ရမယ်၊ ဟုတ်လား မမလေး"

"အေး.. အမျိုးသမီး ရောက်မလာမချင်းပေါ့"

သူ့လက်ထဲ သော့တွဲ ရောက်လာတော့ နပိုလီယံက ဒင်းနစ်ကို လှမ်းကြည့်သည်။

ဒင်းနစ်က ရယ်ပြီး ပြောသည်။

"မင်း မမလေး ပြောတဲ့ အတိုင်း လုပ်လေ"

ပြီးသည်နှင့် နှစ်ယောက်သား လှေကားကြီးပေါ်သို့ ဝေ့ကာ ဝိုက်ကာ တက်ခဲ့ကြသည်။

မေမေ ဖရန်းစက်သည် သူ့အခန်းဝမှ အားလုံး ကြားနေရ၏။ သူတို့ အခန်းထဲ ဝင်သွား ကြပြီး ဆက်သောက်နေသံများလည်း ကြားနေသည်။ ဒင်းနစ်၏ အဘိုး တည်ဆောက်ခဲ့သည့် လှေကားကြီးကို လှမ်းကြည့်ပြီး ဖရန်းစက်သည် စိတ်ပျက်စွာဖြင့် ဒေါသထွက်လျက်ရှိသည်။ အခန်းတံခါးကို အသာပိတ်လိုက်၏။

※※※

# အခန်း (၄)

## (၁)

ဒေါ်လာတရာဆိုသော ငွေကို ရောမ ပိုက်ဆံတွေဟု ထင်ခဲ့၏။ သို့သော် ကြာကြာ မခံလိုက်ပါ။ ကိုရီမေသည် သည်ငွေကို ခြစ်ခြစ်ကုတ်ကုတ် သုံးစွဲသော်လည်း ဆောင်းမတိုင်မီ ကုန်သွားလေတော့သည်။

အဖေက တရားတွေ ဆက်ဟောနေသော်လည်း အလုပ်ကိုကား လုံးဝ ထွက်မရှာ။ ယခုလည်း တရားဟောဆရာနှစ်ယောက်နှင့်အတူ ရေပေါ်အိမ် လှေတစင်းပေါ်တွင် မြစ်ရိုး တလျှောက်မှ ဝိညာဉ်များကို ကယ်တင်ရန် ခရီးထွက်သွားပြန်လေပြီ။

လူတွေကတော့ အဖေ့ကို ကြည်ညိုကြသည်။ တရားဟောကောင်းသည်ဟု ချီးမွမ်းကြ သည်။ သူ တရားဟောလျှင် အောက်ကို အဝီစိသို့တိုင် မြင်ယောင်လာပြီး ဦးခေါင်းပေါ်တွင် နတ်သမီး၊ နတ်သားကလေးများ ကိုယ်ထင်ပြလာသည်လား အောက်မေ့ရသည်ဟု ပြောကြ၏။ သို့သော် အိမ်မှာက စားစရာ ရှားသည်ထက် ရှားလာ၏။ ပြတ်သည်ထက် ပြတ်လာ၏။ ဆိပ်ကမ်းဘက် ရောက်တိုင်း ဘတ်ချ်တယောက် ဘယ်လောက် ဒေါပွနေမည်ကို စဉ်းစားမိ၏။ မိမိအပြုအမူအတွက် မိဘတွေကလည်း မကျေနပ်ကြ။ ဘတ်ချ်သည် သူ့မြေကွက် ကလေးပေါ်တွင် သေသေသပ်သပ်ကလေး နေကာ အလုပ်ကို ကြိုးကြိုးစားစား လုပ်လျက် ရှိသည်။

သူနှင့် လက်ထပ်လိုက်လျှင် ခုလို ဒုက္ခရောက်နေမည် မဟုတ်ဟု ရံခါတွေးမိတတ် သော်လည်း အတွင်းစိတ်ကမူ ငြင်းဆန်နေဆဲ ဖြစ်၏။ လိုချင်သည်မှာ သည်ဘဝမျိုး မဟုတ်ဟု ခေါင်းမာနေဆဲ ဖြစ်၏။

ဘတ်ချ်ကို လက်ထပ်လိုက်လျှင် ကြုတ်ထဲ ကျွဲသိပ်နေရသည့် ဆိပ်ကမ်းရပ်ကွက်ထဲ က မည်သို့မျှ ရုန်းထွက်နိုင်မည် မထင်။ ခုတော့ကော မည်သို့ ရုန်းထွက်မည်နည်း။ ဆိပ်ကမ်း ရပ်ကွက်သည် ကိုရီမေကို သံနုန်းလို ဆွဲထား၏။ မည်သို့မျှ နုတ်၍ မရနိုင်အောင် ကျွံနစ်လျက် ရှိ၏။ လှုပ်လေ မြုပ်လေ ဖြစ်နေ၏။

ငယ်ရွယ်နုပျိုပြီး သန်မာကြံ့ခိုင်သည့် ခန္ဓာကိုယ်က အားမာန်အပြည့်ဖြင့်

ရှန်းကန် ချင်၏။ သို့သော် လွတ်လမ်းကား ဘယ်ဆီ ဘယ်ဝယ်မှာ လှမ်းလို့မမြင် ဖြစ်နေ၏။ မြစ်ပြင် ပေါ်တွင် ဆောင်းတွင်း နှင်းမှုန်ကျဘိသို့ ဘဝသည် ပိန်းပိန်းပိတ် မှောင်မိုက်လျက် ရှိ၏။

လောကကြီးတွင် ကံကောင်းသူများကျတော့လည်း အားလုံး ရေကန်အသင့် ကြာ အသင့်ပါကလား။ ဥပမာ-အန်း ရှာရမီလို၊ ဒင်းနစ်လန်းလို လူများ။ သူတို့ မင်္ဂလာခရီး ထွက်သည့် နေ့က ကမ်းနားတွင် စောင့်ကြည့်နေသည့် လူအုပ်ကြီးထဲတွင် ကိုရီမေ ပါသည်။ ထိုနေ့ညက ညစာချက်ပြုတ်နေရင်း သည်လိုဘဝမျိုးမှာ နေရင် ဘယ်လိုနေမှာပါလိမ့် ဟု တွေးကြည့်မိသေး၏။ မကြာပါချေ၊ အတွေးများသည် နှင်းမှုန်များနှင့်အတူ ပိန်းပိန်းပိတ် မှောင်ကျသွားပြန်၏။

ပိုက်ဆံရှိရုံ တမည်တည်းဖြင့် လူတွေ သည်လိုဖြစ်လာခြင်း မဟုတ်တန်ရာ။ မွေးက တည်းကိုက ကာလဒေသ ခြားနားလိမ့်မည် ထင်၏။ သူတို့အနားတွင် ခစားနေကြသည့် လူမည်းများပင် မိမိတို့ထက် အပုံကြီး သာနေ၏။ သူတို့လို အခွင့်အရေးမျိုးပင် မိမိတွင် မရှိ။ မည်သို့ရှိစေ၊ အသက်မသေအောင်ကား မည်သူမဆို ရှာကြံစားသောက်ရပေလိမ့် မည်။ စားဖို့ရှာရမည်၊ အိမ်လခ ပေးဖို့ ရှာရမည်။ ဆိပ်ကမ်းတဝိုက်တွင် ကိုရီမေ အလုပ်ရှာ နေသည်မှာ ဖတ်ဖတ်မောနေပြီ။ ရုံးခန်းပြတင်းပေါက်တွင် သန့်ရှင်းရေးလုပ်ဖို့ သွားပြော၏။ ဘယ်အလုပ် သွားမေးမေး အဖြေက တမျိုးတည်း ထွက်ပြီးသား။

သူတို့တွင် လူမည်းကျွန်တွေ ရှိပြီးသား ဖြစ်နေသည်လေ။ လူဖြူမိန်းကလေးတယောက် ကို ငှားရန်မလို။ ရံခါတွင် လူတချို့က သူ့လက်မောင်းကို လှမ်းဆွဲတာမျိုး၊ သွေးတိုးစမ်းတာ မျိုး ရှိဖူးသည်။ ကိုရီမေ ဒေါသတကြီး ခါထုတ်ပစ်တတ်၏။ ဣန္ဒြေရှင်ကလေး ဖြစ်နေစေ ချင်၍ မဟုတ်ပါ။ သည်လို အညှာလွယ်လိုက်ခြင်းသည် ဆိပ်ကမ်းရပ်ကွက်မှ ထွက်ပေါက် မဟုတ်နိုင်မှန်း သိနေသောကြောင့် ဖြစ်ပါ၏။

ဆောင်းဦးပိုင်းတွင် အလုပ်တခုရသည်။ လိမ္မော်သီးခူးသည့် အလုပ်၊ ကြိမ်ခုတ်သည့် အလုပ်များ ဖြစ်၏။ ဝက်သစ်ချမြိုင် အလုပ်ကြပ်က လူဖြူမိန်းကလေးတွေ ခေါ်ခိုင်းသည်။ တနေ့ ဆင့်သုံးဆယ် ရ၏။ သားအမိနှစ်ယောက် တပတ်ကို တဒေါ်လာနှင့် ဆင့်သုံးဆယ် ဆို လောက်သည်။ သို့သော် အလုပ်က အမြဲတမ်းအလုပ် မဟုတ်၊ ရာသီကုန်သွားလျှင် အလုပ် မရှိတော့။

တနေ့တွင် အန်းရှာရမီနှင့် ဆာရာပါစယ် ဆိုသော အမျိုးသမီးနှစ်ယောက် ပန်းခြံ ထဲတွင် လမ်းလျှောက်နေသည်ကို ကိုရီမေ လှမ်းမြင်နေရသည်။ အန်းက လက်အိတ်နှစ်ဖက်ကို ချွတ်ကိုင်လာရာမှ တဖက် ကျကျန်ရစ်သည်။ ကိုရီမေက

ကောက်ယူပြီး လှန်လှော ကြည့်နေမိ၏။ သမင်ရေဖြင့် ချုပ်ထားသည့် လက်အိတ်ကလေး၊ အရောင်က သံပရာသီး အနုရောင်။ လက်ချောင်းကလေးတခု၏ ထိပ်ပိုင်းမှ အပေါက်ကလေး တပေါက်ကို ဖာထား၏။

ကိုရီမေက လက်အိတ် လိုက်ပေးတော့ ကျေးဇူးတင်ကြောင်း ပြောပြီး သူတို့နှစ်ယောက် ဆိုင်တဆိုင်ထဲ ဝင်သွားကြ၏။ သို့သော် ကိုရီမေ့ ခေါင်းထဲတွင် အတွေးတခု ဝင်လာ၏။ သည်လိုချမ်းသာသည့် အမျိုးသမီးတွေ အဝတ်အထည်ကို ဖာထေးဝတ်လိမ့်မည်ဟု တခါမျှ မမျှော်လင့်ခဲ့။ တခုခု ပေါက်ပြဲသွားလျှင် လွှင့်ပစ်လိုက်မည်ဟု စိတ်ထဲ ထင်ခဲ့၏။ သူတို့လည်း အပေါက်အပြဲများကို ဖာထေးဝတ်ကြသည်ပဲ။

အန်းရှာရမီတွင် အစေခံတွေ တလှေကြီးရှိလင့်ကစား သည်လုပ်ငန်းမျိုးအတွက် လူလို ကောင်း လိုနိုင်သည်။

နောက်တနေ့မနက်တွင် ကိုရီမေသည် အစ်ကိုတွေ၏ အသက်အာမခံငွေထဲက ဖွဲ့ဝယ် ထားသည့် ဖိနပ်ကလေးကို ထုတ်စီးကာ ဆိပ်ကမ်းဘက်သို့ ထွက်လာခဲ့၏။ သပ်သပ်ရပ်ရပ် ဝတ်စားလာသည်။ “ဝက်သစ်ချမြိုင်” ဟု ရေးထားသည့် သင်္ဘောကြီး ဝင်လာသည် အထိ စိတ်ရှည်လက်ရှည် ထိုင်စောင့်၏။

သင်္ဘောစည်ကြီးတွေ ချပြီးသည်အထိ စောင့်ပြီး လှည်းမောင်းသမားကို သွားပြော သည်။

“ကျွန်မ ကိစ္စတခုရှိလို့ ဝက်သစ်ချမြိုင်ကို လိုက်ခဲ့ပါရစေရှင်”

လှည်းသမား နီဂရိုးကြီးက လိမ္မော်သီး စားနေရာမှ ပြုံးပြီး ပြန်ပြောသည်။

“ရတာပေါ့ အဖြူမလေးရဲ့၊ တက်လေ”

ကိုရီမေ လှည်းပေါ် တက်လိုက်သည်။ သွားရမည့် ခရီးက အဝေးကြီး၊ သို့သော် စိတ်ထဲ ပျော်နေ၏။ ဇန်နဝါရီ မနက်ခင်းက ကြည်လင်တောက်ပနေ၏။ ဟိုအဝေးတွင် သင်္ဘောစက်ရုံ ခေါင်းတိုင်များမှ မီးခိုးတွေ တလူလူ လွင့်နေ၏။

ဝက်သစ်ချမြိုင် ခြံဝရောက်တော့ ဆင်းနေခဲ့ပြီး လှည်းသမားကြီးကို ကျေးဇူးတင် စကား ပြောလိုက်သည်။ ယခင်တခေါက်ကအတိုင်း အိမ်ကြီး၏ နောက်ဘက်ကို လျှောက်သွား ပြီး တံခါးခေါက်လိုက်သည်။

ကိုရီမေအပွင့်ကျွန်းက သခင်မကို တွေ့ချင်ကြောင်း တံခါးလာဖွင့်ပေးသည့် မဟူရာမ ကလေးကို ပြောလိုက်သည်။ ခဏကြာတော့ ကောင်မလေး

ပြန်ထွက်လာပြီး တွေ့ခွင့်ရကြောင်း ပြောသည်။ ကိုရီမေ့ရင်တွေ တထိတ်ထိတ် ခုန်နေ၏။ အန်းရှာရမီသည် မိမိအား မျက်နှာသာ ပေးသည့် အမျိုးသမီး ဖြစ်၏။ သို့သော် သူ့ဆီက ဘာအကူအညီမျှ မတောင်းခံခဲ့ဖူးပေ။ သည်လိုကိစ္စနှင့်ကျတော့ တမျိုးများ ဖြစ်သွားလေမည်လား။ ကံကောင်းလျှင် ဟိုလှေကား ကြီးပေါ် တက်ခွင့်ရချင် ရမှာပါလေ။

သို့သော် အစေခံမကလေးက နောက်လှေကားမှ တက်ဖို့ ဦးဆောင်ခေါ်သွားသဖြင့် စိတ်ပျက်သွားသည်။ သို့သော် နောက်မှ ယို့ယို့ကလေး လိုက်သွား၏။

အခန်းကြီးတခန်း၏ အဝရောက်တော့ အစေခံမလေး တံခါးခေါက်သည်။

"ဘယ်သူလဲ"

အတွင်းဘက်မှ အန်း၏အသံ။

"စောစောက ကျွန်မ ပြောတဲ့ အဖြူမကလေးရယ် မမလေး"

ပြောပြောဆိုဆို ကောင်မလေးက တံခါးဖွင့်ပြီး ကိုရီမေကို ဝင်ခွင့်ပေးလိုက်သည်။

ကိုရီမေ အခန်းထဲ လှမ်းဝင်သွားသည်။ အခန်းပတ်ပတ်လည်ကို ဝေ့ကြည့်လိုက်၏။ အမျိုးသမီး သီးသန့်ဧည့်ခန်းဆောင်ထဲသို့ သူ ရောက်နေခြင်း ဖြစ်သည်။ အခန်းကြီးမှာ ရင်းနှီး နွေးထွေးမှုအပြည့် ရှိနေ၏။ နံရံလေးဖက်စလုံး ဆင်စွယ်ရောင်ဆေး သုတ်ထား၏။ ပရိဘောဂ တွေကို ဇာထိုးပန်းထိုး လက်ရာများ လွှမ်းထား၏။ အားလုံး နို့နှစ်ရောင်။ လေထုထဲတွင် ရေမွှေးနံ့ မဆိုစလောက်ကလေး သင်းနေ၏။ အပြင်မှ တတိုင်းမွှေးပင်ကြီးများကို လှမ်းမြင် နေရသည်။ မြက်ခင်းပေါ်မှာ နှင်းဆီတွေ၊ ဖယောင်းပန်းပင်တွေလည်း ဖူးပွင့်နေကြ၏။

မီးလင်းဖိုကြီးနားက ဆိုဖာတလုံးပေါ်တွင် အန်းသည် ခေါင်းအုံးတွေ အထပ်ထပ် ခံပြီး မှီကာ ဖက်ရှင်မဂ္ဂဇင်းတစောင်ကို ဖတ်လျက်ရှိသည်။ ဆံပင်တွေ ပခုံးပေါ်တွင် ဝဲကျ နေ၏။ လက်ပွပွ ညဝတ်အင်္ကျီကြီးနှင့်ပင် ရှိသေး၏။ သားမွေး ခြေညှပ်ဖိနပ်ကလေးကို စွပ် ထား၏။ ကိုရီမေ ဝင်လာသည်ကို မြင်တော့ စာအုပ်ကို ချလိုက်သည်။

"ဟဲလို ကိုရီမေ၊ ဘာသာ၊ နင် သွားတော့"

ကိုရီမေကို တချက်ပြန်ကြည့်ပြီး-

"ကဲ... ဆို... ဘာအတွက် မင်း လာခဲ့တာလဲ"

တောင်းတောင်းပန်ပန် စကားစဖို့ လမ်းတွင် ကျိတ်ပြီး လေ့ကျင့်လာခဲ့၏။

"ကျွန်မကို အတင့်ရဲလွန်းတယ် မထင်ပါနဲ့ မမရယ်..." ဟု အစချီမည်။ ခုတော့ စိတ်ပြောင်းသွားပြီ။ ကြည့်ပါဦး၊ မွန်းတည့်ချိန် ရောက်နေပြီ၊ ခုထိ အဝတ်အစား မလဲရသေး။ ပြီးတော့ ရောမ ဇိမ်ခံဧည့်ခန်းဆောင်ကြီး။ စိတ်ချဉ်ပေါက်လာ၏။

"ကျွန်မ အစောကြီး လာခဲ့မိတဲ့အတွက် တောင်းပန်ပါတယ် မမ"

"အစောကြီး... ဟုတ်လား"

အန်းက သူ့ကိုယ်သူ ငုံ့ကြည့်ပြီး ပြုံးသည်။

"ညက ကပွဲ ညဥ့်နက်သွားလို့ပါကွယ်၊ အိပ်ရာထ နောက်ကျသွားတယ်၊ ဒါကြောင့် အဝတ်မလဲရသေးတာပါ"

စားပွဲနိမ့်ကလေးပေါ်မှ အငွေ့တထောင်းထောင်း ထနေသည့် ကော်ဖီအိုးနှင့် မုန့်ပွဲ များကိုလည်း သူ မတို့ရသေးကြောင်း ကိုရီမေ သတိထားမိ၏။ သည်အချိန်ကျမှ အိပ်ရာထ သတဲ့။

အန်းက မေးလိုက်သည်။

"မင်း နေကောင်းပါတယ်နော် ကိုရီမေ"

ကိုရီမေသည် လက်နှစ်ဖက်ကို အမှတ်မထင် ဆုပ်လိုက်၏။ သူ့ကို ဆိုဖာပေါ်မှ ဆွဲချ ပြီး လူတွေ ဘယ်လို နေကြ ထိုင်ကြရသည်ကို ခေါ်ပြလိုက်ချင်၏။ သို့သော် ယဉ်ယဉ်ကျေးကျေး ပြန်ပြောဖြစ်သည်။

"ကျွန်မတို့ အခြေအနေ မကောင်းဘူး မမ၊ လူကတော့ နေကောင်းပါတယ်၊ အစ်ကို တွေ တောထဲမှာ ဆုံးပြီးကတည်းက မိသားစုထဲမှာ အလုပ်လုပ်မယ့်လူ မရှိတော့ဘူး"

"အို... စိတ်မကောင်းပါဘူးကွယ်၊ အဲဒီနံရံက ကြိုးကို ဆွဲလိုက်နော်"

"ကျွန်မ ပိုက်ဆံတောင်းဖို့ လာတာ မဟုတ်ပါဘူး မမ"

အန်းရှာရမီ ဇဝေဇဝါ ဖြစ်သွားသည်။

"ဒါဆို မင်း ဘာအတွက် လာတာလဲ"

"ကျွန်မ အလုပ်လိုချင်လို့၊ ကျွန်မအတွက် အလုပ်ကလေးတခုလောက် ဖန်တီးပေးပါ မမရယ်၊ မမတို့မှာ လူမည်း အလုပ်သမားတွေ အများကြီးရှိတယ် ဆိုတာ ကျွန်မ သိပါတယ်၊ ဒါပေမဲ့ အမေ့ကို ရှာကျွေးဖို့ ကျွန်မမှာ အခက်အခဲ ရှိနေလို့ပါ၊ ကျွန်မ လုပ်အားနဲ့ ကျွန်မ ရပ်တည်ချင်ပါတယ်။ ဟို . . . ဆိုလိုတာက ကျွန်မလုပ်နိုင်တဲ့ အလုပ်တွေ အများကြီး ရှိမယ် လို့ ယုံကြည်ပါတယ်၊ ဥပမာ အဝတ်ချုပ်တာတို့၊ အဝတ်ဖာတာတို့ပေါ့"

"ဒါပေမဲ့ အဲဒါတွေ ကိုယ့်မှာ လိုမှ မလိုတာပဲကွယ်"

ကိုရီမေ ရှေ့ဆက်ပြောသည်။

"ကောင်မလေးတွေ မလုပ်နိုင်တာကို ကျွန်မ လုပ်နိုင်တယ်လို့ အာမခံရဲပါတယ် မမ၊ အဝတ်တွေကို ကျွန်မ အကောင်းဆုံး ဖာနိုင် ထေးနိုင်ပါတယ်၊ အဲဒီအလုပ်ကို ကျွန်မ တာဝန်ယူ လိုက်ရင် သူတို့ကို မမ တခြားကိစ္စတွေ ခိုင်းနိုင်တာပေါ့၊ ကြည့်နိုင်မှ မြင်ရလောက်တဲ့ ချုပ်ရိုး ကလေးတွေ ကျွန်မ ချုပ်နိုင်ပါတယ်၊ ကျွန်မ လုပ်ပါရစေနော်"

"အင်း... အင်း... နားလည်ပြီ၊ စောစောက ကိုယ် အထင်လွဲသွားတာ ဆောရီး နော်၊ ရပါတယ်၊ မင်းအတွက် အလုပ်ရှိမှာပါ၊ ချည်ထည်တွေကို မင်း ကောင်းကောင်းချုပ်နိုင် မှာပေါ့"

"ရပါတယ် မမ"

"ဒါဆို မင်း လုပ်စရာတွေ ရှိမှာပါ၊ မအေကို လုပ်ကျွေးနေတယ် ဆိုတော့ မင်း သိပ်လိမ္မာတာပေါ့၊ ကဲ.. လာ"

ဧည့်ခန်းကို ဖြတ်လျှောက်သွားပြီး နံဘေးတံခါးပေါက်ကို ဖွင့်လိုက်သည်။ သူ့ဝတ်ရုံ ကြီးသည် ကော်ဇောပေါ်တွင် တရွတ်တိုက် ပါလာ၏။

တံခါးပွင့်သွားတော့ ရောမအိပ်ခန်းကြီး ဘွားခနဲ ပေါ်လာသည်။ သည်လောက် ကြီးကျယ်သည့် အိပ်ခန်းမျိုး ကိုရီမေ တခါမျှ မမြင်ဖူးခဲ့။ ခုတင်တိုင်ကြီးတလုံး၊ တလုံးက အန်း၏ခါးလောက် ရှိသည်။ ခြင်ကာတွေက ပန်းနုရောင်။ မီးလင်းဖိုကြီးထဲတွင် မီးလျှံတွေက တဟိန်းဟိန်း။ လက်ဆေးကန်ပေါ်တွင် ရောမကြည့်မှန်ကြီး ချိတ်ထား၏။ မျက်နှာသုတ်ပဝါ တွေပေါ်တွင် နာမည်တွေ ပန်းထိုးထား၏။ မှန်တင်ခုံပေါ်တွင် ဘီးမျိုးစုံ၊ အမွှေးအကြိုင် ပုလင်း မျိုးစုံ၊ အလှပြင်ပစ္စည်းမျိုးစုံ။

ကပြားမကလေးတယောက်က ကြမ်းပြင်ပေါ်မှ အဝတ်တွေ ကောက်သိမ်းနေ၏။ အန်းက မဟော်ဂနီဗီရိုကြီးတလုံး ဖွင့်ပြသည်။ ပြီးတော့ ချုပ်ရိုးတွေ ပြဲနေသည့် အတွင်းခံ စကတ်တထည် ထုတ်ယူလိုက်၏။

"ကဲ... ရော့၊ ချုပ်ရိုးတွေ ပြုတ်ထွက်နေတာနဲ့ ကိုယ် ဆွဲဖြဲထားတာ၊ ဟဲ့... လူစီ၊ အပ်နဲ့ အပ်ချည် ယူခဲ့စမ်း၊ ကိုရီမေ၊ မင်း ဒီမှာ ထိုင်၊ ချုပ်ပြီးရင် ကိုယ် ကြည့်မယ်၊ ချုပ်ရိုး ချုပ်သား ကောင်းမယ်ဆိုရင် ချုပ်စရာတွေ အများကြီး ရှာပေးမယ်"

စကတ်ကို ကိုရီမေ လှမ်းယူသည်။ ဘာမျှ မပြောဘဲ စိတ်ထဲ ပျော်သွား၏။ အင်း---ဒီလိုနေရာမှာ အလုပ်လုပ်ရရင်တော့ ဖုန်မထသည့် နေရာ၊ ကလေးတွေ အော်ဟစ်ငိုယိုသံ မကြားရသည့် နေရာ၊ ဟိုဘက်အိမ်က အရက်မူး ရမ်းကားသံ မကြားရသည့် နေရာ၊ အနံ့ဆိုး တွေ၊ ကြောင်တွေ၊ ပိုးဟပ်တွေ မရှိသည့်နေရာ။

ကိုရီမေ မော်ကြည့်လိုက်သည်။

"ကျွန်မ လက်ဆေးလို့ ရမလားဟင် မမ"

"ရတယ်လေ၊ ဟိုမှာ ရေကန်၊ လူစီ၊ နင်ပြီးရင် သွားတော့၊ ငါ့ဦးထုပ်က ဖဲပြားတွေ မီးပူထိုးထားနော်"

လူစီက ကိုရီမေဆီသို့ ဖာကလေးတလုံး ယူလာပေးသည်။ အပ်ချည်၊ အပ်၊ ကတ်ကြေး၊ လက်ထိပ်စွပ် အားလုံးပါသည့် အပ်ချည်ဖာကလေး။

လက်ကို ဆပ်ပြာနှင့် သေသေချာချာ ဆေးကြော သုတ်သင်ပြီး ကိုရီမေ အလုပ်စ သည်။ ချုပ်ရိုးကို သေသေသပ်သပ်နှင့် အလှဆုံးဖြစ်အောင် ကြိုးစားချုပ်သည်။ နဖူးတွင် ချွေးကလေးများပင် စို့လာ၏။

ပြီးတော့ နောက်ကို အသာမှီကာ ဖိမ်ယူလိုက်သည်။ အခန်းကြီး၏ အလှအပကို ထပ်ပြီး လေ့လာနေသည်။ ဘယ်လောက်လှပြီး ဘယ်လောက် သန့်ရှင်းသည့် အခန်းကြီးပါလဲ။ အခန်းထဲသို့ ခပ်စွေစွေဝင်နေသော အလင်းရောင်သည် ပြတင်းပေါက်နှစ်ပေါက်ကြားမှ စားပွဲကလေးတလုံးပေါ်တွင် ဖြာကျနေသည်။ ပြိုးပြိုးပြက်ပြက် တောက်ပနေသည့် အရောင် တွေက ကိုရီမေ၏ မျက်လုံးများကို ဖမ်းစားထားလိုက်၏။

စကတ်ကို ခေါက်ကာ ကုလားထိုင်ပေါ်တွင် အသာတင်လိုက်ပြီး ထရပ်လိုက်သည်။ ဟင် . . . စားပွဲကလေးပေါ်တွင် နားကပ်တွေ၊ ဆွဲကြိုးတွေ၊ လက်ကောက်တွေ ပုံလို့ပါလား။ လက်ဝတ်ရတနာများသည် နေခြည်တန်းတွင်

အရောင်တဖျပ်ဖျပ် လင်းလက်နေ၏။

လက်ဝတ်ရတနာကို ကိုရီမေ သေသေချာချာ မမြင်ဖူး။ ဘာတွေမှန်း သူ မသိ။ စိန်တို့၊ ပုလဲတို့၊ မြတို့ ဆိုတာတွေတော့ ကြားဖူးသည်။ ကြည့်ပါဦး၊ နည်းနည်းနောနော ပစ္စည်းတွေ လား။ ပစ္စည်းတွေကို မှန်တချပ်ပေါ်တွင် တင်ထားခြင်း ဖြစ်၏။ ကိုရီမေ အနားသွားရပ်တော့ မှန်ထဲတွင် သူ့ပုံရိပ် ပြန်မြင်ရသည်။

ဒါတွေကို ဝတ်ကြည့်ရလျှင် ဘယ်လိုနေမည်လဲ။ ဝတ်ကြည့်ရုံလောက်နဲ့တော့ အပြစ် မဖြစ်နိုင်ကောင်းပါဘူး။ လက်မောင်းကို ပင့်ပြီး လက်ကောက်ကို ဝတ်ကြည့်သည်။ နေရောင် တွင် အလင်းတန်းတချက် လင်းလက်သွား၏။ ဆွဲကြိုးကိုလည်း ဆွဲကြည့်လိုက်သည်။

ထိုစဉ် တံခါးပွင့်လာသည်။ တပြိုင်တည်း အန်း၏အသံ ပေါ်လာ၏။

"ပြီးပြီလား ဟေ့"

ကိုရီမေ ချာခနဲ လှည့်ကြည့်လိုက်သည်။ ကြမ်းပြင်ပေါ်သို့ ဆွဲကြိုး ပြုတ်ကျသွား၏။ တကိုယ်လုံး ပူထူသွားသည်။

"ကျွန်မ ကျိန်ပြောပါ့မယ် မမ၊ ကျွန်မ ခိုးမလို့ မဟုတ်ပါဘူး" လက်ကောက်ကို အတင်း ဆွဲချွတ်ရင်း ဆက်ပြောသည်။

"ကျွန်မ ပြောပါရစေ မမရယ်၊ ကျွန်မ မခိုးတတ်ပါဘူး၊ ကျွန်မ ကျိန်ပြောရဲပါတယ်၊ ကျွန်မတသက်မှာ သူများပစ္စည်းကို တခါမှ မခိုးခဲ့ဖူးပါဘူး၊ လှလွန်းလို့ ဝတ်ကြည့်မိ တာပါ"

ကိုရီမေ ပြောရင်း မျက်ရည်တွေ ကျလာသည်။ ခြေထောက်တွေ တဆတ်ဆတ် တုန်လာသည်။ ပစ္စည်းခိုးမှုဖြင့် ထောင်ထဲ ရောက်မည့် မြင်ကွင်းကို တွေးပြီး ဆောက်တည်ရာ မရ ဖြစ်လာ၏။

"မမရယ်၊ ကျွန်မ ဘုရားသခင် ရှေ့မှာ..."

"မင်း ဘာတွေ ပြောနေတာလဲ ကိုရီမေ"

အန်းရှာရမီ သိုင်းဖက်လာသည်ကို ရှိုက်နေလျက်က ကိုရီမေ သိလိုက်၏။ ပြီးတော့ လက်ကိုင်ပဝါဖြင့် မျက်ရည် သုတ်ပေးသည်။

“မမဟာ တကယ်ပြည့်ဝတဲ့ အမျိုးသမီးပဲနော်၊ ဒီလို ဒေါ်လာထောင်ချီတန်တဲ့ ပစ္စည်း တွေ တခါမှ မမြင်ဖူးလို့ ကျွန်မ ယူကြည့်မိတာပါနော်”

အန်းက ရယ်ပြီး…

“ကဲ.. ကဲ မငိုနဲ့တော့၊ အဲဒါ လက်ဝတ်လက်စား အစစ်တွေ မဟုတ်ဘူး၊ အတုတွေ ကွဲ့၊ အဲဒါတွေအားလုံး ပေါင်းလိုက်ရင် ဆယ်ဒေါ်လာတောင် မတန်ဘူး”

အန်းက စားပွဲပေါ်မှ ပစ္စည်းတွေကို လက်နှင့်ဆုပ်ပြီး-

“ရော့လေ၊ မင်း လိုချင် ယူသွား”

ကိုရီမေ ပါးစပ်အဟောင်းသား ဖြစ်သွားသည်။

“မမ တကယ်ပြောတာလား ဟင်”

“တကယ်ပြောတာပါဆို၊ ဘာမှ တန်ဖိုးမရှိပါဘူး၊ ပုလင်းကွဲတွေပါ၊ ညက ကပွဲမှာ ဂျစ်ပစီမလို ကရလို့ အဲဒါတွေ ဝတ်ရတာလေ”

ကိုရီမေက လက်ဝတ်ရတနာတွေ တဆုပ်ကြီးကိုင်ပြီး ပြန်ပြောသည်။

“ကျေးဇူးတင်လိုက်တာ မမရယ်၊ ဒါလောက် လှတာတွေ ကျွန်မ တခါမှ မမြင်ဖူးဘူး၊ ကျွန်မတို့ ရပ်ကွက်မှာတော့ ဘယ်သူမှ အတုလို့ သိမှာ မဟုတ်ဘူး”

“အဲဒါတွေအားလုံး အစစ်ဆိုရင် ဝက်သစ်ချမြိုင် စိုက်ခင်းအားလုံးလောက် တန်တယ်”

ကိုရီမေ ပြုံးပြီး မျက်ရည်တွေကို အင်္ကျီလက်မောင်းဖြင့် ပွတ်သည်။

“ဘာပဲဖြစ်ဖြစ် ဒါတွေကို ကျွန်မ ခိုးဖို့ လုပ်နေတယ်လို့ မမ ထင်မှာပဲနော်”

“မထင်ပါဘူးကွယ်၊ မထင်ပါဘူး၊ မင်း ကိုယ့်ဆီက ဘာမှ မယူဘူး ဆိုတာ ယုံပါတယ်၊ ကိုယ်ကသာ မင်းဆီက ယူချင် ယူမှာ၊ ကဲ… ကိုယ့်စကတ် ပြပါဦး”

ကိုရီမေက လက်ထဲမှ လက်ဝတ်ရတနာ အတုတွေကို စားပွဲကလေးပေါ် ပြန်တင်ပြီး ခေါက်ထားသည့် စကတ်ကို ယူဖြန့်ပြသည်။

“အား… မင်းလက်ရာ သိပ်ကောင်းပါလား”

“ကျေးဇူးတင်ပါတယ် မမ”

အန်းက ထိုင်ပြီး စကတ်ကို ပေါင်ပေါ် ဖြန့်တင်ရင်း-

"အင်း... ဒါဆို အလုပ်ဖြစ်ပါပြီ၊ တပတ်ကို နှစ်ရက် သုံးရက် မင်း လာခဲ့ပေါ့၊ လှည်းကြုံတွေနဲ့ မင်း လိုက်ခဲ့လို့ ရတာပဲ၊ ဆိပ်ကမ်းမှာ အမြဲလိုလို ရှိပါတယ်"

"ကျေးဇူးတင်ပါတယ် မမရယ်"

"ချုပ်စရာတွေ စုထားပေးမယ်၊ ပြီးတော့ လျှော်စရာ ဖွပ်စရာတွေလည်း ရှာထား ပေးမယ်"

"ဟုတ်ကဲ့ မမ၊ ကျွန်မ မနက်ဖြန် စ ဆင်းရမလား ဟင်"

"အင်း. . . လာခဲ့လေ"

"ဒါဆို ကျွန်မကို ပြန်ခွင့်ပြုပါဦး မမ"

အန်းက ပြုံးပြီး-

"အေးလေ... မင်းကို မမ ယုံပါတယ်ကွယ်၊ ဒါထက် မင်းကို ဘယ်လို ပေးရမလဲ ဟင်"

"ရှင်. . . အဲဒါတော့ ကျွန်မ မသိဘူး မမ"

"အေး... ကိုယ်လည်း မသိဘူး၊ တခါမှ ငှားမလုပ်ဖူးဘူးလေ၊ မင်း တခြားမှာ လုပ်တော့ ဘယ်လောက်ရမလဲ"

"လိမ္မော်သီးခူးရင် တနေ့ ဆင့်သုံးဆယ် ရတယ် မမ"

"ဆင့်သုံးဆယ် . . . ဟုတ်လား၊ အလုပ်ချိန်ကကော"

"မနက်မိုးလင်းက မိုးချုပ်တဲ့ အထိပဲ မမ"

အန်းက ပါးစပ်အဟောင်းသား ဖြစ်လျက်-

"ဟုတ်လား၊ မသက်သာပါလားကွယ်၊ ဒီအလုပ်က လိမ္မော်သီး ခူးတာထက်ကို ပညာပါတော့ မင်း တနေ့ ဆင့်ငါးဆယ်ယူ၊ ဟုတ်ပြီလား"

"ကျေးဇူးတင်ပါတယ် မမရယ်၊ ကျွန်မ အဲဒီလောက် မမျှော်လင့်ပါဘူး"

"ရပါတယ်ကွယ်"

အန်းက ဗီရိုတလုံးဆီ လျှောက်သွားပြီး ပြန်လာသည်။

“ရော့ …. ဒါက စကတ်ဖာတဲ့ အတွက်”

ဒေါ်လာတမတ် ကမ်းပေးသည်။

“ဟာ… ဒါက မဖြစ်လောက်ပါဘူး မမရယ်၊ မပေးပါနဲ့”

“ယူသွားပါကွယ်၊ အပြန်လည်း လှည်းကြုံတွေ ရှိမှာပါ၊ စောင့်စီးသွားနော်”

“ဟုတ်ကဲ့ မမ”

“လက်ဝတ်လက်စားတွေ မေ့သွားဦးမယ်”

ကိုရီမေက အကြွေစေ့ကလေးကို အိတ်ထဲ ထည့်၊ လက်ဝတ်လက်စားတွေ ကောက်ယူ လိုက်သည်။ အန်းက ဆိုဖာပေါ် ပြန်လှဲပြီး အပြင်သို့ စိတ်မပါ လက်မပါ ငေးကြည့်နေသည်။ လောကကြီးကို ပျင်းရိငြီးငွေ့နေပုံ။

ရုတ်တရက် ထွက်သွားဖို့ ကိုရီမေ တုံ့နှေးနှေး ဖြစ်နေ၏။

“မင်း ဘာလိုသေးလဲ ဟင်"

“ဘာမှ မလိုပါဘူး မမ၊ မမ နေကောင်းပါတယ်နော်”

အန်းက လက်နှစ်ဖက် အညောင်းဆန့်ပြီး-

“နေကောင်းပါတယ်ကွယ်၊ စိတ်ခတ် ကျနေလို့ပါ”

“စိတ်ခတ်ကျတယ် ဆိုတာ ဘယ်လိုလဲဟင် မမ”

“သိပ်မပျော်ဘူးပေါ့ကွယ်”

“ဟင်”

ကိုရီမေက အိပ်ခန်းကြီး ကြီးကျယ်ခမ်းနားပုံကို တချက် ဝေ့ကြည့်လိုက်ပြန်သည်။

“ဟာ.. မမကလည်း မဟုတ်တာ၊ မမလောက် ပျော်ရမယ့် အမျိုးသမီး ဘယ်မှာ ရှိနိုင်မှာလဲ”

အန်းက ကိုရီမေကို ဘာမျှ နားမလည်သည့် ကလေးမကလေးတယောက်ကို ကြည့် သည့်အကြည့်မျိုးဖြင့် ကြည့်သည်။ ကိုရီမေ အနေရကျပ်သွားသည်။ ချက်ချင်း အခန်းထဲမှ သုတ်ခြေတင်ပြီး ထွက်လာခဲ့၏။

ကိုရီမေသည် စက္ကူဖြာကလေးကို ကော်သုတ်ပြီး စုဘူးကလေး လုပ်၍ အန်းဆီမှ ပိုက်ဆံရတိုင်း တပြား တပြား ထည့်သည်။ ပြီးတော့ အဝတ်စင်ပေါ်တွင် ဘူးကလေးကို ဝှက်ထားသည်။ သာသနာပြုခရီးက အပြန် အဖေ တွေ့သွားမည် စိုးသောကြောင့် ဖြစ်သည်။ တခေါ်လာပြည့်ဖို့ အချိန်အကြာကြီး စောင့်ရ၏။ သို့သော် ဘူးကလေးထဲမှ အကြွေသံ ကြားနေရသည်က ပျော်ဖို့ ကောင်း၏။ အားတက်စရာ ကောင်း၏။ ပိုက်ဆံသည် အလွန်ထူးဆန်းသည့် အရာ ဖြစ်သည်။ ကိုယ့်ပတ်ဝန်းကျင်တွင် နံရံ တခု ဆောက်ထားသလို လုံခြုံမှု ရှိ၏။ ဆာလောင်မွတ်သိပ်မှု၊ ကြောက်ရွံ့အားငယ်မှုတို့ကို ပြေပျောက်စေ၏။

ပိုက်ဆံရှိလျှင် စိတ်ထဲတွင် သန့်ရှင်း ကြည်လင်နေ၏။ စကားပြောလျှင် နူတ်ချိုနေ၏။ အမူအရာ သိမ်မွေ့နေ၏။ လူတွေကလည်း မလေးမစား မလုပ်ကြတော့၊ တလေးတစား ဖြစ်လာ ကြ၏။

ဝက်သစ်ချမြိုင်တွင် အလုပ်လုပ်မှ ကိုရီမေသည် ငွေအကြောင်း ပိုသိလာ၏။ တပြိုင် တည်းတွင် လူတွေ အကြောင်းလည်း ပိုနားလည်လာ၏။ လူတဦးနှင့်တဦး လက်ထပ်ထိမ်းမြား ပြီး အတူနေသည့် ဘဝကိုလည်း နားလည်လာ၏။

ဆိပ်ကမ်း ရပ်ကွက်တွင် လူတွေ နေရသည့် ဘဝသည် မွန်းကျပ် ပြွတ်သိပ်နေ၏။ ကလေး တပြုံတောင်နှင့် မိန်းမတွေက နေစရာထိုင်စရာ ကျပ်တည်းသဖြင့် ယောက်ျားတွေကို ညအခါ အော်ဟစ်ရန်တွေ့သံမျိုး ကိုရီမေ အမြဲကြားနေရ၏။ ယောက်ျားက ဆိပ်ကမ်းဘက် ထွက်သွား ပြီး လမ်းပေါ်က မိန်းမတွေနှင့် ရှုပ်သံကြားလျှင် မိန်းမတွေ ပိုအော်ပြန်၏။

ကိုရီမေသည် ရပ်ကွက်ထဲတွင် ကလေးမွေးလျှင် ကူမွေးပေးသည်။ ကလေးတွေ သေလျှင် အသုဘကိစ္စ ဝိုင်းလုပ်ပေးသည်။

ဆိပ်ကမ်း ရပ်ကွက်တွင် လူတွေသည် အမြဲတမ်း အော်ဟစ် ရန်ဖြစ်နေကြသည်။ မိန်းမက စိတ်ဆိုးလျှင် ယောက်ျားကို ထင်းစနှင့် ကောက်ပစ်တတ်သည်။ ယောက်ျားက မိန်းမ၏ မေးရိုးတည့်တည့်ကို လက်သီးနှင့် ထိုးတတ်သည်။

ဝက်သစ်ချမြိုင်တွင်ကား အလွန်အမင်း ယဉ်ကျေးကြသည်။

မယုံကြည်နိုင်စရာ ကောင်းလောက်အောင် သိမ်မွေ့ ညင်သာကြသည်။ ကြည်သာ ခွန်းချို စကားဆိုကြသည်။ တံခါးခေါက်လျှင် ခပ်တိုးတိုးကလေး ခေါက်သည်။ တံခါးခေါက် ပြီးလျှင် ဝင်ခွင့်တောင်း သေးသည်။

ဝက်သစ်ချမြိုင်တွင် အိမ်ကြီးရှင်တို့နှင့် မျက်နှာချင်းဆိုင်ခွင့် နည်းပါးလှသော်လည်း ကိုရီမေသည် သူတို့အကြောင်းကို အပုံကြီး လေ့လာခွင့် ရခဲ့သည်။ ဒင်းနစ်နှင့် အန်းသည် ရန်ဖြစ်လျှင်တောင်မှ လှလှပပ ရန်ဖြစ်ကြ၏။

တညတွင် ဗိုလ်မှူးကြီးရှာရမီ နေ့လယ်စာ လာစားသည်။ စားရင်း သမက်နှင့် ယောက္ခမ ဘောက်ကျကြ၏။ အန်းက ကိုရီမေကို ဘဏ္ဍာစိုး အမျိုးသမီး မစ္စက်မိတ်လင်းအား ကူဖို့ အောက်ထပ်သို့ လွှတ်ထားချိန် ဖြစ်၏။ မနက်ဖြန် နွေရာသီ ခန်းဆီးတွေ လဲဖို့ ပြင်ဆင် နေကြခြင်း ဖြစ်သည်။

သူတို့နှစ်ယောက် စကားများသံ ကိုရီမေ ကြားနေရသည်။

ဗိုလ်မှူးကြီးက ဒေါသတကြီး လေသံဖြင့်-

“မင်း လုံးလုံးမှားနေတယ် ဒင်းနစ်၊ တောင်ပိုင်းက ပုန်ကန်ဖို့ လုပ်နေတာဟာ တို့ အတွက်ရော သူတို့အတွက်ပါ ကိုယ့်သေတွင်း ကိုယ် တူးနေကြတာ၊ ပြည်ထောင်စု ပြိုကွဲ အောင် လုပ်တာဟာ...”

ဒင်းနစ် ကြားဖြတ် ပြောသည်။

“မဟုတ်သေးပါဘူး၊ နှစ်ပေါင်းနှစ်ဆယ်လုံးလုံး ကျွန်တော်တို့ မတရားခံနေရတာ ကျတော့ကော၊ ကျွန်တော်ကိုယ်တိုင်က ကျွန်တော်တို့အပေါ် မတရား ကျူးကျော်...”

“မတရား ကျူးကျော်တယ် ဟုတ်လား၊ မင်းဟာ ထင်ရာစွတ်ပြောတဲ့ ကောင်ပဲ၊ အဲဒါက တောင်ပိုင်းရဲ့ တရားဝင် သဘောထားပဲ၊ ၁၈၅၀ ပြည့်နှစ် သဘောတူညီချက်နဲ့ တောင်ပိုင်းသားတွေပါတဲ့ တရားလွှတ်တော်ချုပ်ကို ဖျက်သိမ်းခဲ့တာပဲ”

ကိုရီမေ ဖြတ်လျှောက်သွားတော့ စကားများသံတွေ အတိုင်းသား ကြားနေရ၏။ အပ်ချုပ် ခန်းထဲ ရောက်သည်အထိ သဲ့သဲ့ကြားနေရဆဲ ဖြစ်သည်။

နောက်ဆုံးတွင် ဗိုလ်မှူးကြီးရှာရမီသည် ထမင်းစားခန်းထဲမှ ဒေါသတကြီး ထွက်သွား သည်။ ပြီးတော့ မြင်းကို တရကြမ်း စီးထွက်သွားသံ ကြားလိုက်ရ၏။

ခန်းမထဲတွင် အန်းနှင့် ဒင်းနစ်တို့ ဆုံကြသည်။

“ဒါ . . . မောင် ကျွန်မအဖေကို ဆက်ဆံပုံ ဆက်ဆံနည်းပေါ့လေ၊ ဟုတ်လား”

အပ်ချုပ်ခန်းထဲမှ ကိုရီမေ အတိုင်းသား ကြားနေရ၏။

“မောင့်ကို မနူးမနပ် သူငယ်နှပ်စားလို သဘောထားတဲ့ လူမှန်သမျှ ဘယ်သူဖြစ်ဖြစ် အဲဒီလို ဆက်ဆံမှာပဲ အန်း၊ မင်းအဖေက ကွန်ဂရက်အမတ်တယောက်လို ပြောနေတာ”

“မဖြစ်နိုင်ပါဘူး၊ ဘာပဲဖြစ်ဖြစ် မောင် အဖေ့ကို တလေးတစား ဆက်ဆံရမယ် ဆိုတာ မေ့နေပြီလား”

“နိုင်ငံရေးကို မင်း ဘာမှ မသိဘူး၊ ဒီတော့ ဘာမှ ဝင်မပြောရင် ကောင်းမယ်”

“အန်းက နိုင်ငံရေးကို ပြောနေတာ မဟုတ်ဘူး၊ လူမှုရေးကို ပြောနေတာ၊ လူမှု ဆက်ဆံရေးကို ပြောနေတာ။ ရှင်ပြောပုံက ယဉ်ကျေးရမှန်း မသိတဲ့ အလုပ်ကြပ်တယောက် ရဲ့ လေသံမျိုးပဲ၊ ခုချက်ချင်း လိုက်သွားပြီး အဖေ့ကို တောင်းပန်ပါ”

“ကိုယ်ပြောခဲ့တဲ့ စကားလုံးတွေ အတွက်လည်း နောင်တမရဘူး၊ မင်း ပြောသလိုလည်း မလုပ်နိုင်ဘူး၊ သူ့ကို ချက်နဲ့ လက်နဲ့ ပြောရမယ့် အချိန် ရောက်နေပြီ”

“ရှင် တောင်းကို တောင်းပန်ရမယ်”

“တိုးတိုးပြော၊ ကိုယ် မတောင်းပန်နိုင်ဘူး”

“ရှင် ကျွန်မအဖေကို စော်ကားတယ်၊ ပြီးတော့ ကျွန်မကို တိုးတိုးပြောခိုင်းတယ်၊ ရှင် လိုက်ပြီး တောင်းပန်မလား၊ မတောင်းပန်ဘူးလား ပြော”

“လုံးဝပဲ”

“ရှင်ဟာ သိပ်ရိုင်းတဲ့ လူပဲ”

ဆောင့်ကြီးအောင့်ကြီးနှင့် အပေါ်ထပ်သို့ တက်သွားသည့် ခြေသံများ ကြားလိုက်ရ၏။

အင်း... တညနေလုံး ရန်ဖြစ်နေကြတော့မည်ဟု ကိုရီမေ တွေးပူလိုက်၏။

ခန်းဆီး တွေ ဖြုတ်ရန် အပေါ်ထပ် တက်သွားတော့ သူတို့ အိပ်ခန်းထဲတွင် စကားဆက်များနေသံ ကိုရီမေ ကြားနေရ၏။ သဲသဲကွဲကွဲတော့ မဟုတ်။

မစ္စအန်း ဒေါသကြီးနေ၏။ ဘုရား၊ ဘုရား၊ သူ့ယောကျ်ားက ပါးကိုတော့ မရိုက်ပါ စေနဲ့။

အခန်းထဲမှ ဒင်းနစ် ထွက်လာပြီး ဒေါသတကြီး မြင်းစီး ထွက်သွားသည်။ အင်း . . . မူးပြန်လာပြီး ပြဿနာတော့ တက်ဦးမှာပဲဟု ကိုရီမေ တွေးပူနေ၏။ အိမ်ရှေ့ပူလျှင် အိမ်နောက် မချမ်းသာ ဖြစ်တော့မည်။ အိပ်ခန်းထဲမှ လှုပ်ရှားသံသဲ့သဲ့ ကြားနေရ၏။ ဒေါသတကြီး ငိုနေ သလား မသိ။

မှောင်ခါနီးမှ ဒင်းနစ် ပြန်ရောက်လာသည်။ ခန်းဆီးတွေ လိုက်ချိတ်နေရင်း အိမ်အဝင် လမ်းမကြီးအတိုင်း မြင်းစီးဝင်လာနေသည်ကို ကိုရီမေ မြင်နေရ၏။ အသွားတုန်းကလို မဟုတ်၊ အေးအေးဆေးဆေး ပြန်လာခြင်း ဖြစ်သည်။ အေးအေးဆေးဆေးပင် မြင်းပေါ်မှ ဆင်းသည်။ သောက်လာပုံလည်း မရ။

အပေါ်ထပ် တက်လာပြီး အိပ်ခန်းမကြီး၏ တံခါးကို ဒင်းနစ် ခပ်ဖြည်းဖြည်း ခေါက် သည်။ အန်းက အတွင်းဘက်မှ မေးသည်။

“ဘယ်သူလဲ”

“မောင်ပါ ကွာ”

“သွား... မလာနဲ့”

“အန်း ကလည်းကွာ၊ တော်လောက်ရောပေါ့၊ ဖွင့်စမ်းပါ”

“ဘယ်တော့မှ မဖွင့်ဘူး”

“ဟာ... သေတော့မှာပဲ၊ ဖွင့်ပါဆို”

“သွားပါဆို”

“မင်း မဖွင့်ရင် ကိုယ် သော့ဖျက်ပြီး အတင်းဝင်မယ်”

ခဏ ငြိမ်သွားသည်။ ပြီးမှ တံခါးဖွင့်ပေးသံ ကြားရ၏။ အန်းက မေးသည်။

“ကဲ... ဘယ်လိုလဲ ပြော”

ဒင်းနစ်က ရယ်ပြီး-

"အချစ်ကလည်းကွာ၊ ဒါလောက်အကြာကြီး ရန်ဖြစ်ရရင် ကျေနပ်ရောပေါ့"

"ဖေဖေ့ကို တောင်းပန်ပါတယ်လို့ ပြောမလား၊ မပြောဘူးလား ပြော"

"ကိုယ် ပြောတာတွေတော့ မရုပ်သိမ်းနိုင်ဘူး၊ ဒါပေမဲ့ ကိုယ်တို့ ငြိမ်းချမ်းရေး ရအောင် လုပ်ပါ့မယ်၊ ကျွန်တော် ရိုင်းမိတာ တောင်းပန်ပါတယ်လို့ ပြောမယ်၊ ကဲ... ကျေနပ် ပြီလား"

နောက်ပိုင်းတွင် တီးတိုး တီးတိုးနှင့် သူတို့ ပြေလည်သွားကြ၏။ အတွင်းမှ တံခါး သော့ပိတ်သံ ကြားလိုက်ရ၏။

ရန်ပွဲ ပြီးသွားပြီ။ ဘယ်လောက် အားကျစရာ ကောင်းသည့် အဖြစ်မျိုးပါလဲ။ အောက်ထပ်သို့ ပြန်ဆင်းလာခဲ့ပြီး မီးဖိုထဲတွင် ကိုရီမေ ညစာ စားသည်။ ခဏနေတော့ အန်းက ကိုရီမေကို ခေါ်ပြောသည်။ ခန်းဆီးတွေ လဲသည့် အလုပ် မပြတ်သဖြင့် မစ္စက် မိတ်လင်းကို ညအိပ်နေပြီး ကူဖို့ ပြောသည်။

လင်မယားနှစ်ယောက် အပြင်ထွက်ဖို့ ပြင်ဆင်ပြီး ဆင်းလာကြ၏။ ကိုရီမေကို အန်းက လုပ်စရာတွေ အသေးစိတ် ထပ်ပြောသည်။ ကိုရီမေက ဒူးကလေး ညွတ်ပြီး လိုက်နာသည်။ အန်းကို ကြည့်ပြီး ကိုရီမေ အသက်ရှူဖို့ပင် မေ့သွား၏။ ညနေခင်း အဝတ်အစားဖြင့် တခါမျှ မမြင်ဖူးသောကြောင့် ဖြစ်၏။ နို့နှစ်ရောင် ပိုးပျော့ဂါဝန်ကြီး ဝတ်ထားသည်။ ဆံပင်တွင် စိန်ဆံထိုးကလေး ထိုးထား၏။ လက်တွင် ရတနာလက်ကောက်လည်း ဆင်မြန်းထား၏။

လက်မောင်းကို မ လိုက်သည့်အခါ လက်ကောက်ဝတ်မှ အရောင်တဖျပ်ဖျပ် လက် သွား၏။

လက်ကောက်ကလေးကို ငုံ့ကြည့်ပြီး အန်းက-

"မောင်ရယ်၊ ဒါလောက်လှတဲ့ လက်ကောက်မျိုး ကျွန်မ တခါမှ မမြင်ဖူးဘူး၊ မောင်က သိပ်မြင်တတ် ဝယ်တတ်တာပဲ"

ဒင်းနစ်က ရယ်ပြီး-

"မောင်လည်း အရမ်းကြိုက်တယ်"

"ရှက်လိုက်တာ မောင်ရယ်၊ မောင်နဲ့ ရန်ဖြစ်မိတဲ့အတွက် ကျွန်မ

သိပ်စိတ်မကောင်း ဖြစ်ရပါတယ်၊ ဒါပေမဲ့ ရန်ဖြစ်တိုင်း မောင် ဒီလိုမျိုးကလေးတွေ ဝယ်ပေးမယ် ဆိုရင်တော့ နေ့တိုင်း ဖြစ်နေမှာပဲ”

ကိုရီမေသည် သူတို့လင်မယားကို သမင်လည်ပြန်ကြည့်ပြီး အတွေးနက်စွာဖြင့် အိမ် နောက်ဘက်ကို လျှောက်သွားသည်။ အနောက်ဘက် လှေကားအောက်မှ အခန်းငယ်ကလေးထဲ ရောက်တော့ ကွပ်ပျစ်ပေါ်တွင် ထိုင်ကာ ဆက်တွေးနေ၏။

ချမ်းသာသူတွေ ချိုသာကြသည်မှာ သိပ်တော့ ဆန်းသည်ဟု မဆိုသာ။ အကယ်၍သာ သူတို့လင်မယား ဆိပ်ကမ်းရပ်ကွက်တွင် နေသည်ဆိုလျှင် ဒင်းနစ်တွင် စိတ်အပန်းဖြေဖို့ သွားစရာနေရာရှိမည် မဟုတ်ပေ။ အရက်ဆိုင်နှင့် မကောင်းသည့် အိမ်သာ ရှိလိမ့်မည်။ သည်လို နေရာမျိုးတွင် ဆိပ်ကမ်းရပ်ကွက်သားများက အိမ်စရိတ်ထဲမှ သုံးပစ်လျှင် သူတို့အိမ်တွင် ပို၍ ပြဿနာတက်ကြရသည်။ ဒင်းနစ်လို မိန်းမကို ချော့ရန် လက်ကောက်ဝယ်ပြန်ဖို့ ဆိုသည်မှာ ဝေးစွခြောက်ပါး။ ထိုအခါ ဆိပ်ကမ်းရပ်ကွက်သည် ရန်သတ်ပွဲများ တခြိမ်းခြိမ်း ဖြစ်နေသည် မှာလည်း ဆန်းသည်ဟု မဆိုသာ။

ဝက်သစ်ချမြိုင်၌ အနမ်းများဖြင့် ပြေငြိမ်းနေချိန်တွင် ဆိပ်ကမ်းရပ်ကွက်တွင် ထင်းစ တွေ၊ ပန်းကန်ခွက်ယောက်တွေ ပလူပျံနေလိမ့်မည်။

ငွေတခုတည်းကြောင့်တော့ မဟုတ်တန်ရာ။ သည်ခြားနားမှု၏ နောက်ကွယ်တွင် တစုံတရာ ရှိနေရဦးမည်။ မိမိကိုယ်မိမိ တန်ဖိုးထားပုံချင်း ကွာခြားမှုလည်း ဖြစ်နိုင်၏။ သည်အကြောင်း အန်းရှာရမီ ကလေးရှိလာတော့ ကိုရီမေ ပိုသိလာ၏။

ဒင်းနစ်နှင့် အန်းတို့သည် မြောက်ပိုင်းမှ ဆာရာတိုဂါဟုခေါ်သည့် မြို့တွင် သွားရောက် အနားယူကြသည်။ အပြန်တွင် ကိုယ်ဝန်ရှိလာကြောင်း ကိုရီမေ သိရသည်။

ကိုရီမေအတွက် ထူးဆန်းသည့်ကိစ္စ မဟုတ်၊ သိပ်လည်း စိတ်မဝင်စား။ လင်မယား နှစ်ယောက်တွင် ကလေးရှိခြင်းမှာ ဖြစ်ရိုးဖြစ်စဉ်ကိစ္စ မဟုတ်လား။ သို့သော် ဝက်သစ်ချမြိုင် သခင်မတွင် နှုတ်ငုံတော် ရင့်မာလာခြင်းမှာ ထူးဆန်းနေ၏။ ကြီးကျယ် ခမ်းနားလွန်းနေ၏။ ဝက်သစ်ချမြိုင်ကို ဆက်ခံမည့် မျိုးဆက်သွေး မဟုတ်လား။

ဘယ်လောက် အရေးပါလိုက်ပါသလဲ၊ သူတို့ ဂုဏ်ယူလို့မဆုံး ဖြစ်နေကြ၏။ ဒင်းနစ် သည် အန်းကို အရိပ်တကြည့်ကြည့် ဖြစ်နေ၏။ အစားအသောက်၊

အနေအထိုင် အသေးစိတ် ဂရုစိုက်ပေးနေ၏။ ဗိုက်ဖုံးအင်္ကျီတွေ ပုံစံအမျိုးမျိုး ချုပ်ပေး၏။

အိမ်ဖော်အားလုံးတို့သည် လေတိုက်လျှင် လဲတော့မလို သူတို့သခင်မလေးကို နေရာ တကာမှ စောင့်ကြည့်နေကြ၏။ သူတို့ နေအိမ်များတွင်လည်း ဝက်သစ်ချမြိုင် လောင်းလျှာ ကလေးအကြောင်းသာ တဖွဖွ ပြောနေကြ၏။ သူတို့အားလုံးသည် မျိုးဆက်ပေါင်း များစွာကပင် ဝက်သစ်ချမြိုင်၏ ကျေးကျွန်များ ဖြစ်ခဲ့ကြသည် မဟုတ်လား။

ဝက်သစ်ချမြိုင်မှ ကျွန်များကို ထုတ်မရောင်းဘဲ ထားသည်မှာ နှစ်ပေါင်းလေးဆယ် ကြာခဲ့ပြီ။ ဝက်သစ်ချမြိုင် အရှင်သခင်များ၏ မျိုးဆက် ရှည်ကြာခဲ့သလို သူတို့၏ ကျွန်သက် လည်း ရှည်ကြာခဲ့၏။

ထို့ကြောင့် သခင်မ၏ ကိုယ်ဝန်မှာ သူတို့အတွက် အရေးကြီးလှသည်။ မွေးခန်းကို အစောကြီး ကြိုပြီး ပြင်ကြဆင်ကြ၏။ ခန်းဆီးတွေ လဲ၏။ ဒင်းနစ်လန်း မွေးစဉ်က တောနှင်းဆီ ပုခက်ကြီးကို ပါလစ်ပြန်သုတ်ကာ အရောင်တင်ကြ၏။ သည်ပုခက်ကြီးကို အထပ်ခိုးပေါ်သို့ တော်တော်နှင့် ပြန်တင်ရလိမ့်မည်ဟု သူတို့ မမျှော်လင့်ကြ။ ဆက်ကာ ဆက်ကာ အသုံးပြု ရလိမ့်မည်ဟု သူတို့ ယုံကြည်နေကြသည်။

နပိုလီယံ၏ မိန်းမ ကပြားမကလေး “ဘာသာ” သည်လည်း သူ့သခင်မနှင့် တပြိုင် တည်းလောက် မွေးဖို့ မျှော်လင့်ထားကြသည်။ ဝက်သစ်ချမြိုင် ဥပရာဇာကလေး၏ နို့ထိန်း တော် တာဝန်ယူဖို့ အခွင့်ကြုံသဖြင့် ဘာသာတို့လင်မယား ဂုဏ်ယူမဆုံး ဖြစ်နေကြ၏။ အစေခံ တန်းလျားမှ စံအိမ်ကြီးထဲကို ပြောင်းလာပြီး အခန်းတခန်းတွင် နေခွင့်ရနေပြီ။

အချုပ်အလုပ်ခန်းထဲတွင် အပ်ချုပ်သမကလေးများသည် ကလေးအတွက် အဝတ် အစားတွေ ချုပ်လို့ မပြီးနိုင်အောင် ရှိနေကြသည်။ သခင်မအတွက် ညဝတ်အင်္ကျီများကို ဇာတွေ၊ ပန်းတွေ ထိုး၏။ ခေါင်းအုံးစွပ်တွေကို ပန်းပွင့်တွေ ဖော်၏။ ဦးထုပ်တွင် ဇာနှင့် ဖဲကြိုးအဆန်းတွေ တပ်ဆင်၏။ ပိတ်စအားလုံးကို နယူးအော်လီယန်းမှ မှာယူ၏။ အဝတ်ချုပ်ဖို့ ဖက်ရှင် ဒီဇိုင်းကျွမ်းကျင်သူများနှင့် တိုင်ပင်ပြီးမှ ချုပ်လုပ်ကြခြင်း ဖြစ်၏။

ဒင်းနစ် လမ်းလျှောက်ပုံမှာ ဖခင်လောင်းတယောက်နှင့် မတူဘဲ အရွေးခံပြီးစ သမ္မတ တယောက်နှင့် တူ၏။ သည်မြင်ကွင်းကို ကိုရီမေမှလွဲပြီး ဘယ်သူမျှ မအံ့သြကြ၊ ရယ်စရာ ဟု မထင်ကြ။ ဝန်းကျင်တခုလုံးမှ အဖြူရောအမည်းပါ လှုပ်လှုပ်ရှားရှား ဖြစ်နေသည့် အထဲတွင် ကိုရီမေ မပါသလို အထီးကျန် ဖြစ်နေ၏။

ရယ်ချင်သလိုလို ဖြစ်သည့်အခါ ဖြစ်မိပြီး ဒေါသဖြစ်ရသည့်အခါမျိုးလည်း ရှိ၏။

ကိုရီမေ သိသည့် ကိုယ်ဝန်ဆောင်များသည် လုပ်ရင်းကိုင်ရင်း၊ ချက်ရင်းပြုတ်ရင်း မွေးလိုက်ကြသည်သာ ဖြစ်၏။ အချို့ အဝတ်လျှော်နေရာမှ ရပ်ပြီး မွေးလိုက်ကြ၏။ ကလေး များတွင် ဝတ်စရာအဝတ် သီးသန့်မရှိကြ။ တွေ့ရာ နံ့ငယ်ပိုင်းဖြင့် ကောက်ပတ်ထားလိုက်ကြ သည်သာ။ ထို့ကြောင့်လည်း အဖတ်မတင်ကြခြင်း ဖြစ်သည်။

ဝက်သစ်ချမြိုင်မှ ကိုယ်ဝန်ဆောင် နီဂရိုးမများသည် ဆိပ်ကမ်းရပ်ကွက် လူဖြူမ များထက် စောင့်ရှောက်မှု ရကြသည်။ လူမည်းကလေး မွေးလာသည်နှင့် ဒေါ်လာတရာ တန်နေပြီ မဟုတ်လား။

ကိုရီမေသည် ဒူးပေါ် တင်ထားသည့် လက်နှစ်ဖက်ကို တင်းတင်းဆုပ်ထားလိုက်မိသည်။ အတွေးနှင့်အတူ ရင်တွေ တဒိုင်းဒိုင်း ခုန်လျက်ရှိ၏။

လူဖြူဆင်းရဲသား၊

လူဖြူဆင်းရဲသားဘဝ၊

လူမည်းတို့ သွားရာလမ်းကား ကြမ်းတမ်းလှဘိ၏။

ကြမ်းတမ်းပါစေ၊

လူဖြူဆင်းရဲသား တယောက်တော့ မဖြစ်လိုပါချေ။

မုန်းတီးစိတ်တွေ ရင်ထဲတွင် လှိုင်းထလာသည်။ ဝက်သစ်ချမြိုင် တခုလုံးကို မုန်းခြင်း ဖြစ်၏။ မိခင်ဝမ်းမှ မကျွတ်သေးသည့် ကလေးကိုပါ မုန်းသည်။

စုဘူးဖာကလေးကို အသာ သွားလုပ်ကြည့်လိုက်သည်။ ဘယ်လောက်မျှ မရှိသေး။ သို့သော် ပိုက်ဆံသံ ကြားရသည့်အတွက် စိတ်ထဲ ပျော်သွား၏။ ကိစ္စမရှိ၊ ဆက်စုသွားမည်၊ စုနိုင်သည်။ လုပ်ခအပြင် ဆုကြေးရသည့် အခါလည်း ရသေးသည် မဟုတ်လား။

ဝက်သစ်ချမြိုင်က သူ့ကို အဝတ်အစား အကျႌများလည်း စွန့်ကြဲ၏။ ထမင်းလည်း ကျွေး၏။ အိမ်ကိုတောင် ဟင်းတွေ ယူပြန်နိုင်သေး၏။

နိုဝင်ဘာလ စိုစွတ်စွတ် တမနက်ခင်းတွင် ဝက်သစ်ချမြိုင်သည်

ဘုရားရှိခိုးကျောင်း တကျောင်းလို စည်ကားလျက် ရှိ၍။ ပျားပန်းခပ်မျှ လှုပ်ရှားနေကြ၏။

နောက်ဖေးပေါက်တွင် မစွက်မိတ်လင်းက ကလေးမွေးပြီ ဖြစ်ကြောင်း ဆီးပြော သည်။ ယောက်ျားလေး ဖြစ်ကြောင်း၊ မစွက်လန်း အိပ်နေသဖြင့် တအိမ်လုံး အနားပေးထား ကြောင်းများ ပြောပြီး-

"မင်းလည်း ဒီနေ့ ဘာမှ လုပ်စရာ မရှိဘူး၊ မနက်ဖြန်မှ လာ" ဟု ပြောသည်။ အိမ်ရှေ့ဘက်သို့ ပတ်ထွက်လာခဲ့သည်။ ခြံထည်ကလေးထဲသို့ လက်ဖျားကလေး များ ထည့်လိုက်၏။

တံခါးဝသို့ ဒေါက်တာပါစယ်၏ ရထား ထိုးရပ်လာသည်။ ဒေါက်တာပါစယ်နှင့်အတူ ဒင်းနစ် အိမ်ထဲမှ ထွက်လာသည်။ ဒင်းနစ်ကို နှုတ်ဆက်ပြီး ဆရာဝန်က ရထားပေါ် တက် သည်။ ဒင်းနစ်က ကိုရီမေကို လှမ်းမြင်တော့ နှုတ်ဆက်သည်။

"ဟဲလို ကိုရီမေ၊ မင်္ဂလာပါ"

"မင်္ဂလာပါ အစ်ကို"

သူက အမှတ်မထင် ပြုံးပြီး-

"မင်း အစ်မ သားလေး မွေးတာ သိပြီးပြီလား"

"သိပြီးပါပြီရှင့်၊ ကျွန်မ ဆုတောင်းပေးတဲ့ အကြောင်း မမကို ပြောပေးပါရှင်"

"အေးအေး ကျေးဇူးပါပဲကွယ်"

သူက လေချွန်ပြီး လှေကားထစ်တွေအပေါ် ပြန်ပြေးတက်သွားသည်။ သူ၏ ကလေး ဆန်ပုံကို ကြည့်ပြီး ကိုရီမေ ရယ်ချင်လာသည်။ ပြီးတော့ စဉ်းစားသည်။ သူဟာ လူငယ် တယောက်ပဲ။ မိမိကိုယ်တိုင် ဆယ့်ငါးနှစ်သမီးပဲ ရှိသေးတယ်။ စင်စစ် သူတို့လင်မယား နှစ်ယောက်စလုံး ငယ်ရွယ်သူများသာ ဖြစ်၍။ သူတို့အပေါ် တမျိုးမြင်မိသည့်အတွက် စိတ်မကောင်း ဖြစ်သွားသည်။

သည်အိမ်ကြီးတွင် အလုပ်လုပ်နေပြီး အိမ်ကြီး၏ နန်းညွန့်လျာကလေးအတွက် မိမိဘာမျှ လုပ်မပေးရသေးပါလား။ ခုအချိန်အထိ အမှတ်တရပစ္စည်းတမျိုးမျိုး လက်ဆောင် ပေးဖို့ လုံးဝ စိတ်မကူးခဲ့။ လမ်းမဆီကို သုတ်ခြေတင်ခဲ့ပြီး လှည်းကြုံ စောင့်နေလိုက်၏။

အိမ်ရောက်ရောက်ချင်း စဘူးကလေးကို ယူပြီး ဆကြည့်သည်။ တခါမျှ ထုတ်မသုံး သေး။ ခုတော့ အန်း၏ ကလေးအတွက် စဘူးကို ဖောက်ရတော့မည်။ စက္ကူဖာကလေးကို ပါးစပ်နှင့် ကိုက်ဖောက်ပြီး သွန်ချလိုက်၏။ အကြွေစေ့တွေ ထွက်ကျလာသည်။ အားလုံး သုံးဆယ့်နှစ်ဆင့်။ တခုခုတော့ ရနိုင်လောက်သည်။ ပန်းခြံဘက်မှ ဆိုင်ခန်းများ ရှိရာသို့ လျှောက်လာခဲ့၏။ ဆိုင်တဆိုင်ထဲသို့ ခပ်ရှံ့ရှံ့ ဝင်လိုက်သည်။ တတ်နိုင်သမျှ သပ်သပ်ရပ်ရပ် ဝတ်လာသော်လည်း ဆိုင်ထဲမှ အခြား ဈေးဝယ် သူများကြားထဲတွင် သိမ်ငယ်သလို ဖြစ်နေ၏။

အရောင်းစာရေးက အထက်တန်းလွှာ အမျိုးသမီးတယောက်ကိုသာ ဦးစားပေးပြီး ရောင်းနေ၏။ ကိုရီမေကို လှည့်ကြည့်ဖော်ပင် မရ။ အမျိုးသမီးကို ကိုရီမေ မှတ်မိသည်။ မစ္စအန်း၏ သူငယ်ချင်း ဆာရာပါစယ် ဖြစ်၏။ စကားချိုချို ပြောတတ်ပြီး မျက်နှာတွင် မှဲ့ယင်ချေးဥကလေးတွေနှင့် ဖြစ်၏။

ဆာရာပါစယ် ထွက်သွားတော့မှ အရောင်းစာရေးက မေးဖော်ရသည်။

“ဘာယူမလဲ ဟင်”

“ဖလန်နယ်စ ကြည့်ချင်လို့ပါ ၊ ကလေးအတွက် ဆိုတော့ အမျိုးအစား ကောင်းကောင်း ထဲက ပြပါ”

အကျႌစက နှစ်ဆယ့်သုံးဆင့်၊ ပန်းထိုးဖို့ ဖဲပြားနှင့် ဇာစဖိုးက ရှစ်ဆင့်ကျသည်။ ပိုသည့်တဆင့်ကို အိတ်ထဲထည့်ပြီး ဆိုင်ထဲမှ ထွက်ခဲ့၏။ စဘူးထဲ ပြန်ထည့်ရမည်။ စိတ်ထဲ ပျော်သလိုလို ဖြစ်နေ၏။

အိမ်ပြန်ရောက်တော့ လက်ကို စင်စင်ဆေးသည်။ အိပ်ရာပေါ်တွင် မျက်နှာသုတ်ပဝါခင်းပြီး ဖလန်နယ်စကို ဖြန့်ချသည်။ လက်ပေမည်စိုး၍ မီးဖိုချောင် အမှေ့ဝင်ခိုင်းပြီး အကျႌကလေးကို တယုတယ ဖြတ်ညှပ်ချုပ်လုပ်နေ၏။

ချုပ်ရိုးကလေးတွေကို အသေးဆုံးနှင့် အသေသပ်ဆုံး ဖြစ်အောင် ချုပ်သည်။ ဇာနှင့် ဖဲပြားကလေးတွေ ကပ်ချုပ်ရမည့် နေရာတွင်လည်း အဖုအထစ်ပေါ်၍ မဖြစ်၊ အကျႌစနှင့် တသားတည်း ဖြစ်နေရမည်။ မဟုတ်လျှင် အသားနုနုကလေး ပွန်းသွားနိုင်သည်။ ခေါင်းတွေ အုံခဲလာပြီး ချုပ်ရိုးကြောင်း မမြင်ရသည့် အချိန်အထိ ထိုင်ချုပ်သည်။

ပြီးတော့ မနက်အစောကြီး ထ၍ ဆက်ချုပ်သည်။ အလောတကြီး လုပ်လျှင် မသေသပ် မည်စိုး၍ ခပ်ဖြည်းဖြည်းချင်း ချုပ်သည်။ ညနေစောင်းမှ အကျႌကလေး ပြီးသွားသည်။ သိပ်လှသည့် အကျႌကလေးကို ကြည့်ပြီး ကျေနပ်သွား၏။

ဝက်သစ်ချမြိုင်မှ အပ်ချုပ်သမ ကလေးတွေ ဘယ်လိုမျှ လိုက်မမီနိုင်သည့် လက်ရာမျိုး။

နောက်တနေ့ အလုပ်ဆင်းတော့ ချုပ်စရာ ညဝတ်အင်္ကျီတွေ မစ္စက်မိတ်လင်းက ဆီးပေးသဖြင့် ဧည့်ခန်းထဲတွင်ပင် ကိုရီမေ ထိုင်ပြီး အလုပ်လုပ်ရသည်။

မစ္စအန်း၏ မီးနေခန်းတွင် အမျိုးတွေ၊ ဧည့်သည်တွေ ပြတ်သည် မရှိ။ ဒင်းနစ်က အားလုံးကို ညစာကျွေးဖို့ စီစဉ်ထားသည်။ အခန်းထဲတွင် လူရှင်းသွားသည်နှင့် အင်္ကျီကလေး ကိုယူပြီး ကိုရီမေ တံခါးခေါက်လိုက်သည်။ မမ်မီ တံခါးဖွင့်ပေး၏။

“မမနဲ့ ခဏလေး တွေ့ပါရစေ”

မမ်မီက ချီတုံချတုံ လုပ်နေပြီးမှ ငြင်းလိုက်သည်။

“မမလေး သိပ်ပင်ပန်းနေတယ်”

“တဆိတ် မေးပေးပါ၊ ကလေးအတွက် ပစ္စည်းကလေး ပါလာလို့ပါ”

မမ်မီက ဝေခွဲမရ ဖြစ်နေဆဲ၊ ထိုစဉ် အတွင်းဘက်မှ အန်း၏အသံ ထွက်လာသည်။

“ဝင်ခဲ့ပါစေ မမ်မီ”

အထုပ်ကလေးကို လက်နှစ်ဖက်နှင့် ကိုင်ပြီး ကိုရီမေ အခန်းထဲ ဝင်ခဲ့သည်။ ပြီးတော့ ဒူးညွတ်ကာ အရိုအသေ ပေးလိုက်၏။ အပြင်တွင် မိုးတွေရွာပြီး မှုန်မှိုင်းနေသော်လည်း အခန်း ထဲတွင် မီးလင်းဖို အလင်းရောင်ဖြင့် လင်းထိန်နေ၏။ ပြီးတော့ ပန်းအိုးထဲမှ ပန်းပွင့်များ၏ ရောင်ပြန်ကြောင့် ပိုလင်းနေသလို ထင်ရ၏။

အိပ်ရာမှာ မင်းသမီးတပါး၏ သလွန်ညောင်စောင်းနှင့် တူပြီး ခေါင်းရင်းတွင် ရပ်နေ သည့် မမ်မီက ရုံရွှေတော် သက်တော်စောင့်နှင့် တူနေ၏။ အန်းက ခေါင်းအုံးပုံကြီးထဲတွင် မှီပြီး လှဲနေ၏။ ဆံပင်တွေက အခွေလိုက် ဝဲကျလျက်။ ကိုရီမေကို မြင်တော့ အပြုံးဖြင့် နှုတ်ဆက် သည်။

“ဟဲလို”

အနားရောက်တော့ ကိုရီမေ တကြိမ် ဦးညွတ် နှုတ်ဆက်ပြန်သည်။

အာစေးထည့်ထား သလို နှုတ်က ဘာမျှ ပြောမထွက်ဘဲ ရှိနေ၏။ စားပွဲပေါ်တွင် မီးနေဝင်ကြသည့် အထုပ်အပိုး တွေ အပြည့်အမောက် ဖြစ်နေ၏။ အန်းက ဖော်ရွေသည့် အပြုံးဖြင့် စကားစသည်။

"မင်း ကိုယ့်ကို သတိရတာ ကျေးဇူးတင်ပါတယ် ကိုရီမေ"

ကိုရီမေ မျက်လုံး အားစိုက်ရလွန်းသဖြင့် ခေါင်းတွေ အုံခဲနေဆဲ ဖြစ်၏။

"ဘာမှတော့ တန်ဖိုးမရှိပါဘူး မမရယ်၊ ကလေးအတွက် ကျွန်မ အင်္ကျီကလေး တထည် ချုပ်ယူလာပါတယ်၊ အနွေးထည်ကလေးပါ၊ ဆောင်းတွင်းမို့လေ"

"အင်း… မင်းက သိပ်စဉ်းစားတတ်တာပဲ၊ ပြစမ်းပါဦး"

အင်္ကျီကလေးကို အန်းက ဖြန့်ကြည့်သည်။

"ဟယ်… လှလိုက်တာ၊ ကျေးဇူးတင်ပါတယ် ကိုရီမေရယ်"

"မမ တကယ် သဘောကျလို့လား ဟင်"

"တကယ်ပါကွယ်၊ သိပ်ကောင်းတဲ့ လက်ရာပဲ"

ကိုရီမေ ဝမ်းသာသွားသည်။ သို့သော် မမ်မီက မျက်နှာထားနှင့် တော်လောက်ပြီဟု ပြောနေသယောင် ရှိ၏။

"မမလေး နားဖို့ ကောင်းပြီ" ဟု စကား ဖြတ်ခိုင်းသည်။

"အင်း… အင်း… နားပါ့မယ်၊ ကျေးဇူးတင်ပါတယ် ကိုရီမေရယ်"

"ကဲ… သွားလုပ်စရာရှိတာ လုပ်လေ၊ မမလေး တမနက်လုံး ဧည့်သည်တွေနဲ့ စကားပြောနေရတာ"

ဟု မမ်မီက ဝင်ပြောသည်။

"မမလေး သွားတော့မယ်နော်"

ကိုရီမေက နောက်တကြိမ် ဒူးညွှတ်ပြီး နှုတ်ဆက်သည်။

ဧည့်ခန်းထဲ ပြန်ရောက်တော့ ကိုရီမေ အလုပ်ဆက်လုပ်သည်။ အင်္ကျီကလေးကို အန်း ကြိုက်သည် ဆို၍ ကိုရီမေ ဝမ်းသာနေ၏။ စိတ်ထဲတွင်လည်း နောင်တရနေ၏။ ပိုးဖဲကတ္တီပါ ပုံပေါ်မှာ ရောက်နေလို့ သူ့ကို မုဒိတာမပွားနိုင်ရင်

ခရစ်ယာန် မဟုတ်လို့ပဲ။

ညှော်ခန်းတံခါးကို ဖွင့်ထားသဖြင့် မီးနေခန်းထဲမှ အသံများကို သဲ့သဲ့ကြားနေရ၏။ အန်း၏အသံကို ပထမ ကြားရသည်။

"သိပ်ပင်ပန်းသွားပြီ မမ်မီ၊ ဘယ်သူ့မှ ဖွင့်မပေးနဲ့ဦး၊ ခဏ နားဦးမယ်"

"ဒါပေါ့ ... နားရမှာပေါ့၊ စားသောက်ပြီး တရေးအိပ်လိုက်နော် မမလေး"

"မအိပ်ခင် ဒင်းနစ်ကလေးကို ခဏ ကြည့်ပါရစေဦး မမ်မီ"

"ခေါ်ခဲ့ပေးမယ် မမလေး၊ ခဏလေးနော်၊ ကလေး မခေါ်ခင် အဲဒီအင်္ကျီကို ရှင်းပစ် ရဦးမယ်"

ပေါင်ပေါ်မှ ညဝတ်အင်္ကျီ လျှောကျသွား၏။ ကိုရီမေ မီးနေခန်းဘက်ကို ပိုပြီး အာရုံ စိုက် နားစွင့်လိုက်သည်။

"အင်္ကျီကလေးက လှသားပဲ၊ ဘာဖြစ်လို့လဲ မမ်မီ"

"ဟာ... မမလေးကလည်း၊ ကလေးအတွက် အင်္ကျီတွေ ပြည့်လို့ဟာကို"

"ပြည့်ပြည့်လေ၊ ဒါလေးလည်း ဝတ်ပေးရမှာပေါ့၊ ကြည့်ပါဦး လှိုင်းတွန့်ကလေးတွေ ဘယ်လောက်လှသလဲ"

"မမလေးရယ်၊ မွေးစသခင်လေးနဲ့ ဒီအဝတ်နဲ့ မဖြစ်ပါဘူး၊ သူ့အိမ်မှာ ချုပ်ယူလာလို့ ပြောတာ၊ သူတို့ရပ်ကွက်မှာ လူတွေ ဘယ်လိုနေတယ် ဆိုတာ မမလေး မသိဘူး၊ ကြွက်သိုက် လို နေရာမျိုးမှာ စုတ်ပြတ်နေတာ၊ ပိုးဟပ်တွေ၊ ကြမ်းပိုးတွေ တရုန်းရုန်းနဲ့၊ အဲဒီမှာ ချုပ်လာ တဲ့အင်္ကျီကို ဘယ်လိုလုပ်ပြီး ကလေးကို ဝတ်ပေးရမှာလဲ"

ကိုရီမေ ဝုန်းခနဲ ထရပ်လိုက်သည်။ တော်တော်လူဝါးဝသည့် နီဂရိုးမကြီးပါလား။ လူဖြူတွေ နားနေ၊ လူဖြူတွေရဲ့ အရိပ်ခိုပြီး အထက်တန်းလွှာဂိုက် ဖမ်းနေသည့် မိန်းမကြီး။

အန်း၏အသံ အလန့်တကြား ထွက်လာသည်။

"ဟုတ်လား၊ အဲဒီလို မစဉ်းစားမိဘူး၊ ပစ်လိုက်... လွှင့်ပစ်လိုက်"

"ဟုတ်ကဲ့ မမလေး၊ မမ်မီ မီးဖိုထဲ ပစ်ထည့်လိုက်မယ်"

"ဟာ... မလုပ်နဲ့၊ ညှော်တယ်၊ အမှိုက်ပုံးထဲ ထည့်လိုက်ပါ"

တံခါးခေါက်သံ ကြားသဖြင့် တဆက်တည်း အန်း အော်ပြောသည်။

"နပိုလီယံလား၊ ဒီတခါ ကြက်ပေါင်း ယူလာရင်တော့ နင်နဲ့ ငါနဲ့ အသိပဲ"

ပန်းကန်ခွက်ယောက်သံတွေ ကြားရ၏။ ကိုရီမေ့ ရင်ထဲတွင်လည်း ဒေါသကြောင့် ဆူညံနေပြီ။ ထိုစဉ် အန်း၏အသံကို ထပ်ကြားလိုက်ရ၏။

"လူတွေ ဘာလို့ သန့်သန့်ရှင်းရှင်း မနေကြတာလဲ မသိဘူး၊ ဆင်းရဲလည်း သန့်သန့် ရှင်းရှင်း နေလို့ရတာပဲ"

စိတ်ချဉ်ပေါက်ပေါက်နှင့် ကိုရီမေ စိတ်ထဲမှ ပြန်ပြောလိုက်သည်။

"ရှင် ဆင်းရဲကြည့်ပါလား"

မမ်မီက မီးလောင်ရာ လေပင့်သည်။

"ဟုတ်တယ် မမလေး၊ ဒီကောင်မလေးကို တခြားအလုပ် ခိုင်းရင် ကောင်းမယ်၊ မမလေး အဝတ်တွေ ချုပ်နေတာ သိပ်မကောင်းဘူး"

"အို... တော်ပါ၊ ဘာလို့ ဒီအကြောင်းပဲ ပြောနေရတာလဲ၊ တော်ပြီ၊ သူ သန့်သန့် ရှင်းရှင်း အလုပ်လုပ်နေသားပဲ"

ညှော်ခန်းထဲမှ ဆိုဖာတလုံးပေါ်တွင် ကိုရီမေ ထိုင်ချလိုက်သည်။ သည်အလုပ်က မလုပ်လို့ မဖြစ်၊ ကြိတ်မှိတ်ခံပြီး ဆက်လုပ်ရမည်။ အာခံလိုက်သည်နှင့် ယဉ်ယဉ်ကလေး အလုပ်ထုတ်ခံရမည်မှာ သေချာသည်။ ဒါဆို ဆိပ်ကမ်း ရပ်ကွက်တွင် အငတ်ခံရရုံမှတပါး အခြား မရှိပြီ။

ကိုရီမေ နှုတ်ခမ်းကို ကိုက်လိုက်သည်။ ဒေါသဖြစ်ရုံကလွဲပြီး ဘာမျှ မတတ်နိုင်သည့် ဘဝ။ စောစောကလေးအထိ သူတို့ကို ကျေးဇူးတင်နေမိသေး၏။ ယခုမူ အမုန်းတရားကို မတားဆီးနိုင်တော့ပြီ။ သူတို့၏ ပျားသကာလို ချိုမြမြစကားသံတွေ၊ ယဉ်ကျေးဖွယ်ရာမှုတွေ အားလုံး အပေါ်ယံ ရွှေမှုန်ကြဲတွေပါကလား။

သို့သော် လောလောဆယ် အလုပ်ကိုတော့ ဆက်လုပ်ရမည်။ ညဝတ်အင်္ကျီကို ကောက်ယူလိုက်၏။

"ဒါပေမဲ့ ငါ မသေခင် သင်းတို့ကို အန်တုနိုင်ရမယ်" ဟု အသံမထွက်ဘဲ

ကျိတ်ပြီး ကြုံးဝါးလိုက်၏။ လက်တွေ ဆတ်ဆတ်တုန်နေသဖြင့် အပ်ကို တော်တော်နှင့် မကိုင်နိုင်။

※※※

# အခန်း(၅)

## (၁)

ကလေး တပတ်သားရတော့ ဖအေဒင်းနစ်က အန်းအတွက် စိန်စီလော့ကက်သီး ဝယ်ပေးသည်။ အလယ်တွင် သားကလေး ဒင်းနစ်၏ ဓာတ်ပုံထည့်ဖို့ ဖြစ်သည်။

"လှလိုက်တာ မောင်ရယ်"

"နေကောင်းရဲ့လား ဟင်"

ဒင်းနစ်က မွှေးမွှေးပေးရင်း မေးသည်။

"ကောင်းပါတယ်၊ ဒေါက်တာပါစယ်က ပြောတယ်၊ မကြာခင် လမ်းလျှောက်နိုင် တော့မှာတဲ့"

"သိပ်မလောပါနဲ့ကွာ၊ အချိန်တွေ အများကြီးပဲဟာ"

"သိပ်မရှိဘူး မောင်ရဲ့၊ နှစ်လည် ညစာစားပွဲက နီးနေပြီ"

"သုံးပတ်တောင် လိုပါသေးတယ်ကွာ"

"ဟုတ်ပါတယ်၊ ဒါပေမဲ့ အဝတ်အစား ပြင်ဆင်ဖို့တွေ ရှိသေးတယ်လေ၊ ကောင်မ ကလေးတွေကို ပြောထားပါတယ်၊ ငါ အစမ်းဝတ်မပြီးမချင်း မချုပ်လိုက်ကြနဲ့လို့၊ ပြီးတော့ မောင့်ကို တခုပြောထားရဦးမယ်၊ အန်းရဲ့ခန္ဓာကိုယ် နဂိုအချိုးအစားအတိုင်း ပြန်မရောက် မချင်း အတူတူ မနေဘူးနော်၊ အပျိုတုန်းကအတိုင်း ပြန်မဖြစ်ရင် နောက်ကလေးလည်း မယူတော့ဘူး"

ဒင်းနစ် ရယ်နေသည်။ အန်းက သူပြောသမျှ ရယ်ပစ်သည်ကို သဘောမကျ။ သို့သော် မိန်းမ ပြောသမျှ သဘောကျနေတတ်သော ယောကျ်ားမှန်း သိနေသဖြင့် မပြောသာ။

"ရှင်က မိန်းမလိုချင်တာ မဟုတ်ပါဘူး၊ အိမ်မွေးတိရစ္ဆာန်ကလေးတကောင်

လိုချင် တာပါ” ဟု ညားပြီး မကြာခင် ပြောဖူးသည်။

သူ သဘောကျလွန်းသဖြင့် ညှော့ခံပွဲတိုင်း ပြန်ပြောရသည်မှာ အမော။

အန်း စကားဆက်သည်။

“ဒီဆောင်းမှာ ပျော်စရာတွေ လျှောက်လုပ်ရအောင်နော် မောင်၊ ကျွန်မ ကိုယ်အလေး ချိန် တက်လာတာကို မေ့ထားနိုင်အောင် အာရုံပြောင်းရမယ်”

“မောင် စဉ်းစားထားတာ ရှိပါတယ်၊ နှစ်သစ်ကူးညမှာ ကပွဲကြီး လုပ်ပေးမလားလို့”

“အား… ကောင်းတာပေါ့ မောင်၊ ဒီဆောင်းရာသီမှာ မကျွေးလိုက် မမွေးလိုက်ရတဲ့ ပွဲတွေအတွက် ကျေအောင်လုပ်တဲ့ သဘောပေါ့နော်”

ဒင်းနစ်က ခေါင်းညိတ်ပြီး-

“လောလောဆယ်တော့ မင်း အိပ်ရေးဝအောင် အိပ်လိုက်ဦး။ ဒေါက်တာပါစယ် တို့ရယ်၊ ဂျယ်ရီနဲ့ မင်းအဖေရယ် ညစာ လာစားကြလိမ့်မယ်”

“ကျွန်မ မပင်ပန်းပါဘူး မောင်ရဲ့”

“ခု မပင်ပန်းလည်း ညကျ ပင်ပန်းမှာ၊ သူတို့အားလုံးကို မင်း ညှော့ခံစကား ပြောရမှာ။ ကဲ. . . လိမ္မာပါတယ်၊ တရေးအိပ်နော်၊ မောင် အောက်ဆင်းတော့မယ်”

အနမ်းဖြင့် နှုတ်ဆက်ပြီး ပြောတော့မှ အန်း သဘောတူသည်။

“အင်းလေ၊ ဒါဆိုလည်း အိပ်တာပေါ့”

ဒင်းနစ်က မမ်မီကို ခေါ်ပြီး လိုက်ကာခန်းဆီးတွေ ဆွဲချခိုင်းလိုက်သည်။ အန်းက လေ့ကကက်သီးကလေးကို ခေါင်းအုံးအောက်တွင် ထားလိုက်၏။ အိပ်ရာဝန်းကျင်မှ လိုက်ကာ ခန်းဆီးတွေကို ဆွဲချလိုက်သည့်အခါ အိမ်ကလေးတလုံးလို ဖြစ်သွား၏။

မီးလင်းဖိုထဲမှ ထင်းမီးသံ တဖြောက်ဖြောက်နှင့် မှန်ပြတင်းကို မိုးစက်များ ပက်ဖျန်း နေသံ ကြားနေရ၏။ ဒင်းနစ်ကလေး အိပ်ပျော်နေလောက်ပြီ ထင်၏။ ကြီးလျှင် ဘယ်သူနှင့် တူလာမည်ကို ခုထိ မှန်းလို့ မရသေး၊ နီနီရဲရဲ သေးသေးကွေးကွေးသာ ရှိသေး၏။

ကလေးကို သူနာပြုခန်းထဲတွင်သာ ထားကြ၏။ အမြဲတမ်း အနားတွင် နေစေချင် သော်လည်း မရ။ ကိုယ်တိုင် နို့တိုက်နိုင်ပါသည် ဆိုသော်လည်း ဒင်းနစ်က လက်မခံ။

"မလုပ်ပါနဲ့ကွာ၊ မင်းကိုယ်မင်း လပေါင်းများစွာ ထောင်ချထားသလို ဖြစ်နေမှာ ပေါ့၊ ဘယ်မှ သွားနိုင်တော့မှာ မဟုတ်ဘူး" ဟု ဖျောင်းဖျ၏။ ဤသို့ဖြင့် ဒင်းနစ်ကလေး အတွက် "ဘာသာ" ကိုသာ အားကိုးနေရတော့သည်။

ခုအချိန်အထိ ယောက္ခမကြီးအတွက် အန်း ဘာမျှ လုပ်မပေးရသေး။ ခုတော့ မြေးမွေး ပေးနိုင်ခဲ့ပြီဖြစ်၍ စိတ်ထဲ ကျေနပ်နေ၏။ သို့သော် သည်အဘွားကြီး ဥရောပတွင် ကြာကြာနေ လေ ကောင်းလေ ဟူသည့် အစွဲကား မပျောက်။ မည်သို့ရှိစေ ပြန်လာလျှင်တော့ "အမေ" ဟု ခေါ်နိုင်အောင် ကြိုးစားရမည်။ ပြန်လာလျှင် ဒယ်လ်ရှိုင်းတွင် စင်သီယာနှင့် နေမည် ဆိုသည့် အတွက်တော့ အန်း အောင့်သက်သက် ဖြစ်လျက်ရှိ၏။ ဝတ်ကျေဝတ်ကုံတော့ ခဏ ခဏ လာမည် ထင်၏။ သည်တော့လည်း အလိုက်အထိုက်ပေါ့။ မိမိက ယဉ်ကျေးတတ်သူပဲ။

လက်နှစ်ဖက်ကို ခေါင်းအောက်တွင် ပတ္တာဆက်လိုက်သည်။ မျက်နှာကြက်ကို မော်ကြည့်ရင်း နှစ်ကူးကပွဲတွင် ဖိတ်ရမည့် သူတွေကို တွက်ကြည့်နေ၏။ မြို့ထဲက ဟိုတယ် များတွင် အလည်ရောက်နေကြသည့် မြောက်ပိုင်းက ဧည့်သည်တွေကို ဖိတ်ရမည်။ ဆာရာ တိုလာကို သွားတုန်းက အလွန် ဧည့်ဝတ်ကျေပွန်သူများ ဖြစ်၏။ သူတို့ကို ပြုစုဧည့်ခံချင် နေသည်နှင့် အတော် ဖြစ်သွားသည်။

တာဝန်ကျေ အိမ်ရှင်ဖြစ်ဖို့မှာ ဧည့်သည်တိုင်းကို ဧည့်ခံရသည်။ ထိုအခါ တွေ့ချင်သူ များကို အချိန်များများ မပေးနိုင် ဖြစ်ရသည့်အတွက် စိတ်ပျက်စရာ ကောင်းသည်။ မည်သို့ရှိစေ ဝက်သစ်ချမြိုင် စံအိမ်ကြီး၏ အရှင်သခင်မ ဖြစ်ရသည်မှာ အဟောသုခံ ချမ်းသာလေစွ။ ကိုယ်တိုင်ဆုံးဖြတ်ချက် များများစားစား မပေးရဘဲ အလိုအလျောက် ချောချောမွေ့မွေ့ လည်ပတ် နေသည့် စက်ယန္တရားမျိုး ဖြစ်၏။

"မမလောက် ပျော်ရမယ့် အမျိုးသမီး ရှိနိုင်ပါဦးမလား" ဟု ကိုရီမေ ရောက်သည့် နေ့က ပြောစကားကို မှတ်မိနေ၏။ မိမိဘဝကို အားကျပြီး ပြောခြင်း ဖြစ်နိုင်သည်။

ကောင်မလေးကို ကြည့်ရသည်မှာ တမျိုးလေးဟု အန်း ထင်၏။ ရယ်စရာလည်း ကောင်း၏။ ငြိမ်ငြိမ်ကလေး နေတတ်သဖြင့် သူ့ကို သတိမထားမိသည်က များသည်။ ဆင်းရဲ လွန်းတော့ ပညာမတတ်ရှာဘဲ ခပ်တုံးတုံးကလေး ဖြစ်နေရှာသည် ထင်ပါရဲ့။ သည်လိုလူမျိုး တွေဟာ

လောကကြီးမှာ များများစားစား မမျှော်မှန်းတတ်ကြပါဘူးလေ။

စိတ်ထဲတွင် မတင်မကျကြီး ဖြစ်လာသည်။ မိမိက အများကြီး မျှော်လင့်တတ်သူ၊ မျှော်လင့်ခြင်းတွင် လောဘကြီးသူ။ ဤသည်က ပြဿနာ ဖြစ်နေ၏။ ဘဝတွင် လုံခြုံမှုကို လည်း ရချင်၏။ စွန့်စားခန်းလည်း ဖွင့်ချင်၏။ သို့သော် ဘဝလုံခြုံမှုကို ရွေးချယ်ခဲ့ပြီးပြီ၊ ဘယ်သူနှင့်မျှ ထိပ်တိုက်တွေ့စရာ မလိုတော့။

ဒင်းနစ်သည် မင်းညီမင်းသားတပါးလို တခမ်းတနား နေတတ်သူ ဖြစ်၏။ အကြင်နာ တရား ရှိ၏။ ခွန်အားအပြည့်ဖြင့် စိတ်လှုပ်ရှားစရာ ကောင်း၏။ သူ့ကို ရခဲ့ပြီ။

ပြီးတော့ ဝက်သစ်ချမြိုင်။ ဝက်သစ်ချမြိုင်ကို ပိုင်ဆိုင်ချင်ခဲ့၏။ ပိုင်ဆိုင်ခွင့်ရခဲ့ပြီ။ ရောမ မဟာစိုက်ပျိုးရေး လုပ်ငန်းရှင်ကြီး၏ အိမ်တွင် အရှင်သခင်မ ဖြစ်လာခဲ့ပြီ။ သူသူ ငါငါ မစွမ်းနိုင်သည့် ကိစ္စကို မိမိ စွမ်းဆောင်နိုင်ခဲ့ခြင်း ဖြစ်၏။

မိမိဘဝသည် ဂီတလည်း ဟုတ်၏၊ လရောင်လည်း ဟုတ်၏။ သို့သော် သံမဏိလို လည်း မာကျောသေးသည်။ ကိုယ့်ဖိနပ် ကိုယ်တိုင် မစီးနိုင်သော်လည်း၊ ကိုယ့်ခြေအိတ် ကိုယ်တိုင် မစွပ်နိုင်သော်လည်း ကလေးဆယ်ယောက် မွေးနိုင်သည့် အင်အားမျိုး ရှိ၏။ ကပွဲအတွက် အပေါ်ထပ်တက်ပြီး အဝတ်လဲဖို့ တိုက်တွန်းရသော်လည်း ကမိပြီဟေ့ဆိုလျှင် မိုးစင်စင်လင်း သည်အထိ ကနိုင်၏။ လက်ညှိုးကလေးတချောင်းမှ သွေးထွက်သည့် ဒဏ်ရာကို မြင်ပြီး မေ့မြောသွားဖူးသော်လည်း အမဲလိုက်ရာတွင် မြင်းကို ခွေးတွေနှင့် အပြိုင်စီးကာ သားကောင် ကို အမိဖမ်းနိုင်၏။ ဆင်းရဲသားများအပေါ် သနားညှာတာတတ်သော်လည်း ချမှတ်ထား သည့် စည်းမျဉ်းကို ချိုးဖောက်လျှင် နီရိုးဘုရင်ကဲ့သို့ ရက်စက်တတ်၏။ ယောက်ျားကို အိမ်ဦးနတ်လို ကိုးကွယ်သော်လည်း ဆုံးဖြတ်စရာရှိလျှင် ကိုယ်ပိုင်ဦးနှောက်ဖြင့် ဆုံးဖြတ်၏။

အတွေးကမ္ဘာထဲမှ ထွက်ပြီး အန်း ရယ်လိုက်သည်။ သူတို့က မိမိကို သည်လို ဖြစ်စေ ချင်လျှင် ဖြစ်စေရမည်ပေါ့။

ထူထူထောင်ထောင် ဖြစ်လာသည်နှင့် မိမိပုံတူကို အတော်ဆုံး ပန်းချီဆရာနှင့် ရေးခိုင်း ပြီး ဒဏ္ဍာရီဆန်လှသည့် လန်းမျိုးဆက်၏ ပုံများထဲတွင် ထည့်သွင်းချိတ်ဆွဲတော့မည်။ လန်းမျိုးဆက်၏ ကနဦးပိုင်းမှာကတည်းက ရှာရမီမျိုးနှင့် စခဲ့သည် မဟုတ်လား။ တော်လှန်ရေး ကြီး မတိုင်မီကာလက သည်မျိုးဆက်ကို စခဲ့သည့် ဖီးလစ်လန်းသည် ဂျူးဒစ်ရှာရမီကို လက်ထပ်ခဲ့သည်

မဟုတ်လား။ ထိုအချိန်မှာ တောင်ပိုင်းအမျိုးသမီးများ၏ ယဉ်ကျေးမှုပုံစံ မထွန်းကားမိက ဖြစ်သည်။ ယခုမူ တောင်ပိုင်းယဉ်ကျေးမှုလမ်းမကြီး ဖောက်လုပ်ပြီးစီးလို့ ကြာတောင့်ကြာရှည် ကြာခဲ့လေပြီ။ သည်လမ်းကြောင်းပေါ်တွင် ကိုယ်ဖော့ပြီး မျှောလိုက် သွားရုံသာ ရှိ၏။

အိပ်ချင်မူးတူးဖြင့် အန်းတယောက်တည်း စကားပြောနေ၏။

"ဒီမယ်... တကမ္ဘာလုံး ကြားလောက်အောင်တော့ ကျွန်မ မပြောချင်ဘူး၊ ဒါပေမဲ့ ကျွန်မကိုယ်ကျွန်မ သိတယ်၊ ကျွန်မဟာ သိပ်သတ္တိမရှိဘူး၊ သူရဲဘောကြောင်တယ်၊ ကျွန်မ ဘဝလုံခြုံမှုအတွက် ဦးစားပေးခဲ့တယ်၊ ကျွန်မအနာဂတ်အတွက် ရွေးခဲ့တယ်၊ ဒါထက်ပိုပြီး ကျွန်မ ဘာမှ မလိုချင်ဘူး၊ ဒီထက်ပိုပြီး ရင်ခုန်စရာလည်း ကျွန်မ မမျှော်လင့်ဘူး၊ ဒါပေမဲ့ ငြိမ်းငြိမ်းချမ်းချမ်းကလေးနဲ့ ကျွန်မဘဝ ကျွန်မ ကျေနပ်နေတယ်"

ဆရာဝန် ခွင့်ပြုလိုက်သည်နှင့် အန်း၏ လှုပ်ရှားမှုတွေ စတော့၏။ အချိန်ဆွဲနေ၍ မဖြစ်။ လုပ်စရာတွေက အပုံအပင်။ ညစာစားပွဲပြီးသည်နှင့် မင်္ဂလာနှစ်ပတ်လည်ကိစ္စက ဆက်လာမည်။ ပြီးတော့ သားကလေး၏ နှစ်ခြင်းမင်္ဂလာအခမ်းအနားကိစ္စ ရှိသေး၏။

နှစ်သစ်ကူးကပွဲအတွက် ဖိတ်စာတွေ ထိုင်ရေးသည်။ လက်တွေ ကိုက်ခဲလာသည့် တိုင် ရေးလို့ မပြီးပေ။ အိပ်မက်ထဲမှာပင် ဖိတ်စာတွေ ထိုင်ရေးနေရသေးသည်။ နီဂရိုး အလုပ်သမားများအတွက် ကောင်လုံးကင်ပွဲကို ကွင်းထဲတွင် သီးခြားလုပ်ပေးဖို့ လူဖြူ အလုပ် ကြပ်များအား တာဝန်ပေးထားလိုက်သည်။ ခရစ္စမတ်သစ်ပင် မီးဆင်ဖို့ကအစ စီစဉ်ပေး၏။ လူကြီးတွေအတွက် အဝတ်အစားနှင့် ကလေးများအတွက် ကစားစရာတွေပါ ဝယ်ထား၏။

ခရစ္စမတ်နေ့ မနက်တွင်မှ ကိုယ်တိုင်ဝေပေးဖို့ အန်းက စီစဉ်ထားသည်။ သစ်ပင် အနားတွင် ဝိုင်းဖွဲ့ပြီး ဘင်ဂျိုတီးကြ၊ ဆိုကြ ကကြမည်။ ပြီးလျှင် သူတို့သခင်ကလေး၏ ပထမ ဆုံးခရစ္စမတ်ကို သီဆိုဂုဏ်ပြုသည့် အနေဖြင့် အိမ်မကြီးသို့ လာကြမည်။ သည့်နောက်မှ သူတို့ ၏ ကောင်လုံးကင်ပွဲကို ချီတက်ကြမည် ဖြစ်၏။

“သခင်မကြီးရဲ့ နေရာမှာ သခင်မကလေး အစားဝင်လာတာ သိပ်ဟန်ကျတယ်ဟေ့” ဟု သူတို့အချင်းချင်း ပြောနေကြ၏။ ပြေးလွှားလှုပ်ရှားနေရာမှ အန်း ကြားတော့ ရယ်သည်။ နှစ်ကူးရက်မှာ အနားရအောင် ကြိမ်များများ ခုတ်ထားကြဖို့ အန်းက သူတို့ကို တိုက်တွန်း စကားပြော၏။

အလုပ်တွေ ရှုပ်ယှက်ခတ်နေစဉ် ကာရိုလိုင်းနား တောင်ပိုင်းက ပြည်ထောင်စုထဲမှ ခွဲထွက်ကြောင်း သတင်း ကြားလိုက်၏။ အန်းတယောက် အံ့သြမဆုံး ဖြစ်သွား၏။ ခွဲထွက် ရေးဆိုသည့် စကားလုံးကို တသက်လုံး ကြားလာခဲ့၏။ တကယ့် တကယ် ခွဲထွက်လိမ့်မည်ဟု လုံးဝ မယုံကြည်ခဲ့။ ခုတော့ တောင်ပိုင်းပြည်နယ်တွေ အားလုံး ခွဲထွက်ပြီး တောင်ပိုင်းအစိုးရ အဖွဲ့ ဖွဲ့မည်တဲ့။

ပထမတော့ အန်း စိတ်ဝင်စားသည်။ သို့သော် ညစာဝိုင်းတွင်

အမျိုးသားပရိသတ်က သည်အကြောင်းမှ လွဲပြီး အခြား ဘာမျှ မပြောတော့သဖြင့် ငြီးငွေ့သွားသည်။

နားလည်အောင် ကြိုးစားသော်လည်း အန်း သိပ်နားမလည်။ သူတို့ မမွေးခင်ကတည်း က ရှိခဲ့သည့် အစိုးရက ဘာဖြစ်လို့ပါလိမ့်။

အမျိုးသားအချို့က အန်းကို စိတ်ရှည်လက်ရှည် ရှင်းပြကြသည်။ ယနေ့အစိုးရသည် ယခင်အစိုးရ မဟုတ်တော့ကြောင်း၊ မူဝါဒတွေ ပြောင်းလဲခဲ့ပြီ ဖြစ်ကြောင်း စသည် စသည်---။

အန်းက မျက်လုံးအဝိုင်းသားနှင့် ပြန်မေးသည်။

"ဒါပေမဲ့ အမေရိကန်တွေပဲ မဟုတ်လား"

သူတို့အားလုံး အန်းကို အလိုက်သိစွာ ပြုံးလိုက်ကြပြီး သည်ကိစ္စတွေ နားလည်ဖို့ သိပ်နုနယ်နေသေးကြောင်း ရှင်းပြကြ၏။

သည်ကိစ္စကို ဒင်းနစ် အရမ်းစိတ်ဝင်စားနေသည်။ အန်းကို အမျိုးမျိုး ရှင်းပြသည်။ သို့သော် အန်း နားမလည်။ အကောက်ခွန်နှုန်းထားကိစ္စ၊ ၁၈၅၀ ပြည့်နှစ် သဘောတူညီမှု၊ ကင်းဆပ်စ် အုံကြွမှု၊ ဘာတခုမျှ မသိ။ နောက်ဆုံးတွင် ခွဲရေးကို အားလုံးသဘောတူလျှင် မိမိအနေဖြင့် ဘာမျှ ပြောစရာမရှိကြောင်းဖြင့်သာ အန်း နိဂုံးချုပ်လိုက်ရတော့သည်။ စဉ်းစားဖို့ အချိန်များများစားစား မရှိခြင်းလည်း ပါ၏။ နှစ်ကူးကိစ္စပြီးသည်နှင့် ပန်းချီအဆွဲခံဖို့ ဝတ်စုံ မှာချုပ်ရသည်။ ရိုးရိုးကလေးနှင့်လှသည့် အပြာနုရောင် ပိုးဝတ်စုံ။ လက်ဖျားရှူးရှူးတွင် ဇာနားကွပ်ထားသည်။ ခပ်နိမ့်နိမ့် လည်အဟိုက်တွင်လည်း ဇာတွန့်ကလေးများ ပါ၏။

လည်အဟိုက် နိမ့်လွန်းနေသည်ကိုတော့ ယောက္ခမကြီး ကြိုက်မည် မထင်။ မတတ်နိုင်။ လှပကျက်သရေရှိလွန်းသည့် ရင်သားအလှကိုတော့ ဖော်ကျူးချင်သည်၊ မှတ်တမ်းတင်ထား ချင်သည်။

ဒင်းနစ်ကမူ ဝတ်စုံကို သဘောကျသည်။ နယူးအော်လီယန်းမှ ရောက်လာသည့် ပြင်သစ် ပန်းချီဆရာကလည်း သဘောကျ၏။ သည်လိုပုံစံမျိုး ရေးခွင့် ကြုံသည်မှာ ကံကောင်းခြင်း တမျိုးဟု အန်းက ရွှန်းရွှန်းစားစားကြည့်ပြီး ပြောသည်။

ကြောင်လိမ်လှေကားကြီး၏ ခြေရင်းတွင် မတ်တတ်အနေအထားဖြင့် သူ ဆွဲသည်။ လက်တဖက်က လှေကားလက်ရန်းကို ကိုင်လျက်။ အန်း၏ ပုံတူနှင့်အတူ

လှေကားကြီး၏ ထူးခြားသော တည်ဆောက်မှုကို အသားပေးပြီး ဆွဲ၏။

ပန်းချီကားအတွက် ပုံစံနေပေးရ၊ ဒင်းနစ်ကလေးအတွက် ဆောင်းတွင်းဝတ်စုံတွေ ချုပ်ဖို့ ပြင်ဆင်ရနှင့် အန်းတယောက် သတင်းစာ မဖတ်အားဘဲ ဖြစ်နေ၏။ ပြည်ထောင်စု ထဲတွင် ဘယ်ပြည်နယ်တွေ ကျန်ပြီး ဘယ်ပြည်နယ်တွေ ထွက်ကုန်မှန်းလည်း မသိတော့။ ခုတလော ဒင်းနစ်နှင့် သိပ်မျက်နှာချင်း မဆိုင်ဖြစ်ကြ။ မြို့ထဲ ထွက်လိုက်၊ ဆိပ်ကမ်း သွားလိုက်၊ သကြားစက် သွားလိုက်နှင့် သူ အလုပ်ရှုပ်နေ၏။

သကြားထုတ်လုပ်မှု မြှင့်တင်ဖို့ သူ ကြိုးစားနေ၏။ တောင်ပိုင်းနှင့် မြောက်ပိုင်း ကုန်သွယ်ရေးပိုင်းတွင် အတားအဆီး မရှိသေး၍ စာချုပ်အတိုင်း မြောက်ပိုင်းသို့ ပို့ရန် ရှိသည် များကို အချိန်မီပို့နိုင်အောင် သူ မောင်းနေခြင်း ဖြစ်၏။

အန်းက သူ့ကို နားနားနေနေလုပ်ဖို့၊ အိမ်ကပ်ဖို့ ပြောတော့ "လူဝီစီးယားနားက ရေကြောင်းသုံးခွင့် ဖွင့်ပေးထားပေမယ့် ပြောလို့မရဘူး၊ အချိန်မရွေး ပိတ်ပစ်နိုင်တယ်၊ ပြီးတော့ တောင်ပိုင်းနဲ့ မြောက်ပိုင်း အခွန်နှုန်းတွေ ချက်ချင်း ပြောင်းသွားနိုင်တယ်" ဟု ရှင်းပြသည်။ အန်း သက်ပြင်းချရုံသာ တတ်နိုင်တော့၏။ သူ့ဘာသာသူ အရှိအတိုင်း နေတာ ဟုတ်နေရက်သားနဲ့ ဘာကြောင့်များ ပေါက်တတ်ကရတွေ လျှောက်လုပ်နေကြပါလိမ့်ဟု တွေးနေမိသည်။

သို့သော် မိုးဦးမကျမီ နိုင်ငံရေးရာသီဥတုသည် အန်း၏ ဘဝထဲကိုပါ မွှေနှောက် တိုက်ခတ်စ ပြုလာ၏။ သိသိသာသာ ထိခိုက်လာ၏။

တနေ့တွင် မြို့ထဲသို့ ဈေးဝယ်ထွက်ခဲ့သည်။ မိုးဦးကျ ဖွင့်ရောင်းနေကျ ပစ္စည်းတွေ မရ။ ရောင်းဖို့ ရက်အကန့်အသတ်မရှိ ရွှေ့ဆိုင်းထားကြောင်း ရေးကပ်ထား၏။ အန်းက စိတ်ပျက်လက်ပျက်နှင့် အရောင်းစာရေးကို မေးသည်။

"မတ်လနောက်ပိုင်းမှာ သိုးမွေးတွေ၊ ကတ္တီပါတွေမှ ဝတ်လို့ မရတာပဲ။ ဘယ့်နှယ် လုပ်မလဲ"

အရောင်းစာရေးတွေ စိတ်ပျက်လက်ပျက်ပုံစံဖြင့် ခေါင်းယမ်းကြသည်။ အရေးအခင်း ကြောင့် နယူးယောက်နှင့် နယူးအော်လီယန်းကြားတွင် အရောင်းအဝယ်တွေ ရပ်ဆိုင်း နေကြောင်း ရှင်းပြကြ၏။ အန်း စိတ်ပျက်လက်ပျက် သက်ပြင်းချသည်။

"ကဲ... ဒါဖြင့်လည်း ရှိတာပဲ ပြပါ၊ ပူတဲ့ ရာသီဝတ်ဖို့ တမျိုးမျိုးတော့ ဝယ်ရ

မှာပဲ”

ဆိုင်မန်နေဂျာကိုယ်တိုင် ဦးညွတ်ပြီး-

“ဟုတ်ကဲ့ပါ မဒမ်၊ ဘယ်လို အစမျိုး စိတ်ဝင်စားပါသလဲ၊ ဒီနှစ်ထွေ ဘယ်မှာ အနား ယူမယ် စိတ်ကူးထားပါသလဲ”

အန်းက အမှတ်မထင် ဖြေလိုက်သည်။

“ဘာပြုလို့လဲ၊ ကျွန်မတို့ မြောက်ပိုင်း...”

တပိုင်းတစနှင့်ရပ်ပြီး “သေတော့မှာပဲ” ဟု ညည်းတွားလိုက်မိ၏။ ဂုဏ်သရေရှိအမျိုးသမီးတယောက် ရေရွတ်သံကို မကြားဟန်ပြုပြီး မန်နေဂျာလုပ်သူ လှည့်ထွက် သွားသည်။ ပြီးမှ ပိတ်စတချို့ စင်ပေါ်မှ ယူလာချပေးသည်။ ချည်ထည်တချို့ ဝယ်ပြီး အိမ်ပြန်လာခဲ့၏။ စိတ်ထဲတွင် မတင်မကျကြီး ဖြစ်နေ၏။ “ကလစ်ဖ်တန်၏ ကျိန်စာ” စာအုပ်ကို စိတ်ပြေ လက်ပျောက် ဖတ်နေလိုက်သည်။ သို့သော် မကြာခင်အတွင်း စိတ်ညစ်စရာနှင့် ထပ်ကြုံရပြန်သည်။ ဘဏ္ဍာစိုး အမျိုးသမီး မစ္စက်မိတ်လင်းက ညစာစားပွဲ ဖိတ်ထားသည့် လူစာရင်း ယူလာပြီး မစ္စတာလန်းက ထိုင်ခုံတွေ နေရာပြောင်းရမည်ဟု ပြောကြောင်း သတင်း လာပို့သည်။

အားလုံး ကမောက်ကမ ဖြစ်ကုန်ပြီ။ ဧည့်သည်တော်တော်များများမှာ မြို့ခံများ မဟုတ် ကြ။ ယနေ့ခေတ်စားနေသည့် ပုံစံအရ ဧည့်သည်များကို သူတို့ပြည်နယ်အလိုက် နေရာချ ထားရ၏။ ခွဲထွက်သည့် ပြည်နယ်အလိုက် စဉ်ရ၏။

ပထမဆုံးခွဲထွက်သည့် ကာရိုလိုင်းနား တောင်ပိုင်းကို ဂုဏ်ထူးဆောင်နေရာတွင် ထားရ၏။ မစ္စက်မိတ်လင်း လက်ထဲမှ လူစာရင်းကို ဆွဲယူပြီး ဒင်းနစ်၏ စာကြည့်ခန်းဆီသို့ ထွက် ခဲ့၏။ သူက စာရင်းစာအုပ်တွေနှင့် အလုပ်ရှုပ်နေသည်။

“ဒါလောက် အဓိပ္ပာယ်မရှိတဲ့ကိစ္စမျိုး အန်းတော့ တခါမှ မကြားဖူးဘူး”

ဒေါသစွက်သည့် လေသံဖြင့် အန်း ပြောလိုက်သည်။ ဒင်းနစ်က ကုလားထိုင်နောက်ကို မှီလိုက်ပြီး သဘောတူသည့် ပုံစံဖြင့် ခပ်ရွှင်ရွှင် ပြောလိုက်သည်။

“မင်းပြောတာ သိပ်ဟုတ်တာပေါ့ကွာ၊ ဒါပေမဲ့ အားလုံး အဲဒီနည်းအတိုင်း ဧည့်သည် နေရာချထားပုံကို ကျင့်သုံးနေကြတယ်ဗျ၊ အဲဒီအတိုင်း လိုက်မလုပ်ရင်

ပြဿနာဖြစ်နိုင်တယ်”

အန်းက သက်ပြင်းချပြီး ကုလားထိုင်တလုံးတွင် စိတ်ပျက်လက်ပျက် ဝင်ထိုင်သည်။ စာရင်းကို ကြည့်ပြီး-

ဆဗာနားက အန်းရဲ့အမျိုးတွေကို မြို့ခံလူတွေရဲ့ ထိပ်မှာ နေရာပေးရမှာလား”

“ဒါပေါ့၊ ဂျော်ရီယာက လူဝီစီးယားနားထက် စောပြီး ထွက်တာပဲ”

“တော်သေးတာပေါ့ ၊ ဧည့်သည်တွေကို မြို့ခံတွေထက် ဦးစားပေးရမယ်လေ၊ ဗာဂျီး နီးယားက မစ္စတာပရက်စတန်တို့ ကျတော့ကော”

“ဗာဂျီးနီးယားက မထွက်သေးဘူး၊ သူတို့ကို အစွန်ဆုံးမှာ ထား”

“အင်း... ဟုတ်ပါပြီ၊ ဒီလာနေးတို့ လင်မယားကျတော့ကော၊ သူတို့က ဒီလာဝဲက၊ ဒီလာဝဲက ပြည်ထောင်စုထဲမှာပဲလား”

“ဟုတ်တယ်၊ ဒီလာဝဲကတော့ ကျန်နေမယ် ထင်တယ်၊ သူက ကျွန်စနစ် ဆက်ထား တဲ့ ပြည်နယ်၊ သူတို့က တောင်ပိုင်းထက် မြောက်ပိုင်း ပိုဆန်တယ်၊ မစ္စတာပရက်စတန် လင်မယားရဲ့ အောက်မှာ ထားလိုက်ကွာ”

“ကောင်းပါ့မလား မောင်ရယ်၊ ဗာဂျီးနီးယားက ခွဲထွက်မယ်၊ ဒီလာဝဲက မထွက်ဘူး ဆိုတာ သေချာနေသလိုကြီး ဖြစ်နေမှာပေါ့၊ ပြီးတော့ မစ္စတာရင်ဒန်တို့ ကျတော့ကော၊ သူတို့ က ဖီလာဒဲလ်ဖီးယားက”

ဒင်းနစ်က လေတချက် ချွန်လိုက်ပြီး-

“အဲဒါမှ ဒုက္ခပဲ၊ မောင်လည်း မပြောတတ်ဘူး၊ သူတို့ကို ဖိတ်မလို့လား”

“ဖိတ်ပြီးနေပြီ၊ နွေတုန်းက ဆာရာတိုဂါမှာ သူတို့ ကျွေးတဲ့ ညစာဝိုင်း ဘယ်လောက် မြိုင်သလဲ”

“ဟုတ်ပါတယ်၊ သူတို့ကို မောင် ခင်ပါတယ်၊ ဒါပေမဲ့ ဘယ်နေရာမှာ ထားရမှန်း မောင် မသိဘူး”

“ဒုက္ခပါပဲ မောင်ရယ်၊ နွေဆိုလည်း အကောင်းသား၊ တောင်ပိုင်းသားတွေ အေးတဲ့ မြောက်ပိုင်းကို သွား၊ မြောက်ပိုင်းသားတွေက ပူတဲ့ တောင်ပိုင်းကို လာ၊ ပြဿနာရှင်းပြီးသား ဖြစ်နေမှာပဲ၊ သမ္မတဘူချန်နန်က ဒါတွေ ကြိုမတွက်ထားဘူးလား”

ဒင်းနစ်က မဲ့ပြုံး ပြုံးပြီး-

"သူ့ကို သမ္မတရွေးတာ လူရှိသေရှင်ရှိသေ လူရိုးလူအေးမို့ ရွေးတာ၊ သမ္မတလုပ်တတ် လို့ မဟုတ်ဘူး၊ သူ ဘာမှ မသိဘူး၊ ဒီလိုလုပ်ပါလား၊ မောင်တို့ ညစာစားပွဲအစား ကပွဲပဲ လုပ်လိုက်ကြရအောင်လား၊ နေရာချထားရေး ပြဿနာလည်း ရှင်းသွားရော"

"အဲဒါ ကောင်းတယ်၊ သူတို့မွေးတဲ့ နေရာတွေ ကွဲလွဲနေတာနဲ့ အန်းတို့ တရားခံ အဖြစ် မခံနိုင်ဘူး၊ ဟင်း... ဒုက္ခပါပဲ"

" ဘာလဲ ဟင်"

"ဖိတ်စာတွေ အားလုံး ပို့ပြီးပြီ၊ ဒုက္ခပါပဲ၊ အစီအစဉ်ပြောင်းမယ် ဆိုရင် တယောက် တစောင်စီ ရေးပို့ရမှာ၊ လက်မောင်း ပြုတ်လောက်တယ်၊ မဖြစ်ပါဘူး၊ အတွင်းရေးမှူး တယောက်တော့ ငှားမှ ဖြစ်တော့မှာပါ၊ ကဲ... အဲဒါတွေ ထားပါဦး၊ ဒီနွေ ဘယ်သွား ကြမှာလဲ၊ ကမ်းခြေကိုလား မြောက်ပိုင်းကိုလား"

"အဲဒီ အစီအစဉ်ဆွဲလို့ မဖြစ်သေးဘူးကွယ်၊ အခြေအနေအရပေါ့"

အန်းက ဦးထုပ်မှ ဖဲပြားကို ဆွဲဖြုတ်ရင်း-

"ကျွန်မတော့ နားမလည်နိုင်အောင်ပဲ၊ နိုင်ငံရေးသမားတွေက ဘာလို့ ကျွန်မတို့ရဲ့ ဘဝကို ရှုပ်ရှုပ်ထွေးထွေး ဖြစ်အောင် လုပ်ရတာလဲ"

ဒင်းနစ် ရယ်သည်။

"အပေါ်ထပ် တက်ပါတော့ကွာ၊ ကိုယ် ဒီမှာ စာရင်းတွေ တွက်ရဦးမယ်"

အန်းက မကျေနပ်သည့် အမူအရာဖြင့်-

"မောင်ကတော့ ကိုယ့်အလုပ်နဲ့ ကိုယ် ပျော်နေတာပေါ့လေ၊ အုတ်ဂူပေါ်က နတ်သား ရုပ်ကလေး ကျနေတာပဲ၊ ကဲ ... ဒါဆို ကျွန်မ သားကလေးနဲ့ သွားကစားတော့မယ်၊ တနိုင်ငံ လုံး ဘာဖြစ်နေ ဖြစ်နေ ကျွန်မကို ဂရုစိုက်တာ သူတယောက်ပဲ ရှိတယ်"

အန်းက သူ့လက်ကို လင်တော်မောင်အား ပေးနမ်းပြီး အပေါ်ထပ် သူနာပြုခန်းသို့ တက်လာခဲ့သည်။ "ဘာသာ"က ဒင်းနစ်ကလေးကို သိပ်နေ၏။ ဘုရားရှိခိုးကျောင်းတွင် ဆိုသည့် ဓမ္မသီချင်းကို ခပ်တိုးတိုးညည်းလျက်။ အန်းက

ခြုံထည်နှင့် ဦးထုပ်ကို ကုလားထိုင် ပေါ် တင်ပြီး လက်ဆန့်ကာ ကလေးကို လှမ်းတောင်းလိုက်သည်။

“ပေး... ငါ့ကို ပေး”

“ဘာသာ” က ဒင်းနစ်ကလေးကို ပွေ့ယူပြီး အန်း လက်ထဲသို့ ထည့်လိုက်သည်။ အန်းက သားကလေးနှင့် ပါးချင်း အပ်ထားလိုက်သည်။ ရင်ထဲတွင် အေးသွား၏။ ကလေးကို လှုပ်သိပ်ရင်း “ဘာသာ” ညည်းသည့် ဓမ္မတေးကို ဆက်ဆိုသည်။ ဘယ်လောက်ချစ်စရာ ကောင်းသည့် သားကလေးလဲ။ နီတာရဲလေး မဟုတ်တော့၊ ပန်းရောင်သန်းလာပြီ၊ အဖြူရောင် သန်းလာပြီ။ ပါးချိုင့်ကလေးနှစ်ဖက်နှင့်။ အခုမှပင် စိတ်၏ငြိမ်းချမ်းမှုကို ရတော့၏။ နိုင်ငံရေး ပါတီတွေ ဘာလုပ်လုပ်၊ အထည်ဆိုင်များတွင် ပစ္စည်း ဘယ်လောက်ပြတ်ပြတ် အန်း မမှု တော့ပြီ။ သီချင်းကလေး တအေးအေးနှင့် သားကလေးကို ဆက်သိပ်နေ၏။

“ကောင်းကင်ဘုံ နန်းတော်သို့ကွယ်၊

ပန်းမွှေ့ရာနဲ့ လိုက်ခဲ့မယ်...”

ဒင်းနစ်က ပြောသည်။ ပန်းချီကားကို မနှစ်က မအပ်ဖြစ်ဘဲ ဒီနှစ်မှ ဆွဲဖြစ်သည့် အတွက် ပိုသဘောကျသည် တဲ့။ အန်း၏ မျက်နှာကလေးသည် မိခင်မေတ္တာဖြင့် ပို၍ စိုပြည် ကြည်လင်နေ၏။ ယောကျ်ားလုပ်သူက မြှောက်ပင့်ပြောဆိုခြင်းများလား။ မည်သို့ဖြစ်စေ မိမိအလှအပကို သူ သတိရသည့်အတွက် အန်း သဘောကျနေ၏။ ခုတလော ဖြစ်ပေါ်နေသည့် စိတ်ရှုပ်စရာတွေ မျက်နှာတွင် ထင်ဟပ်မလာလျှင်တော့ လှပသည့် ကားတကား ဖြစ်လာ မည်မှာ သေချာသည်။

ပြေလထဲတွင် ကားကြီး ပြီးသွားသည်။ အားလုံး ရင်သပ်ရှုမော အံ့သြချီးမွမ်းကြ၏။ အန်းကိုယ်တိုင်မူကား ဆိုဖွယ်ရာ မရှိပြီ။

စိတ်ထဲတွင် ကိုယ့်ကိုယ်ကိုယ် အသက်ကြီး ကြည့်လိုက်သည်။ ဆံပင်တွေ ဖြူဖွေး နေ၏။ လှေကားပေါ်မှ ဆင်းလာပြီး မြေးတွေကို လှမ်းပြောနေပုံကို မှန်းကြည့်၏။

“ကလေးတို့၊ ဒါဟာ ၁၈၆၁ ခုနှစ်က အဘွားရဲ့ပုံပဲ”

အန်းသည် သူ့အတွေးနှင့် သူ သဘောကျနေ၏။ ဒင်းနစ်ကိုလည်း ပုံတူရေးဖို့ တိုက်တွန်း ထားသည်။ နယူးအော်လီယန်းသို့ ပန်းချီဆရာ ဒီလာနေး မပြန်ခင် ရေးခိုင်းရမည်။ ဒင်းနစ်က လောလောဆယ် အချိန်မပေးနိုင်သေးကြောင်း၊

နိုင်ငံရေးကိစ္စတွေ ငြိမ်သွားမှ အချိန်ရမည် ဖြစ်ကြောင်း ပြော၏။

ဤတွင် လက်ထဲမှ ပန်းကလေးတပွင့် ဖုံးဖြစ်သွားပြီး ပေါက်ကွဲသလို အဖြစ်မျိုးနှင့် ကြုံရတော့သည်။ စစ်ဖြစ်တော့မည်တဲ့။

စစ်ဆိုသည့် စကားလုံးကို ဘယ်တုန်းက ကြားဖူးပါလိမ့်။ မမှတ်မိတော့။ မနေ့က ဘာမျှ မဖြစ်သေးဘဲ သည်နေ့ အိမ်တွေမှာ အလံတွေထူကာ လမ်းပေါ်တွင် စစ်သားတွေ စစ်ချီသီချင်း တကြော်ကြော်နှင့် ဖြစ်နေကြ၏။ ဈေးဆိုင်တွေအားလုံး သေနတ်ဆိုင်တွေ ဖြစ်ကုန်၏။ ဆိုင်ပြတင်းပေါက်တိုင်းတွင် သေနတ်မျိုးစုံ၊ ကျည်ဆန်မျိုးစုံ ပြထား၏။ ပြီးတော့ စစ်သုံးခါး၊ ကျောပိုးအိတ်၊ မီးခိုးရောင် ပိတ်စများ။

စာအုပ်ဆိုင်များတွင် ဝတ္ထုစာအုပ်တွေ၊ ကဗျာစာအုပ်တွေ နောက်ရောက်သွားပြီး ရှေ့ပိုင်း တွင် ဗိုလ်ချုပ်ကြီးများ၏ အတ္ထုပ္ပတ္တိများ၊ စစ်သေနင်္ဗျူဟာကျမ်းများ ရောက်လာ၏။ ကစား စရာဆိုင်များမှာပင်လျှင် စွန်တွေ၊ ယမင်းရုပ်ကလေးတွေ နေရာတွင် သံဖြူစစ်သားကလေးများ အစားဝင်လာ၏။

လေထဲတွင် မျိုးချစ်စိတ် စကားလုံးများ နားမဆံ့အောင် ပျံ့ဝဲနေ၏။ မနေ့ကပင် ရှိခဲ့ သေးသည့် ငြိမ်းချမ်းကာလ ဘယ်ရောက်သွားပါလိမ့်။ စစ်ရေးပြပွဲတွေ၊ စစ်ချီသီချင်းတွေ၊ မြောက်ပိုင်းသား ယန်းကီး မုန်းတီးရေးတွေဖြင့်သာ နေရာတကာတွင် ဆူညံနေ၏။ ဒီကိစ္စမှ လွဲ၍ အခြားဘာမျှ စိတ်ဝင်စားစရာ မရှိသလို စိတ်ထဲ ထင်လာ၏။ စိတ်ဝင်စားနေကျ ကိစ္စ အဝဝတို့ ကြက်ပျောက် ငှက်ပျောက် ပျောက်ကုန်၏။

အရာရှိများကို ဖိတ်ပြီး ညစာကျွေးသည်။ ထောက်ပံ့ရေး အဖွဲ့အစည်းများ၌ ကိုယ်တိုင် ဝင်ပြီး စစ်ဝတ်စုံချုပ်လုပ်မှုတွင် လုပ်အားပေးသည်။ စစ်ချီသီချင်းတွေ လိုက်ဆိုသည်။ အန်းတယောက် အပျော်ကြီး ပျော်နေ၏။ လက်တွေထုံကျဉ်နေသဖြင့် တံခါးသော့ပေါက်ကိုပင် ဖြောင့်ဖြောင့်မဖွင့်နိုင်။ လှပခံ့ညားသည့် ယူနီဖောင်းဖြင့် ဝက်သစ်ချမြိုင်သို့ တပ်ထဲမှ အရာရှိများ ရောက်လာလျှင် အန်း ပျော်သည်။ သူငယ်ချင်းတွေ ဖိတ်ပြီး မိမိပါ သူတို့နှင့် တွဲကသည်။ လှပသည့် တောင်ပိုင်းကို ကာကွယ်ခြင်းမှာ အမွန်မြတ်ဆုံးအလုပ် ဖြစ်ကြောင်း သူတို့ကို အားပေးစကား ဆိုသည်။ သူတို့သည် နေရာမရွေး ဝင်ထိုင်ကြ၏။ အချို့က လှေကားထစ်ပေါ် တွင် ထိုင်ပြီး သေနတ်ပြောင်းကို ကြိုးတချောင်းစီ ချည်နေကြ၏။

စစ်သားတယောက်ကို ယန်းကီးတယောက်စီ ဖမ်းလာပြီး ကြိုးနှင့် တုပ်ခေါ်လာမည် တဲ့။ ပြီးတော့ သကြားကြိတ်ဆုံမှ မြည်းတွေ နေရာတွင် အစားထိုး

ဆွဲခိုင်းကြမည်တဲ့လေ။ စစ်ပွဲမှာ အလွန်ကြည့်လို့ ကောင်းမည့် စစ်ပွဲမျိုး ဖြစ်သည်။ ခဏကလေးနှင့် ပြတ်သွား မည့် စစ်ပွဲမျိုးဖြစ်သည်။ မြောက်ပိုင်းက စစ်သားများသည် သုံးလစာချုပ်ဖြင့် စစ်ထဲ ဝင်လာ ကြသူများဖြစ်ပြီး တောင်ပိုင်းသားများက တနှစ်စာချုပ်ကို လက်မှတ်ထိုးကြ၏။

သို့သော် ကြံ့ကြိတ်ချိန်အမီ ပြန်လာမည်ဟု သူတို့က ယုံယုံကြည်ကြည်ဖြင့် ကတိပေးသွားကြ၏။

တနေ့ညနေတွင် ဒင်းနစ် အပြင်မှ ပြန်လာပြီး သူပါ စစ်ထဲ ဝင်တော့မည့်အကြောင်း မိန်းမကို ပြောသည်။ အန်းတယောက် ဂုဏ်ယူဝမ်းသာလွန်းသဖြင့် မျက်ရည်တွေ လည်လာ သည်။ ပြီးမှ စိုးရိမ်စိတ်တွေ ဝင်လာပြီး သူ့ပခုံးကို မျက်နှာအပ်ပြီး ငိုချလိုက်သည်။

သူ မရှိဘဲ ဘယ်လိုလုပ်ပြီး နေနိုင်ပါမည်လဲ။ သူတို့နှစ်ယောက် လှေကားခြေရင်းတွင် ရပ်နေကြခြင်း ဖြစ်သည်။ သူတို့နောက်ဘက် ခန်းမထဲတွင် ဆာရာပါစယ် စန္ဒရားတီးနေ သည်။ သူ့နံဘေးတွင် ဝိုင်းဆိုနေသူတွေ အများကြီး။ သူတို့အသံကို လွှမ်းပြီး ဒင်းနစ် ပြောနေ သည်။ အားလုံးက တိုင်းပြည်အတွက် စစ်ထွက်တိုက်နေချိန်မှာ မိမိအနေဖြင့် ချန်နေ၍ မဖြစ် ကြောင်း၊ အလုပ်တွေကို အလုပ်ကြပ်တွေနှင့် လွှဲခဲ့မည် ဖြစ်ကြောင်း စသည် စသည်...။ အန်းက သူ့ကို တင်းတင်းဖက်ထားလိုက်သည်။ ဒင်းနစ်က လက်ကိုင်ပဝါထုတ်ပြီး မျက်ရည်သုတ်ပေး၏။ အန်းက မျက်ရည်ကျမိသည့်အတွက် တောင်းပန်သည်။ နောက်ဆံမတင်း ဖို့ ပြောသည်။ သားကလေး ကြီးလာရင် ဘယ်လောက် ဂုဏ်ယူလိုက်မည်လဲ ဟုလည်း ပြောဖော် ရ၏။

ဒင်းနစ်က အန်း၏ ဆံပင်တွေကို ပွတ်၍ နမ်းပြီး မကြာခင် ပြန်လာမည့် အကြောင်း၊ ခုလိုအချိန်မှာ အမျိုးသမီးတွေ သတ္တိရှိဖို့ လိုကြောင်းများ ပြောနေ၏။ အန်း သူ့ကို မော်ကြည့် သည်။ ယောကျ်ားပီသပြီး ခံ့ချောချောနေသည့် သူ့မျက်နှာကို မျက်ရည်တွေကြားမှ မြင်ရ၏။

ခန်းမဆောင်ဆီမှ သံပြိုင်ဆိုသံ၊ ခြေဆောင့်စည်းလိုက်သံများ ကြားနေရ၏။ အချို့ အရာရှိငယ်များက ခန်းမထဲတွင် လှည့်ပတ်ပြီး ဘယ်ညာ လျှောက်နေကြ၏။

“အိုး... ငါတို့တတွေ ပြန်လာမယ်၊

ကြံ့ကြိတ်ချိန်မှာ ပြန်လာမယ်၊ ကြံ့ကြိတ်ချိန်၊ ကြံ့ကြိတ်ချိန်၊

ကြံ့ကြိတ်ချိန်မှာ ပြန်လာမယ်၊

ယန်းကီးတယောက် ဖမ်းခဲ့မယ်၊

မြည်းနေရာမှာ တို့ ခိုင်းမယ်"

အန်း ရယ်သည်။ စစ်ဝတ်စုံနှင့်ဆိုလျှင် ဒင်းနစ် ဘယ်လောက်ခံ့ညားမည်ကို မှန်းကြည့် နေ၏။ မွန်စီယာဒီလာနေးတယောက် မပြန်ဖြစ်သေးဘဲ ဒယ်လ်ရှိုင်းတွင် သောင်တင် နေခြင်းအတွက် ဝမ်းသာနေ၏။ တောင်ပိုင်း စစ်ဝတ်စုံနှင့် ပုံဆွဲခိုင်းရမည်။ နောင်ဆိုလျှင် သူ့အဖေကို စစ်သားဘဝဖြင့် ဒင်းနစ်ကလေး မြင်ရမည် မဟုတ်တော့။

ဗိုလ်မှူးကြီး ရှာရမီကိုယ်တိုင် တောင်ပိုင်းတပ်ထဲသို့ ဝင်လိုက်ပြီ။ ခွဲရေးကို သူ အမြဲတမ်း ဆန့်ကျင်ခဲ့သော်လည်း အချင်းချင်း ပြန်မတိုက်ချင်သဖြင့် မြောက်ပိုင်းစစ်တပ်မှ ထွက်လိုက်သည်။

မကြာခင် အချိန်အတွင်းမှာပင် တောင်ပိုင်းစစ်တပ်ထဲသို့ ဗိုလ်မှူးကြီးအဆင့်ဖြင့်ပင် ဝင်လိုက်၏။ အလုပ်တွေ အားလုံး ဂျယ်ရီနှင့် လွှဲထားခဲ့၏။

အဖေရော လင်သားပါ စစ်ထဲ လိုက်သွားသည့် အဖြစ်မျိုးနှင့် ကြုံရသူမှာ အလွန်ရှားပါး သဖြင့် အန်း ဂုဏ်ယူရပြန်သည်။ မျိုးချစ်စိတ် တဖွားဖွား ရှင်သန်ကာ တိုင်းပြည်အတွက် ဘာမဆို စွန့်လွှတ်ဖို့ အသင့်ဖြစ်နေ၏။

ဒင်းနစ်ကို အနမ်းဖြင့် တုံ့ပြန်ပြီး ဘယ်ရွှေ့ ဘယ်မျှ ချစ်ကြောင်းတွေ ပြောနေမိ၏။ ပြီးတော့ နပိုလီယံကို ဒင်းနစ် ပေးခေါ်သည်။ သူ တပ်ထဲ ဝင်တော့မည့်အကြောင်း ဧည့်သည်တွေကို ဒင်းနစ် ကြေညာတော့မည်။ သည်လိုပွဲမျိုးတွင် ဧည့်ခံဖို့ ရှန်ပိန်ထက် သင့်လျော် သည့်ယမကာမျိုး မရှိနိုင်။

※※※

# အခန်း(၆)

## (၁)

"မေမေ... ခြံထည်ယူသွားလို့ ကောင်းပါ့မလား၊ အိုက်နေမလားလို့"

ကိုရီမေက မစ္စက်အပွဂျွန်းကို လှမ်းမေးလိုက်သည်။ မအေကြီးက ကော်ဖီငှဲ့နေရင်း နဖူးမှ ချွေးသီးချွေးပေါက်တွေကို ခါးစည်းရင်ဖုံးဖြင့် ငုံ့သုတ်သည်။

"ဒါလောက် ပူတာဟယ်၊ ဘာလို့ ခြံထည် ယူသွားရမှာလဲ"

"ဟုတ်တော့ ဟုတ်တယ်၊ ဒါပေမဲ့ အင်္ကျီက ချိုင်းပြဲနေလို့ အမေရဲ့"

မီးဖိုချောင် နံရံကပ်မှန်ထဲတွင် ကြည့်ရင်း ကိုရီမေက ပြန်ပြောသည်။ အန်းရှာရမီ စွန့်ကြဲသည့် အင်္ကျီ ဖြစ်၏။ ချိုင်းပြဲနေသည်မှလွဲ၍ အင်္ကျီက မျိုးကောင်း ဖြစ်သည်။ ခါးစည်း ကြိမ်ခွေအဟောင်းတစုံပါ ကိုရီမေအား ပေးလိုက်ခြင်း ဖြစ်၏။

အချို့ကြိမ်ခွေများမှာ ကွဲကြေနေပြီ။ ကိုရီမေက ပြန်လည်စည်းနှောင်ပြီး ပြုပြင်ထား၏။ ခါးကလည်း ကျဉ်းနေသဖြင့် ချဲ့ရသေးသည်။ အင်္ကျီပခုံး ကျပ်နေသည့်အတွက်တော့ မည်သို့ မျှ မကြံဖန်တတ်။

"ကျွန်မပခုံးက မစ္စအန်းထက် ကျယ်တယ် အမေရဲ့"

"နင်က အလုပ်လုပ်ရတာကိုး၊ ပခုံးကြွက်သွားတွေ ပိုကြီးမှာပေါ့၊ အထက်တန်းလွှာ က အမျိုးသမီးတွေ သေးသေးသွယ်သွယ်ရှိနေတာ အလုပ် မလုပ်ရလို့ နေမှာ၊ ရော့ ရော့ မသွားခင် ကော်ဖီသောက်သွားဦး"

ကော်ဖီခွက်ကို လှမ်းယူလိုက်သော်လည်း ကိုရီမေသည် မှန်နှင့် မျက်နှာ မခွာသေး။ စစ်ရေးပြပွဲကို သွားကြည့်မှာမို့ လှလှပပဖြစ်အောင် ကြိုးစားနေခြင်း ဖြစ်၏။ တိုင်းပြည်ကို ကာကွယ်ဖို့ ချီတက်လာမည့် စစ်သည်တော်တွေကို ကြိုဆိုရမည်ဖြစ်၍ ပြင်ပြင်ဆင်ဆင် လုပ်နေခြင်း ဖြစ်၏။

ကော်ဖီခွက်ကို စားပွဲပေါ် တင်လိုက်ပြီး ပိုးနှင့် သိုးမွေး ရောရက်ထားသည့် ခြံထည် အညိုနုကလေးကို လှမ်းယူလိုက်သည်။ သည်ခြံထည်သည်လည်း အန်း၏

အကျပင် ဖြစ်၏။

အပေါက်အပြဲနေရာတွေကို သေသေချာချာ ဖာထေးထားပြီး ဖြစ်သည်။ ခေါက်လိုက်လျှင် အဖာနေရာတွေ ဖုံးကွယ်ပြီးသား ဖြစ်သွား၏။

ခြုံထည်ကလေးကို ခေါက်ပြီး ပခုံးပေါ် တင်လိုက်သည်။ မှန်ထဲတွင် အမျိုးမျိုး လှည့် ကြည့်သည်။ ဦးထုပ်ကလေး ဆောင်းလိုက်သည့်အခါတွင် အတော်ကလေး သားသားနားနား ဖြစ်သွား၏။ ဪ… မစ္စအန်း ပေးထားသည့် လက်အိတ်ကလေးလည်း ရှိသေးသားပဲ။ သို့သော် သူ့လက်နှင့် မတော်၊ လက်က ကြီးနေ၏။ ပူအိုက်လွန်းသဖြင့် လက်အိတ်ကို ချွတ်ကိုင် လာဟန်ဖြင့် ယူသွားမည်။

စောင့်နေကြသည့် သူငယ်ချင်း မိန်းကလေးများရှိရာသို့ ထွက်လာခဲ့၏။ ကိုရီမေသည် အားလုံးထဲတွင် အလှဆုံး ဖြစ်နေသည်။ သူတို့အထဲမှ တယောက်က ဘတ်ချ်၏ ညီမ အီသယ် ဖြစ်၏။

အီသယ်က သူ့အစ်ကိုနှင့် ကိုရီမေတို့ ခွာပြဲသွားသည့် ကိစ္စကို ဘာမျှ မစပ်စုဘဲ မသိလိုက် မသိဘာသာ နေသည်။ အခိုက်အတန့် အဆင်မပြေကြခြင်း ဖြစ်မည်ဟုလည်း တွေးမိ၏။ “နင်သိပ်လှနေပါလား ကိုရီမေ၊ တကယ့်အထက်တန်းစားပုံ ပေါက်နေတယ်” ဟု အီသယ်က ချီးမွမ်းစကား ဆိုသည်။ အီသယ်သည် ဆိပ်ကမ်းအလုပ်သမားတယောက်နှင့် လက်ထပ်လိုက်ပြီ ဖြစ်၏။

သူတို့တသိုက်သည် စစ်ကြောင်းချီလာမည့် လမ်းမကြီးဆီသို့ လျှောက်လာခဲ့ကြ သည်။ ကိုရီမေက အီသယ်ကို ကျေးဇူးတင်ကြောင်း ပြန်ပြောသည်။

သူတို့အထဲမှ တယောက်က-

“ကိုရီမေက ဝက်သစ်ချမြိုင်မှာ အလုပ်လုပ်နေတော့ ဝတ်ကောင်းစားလှတွေ ဝတ်နိုင် တော့မှာပေါ့ဟာ”

အီသယ်က အားကျသည့် လေသံဖြင့် ထောက်ခံ၏။

“နင်ပြောတာ ဟုတ်တယ်၊ နင်ဝတ်လာတာ သိပ်အဆင့်အတန်း မြင့်တာပဲ၊ အဆင် လည်း ပြေတယ်”

ကိုရီမေက ကျေနပ်သွားပုံဖြင့် -

“ဒါ မြစ်ဝကျွန်းပေါ် ချည်ထည်လေ”

အီသယ်က ပါးစပ်အဟောင်းသား ဖြစ်သွားပြီး စကတ်ကို လက်နှင့် ကိုင်ကြည့်သည်။

"ဘာ.... မြစ်ဝကျွန်းပေါ်ချည် ဟုတ်လား၊ အောင်မယ်လေး တကိုက်ကို ဒေါ်လာ ဝက်တောင် ပေးရတာ အေရေ့၊ နင် ကြိမ်ခွေတွေ ခံဝတ်လာတယ် ဟုတ်လား"

ကိုရီမေ ခေါင်းညိတ်လိုက်ပြီး-

"ဟုတ်တယ်၊ အောက်ပိုင်းက ခုနစ်ကိုက်တောင် ကုန်တယ် အီသယ်"

"အောင်မယ်လေးတော်၊ ငါလည်း တခါတလေ ကြိမ်ခွေခံပြီး ဝတ်ဖို့ စိတ်ကူးဖူး တယ်၊ ဒါလောက် ပိတ်စကုန်ရင် ဘယ်တတ်နိုင်ပါ့မလဲ၊ နင်က တကယ်ကံကောင်းတာပဲ ကိုရီမေ"

"ဒါလောက်လည်း မဟုတ်ပါဘူးဟာ၊ သူတို့ဆီမှာ အလုပ်လုပ်တော့ အနည်းအကျဉ်း ပေးကမ်းစွန့်ကြဲတာပါ"

"မြစ်ဝကျွန်းပေါ် ချည်ထည်ပေါ်မှာ ဘာလို့ ခြုံထည်လွှမ်းလာရတာလဲ၊ ငါဆို ဒီအတိုင်း လာမှာ၊ နင် အဆင်ပြေနေတာ တွေ့ရလို့ ငါတို့ ဝမ်းသာပါတယ်ဟာ၊ ဒါထက် ငါ့ ယောကျ်ား စစ်ထဲ ပါသွားတာ သိလား"

ကောင်မလေးတွေ ဝိုင်းမေးကြသည်။

"ဟုတ်လား၊ ဘယ်တုန်းက ဝင်လိုက်တာလဲ"

"ဒီနေ့ပဲ၊ ခု စစ်ရေးပြပွဲမှာ ပါလာလိမ့်မယ်"

"နင် တကယ် ပြောနေတာလားဟင် အီသယ်"

ကောင်မလေးတွေ ကိုရီမေထံမှ အီသယ့်ဆီသို့ အာရုံရောက်သွားကြသည်။ ကောင်မလေး နှစ်ယောက်စလုံး အပျိုတွေ ဖြစ်၏။ သိချင်ဇောဖြင့် ဝိုင်းမေးကြသည်။

"နင် မတားဘူးလား အီသယ်"

အီသယ်က ဂုဏ်ယူသည့် လေသံဖြင့်-

"မတားပါဘူး၊ တိုင်းပြည်အတွက် ကာကွယ်ဖို့ လူတိုင်းမှာ တာဝန်ရှိတာပဲ"

“ငါ့အဖေလည်း တပ်ထဲ ဝင်သွားတယ်”

ကိုရီမေက အားကျမခံ ဝင်ပြောသည်။

“ ဟယ်… တကယ်”

သူတို့အားလုံး ပါးစပ်အဟောင်းသား ဖြစ်သွားကြ၏။ အဘိုးကြီး အပ္ပဂျွန်းသည် ဆိပ်ကမ်းရပ်ကွက်တွင် လူရိုသေ ရှင်ရိုသေ ပုဂ္ဂိုလ်တယောက် ဖြစ်သည်။ တရားဟောကောင်း သဖြင့် လူချစ်လူခင်လည်း ပေါ၏။ သို့သော် သူလိုလူက စစ်ထဲ ဝင်လိမ့်မည်ဟု ဘယ်သူမျှ မမျှော်လင့်ကြ။

ကိုရီမေကတော့ အဖေ့အကြောင်း သိသည်။ လခမှန်မှန်ရမည့်အတွက် သူ ဝင်သွားခြင်း ဖြစ်သည်။ ပြီးတော့ စစ်ရေးပြပွဲမှ ရမည့် မြို့၏လက်ခုပ်သံတွေကို သူ လိုချင်သည်။ သို့သော် အဖေ့အတွက် သိက္ခာတင်ချင်သည်။

“အဖေက တောင့်သေးတာပဲ၊ ကျန်းမာရေးလည်း ကောင်းတုန်းလေ၊ သူများတွေ စစ်ထွက်နေချိန်မှာ သူ ဘယ်ချန်နေရစ်မလဲ”

သူငယ်ချင်း ကောင်မလေးတွေ၏ အဖေအားလုံး လုပ်လက်စ အလုပ်တွေ လုပ်လျက် ကျန်ရစ်ကြ၏။ ကိုရီမေက အီသယ်ကို လက်တွဲလိုက်သည်။ သူတို့နောက်မှ စစ်သားတသိုက် လျှောက်လိုက်လာ၏။ မိန်းကလေးတွေ ကြော့ကြော့မော့မော့ ဆက်လျှောက်သွားကြသည်။ လမ်းတဖက်တချက်တွင် လူတွေ ပြည့်နေပြီ။ သူတို့ မြန်မြန်လျှောက်လို့ မရတော့။ သူ့ကို အရမ်းမတိုးဖို့လည်း သူငယ်ချင်းတွေအား ပြောထားရ၏။ ခါးတွင် ကြိမ်ခွေတွေနှင့် မဟုတ်လား။ မနည်း ဂရုစိုက် လျှောက်နေရ၏။ နောက်ဆုံးမှ စောင့်ကြည့်ရမည့် နေရာကောင်း ကောင်းသို့ ရောက်သည်။

တိုက်ကြီးတလုံး၏ လေသာဆောင်အောက်မှာ အရိပ်ကောင်းသည့် နေရာဖြစ်၏။ ကလေးမတသိုက်ကို ကိုရီမေက ဦးဆောင်ခေါ်သွားခြင်း ဖြစ်သည်။

သည်တိုက်ကြီးကို ကိုရီမေ သိသည်။ မီးသဘော်လုပ်ငန်းပိုင်ရှင် ဂျူဟာန်မိသားစုပိုင် တိုက်ကြီး ဖြစ်၏။ ဝက်သစ်ချမြိုင်၏ သခင်မကြီး မစ္စက်လန်းသည် တချိန်က မစ္စဂျူဟာန် ဖြစ်၏။

စစ်ရေးပြမည့် စစ်ကြောင်းက မြို့ထဲတွင်သာ လှည့်ပတ်ဖြတ်သန်းမည် ဖြစ်၍ ဝက်သစ်ချ မြိုင် မိသားစုပါ သည်အိမ်ကြီးသို့ ရောက်လာနိုင်သည်။ စစ်ရေးပြပွဲကို တမြို့လုံး အားပေး ကြမည် မဟုတ်လား။

အကယ်၍ မစ္စအန်းက မိမိအား လူတောထဲတွင် နှုတ်ဆက်လျှင် လင် စစ်ထဲ လိုက်သွား သည့် ဇနီး အီသယ်ထက် မိမိကို ပိုပြီး လူတွေ အာရုံစိုက်ကြလိမ့်မည်။

ရထားတွေ တစီးပြီးတစီး ဆိုက်လာပြီး တိုက်ကြီးထဲသို့ အလျှိုအလျှို ဝင်သွား ကြသည်။ ရဲတွေက ရထားတွေ ဆိုက်ဖို့ လမ်းရှင်းပေးနေ၏။ ဂျူဟာန်မိသားစု အိမ်ပေါ်ထပ်တွင် ဧည့်ခံရမည့် ပရိသတ် နည်းမည် မဟုတ်ပေ။

ရောက်လာသည့် ဧည့်သည်တွေ မည်သူမည်ဝါ ဖြစ်ကြောင်း ကိုရီမေက သူငယ်ချင်းများ အား တိုးတိုးပြောပြနေ၏။

"အဲဒါက မစ္စဂျင်းနက်ဟဲရီးယော့၊ သူ့အဖေကလည်း သဘော်ာကုမ္ပဏီပဲ၊ သူနဲ့ တွဲလာတာက ရောလ်ဖဲလ်ကိုး၊ သူတို့ မကြာခင် လက်ထပ်ကြမယ်လို့ ပြောနေကြတယ်၊ ဆံပင် နီနီ၊ ဂါဝန်အစိမ်းနဲ့က မစ္စဆာရာပါစယ်"

"ဝတ်လာတဲ့ အရောင်က လူနဲ့ မလိုက်သလိုပဲ"

အီသယ်က ဝေဖန်လိုက်ခြင်း ဖြစ်၏။

"သူ့ဆံပင် ပိုပြီး ပေါ်လွင်အောင် အရောင်ရွေး ဝတ်တာလို့ ပြောသံကြားဖူးတယ်၊ အရုပ်ဆိုးဆိုးလူက ဂျယ်ရီရှာရမီ၊ သူ့ကို ချိတ်နေတာ"

ရထားပေါ်မှာ ဆင်းလာကြသည့် ဝတ်ကောင်းစားလှနှင့် အမျိုးသမီး၊ အမျိုးသားတွေက လမ်းရှင်းပေးသည့် ရဲတွေကိုတော့ ကျေးဇူးတင်စကား ပြောဖော်ရ၏။ သို့သော် ပတ်ဝန်းကျင် လူအုပ်ကြီးကို တချက်မျှ ဝေ့မကြည့်။ လူတောထဲသို့ ဖြတ်သွားသည်နှင့် မတူဘဲ ချုံပုတ်တွေ ကို တိုးသွားနေသည့်အလား။ ချမ်းသာသူများသည် အရေးမကြီးသူများအား ဖုတ်လေသည့် ငါးပိ ရှိလေသည်မှ မထင်ကြပါကလားဟု ကိုရီမေ တွေးနေ၏။ ဝက်သစ်ချမြိုင် ရထားကြီး ဝင်လာပြီ။ ကိုရီမေ ဣန္ဒြေမပျက်အောင် စိတ်ထိန်းထား လိုက်၏။

ရထားထိန်းက သူ့ရထားကြီးကို ငြိမ့်ခနဲ ရပ်လိုက်၏။ သူ့နံဘေးမှ အစေတော်ာ် တယောက် ခုန်ဆင်းပြီး အပြေးအလွှား တံခါးဖွင့်ပေးသည်။ ပထမဆုံး ဆင်းလာသူက ဝက်သစ်ချမြိုင် မူလသခင်မကြီး မစ္စက်လန်း။ အဘိုးကြီးတယောက် ထွက်လာပြီး ကြိုသည်။

"လာဟေ့ . . . ဖရန်းစက်၊ တွေ့ရတာ ဝမ်းသာလိုက်တာ၊ ကလေးမတွေကော ပါရဲ့ မဟုတ်လား"

အဘွားကြီးနောက်မှ စင်သီယာလန်းကလေး ဆင်းလာသည်။

လူရွယ်တယောက်ကို လှမ်းနှုတ်ဆက်၏။

"မင်္ဂလာပါ အန်ကယ်အလန်"

ဆယ့်နှစ်နှစ်သမီးကလေးသည် မနှစ်က တနှစ်လုံး ပြင်သစ်တွင် နေခဲ့၍လား မသိ၊ သိပ်ယဉ်ကျေးနေသည်ဟု ကိုရီမေ ထင်၏။ အစ်ကိုလုပ်သူနှင့်အတူ မစ္စက်လန်း အိမ်ထဲဝင် သွားမှ မစ္စက်လန်း (အငယ်) ဆင်းလာသည်။ စင်သီယာက သူ့ကို စောင့်ခေါ်၏။

လက်အိတ်ဖြူဖြူကို ပထမ စမြင်ရ၏။ ဆင်းလာတော့ ရောမ စကတ်ကားကားကြီးမှာ ရထားအပေါက်နှင့် လွတ်ရုံကလေး ရှိသည်။

"အဲဒါ မစ္စက်ဒင်းနစ်လန်းပေါ့"

ကိုရီမေ တိုးတိုးကလေး ပြောလိုက်သည်။ အီသယ်က လေသံဖြင့် ပြန်ပြော၏။

"သူ့ကိုတော့ တွေ့ဖူးတယ်၊ သူတို့က အားလုံးထဲမှာ အချမ်းသာဆုံး ဆို"

"ဟုတ်မယ် ထင်တယ် အီသယ်"

"ဝက်သစ်ချမြိုင်အိမ်ကြီးက တံခါးလက်ကိုင်တွေအားလုံး ငွေတွေဆိုတာ ဟုတ်လား ဟင်၊ ပြီးတော့ လှေကားကြီးက လေထဲမှာ ဝဲနေတယ် ဆို"

"အေး ... ဟုတ်တယ်"

ကိုရီမေက သည်လှေကားကြီးပေါ်ကို သူ တခါမျှ မတက်ဖူးကြောင်းတော့ ထည့် မပြော။

"သခင်မတွေ ကိုယ်တိုင် ရေမချိုး အဝတ်မလဲဘူး၊ နီဂရိုးမတွေ လုပ်ပေးရတယ် ဆိုတာကော တကယ်လားဟင်"

"အေး ဟုတ်တယ်"

"ပြောပြစမ်းပါဦး ဟယ်"

အီသယ်က အသေးစိတ် သိချင်နေသည်။

အန်းက ရထားထဲမှ ခဲရာခဲဆစ် ထွက်လာသည်။ ရောမ ဦးထုပ်အဝိုင်းကြီး

ဆောင်း လျက်။ အနားမှ ဇာတွေ ဖြာကျနေ၏။ စင်သီယာကို လက်တွဲပြီး အိမ်ကြီးထဲ ဝင်မည့်ဟန် ပြင်နေစဉ် ဂျယ်ရီ ထွက်လာသည်။

နားစွင့်ထားသဖြင့် အန်းက စင်သီယာကို ကပ်မေးသံ ကိုရီမေ ကြားလိုက်၏။

အတော်ပဲ သူ အရင်ဝင်သွားတာ၊ အဘွားကြီးအတွက် ညစာ ဘာလုပ်ထားရမလဲ ဟင် စင်သီယာ”

စင်သီယာ စဉ်းစားပြီး ဖြေသည်။

“မေမေက သိုးကလေးသား ကြိုက်တယ်၊ မမအန်းမှာ ရှိတယ် ဆို”

မစ္စက်မိတ်လင်း မှာထားတယ်၊ ရေခဲမုန့်ကော ကြိုက်လား မသိဘူး”

စင်သီယာ ခေါင်းညိတ်သည်။

“စင်သီယာလည်း ကြိုက်တယ်”

“ရေခဲမုန့်တော့ ရနိုင်မယ် မထင်ဘူး”

ဂျယ်ရီ ဝင်ပြောခြင်း ဖြစ်၏။ စင်သီယာက နားမလည်နိုင်စွာဖြင့် -

“ဘာဖြစ်လို့လဲ ဟင်”

“ရေခဲလှေတွေ မဝင်တော့ဘူးလေ”

သည်တော့မှ အန်း စိတ်ပျက်လက်ပျက် ဝင်ပြောသည်။

“ဘာဖြစ်လို့လဲ၊ မြောက်ပိုင်းမှာ ဒီဆောင်းတွင်း ရေမခဲတော့လို့လား”

“မြောက်ပိုင်းလေ မြောက်ပိုင်း”

ဂျယ်ရီ ဝင်သတိပေးတော့ အန်းက-

“ဟာ… ဒုက္ခပါပဲ၊ ရေခဲ မရှိဘဲ ဘယ်လိုလုပ်ပြီး နေကြမလဲ၊ သူတို့ ပို့ရမှာပေါ့”

စင်သီယာကလည်း ညည်းသည်။

“စိတ်ပျက်ဖို့ ကောင်းလိုက်တာနော်”

ဂျယ်ရီက ပြုံးပြီး-

"တို့ကလည်း ဝါဂွမ်း မပို့တော့ဘူးလေ၊ သူတို့ဘက်ကလည်း ကြည့်ဦးမှပေါ့"

စင်သီယာက ကလေးဆန်ဆန် ပြန်ပြောသည်။

"သူတို့က မနှစ်က အဝတ်တွေ ဝတ်လို့ ရပါတယ်၊ စင်သီယာတို့က မနှစ်က ရေခဲမုန့် စားလို့ မရဘူး။ စစ်မြန်မြန် တိုက်၊ မြန်မြန်ပြီးပါစေတော့"

ထိုစဉ် နီဂရိုး အိမ်စေတယောက် ထွက်လာပြီး အိမ်ထဲ ဝင်ကြဖို့ ခေါ်သည်။ ဤတွင် အန်းက ကိုရီမေကို မြင်သွားသည်။

"မင်္ဂလာပါ ကိုရီမေ" ဟု ဖော်ဖော်ရွေရွေ နှုတ်ဆက်သည်။

"မင်္ဂလာပါ မမ၊ မင်္ဂလာနေ့ပါ"

ဝမ်းသာလွန်းလို့ ကိုရီမေ့ မျက်နှာကလေး ရဲတက်သွားသည်။

"ဟုတ်တယ်ကွယ်၊ ဒီနေ့ သာယာနေတယ်နော်၊ မင်္ဂလာနေ့ပါကွယ်"

ပြောပြီး အိမ်ထဲ လှမ်းဝင်သွားသည်။ ဂျယ်ရီနှင့် စင်သီယာက သူ့နောက်မှ လိုက်ဝင်သွား၏။

အီသယ်က အသက်ရှူဖို့ မေ့နေဟန်ဖြင့် -

"နင့်ကို သူ အဲဒီလိုပဲ ဆက်ဆံသလား ဟင်"

"အေး... ဟုတ်တယ်"

ကိုရီမေသည် ထိုတဒင်္ဂတွင် ဝက်သစ်ချမြိုင်အား မုန်းတီးစိတ်တွေ ကြက်ပျောက် ငှက်ပျောက် ပျောက်နေ၏။ ကောင်မလေးတယောက်က မှတ်ချက်ချသည်။

"သူတို့အတွက် ရေခဲက ဒါလောက် အရေးကြီးတယ်နော်"

နောက်တယောက်က ဆက်ဝေဖန်သည်။

"ရေခဲ မရှိရင် သေမှာ ကျနေတာပဲ"

ကိုရီမေက-

“ငါ ရေခဲမုန့် တခါ စားဖူးတယ်ဟ”

“ဟုတ်လား၊ ဘယ်လိုနေလဲ”

“ဒါလောက်လည်း မဟုတ်ပါဘူးဟာ၊ သကြားနဲ့ နို့ရောပြီး ခဲအောင် လုပ်ထားတာပါ”

“နင် ဘယ်မှာ စားဖူးတာလဲ ဟင်”

“ဝက်သစ်ချမြို့င်မှာပေါ့”

သူတို့ ခေါင်းပေါ်တည့်တည့် လေသာဆောင်တွင် အမျိုးသမီးတွေ ထွက်လာကြသည်။ အစေခံတွေက ကုလားထိုင်တွေ စီချပေး၏။ အမျိုးသားများက ဝိုင်ခွက်တွေ လိုက်ကမ်းနေ၏။ လေသာဆောင်ပေါ်တွင် တောင်ပိုင်းအလံတွေ တလူလူနှင့်။

ဟိုအဝေးဆီမှ စစ်ချီသီချင်းသံသဲ့သဲ့ ကြားရစပြုသည်။ ချီတက်လာသည့် စစ်သားတွေ တဖြည်းဖြည်း နီးလာ၏။ အရာရှိတွေက မြင်းကိုယ်စီနှင့်၊ စစ်သားတွေက အလံကြီးတွေ ကိုင်လျက်။ စစ်သည်တော်တွေ အားနှင့်မာန်နှင့် သီဆိုချီတက်လာပုံမှာ ကြည့်လို့ ကောင်းလှ သည်။ ကြက်သီးမွေးညင်း ထချင်စရာ ဖြစ်၏။

ပြည်နယ်အချို့ကို ကိုရီမေ မသိ။ ခွဲရေးဆိုသည့် စကားလုံး မကြားဖူးမီ ပြည်နယ်တိုင်း ကို မကြားဖူး။ သို့သော် သည်စစ်ပွဲကြီးကို တကယ့်အရေးတော်ပုံဟု ကိုရီမေ ယုံကြည်၏။ အဖေသည် ရင်ကော့ကာ ကြွားကြွားဝင့်ဝင့် ချီတက်လာနေသည်ကို အဝေးက လှမ်းမြင်နေရ၏။

စစ်ဝတ်စုံနှင့် ခံ့ညားနေ၏။ လူကြီးလူကောင်းတယောက်ပုံ ပေါက်နေ၏။ သို့သော် သူ့ကော်လာ တွင် ကြယ်တပွင့်မျှ မရှိပေ။ ဘင်ခရာအဖွဲ့က တီးနေသည့်“ဒစ်ကစီ” တောင်ပိုင်း စစ်ချီသီချင်း ကို လူတိုင်း လိုက်ဆိုကြ၏။

အပေါ်လေသာဆောင်မှ အမျိုးသမီးတွေ၊ အမျိုးသားတွေက စစ်သားများဆီသို့ နှင်းဆီပွင့်တွေ ပစ်ချပေးနေ၏။ ဗိုလ်မှူးကြီးရှာရမီ၏ မြင်း အိမ်ရှေ့သို့ ရောက်လာသည်။ သူက အပေါ်ထပ်ကို ကြည့်ပြီး ဦးထုပ်ကိုမြှောက်ကာ ဦးညွတ် နှုတ်ဆက်လိုက်၏။ အန်း၏ အော်ပြောသံကို ကိုရီမေ အောက်မှ ကြားလိုက်၏။

“ဖေဖေ့ကို ကြည့်ပါဦး၊ ဖေဖေ့ကို ကြည့်ပါဦး၊ ဒီလောက် တခါမှ ကြည့်လို့

မကောင်း ဖူးဘူး”

သူ့မြင်းဆီသို့ အမျိုးသမီးများက ပန်းပွင့်တွေနှင့် ပစ်ပေါက်ကြပြန်သည်။ ပြီးတော့ ဗိုလ်ကြီးဒင်းနစ်လန်း၏ မြင်း ရောက်လာသည်။ ပန်းပွင့်တွေ ဖြာခနဲ ကျလာပြန်၏။ ဝက်သစ်ချ မြိုင်တွင် မျက်နှာတန်းမိခဲ့သည့် စစ်ဗိုလ်တွေ တယောက်ပြီး တယောက် ကိုရီမေ လှမ်းမြင် ရသည်။ သည်စစ်ပွဲသည် လူကြီးလူကောင်းများ စစ်ပွဲလို ဖြစ်နေမည်လား။ မဟုတ်သေးပါဘူး၊ အဖေ့ကိုယ်ပေါ်မှာလည်း ပန်းပွင့်တွေနှင့်ပဲ။ အဖေလည်း သူတို့နှင့်အတူ ရင်ပေါင်တန်း ချီတက် နေသည်ပဲ။

ကိုရီမေသည် သီချင်းကို အများနှင့်အတူ သံပြိုင်အော်ဆိုလျက် ရှိသည်။ အဖေက လှမ်းမြင်ပြီး ပြုံးပြသွားသေး၏။ ရဲဘော်တိုင်း၏ သေနတ်တွင် ကြိုးတချောင်းစီ ချည်ထား သည်ကို တွေ့ရ၏။ ယမ်းကီး ဖမ်းဖို့တဲ့လေ။

အပေါ်မှ အမျိုးသမီးများသည် ပန်းပွင့်တွေကို အားရပါးရ ကြဲချနေ၏။ အဖေ့ကိုယ် ပေါ်တွင် နှင်းဆီပွင့်တွေ ရဲနေ၏။ ပန်းပွင့်များသည် အရာရှိများအပေါ် ကျသလို ရဲဘော်များ အပေါ်တွင်လည်း ကျရောက်၏။ အလံများပေါ်တွင် နေရောင်ခြည်သည် တောက်တောက်ပပ ဖြာကျနေ၏။ ကိုရီမေ၏ အဝတ်အစားများမှာလည်း တောက်ပ ဝင်းလက်နေ၏။ ကြီးကျယ် ခမ်းနားသည့် စစ်ပွဲကြီးတပွဲ ဖြစ်လာပေတော့မည်။

## (၂)

အလုပ်ခွင်တွင် ကိုရီမေ သည်လို တခါမျှ မပျော်ရွှင်ခဲ့ဖူးပေ။ ဝက်သစ်ချမြိုင်သို့ မသွားရသည့် နေ့များမှာ ဆိပ်ကမ်းရပ်ကွက်တွင် အခြား မိန်းကလေးများနှင့်အတူ လုပ်အား ပေးကြရ၏။

ရှေ့တန်းရဲဘော်များအတွက် ခြေအိတ်တွေ ထိုးကြ၏။ အင်္ကျီတွေ၊ ဘောင်းဘီတွေ ချုပ်ကြရ၏။ မစ္စတာဒင်းနစ်လန်းလိုလူက စစ်ထဲ လိုက်သွားခြင်းကို မိန်းကလေးတွေ ချီးကျူး အံ့ဩမဆုံး ဖြစ်နေကြ၏။ ကိုရီမေကတော့ သူတို့လို မထင်။

"တိုင်းပြည်ကို ကာကွယ်ဖို့ လူတိုင်းမှာ တာဝန်ရှိသလို သူ့မှာလည်း ရှိတာပဲ၊ မြောက်ပိုင်း သားတွေ ရောက်လာလို့ မီးရှို့ရင် သူများထက် သူက ပိုဆုံးမှာလေ"

စစ်ဖြစ်လာသည့်အတွက် တခုတော့ ကောင်းသည်။ အားလုံး တန်းတူညီမျှ ဖြစ်သွား သည်ဟု ကောင်မလေးတွေ ပြောနေကြ၏။ ဒါတော့ ဟုတ်သည်။ ဆင်းရဲသားနှင့် လူချမ်းသာ အတူတူ ဖြစ်သွား၏။ တောင်ပိုင်းသည် သူတို့အားလုံး၏ တိုင်းပြည် ဖြစ်သည်။ ရဲဘော်လည်း သေနတ်ထမ်းရ၏။ အရာရှိလည်း သေနတ်ထမ်းရ၏။ တပ်ထဲတွင် သူတို့ အားလုံး တသား တည်း ဖြစ်နေ၏။ စစ်ဝတ်စုံ ဝတ်လိုက်လျှင် အားလုံး အတူတူလို ဖြစ်နေ၏။

ချမ်းသာသည့် အမျိုးသမီးများသည် ရဲဘော်များအတွက်ပါ အဝတ်အစားတွေ ချုပ်နေ ကြ၏။ ခြေအိတ်တွေ ထိုးနေကြ၏။ သူတို့က ဇာထိုးအပ်ချုပ်သင်း ထောင်ပြီး တအိမ်ပြီး တအိမ်လှည့်ကာ ချုပ်နေကြ၏၊ ထိုးနေကြ၏။ အမျိုးသမီးတွေ အပျော်ဆုံး နေရာကတော့ ဝက်သစ်ချမြိုင် ဖြစ်လေသည်။

ချုပ်စရာ လုပ်စရာ တပွေ့တပိုက်နှင့် ရထားကြီးတွေ ကိုယ်စီစီးကာ ရောက်လာ တတ်ကြ၏။ ဧည့်ခန်းတွင် ထိုင်ကာ စကားတွေ ဖောင်ဖွဲ့ကြ၏။ ဆိုးဆေးကြောင့် သူတို့ လက်ချောင်းကလေးတွေ စွန်းထင်းသည့် ကိစ္စကိုလည်း ထည့်ပြောကြ၏။ သူတို့သည် မျိုးချစ် စိတ်ဓာတ် ရှင်သန်တက်ကြွလျက် ရှိကြသည်။ သည်လို လုပ်နေရသည်ကို ပျော်နေကြသည်။

နေ့လယ်နေ့ခင်းတွင် စခန်းတခုခုမှ အရာရှိငယ်များ အလည်ရောက်လာတတ်၏။ စစ်ထဲ ပါမသွားသည့် အမျိုးသားများလည်း

ရောက်လာတတ်၏။ အန်းနှင့် ဂျယ်ရီက စန္ဒရားကို တလှည့်စီတီးပြီး ညှော်ခံသည်။ ပြီးတော့ ကကြသည်။ စားကြ သောက်ကြသည်။

ဂျယ်ရီ စန္ဒရားတီးလျှင် သူတို့ စုပြုံပြီး စန္ဒရားနား ရောက်လာတတ်၏။ ဂျယ်ရီက ကြားဖူးသမျှ သီချင်းကို တီးနိုင်သူ ဖြစ်သည်။ အန်းထက် ပိုတီးနိုင်သည်။ သူတို့ သီချင်းသံသည် အိမ်နံရံတွေ တုန်သွားသည်အထိ အားမာန်အပြည့်ဖြင့် တုန်ဟည်းနေသည်။

“ပြည်ထောင်စုကို ငါတို့ ယုံကြည်သည်၊

ပြည်ထောင်စုအပေါ် ငါတို့ သစ္စာရှိသည်၊

ငါတို့သည် ညီအစ်ကိုများ ဖြစ်သည်၊

မိတ်ဆွေ သူငယ်ချင်းများ ဖြစ်သည်။

ခုတော့ မြောက်ပိုင်းသားများ ဖောက်ပြားလေပြီ၊

ငါတို့ တိုက်ထုတ်ရတော့မည်၊

ငါတို့သည် အပြာရောင်ပေါ်မှ

ကြယ်တပွင့်ပါသည့် အလံတော်အောက်မှာ

အားလုံးရောက်ကာ စုဝေးလျက် ရှိနေပြီ”

သီချင်းဆိုရင်း အမျိုးသမီးတွေ မျက်ရည်ကျကြ၏။ အမျိုးသားများက ချော့ရသည်။ ပြီးတော့ သောက်ကြ စားကြသည်။ စစ်ဗိုလ်ကလေးများ တယောက်တလေ မူးလျှင်လည်း ဘယ်သူမျှ အပြစ်မမြင်ကြ၊ အားလုံး ခွင့်လွှတ်ထားကြ၏။

တနေ့တွင် ညှော်သည်တွေ ပြန်သွားတော့ မစ္စအန်းက ကိုရီမေကို နပိုလီယံနှင့် ခေါ်ခိုင်း သည်။ ကိုရီမေ ဝင်သွားတော့ အခန်းထဲမှ ကုလားထိုင်ကြီးတလုံးပေါ်တွင် သူ ထိုင်နေ၏။ ချည်ခင်တွေ၊ အပ်ချည်တွေ၊ အပ်ချည်လုံးတွေ အနားတွင် ရှုပ်ပွနေသည်။

ကိုရီမေ ရောက်ရောက်ချင်း တန်းမေးသည်။

“ကိုရီမေ၊ နင် သိုးမွေး ထိုးတတ်သလား ဟင်”

"ရှင်. . . မမ၊ ဟုတ်ကဲ့ ထိုးတတ်ပါတယ်ရှင့်"

"ငါ့ကို သင်ပေးပါလား"

"ရပါတယ် မမ၊ ကျွန်မက မမ ကျွမ်းကျွမ်းကျင်ကျင် ထိုးတတ်တယ် ထင်နေတာ" အန်း ရယ်သည်။

"ငါ ထိုးတတ်ချင်ယောင်ဆောင်နေတာ ကိုရီမေ၊ ငါ တကြောင်းတောင် ဖြောင့်အောင် မထိုးတတ်ဘူး၊ ဒါပေမဲ့ ငါတို့အားလုံး မျိုးချစ်တွေလေ၊ ထိုးတတ်ရမှာပေါ့၊ ဒီမှာ ဆာရာပါစယ်ရဲ့ လက်ရာကို ကြည့်ပါဦး"

ဘာမှန်း မသိသော အရာဝတ္ထုကို ကိုရီမေ ယူကြည့်ပြီး ရယ်ချင်နေသည်။ လက်ရာက မညီမညာ လျှောကားထစ်များနှင့် တူနေ၏။

"ဒါ ဘာလဲ မသိဘူးနော် မမ"

"ငါလည်း မသိဘူး၊ ခြေအိတ်ထိုးရင်း လည်စည်း ဖြစ်သွားတာ ထင်တယ်၊ နင် ငါ့ကို သင်ပေးမယ် မဟုတ်လားဟင်"

"ရပါတယ် မမ၊ လွယ်ပါတယ်၊ ဇာထိုးအပ်ကော အလွယ်တကူ ရှိလားဟင်"

အန်းက အိတ်တလုံးထဲမှ ချည်လုံးနှင့် ဇာထိုးအပ်တွေ ထုတ်ယူလိုက်သည်။ ကိုရီမေ ကို နံဘေးတွင် ထိုင်ခိုင်းလိုက်၏။ ကိုရီမေ ဇာထိုး စသင်ပေးသည်။ နာရီဝက်လောက် ကြာတော့ အကြီးအကျယ် စိတ်ညစ်သွား၏။

အန်းလောက် နားဝေးသူမျိုး တသက်တွင် တယောက်မျှ မတွေ့ဖူးခဲ့။ သူ၏ လှပ သော လက်ချောင်းကလေးများသည် ချည်လုံးနှင့် အပ်တွင် လုံးဝ သုံးလို့ မရ။ လက်ချောင်း တွေက သုံးမရသလို သူ့ခေါင်းကလည်း ချည်ကျော် ချည်ချကို မမှတ်တတ်။ လက်ထဲမှ ချည်လုံးတွေ ထွေးလိုထွေး၊ လက်ထဲမှအပ် လွတ်ကျလိုကျနှင့် အားလုံး အိုးနင်းခွက်နင်း ဖြစ်၏။

ကိုရီမေ ဘယ်လိုသင်သင်၊ ဘယ်လိုပြပြ အကြောင်းမထူး။ သင်ပြနေရင်း အပြင်ကိုငေးချင် ငေးနေ၏။ ယင်ကောင် ထမောင်းချင် မောင်း၏။ တပည့်လုပ်သူက သခင်မကို တုံးရန်ကော ဟူ၍တော့ ကိုရီမေ မပြောရဲ။ သို့သော် အရဲစွန့်ပြီး ပြောတော့ ပြောလိုက်သည်။

"မမ စိတ်မပါရင်တော့ တတ်မှာ မဟုတ်ဘူး

“အေးကွယ်၊ ဆောရီး ကိုရီမေ၊ မမ အာရုံစိုက်လို့ကို မရဘူး” ဟု တောင်းပန်စကား ဆိုသည်။

“ကျွန်မ ပြောတာလေး လိုက်မှတ်ပြီး မမ ဆက်လုပ်ရင် ဖြစ်သွားမှာပါ”

တဖြည်းဖြည်းနှင့် ကိုရီမေ ပြောသည့်အတိုင်း အန်း လိုက်လုပ်လာသည်။ ညပိုင်းရောက် တော့ အလွန်နေးကွေးစွာဖြင့် သူ ဇာထိုးတတ်စ ပြုလာ၏။

နောက်တနေ့တွင် အန်း ဆက်ထိုးသည်။ စားသည့် အချိန်နှင့် ဒင်းနစ်ကလေးဆီ သွားသည့် အချိန်သာ နား၏။ ထိုနေ့ ညနေပြန်ခါနီး ကိုရီမေကို ပိုက်ဆံရှင်းချိန်မှာတော့ အန်းက ထိုးလက်စသိုးမွေးထည်ကို ပြပြီး-

“ဒီမှာကြည့် ကိုရီမေ၊ ငါ တချက်မှ မမှားတော့ဘူး”

“ဟုတ်တယ် မမ၊ မမ ကောင်းကောင်း ထိုးတတ်သွားပါပြီ၊ ဒါပေမဲ့ တချို့နေရာ တွေမှာ မတင်းဘဲ လျော့ရဲရဲဖြစ်နေတာ တခုပဲ ပြောစရာ ရှိပါတယ်၊ မမက ဘယ်တုန်းကမှ မလုပ်ခဲ့ဖူးတော့ ဒါလောက်တော့ ရှိမှာပါ”

“အေး... နင်ပြောတာ ဖြစ်နိုင်တယ်၊ တော်တော် ပင်ပန်းတာပဲ”

“ကျွန်မ သွားတော့မယ် မမ”

“ဪ... အေး... ရော့ ပိုက်ဆံ”

ပိုက်ဆံအိတ်ထဲမှ နှိုက်ပေးတော့ ကိုရီမေ ကြောင်နေသည်။

“ဘာဖြစ်တာလဲ ကိုရီမေ”

“ဒါ ပိုက်ဆံလားဟင် မမ”

“ဪ... အေးလေ၊ ပိုက်ဆံပေါ့”

အန်းက ရယ်ပြီး ရှင်းပြသည်။

“ဒါ တောင်ပိုင်းက ထုတ်တဲ့ ပိုက်ဆံအသစ်လေ၊ ရေးထားတာ ဖတ်ကြည့်ပါလား”

“ကျွန်မ သိပ်မဖတ်တတ်ဘူး မမ”

“ဟုတ်လား”

အန်းက ကိုရီမေ့ လက်ထဲမှ ပိုက်ဆံကို ပြန်ယူပြီး ရယ်ပြန်သည်။

"ကန့်လန့်ဖြတ် ရေးထားတဲ့ စာတန်းက "အမေရိကန်တောင်ပိုင်းပြည်ထောင်စု" တဲ့၊ အရင်ပိုက်ဆံအတိုင်းပဲ သုံးလို့ရတယ်"

"စစ်ဖြစ်လို့ အဲဒီလို ကွဲသွားတာလားဟင် မမ"

"အေး... ဟုတ်တယ်"

ကိုရီမေ အရိုအသေပေးပြီး ထွက်လာခဲ့သည်။ ဂိတ်ဝတွင် လှည်းကြုံ အသင့်တွေ့သဖြင့် ခုန်တက်လိုက်ခဲ့၏။ လှည်းပေါ်တွင် သကြားစည်ကြီးတွေ တဝက်လောက်သာ ပါ၏။

လှည်းသမားက ဆိပ်ကမ်းရပ်ကွက်ကိုတော့ ရောက်မည်၊ သို့သော်ကိစ္စရှိ၍ တခြား လမ်းမှ ပတ်မောင်းရမည် ဖြစ်ကြောင်း ပြော၏။ ကိုရီမေ သက်ပြင်းချကာ သကြားစည်ကြီး တွေကို မှီပြီး လိုက်လာခဲ့၏။

သူ မောင်းလာသည့် လမ်းက ဆိုးရွားလှသည်။ တဒုန်းဒုန်း ခုန်နေ၏။ ယာတောငယ် တွေကို ဖြတ်မောင်းလာ၏။ အိမ်ကလေးတွေက ပြိုတော့မယောင် ယိုင်နဲ့နေ၏။ ဆင်ကလဲယား မိသားစုပိုင် မြေများ၊ အိမ်များ ဖြစ်၏။

ဆင်ကလဲယား မိသားစုသည် သူတို့ပိုင်မြေတွေကို ဘာမျှ မလုပ်ဘဲ အိမ်တွေ ဆောက်ပြီး ငှားစားသည်။ မြေကွက်ဖော်ပြီး ငှားစားသည်။ ဆိပ်ကမ်းရပ်ကွက်တခုလုံးမှာ လည်း သူတို့ အပိုင် ဖြစ်၏။

သူတို့ကို ဝက်သစ်ချမြို့တွင် ကိုရီမေ တွေ့ဖူး၏။ ဆင်းရဲသားများ၏ ကုပ်သွေးစုပ်နေ သည့် လူတန်းစားဟု ကိုရီမေ သိခဲ့သည်။ သူတို့တတွေသည် လူချင်းတွေ့တော့ အလွန် ယဉ်ကျေးသိမ်မွေ့သူများ ဖြစ်နေ၏။

ဆိပ်ကမ်းရပ်ကွက်တွင် အမျိုးသမီးတယောက် ရှိသည်။ ယောကျ်ားက အလုပ်လုပ် ရင်း ငြမ်းပေါ်မှ ပြုတ်ကျပြီး သေတော့ ကလေးလေးယောက်နှင့် အမျိုးသမီး အိမ်လခမပေး နိုင်၍ ဆင်ကလဲယားပိုင် အိမ်မှ ဆင်းပေးရသည်။ အမျိုးသမီး လမ်းပေါ် ရောက်သွား၏။

နောက်တနေ့တွင် မစ္စတာဘာထရန်ဆင်ကလဲယားနှင့် သူ့မိခင်ကြီး ဝက်သစ်ချမြို့ ညစာဝိုင်းသို့ ရောက်လာသည်ကို ကိုရီမေ တွေ့ရ၏။ မစ္စတာဘာထရန်ဆင်ကလဲယားသည် အလွန့်အလွန် ကြင်နာတတ်သူ ဖြစ်၏။ သိမ်မွေ့သူ ဖြစ်၏။ သူ့အမေကို အရိပ်တကြည့်ကြည့် ဖြင့် ဂရုစိုက်၏။ ကိုရီမေ

ဦးနှောက်ခြောက်သွားသည်။

လှည်းသည် ဝါခင်းများကို ဖြတ်မောင်းနေ၏။ တနေရာတွင် ကိုရီမေသည် သစ်လုံး အိမ်ကလေးကို လှမ်းမြင်လိုက်သည်။ သေသေသပ်သပ် သစ်သစ်လွင်လွင်ကလေး။

ပဲပင်တွေ နွယ်တက်နေ၏။ အိမ်နောက်ဖေး စိုက်ခင်းကိုလည်း လှမ်းမြင်နေရ၏။ လူတယောက် အလုပ်လုပ်နေသည်။ သေသေချာချာ ကြည့်လိုက်တော့ ဟင်... ဘတ်ချ် ပါလား။

ဘတ်ချ်ကို ကိုရီမေ မတွေ့သည်မှာ ကြာပြီ ဖြစ်၏။ မျက်နှာတွေ ပူထူသွားသည် ထင်၏။ ဟိုတုန်းက အကြောင်းတွေ ပြန်စဉ်းစားမိသောကြောင့် ဖြစ်သည်။ သူ မမြင်အောင် အသာ ဇက်ပုထားလိုက်၏။ သို့သော် ဘတ်ချ် သူ့ကို မြင်သွားပြီ။

“ဟယ် ကိုရီမေပါလား”

သူက လမ်းပေါ် ပြေးထွက်လာပြီး ပေါက်တူးကို မြှောက်ရင်း ဝမ်းသာအားရ အော်ပြော သည်။ လှည်းသမားက မြင်းကို ဇက်သတ်ပြီး ရပ်ပေးလိုက်၏။ လှည်းနားသို့ သူ အပြေး ရောက်လာပြီး နှုတ်ဆက်သည်။

“ကိုရီမေ ဟုတ်ပါတယ်နော်၊ ဘယ်လိုလဲ အခြေအနေ ကောင်းရဲ့လား”

သူ့ကြည့်ရသည်မှာ ကျန်းမာသန်စွမ်းလျက်ပင်။ သူ့ဘဝသူ ကျေနပ်နေပုံလည်း ရ၏။ သူ့အသားတွေမှာ နေလောင်ထားသဖြင့် ညိုမောင်းနီရဲနေ၏။ အပြာရောင်အကျႌကို ရင်ဘတ် ဟပြဲ ဝတ်ထား၏။ ဘောင်းဘီကို ဒူးဆစ်အထိ ပင့်တင်ထား၏။ ဖိနပ်မပါသည့် သူ့ခြေထောက် တွင် မြေကြီးတွေ ကပ်နေ၏။ ဘောင်းဘီဒူးခေါင်းက အပြဲကို ဖာထားပုံမှာ သေသေသပ်သပ်။

“ဟဲလို... ကောင်းပါတယ် ဘတ်ချ်”

“နင့်ကြည့်ရတာ အရမ်းသားနားနေပါလား၊ ဝက်သစ်ချမြိုင် လှည်းကြီးနဲ့၊ နင် အဲဒီမှာ အလုပ်လုပ်တယ်လို့ ငါ ကြားပါတယ်၊ နင့်ကို သူတို့ ကောင်းကောင်းမွန်မွန် ဆက်ဆံရဲ့လား”

“ကောင်းကြပါတယ်၊ နင်လည်း အခြေအနေ ကောင်းတယ် မဟုတ်လား ဘတ်ချ်”

"အင်း. . . မဆိုးပါဘူး"

သူက သူ့စိုက်ကွင်းကို လက်နှင့် ငေ့ပြရင်း-

"ကြည့်စမ်း၊ ဘယ်လောက် အားကောင်းတဲ့ အခင်းလဲ၊ နင် တခါမှ မမြင်ရသေးဘူးနော်၊ မနှစ်က ဘေထုပ်တဝက်လောက် ရတယ်၊ ဒီနှစ် ပိုထွက်မှာပါ၊ ဒါထက် နင် အချိန်ရတယ် မဟုတ်လားဟင်၊ ငါ လိုက်ပြမယ်လေ၊ နောက်ဘက်မှာ ပြောင်းခင်းနဲ့ ခရမ်းချဉ် ခင်း ရှိတယ်"

ကိုရီမေက သူ့ကို ကျော်ပြီး အိမ်ကလေးဆီသို့ လှမ်းကြည့်လိုက်သည်။ အမျိုးသမီး တယောက်ကို ရိပ်ခနဲ လှမ်းမြင်လိုက်၏။

"ဘတ်ချ်၊ အဲဒါ ဘယ်သူလဲ ဟင်"

ဘတ်ချ်က ရယ်ပြီး-

"အဲဒါ နင်ဖြစ်ဖို့ ကောင်းတာပေါ့ ကိုရီမေ"

"ကဲ... တို့ သွားမယ်၊ လှည်းသမား အချိန်မရဘူး၊ ငါ ဆိပ်ကမ်းရပ်ကွက်အထိကြုံတယ်၊ သွားမယ်နော်" ဘတ်ချ်က သူ့လက်မောင်းကို လှမ်းဆွဲပြီး-

"နင်ကလည်းဟာ၊ ရောက်တုန်း ဖြည်းဖြည်းပေါ့၊ အဲဒါ ဘယ်သူမှ မဟုတ်ဘူး၊ ငါ့ညီမ အီသယ်ရယ်၊ သူ့ယောက်ျား စစ်ထဲ ဝင်သွားလို့ ငါနဲ့ လာနေပေးနေတာ၊ အီသယ်ရေ၊ ဒီမှာ ဧည့်သည်လာတယ် ဟေ့"

ဘတ်ချ် ရယ်တော့ ကိုရီမေ လိုက်ရယ်သည်။ အီသယ်က ချည်ထည်အင်္ကျီ ခွံ့ခွံ့ကလေး ဝတ်ထား၏။ ကျစ်ဆံမြီး ကျစ်ထားသည်။ ဝမ်းသာအားရ ပြေးထွက်လာ၏။

"ဟေး... ကိုရီမေ ဆင်းလေ၊ ရောက်တုန်း အေးအေးဆေးဆေးပေါ့ဟယ်"

"ငါ အိမ်ပြန် နောက်ကျနေမယ် ဟ"

"ဆင်းပါဟယ်၊ တို့ မတွေ့ရတာ ကြာပြီပဲ၊ ဘတ်ချ် လိုက်ပို့မှာပေါ့"

"ဟုတ်ပါတယ် ကိုရီမေရယ်၊ ငါ့ဝါခင်းလေးကိုလည်း ပြချင်လို့ပါ"

ကိုရီမေ မငြင်းသာတော့။ ဆင်းလိုက်ရသည်။

သူ စိုက်သမျှ အပင်တွေ အောင်မြင် ရှင်သန်နေ၏။ ကြက်ခြံကိုလည်း လိုက်ပြသည်။ ဝက်တွေ တသားကျနေပြီ။

သည်တခါ ဝါဂွမ်းရောင်းပြီးလျှင် နွားမ ဝယ်နိုင်တော့မည် ဆို၏။ အိမ်နောက်ဘက် တွင် တင်းကုပ်တခု ထပ်ဆောက်မည်ဟု ဆို၏။ သူ စိုက်ခင်းတွေကို လိုက်ပြနေပုံမှာ သူ သိမ်းပိုက်ထားသည့် နယ်မြေတွေကို လိုက်ပြနေသည့် စစ်သူကြီးတဦးနှင့် တူနေ၏။

"ကဲ ... နင် သဘောမကျဘူးလား"

ကိုရီမေက တလေးတစား ပြုံးပြီး-

"သဘောကျပါတယ် ဘတ်ချ်၊ နင် အောင်မြင်မှာပါ"

"အစက မြက်တောကြီးလေ၊ နင် သိသားပဲ"

ကိုရီမေ မျက်လွှာချထားသည်။ ခဏ ငြိမ်သွားကြ၏။ ဘတ်ချ်က ကိုရီမေကို သိုင်းဖက် ပြီး နမ်းသည်။

ကိုရီမေက နောက်ကို ရုန်းထွက်လိုက်ပြီး-

"ဟာ.. မလုပ်နဲ့ဟာ"

သို့သော် ဘတ်ချ်က မလွှတ်။

"နင့်ကို ငါ ဘယ်လောက် အောက်မေ့နေလဲ၊ နင် မသိဘူး ကိုရီမေ"

ကိုရီမေ မော်ကြည့်သည်။

"ငါလည်း နင့်ကို အောက်မေ့ပါတယ်ဟာ၊ ငါ နင့်ကို မေ့ဖို့ ကြိုးစားတာ မအောင်မြင် ပါဘူး"

"ငါ ဘာလို့ ဒါလောက် ကြိုးကြိုးစားစား လုပ်နေတယ် နင် ထင်လဲ၊ နင်က လူဖြူ ဆင်းရဲသားတယောက်ဖြစ်ရတာထက် နီဂရိုးဖြစ်ရတာမှ ကောင်းသေးတယ်လို့ ပြောတယ်၊ ငါ ဆင်းရဲသားဘဝနဲ့ မွေးလာတယ်၊ ဒါပေမဲ့ တသက်လုံး ဆင်းရဲနေရတော့မှာလား၊ ငါ ကြိုးစားမယ်"

သူ သက်ပြင်းချသည်။ ကိုရီမေကို ဖက်ထားဆဲ။

“နင်က ဝက်သစ်ချမြိုင်မှာ အလုပ်သွားလုပ်တယ်၊ သူတို့ ပေးကမ်းစွန့်ကြဲတာလေး တွေနဲ့ သားသားနားနား ဝတ်နိုင်တယ်၊ ဒါနဲ့ နင် လူဖြူဆင်းရဲသားဘဝက ကျွတ်ပြီလို့ နင် ထင်နေလား”

ကိုရီမေ ရုန်းထွက်လိုက်သည်။ မျက်ရည်တွေ ကျလာ၏။ နင်းခြေခံရသည့် ကြမ်းပိုး တကောင်လို စိတ်ထဲ ထင်မိ၏။ မျက်ရည်တွေကို လက်မောင်းနှင့် သုတ်ရင်း ပြောလိုက်သည်။

“ငါ သိပါတယ်ဟာ၊ ငါ သူတို့ကို မုန်းတယ်”

ဘတ်ချ်က မျက်မှောင်ကုတ်လျက်-

“အဲဒီလိုပဲ ဖြစ်ရမယ်၊ တနေ့မှာ နင့်ကို ငါ ဒီနေရာကို မရ ရအောင် ခေါ်မယ်၊ ငါ တကယ်ပြောတာ။ နင်က ဒီမှာထက် ဝက်သစ်ချမြိုင်မှာ လူတွေကို ဒူးညွတ်လိုက်၊ ဦးညွှတ် လိုက် လုပ်နေရတဲ့ ဘဝကို ပိုပြီး မက်မောလို့လား”

မျက်တောင်များတွင် မျက်ရည်တွေ ခိုလျက် ကိုရီမေ မော်ကြည့်သည်။

“ဘတ်ချ် . . ငါ ဘာပြောရမှန်း မသိတော့ပါဘူး ဟယ်"

“နင် သူတို့ကို မုန်းတယ် ဆို”

“ဟုတ်တယ်၊ အမြဲတမ်း ခြေသံမကြားအောင် လမ်းလျှောက်ရတယ်၊ ခြေထောက်က ဖုန်တွေ ကော်ဇောကို ပေမှာ စိုးနေရတယ်၊ စကားမှား ပြောမိမှာစိုးလို့ လျှာကို အမြဲတမ်း ကိုက်ထားရတယ်။ ဟုတ်ကဲ့ မမ၊ ကျေးဇူးတင်ပါတယ် မမနဲ့ တချိန်လုံး ရွတ်နေရတယ်။ တခါတလေ သူတို့မျက်နှာတွေကို လက်သီးနဲ့ စွတ်ထိုးပစ်ချင်တယ်”

“ဒါဆို နင် ဘာလို့ ဆက်နေနေတာလဲ၊ နင့်ကို ငါ ဒါလောက် ချစ်နေတာ နင် သိရက် သားနဲ့၊ သူတို့ဆီက ထွက်ခဲ့ပါတော့လား၊ ငါတို့ လက်ထပ်ကြပါစို့လား ကိုရီမေ”

ကိုရီမေ လက်တွေကို ချိုးနေ၏။

“ဟိုမှာ ဆောင်းတွင်းဆို နွေးတယ်၊ ဝက်သစ်ချမြိုင်အိမ်ကြီးက အမြဲတမ်း သန့်ရှင်း တိတ်ဆိတ်နေတယ်၊ သူတို့ ငါ့ကို ပင်ပင်ပန်းပန်း မခိုင်းကြပါဘူး၊ အဝတ်ချုပ်ရုံ၊ ပန်းခူးရုံ လောက်ပဲ”

ဘတ်ချ်က ပြောင်းရိုးတချောင်းကို ချိုးလိုက်ပြီး အရွက်တွေကို သပ်ရင်း-

"အဲဒီဘဝကို ငါနဲ့ နေရမယ့် ဘဝထက် နင် မက်မောနေသလား"

"ငါ မပြောတတ်တော့ဘူးဟာ"

ထိုစဉ် အီသယ့် အသံ ပေါ်လာသည်။

"ဟေး... ဟိုနှစ်ယောက် လာလေ၊ ငါ စားဖို့ သောက်ဖို့ လုပ်ပြီးပြီ"

ဘတ်ချ်က ခပ်ဖြည်းဖြည်းပြုံးပြီး ပြောသည်။

"အေးပါလေ ငါ မလောပါဘူး၊ နင့်ဘာသာနင် ဖြည်းဖြည်း ဆုံးဖြတ်ပါ"

အိမ်နောက်ဘက်ဆီကို သူ့နောက်မှ လိုက်သွားသည်။ လက်ဆေးကန်တွင် သူ လက်ဆေး ဖို့ ရပ်သည်။ ကိုရီမေ ရပ်စောင့်ရင်း စဉ်းစားနေ၏။ ဝက်သစ်ချမြိုင်သို့ ရောက်နေသည့် ကာလ အတွင်း မိမိသဘောထားတွေ အများကြီး ပြောင်းလဲခဲ့လေပြီ။

ဘတ်ချ် ခြေ လက်ဆေးပုံကို သဘောမကျ ဖြစ်နေ၏။ ရွှံ့တွေ မစင်။ အထဲ ဝင်သွားတော့ ရိုက်သတ်ထားသည့် ကြွက်တကောင်ကို အီသယ်က အမြီးဆွဲ ထွက်လာ၏။ "ဘယ်လို ဘယ်လို ဝင်ဝင်လာမှန်း မသိဘူး" ဟု ခပ်ပြုံးပြုံး ပြောပြီး နောက်ဖေးတံခါး မှ အပြင်သို့ ပစ်ထုတ်လိုက်သည်။ ပြီးတော့ လက်ကို စကက်နှင့် သုတ်ပြီး စားပွဲတွင် ထိုင်သည်။ မီးဖိုချောင်ထဲတွင် ညှော်နံ့ဖြင့် ပိတ်လှောင်နေ၏။ ခုံတန်းကလေးတွင် ဘတ်ချ်နှင့် ကိုရီမေ ဝင်ထိုင်သည်။ နောက်မှီ မရှိ။

ထမင်းဝိုင်းမှာ စိုပြည်ပါ၏။ ဝက်သားဟင်း၊ ခရမ်းချဉ်သီးနှင့် ကြက်သွန်ဥကြီး တို့ ပါသည်။ သို့သော် ဝက်သစ်ချမြိုင်က ထောပတ်နံ့ သင်းနေသည့် ဟင်းလျာများ၊ ချောကလက် ကိတ်မုန့်များကို ကိုရီမေ မျက်စိထဲ မြင်နေ၏။ ထမင်းဝိုင်းတွင် ကိုရီမေက စကားစသည်။

"နင့်ယောက်ျား တပ်ထဲမှာ အဆင်ပြေရဲ့လား အီသယ်"

အီသယ်က ရယ်ပြီး-

"သူ တခေါက်ပြန်လာတယ်၊ ပြေပုံရပါတယ်၊ မေးတောင် မမေးလိုက်ရပါဘူး ဟယ်"

"ဘာပဲဖြစ်ဖြစ်လေ တဆယ့်သုံးဒေါ်လာ ဆိုတာ မနည်းပါဘူး၊ ဆိပ်ကမ်းမှာ

လုပ်တုန်း က ဘယ် ဒီလောက် ရလို့လဲ”

“ငါ သူ့အတွက် ဂုဏ်ယူပါတယ် သီလား၊ စစ်သားတွေလိုတယ် ကြားကြားချင်း သူ ပြေးဝင်တာ”

“ငါလည်း ဂုဏ်ယူပါတယ်၊ အဖေ့အတွက်လည်း ငါ ဂုဏ်ယူရမှာပဲ၊ ငါတို့ တောင်ပိုင်း သားတွေဟာ တကယ် သတ္တိပြောင်ကြတာ၊ ဘတ်ချ် . . နင် ဘာလို့ စစ်ထဲ လိုက်မသွားတာလဲ”

ဘတ်ချ်က အမောတကော စားနေရာမှ ရပ်လိုက်ပြီး-

“ငါ သိပ်စိတ်မပါလို့၊ တိုင်းပြည်ကိုတော့ ချစ်တာပေါ့၊ ဒါပေမဲ့ ငါလိုက်သွားရင် ငါ့ယာတောကလေးကို ကြည့်မယ့် လူမှ မရှိတာ”

အီသယ်က ဝင်ပြောသည်။

“သူ သတ္တိနည်းလို့ မဟုတ်ပါဘူးဟာ၊ သူ့အပင်တွေကို စောင့်ရှောက်ပေးမယ့်လူ မရှိလို့ပါ”

ဘတ်ချ် တပ်ထဲမဝင်သည့်အတွက် ကိုရီမေ သိပ်မကျေနပ်။ လက်ထပ်ပြီး နင့်ယောကျ်ား ဘယ်တပ်ခွဲမှာလဲ မေးရင် ဘယ်လို ဖြေရပါ့မလဲ။ မျက်နှာအောက်ချထားရမည့် အဖြစ်။

“ယန်းကီးတွေကို တိုက်ဖို့ လူတိုင်းမှာ တာဝန်ရှိတယ်လို့ နင် မထင်ဘူးလား ဘတ်ချ်”

“အဲဒီလိုတော့ မထင်ဘူး၊ စိုက်တဲ့ ပျိုးတဲ့လူလည်း ကျန်ရစ်ဦးမှပေါ့၊ နိုင်ငံရေးအခြေ အနေရ ဝါဂွမ်းမစိုက်နဲ့ဆို မစိုက်ဘူး၊ တခြားသီးနှံ စိုက်မယ်၊ ငါ တပ်ထဲ ဝင်လိုက်ရင် ငါ့ယာတောကလေး တောပြန်ဖုံးသွားမှာပေါ့၊ ငါ မဖြစ်မနေလုပ်လို့ ဒီအခြေအနေ ရောက်လာတာ နင်လည်း သိသားနဲ့၊ ခုအခြေအနေရောက်မှ ငါ ထားမသွားနိုင်ဘူး ကိုရီမေ၊ သူများ ချစ်သလို ငါလည်း တိုင်းပြည်ကို ချစ်ပါတယ်”

သူ့အယူအဆနှင့် သူ မှန်ကောင်း မှန်ပေမည်။ သို့သော် ကိုရီမေ သိပ်သဘော မတွေ့လှ။ ယန်းကီးတွေကို တိုက်ဖို့ သိပ်အရေးမကြီးဟု ထင်နေသူတယောက်ကို လက်ထပ် လို့ ဖြစ်ပါ့မလား၊ အပြန်လမ်းတွင် ကိုရီမေ သူ့ကို ဝေဖန်သည်။

“ဒီမယ် ဘတ်ချ်၊ နင် မြေကွက်ကလေးကို သံယောဇဉ်တွယ်နေတာ ငါ ဘာမှ

မပြောလိုပါဘူး၊ ဒါပေမဲ့ တိုင်းပြည်မှာ စစ်ဖြစ်လာရင်တော့ စစ်တိုက်သင့်တယ်”

“ဟာ .. ကိုရီမေကလည်းကွာ၊ ငါ တပ်ထဲ ဝင်လို့ တပ်လစာကလေးနဲ့ မြေဖိုးငွေးခ ပေးနိုင်တယ်ပဲ ထားပါဦး၊ ငါ့အပင်တွေကို ပေါင်းပင်တွေက ဖုံးပစ်လိုက်မှာပေါ့”

“အေးလေ... ဒါကတော့ နင့်ကိစ္စပဲ၊ ငါ နင့်ကို သဘောမကျလို့ ပြောနေတာ မဟုတ်ဘူး၊ ငါ သဘောကျပါတယ်၊ ဒါပေမဲ့ ငါ့ချစ်သူဟာ တပ်ထဲ မဝင်တဲ့အတွက် ငါ မျက်နှာ တော့ အငယ်မခံနိုင်ဘူး”

ဘတ်ချ် သက်ပြင်းချသည်။ နှစ်ယောက်သား စကားပြတ်သွားကြ၏။ သို့သော် အိမ်နားရောက်လို့ ဆင်းခါနီးတွင် ဘတ်ချ်က နမ်းပြန်သည်။ ကိုရီမေ တုံ့ပြန်လုနီးပါး ဖြစ် သွား၏။

“ငါ နင့်ကို ဘယ်လို နားလည်ရမှန်း မသိဘူး ကိုရီမေ၊ ဒါပေမဲ့ နင့်ကို ငါ အမြဲ ချစ်နေမယ်”

“အေးပါဟာ... ငါ စဉ်းစားပါဦးမယ်”

ပြောပြောဆိုဆို ကိုရီမေ လှည်းပေါ်မှ ပြေးဆင်းခဲ့သည်။

※※※

# အခန်း(၇)

## (၁)

နောက်လများတွင် ကိုရီမေသည် ဘတ်ချ် အကြောင်းကို တောက်လျှောက်စဉ်းစား လျက် ရှိသည်။ သူ့မြေနေရာကလေးကို သူ မစွန့်နိုင်ခြင်းအတွက် နားလည်လို့ ရပါသည်။ သူ သွေးနှင့် ချွေးနှင့် ရင်းထားရသည့် နေရာကလေး မဟုတ်လား။

သို့သော် လူတိုင်းတွင် သံယောဇဉ်ကိုယ်စီ ရှိကြသည်သာ။ ကိုယ့်နိုင်ငံ သူ့ကျွန် မဖြစ်ရေးအတွက် တိုက်ပွဲဝင်ကြရ၏။ ဝက်သစ်ချမြိုင်ကို ကိုရီမေ သဘောမကျသော်လည်း ဒင်းနစ်လန်း စစ်ထဲ ဝင်သွားသည်ကိုတော့ သဘောကျသည်။ ရှေ့တန်းစစ်သတင်းများမှာ အားရစရာ ကောင်းလှသည်။ တောင်ပိုင်းသားတို့ အောင်ပွဲ ခံနေကြ၏။ သို့သော် ဘာကြောင့်မှန်းမသိ၊ ကြံကြိတ်ချိန်တွင် သူတို့ ပြန်ရောက်မလာကြပေ။ စစ်ပွဲသည် ကြာသင့်သည်ထက် ပိုကြာနေ၏။

နောက်ဆုံးတွင် မြောက်ပိုင်းတပ်များက နယူးအော်လီယန်းကို သိမ်းလိုက်ကြောင်း သတင်း ရောက်လာသည်။ စစ်သင်္ဘောတွေ ဆန်တက်လာနေပြီ ဟူသည့် သတင်းလည်း ရောက်လာ၏။ ရေကာတာ ဆောက်နေသည့် ဒယ်လ်ရှိုင်း အထက်ဘက်တွင် အလုပ်ကြပ် များ၏ စကားကို နီဂရိုးတွေ နားမထောင်တော့။ အလုပ်ခိုင်း၍ မရတော့။ တောင်ပိုင်းတပ် တွေ နယူးအော်လီယန်းကို ပြန်သိမ်းဖို့ ကြည်းကြောင်းမှ ချီသွားကြ၏။ ပြန်လန်ထွက်လာသည်။

စစ်ပွဲသည် ဝုန်းဝုန်းဒိုင်းဒိုင်းနှင့် ပြီးမသွားဘဲ ရေရှည်စစ်ပွဲ ဖြစ်လာသည်။ ယန်းကီး တို့၏ ခြိမ်းခြောက်မှုသည် တောင်ပိုင်းတခွင်လုံး ပျံ့နှံ့လျက်ရှိလေပြီ။ စစ်ထဲ မဝင်သည့် ယောက်ျားမှန်သမျှ ပေါင်မုန့်တလုံးတောင် မတန်ဟု ကိုရီမေ ထင်လာသည်။

တနေ့တွင် ကိုရီမေ ဝက်သစ်ချမြိုင်တွင် ရှိနေခိုက် စစ်နှင့် ပတ်သက်သည့် အယူ အဆတချို့ကို ကြားရသည်။ ကိုရီမေ့ အတွေးတွေ ပြောင်းပြီပြောင်းပြန် ဖြစ်ကုန်တော့၏။

ဂျယ်ရီနှင့် သူ့အပေါင်းအသင်းအချို့ နေ့လယ်စာ စားအပြီး ဧည့်ခန်းထဲတွင် ထိုင်စကားပြောနေကြ၏။ အဘွားကြီး မစ္စက်လန်းက ကိုရီမေကို ခြံထည့် ယူခိုင်းသဖြင့် ဧည့်ခန်းထဲ သွားအပို့တွင် ကြားရခြင်း ဖြစ်သည်။

ဂျယ်ရီက သူ့အမြင်ကို တင်ပြနေသည်။

"လူမည်းကျွန်တွေကို လွတ်လပ်ခွင့် ပေးထားလိုက်မယ် ဆိုရင် ဘာဖြစ်သွားမယ် ဆိုတာ ယန်းကီးတွေ တွေးမိရဲ့လား မသိဘူး။ သူတို့ဘာသာ မရပ်တည်နိုင်တဲ့၊ ကလေး တယောက်ရဲ့ အသိဉာဏ်မျိုးထက် ဘာမှ ပိုမရှိတဲ့ နီဂရိုးလေးသန်းကို သူတို့ လွှတ်ပေးမယ် တဲ့"

ဘာထရန်ဆင်ကလဲယားက ဝင်ဆွေးနွေးသည်။

"ဟုတ်တယ်၊ မြောက်ပိုင်းသားတွေဟာ နီဂရိုးတွေ ဘယ်လောက် အသိဉာဏ်နည်း တယ် ဆိုတာ မသိကြဘူး၊ ပြီးတော့..."

ရပ်နားထောင်နေ၍ မကောင်းသဖြင့် အဘွားကြီးကို ခြံထည်ပေးပြီး ကိုရီမေ ထွက်လာ ခဲ့သည်။ သူတို့ စကားဝိုင်းကို နားစွင့်လျှင် မကြိုက်မှန်း ကိုရီမေ သိသည်။

တိုင်းပြည်အတွက် ကာကွယ်နေကြသူများ၏ ရည်ရွယ်ချက်ကို ကိုရီမေ ရေးတေးတေး မြင်လာပြီး ခေါင်းထဲတွင် ချာချာလည်သွား၏။ မစ္စအန်း ဖာခိုင်းထားသည့် ခြေအိတ်ကို ဆက်ဖာနေလိုက်သည်။ မစ္စက်မိတ်လင်း အလုပ်ထွက်သွားပြီ ဖြစ်၍ အိမ်အလုပ်တွေကို ဘာသာ နှင့် နပိုလီယံတို့ တာဝန်ယူနေရ၏။ သို့သော် သူကိုယ်တိုင် မကြာမကြာ လိုက်ပါနေရသဖြင့် မစ္စအန်းနှင့် ကိုရီမေ စကားပြောခွင့် ပိုရနေသည်။

"အဲဒါပြီးရင် ကလေးအဝတ်တွေ နင်ဆက်ချုပ် သိလား ကိုရီမေ"

"ဟုတ်ကဲ့ မမ၊ ဪ... ဒါထက် မမ စိတ်မဆိုးရင် ကျွန်မ တခုမေးချင်လို့ပါ၊ ဒီစစ်ပွဲကြီးက......"

"ဘာဖြစ်လဲ ကိုရီမေ၊ စစ်ပွဲကြီး ဘာဖြစ်လဲ"

"ယန်းကီးတွေ နိုင်ရင် နီဂရိုးတွေကို ကျွန်ဘဝက လွတ်လပ်ရေး ပေးမယ် ဆိုတာ ဟုတ်သလားဟင်"

"ဟုတ်တယ်လေ၊ အဲဒါ သူတို့ရဲ့ အဓိက ရည်ရွယ်ချက်ပဲ၊ အဲဒီခြေအိတ်က သိပ် မကောင်းတော့ပါဘူး၊ လွှင့်ပစ်လိုက်ဟာ"

"ဟုတ်ကဲ့ မမ"

ကိုရီမေက အိမ်ယူပြန်ဖို့ ခြေအိတ်ကို ဘေးဖယ်ထားလိုက်သည်။

"ကျွန်ပိုင်တဲ့ လူတွေကို လျော်ကြေးပေးပြီး လွတ်မှာလား၊ ဒီအတိုင်း လွတ်ပစ်မှာ လား မမ"

"ဘယ်ပေးမှာလဲဟာ၊ ဒီအတိုင်း လွှတ်ပစ်မှာပေါ့၊ နှစ်နာရီခွဲမှာ ထမင်းသွားစား၊ အဲဒီ ကလေးအဝတ်တွေ ချုပ်ပြီးရင် နင် ပြန်တော့"

ကိုရီမေ ဘာမျှ ဆက်မမေးတော့။ အပ်ကို လက်ထဲတွင် ကိုင်ရင်း ပြတင်းပေါက် အပြင် သို့ ငေးနေ၏။ ကွင်းထဲတွင် အလုပ်လုပ်နေသော နီဂရိုးများကို လှမ်းမြင်နေရသည်။

ဝက်သစ်ချမြိုင်တွင် ရှိသည့် နီဂရိုးလူဦးရေနှင့် တန်ဖိုးကို စိတ်တွက် တွက်ကြည့်နေ၏။ အားလုံး လူမည်းကျွန် ခြောက်ရာကျော် ရှိသည်။ ပေါက်စကလေးတယောက်ကို ဒေါ်လာတရာ တန်သည်။ စိုက်ကွင်း အလုပ်သမားတယောက်၏ ဈေးက တယောက် ဒေါ်လာငါးရာမှ တထောင်အထိ တန်၏။ အသက်နှင့် ဗလကို လိုက်ပြီး ဈေးကွာသွားသည်။ ထမင်းကောင်းကောင်း ချက်နိုင်လျှင်၊ အဝတ်ကောင်းကောင်း ချုပ်နိုင်လျှင်၊ အိမ်ကို ကြီးကြပ် နိုင်လျှင် အထီးဖြစ်ဖြစ်၊ အမဖြစ်ဖြစ် ဒေါ်လာနှစ်ထောင်မှ ငါးထောင်အထိ ဈေးပေါက်၏။

ကိုရီမေ တိုးတိုးကလေး လေချွန်လိုက်မိ၏။ မစ္စတာလန်း စစ်ထွက်တိုက်သည့် ကိစ္စ ခုမှ ရှင်းတော့သည်။ ယန်းကီးတို့ကို လူချမ်းသာတွေ ကြောက်သည့်ကိစ္စ ခုမှ ပေါ်တော့၏။ ဘတ်ချ်တို့လို လူတွေက ဘာကြောင့် ယန်းကီးကို ထွက်တိုက်ရမည်လဲ၊ ဘာကြောင့် လူချမ်းသာ တွေအတွက် အသက်စွန့်ရမည်လဲ။

ဇာထိုးအပ်ကို အဝတ်စထဲ ထိုးထည့်လိုက်၏။ ဘတ်ချ်သည် လူရိုးလူဖြောင့်တယောက် ဖြစ်သည်။ အရာရာကို ဖြောင့်ဖြောင့်တွေးတတ်သူ ဖြစ်သည်။ သည်စစ်ပွဲသည် သူနှင့်ဆိုင်သည့် စစ်ပွဲ မဟုတ်ဟု စိတ်ထဲက အလိုလိုသိနေပုံရသည်။ တကယ်တုံးသည့် ငါပါလားဟု ကိုရီမေ ကြီးစွာ နောင်တရနေ၏။

မျိုးချစ်စိတ်တွေ ထိပ်တက်ပြီး စစ်ချီသီချင်းတွေတောင် ဆိုလို့၊ လဲသေဖို့ပင် ကောင်း တော့၏။ လက်သီးကို ကျစ်ကျစ်ပါအောင် ဆုပ်လိုက်သည်။ လက်ထဲက ကလေးအင်္ကျီကလေး ကြေမွသွား၏။

"ငါ ဒီမှာ ဘာလာလုပ်နေတာလဲ" ဟု ကိုယ့်ကိုယ်ကိုယ် ပြန်မေးမိ၏။ "ဒါ

ငါ့နေရာမှ မဟုတ်ဘဲ” ဟု တွေးမိလာ၏။ စင်စစ် နတ်သမီးပုံပြင်ဆန်လှသည့် သူတို့ဝန်းကျင်သည် မိမိနှင့် ဘာမျှ မဆိုင်။ သူတို့၏ ကြီးကျယ်ခမ်းနားလှသော ဘဝကို အခြောက်တိုက် အားကျနေခြင်းသာ ဖြစ်၏။ ဘယ်လိုမျှ မိမိနှင့် မပတ်သက်နိုင်သည့် ဘဝမျိုး။

အတွေ့အကြုံတွေကို ပြန်တွေးကြည့်မိ၏။ သူတို့သည် အလွန်တကိုယ်ကောင်းဆန် သူများ ဖြစ်၏။ နှုတ်ချိုသလောက် ရက်စက်သူများ ဖြစ်၏။ သူတို့ ပစ်ပေးသည့် အရိုးအရင်း ကို ကိုက်ပြီး မရေမရာ အခွင့်အရေးမျိုးကို စောင့်နေခြင်းမှာ မိမိ၏ မိုက်မဲမှုသက်သက် ဖြစ်၏။ စင်စစ် မိမိ သေသည် ဖြစ်စေ၊ ရှင်သည် ဖြစ်စေ သူတို့ ဂရုစိုက်မည် မဟုတ်။

မိမိကို မြတ်မြတ်နိုးနိုး ချစ်နေပြီး တန်ဖိုးထားသူမှာ ဘတ်ချ် ဖြစ်သည်။ ဘတ်ချ်ကို အထင်သေးခဲ့၏။ အထင်လွဲခဲ့၏။ ဝက်သစ်ချမြိုင်ကဲ့သို့ ကျွန်ပိုင်ရှင်ကြီးများအတွက် အကာ အကွယ်ပေးသည့် စစ်ပွဲတွင် မပါရကောင်းလား ဆိုပြီး စိတ်ခုခဲ့၏။ သည်လိုတွေးမိတော့ ကိုရီမေ မျက်နှာတခုလုံး ပူထူသွားသည်။

ခုတော့ ရှင်းသွားပြီ။ ဝက်သစ်ချမြိုင်နှင့် ဆက်ပြီး ပတ်သက်စရာ အကြောင်း မရှိတော့။ ဘတ်ချ်ကို လက်ထပ်ရမည်။ သူ့အလုပ်တွေ မောင်တထမ်း မယ်တရွက်ပါဝင်ရမည်။ အိမ်ပြန်ရောက်ရောက်ချင်း ဘတ်ချ်ဆီ ပြေးချသွားပြီး လက်ထပ်ပါတော့မည်ဟု ပြောရမည်။ စစ်ထဲ မလိုက်ဖို့ ကတိတောင်းရမည်။

ယန်းကီးတွေ မြန်မြန် ရောက်လာပါစေ၊ ဒါမှ နီဂရိုးတွေ လုပ်ခ ရကြမည်။ ထိုအခါ လူဖြူတွေလည်း အလုပ်ရဖို့ လမ်းပွင့်သွားမည်။ လုပ်ခ မပေးရသည့် ကျွန်တွေနှင့် ပြိုင်လုပ် စရာ မလိုတော့။ သည်နည်းဖြင့် အထက်ကို ရောက်အောင် တက်မည်။ ခရီးသာသာလမ်းကို လျှောက်လှမ်းမည်။ လူဖြူဆင်းရဲသားဘဝမှ ရုန်းထွက်မည်။

ထိုနေ့ညနေ ဝက်သစ်ချမြိုင်မှ အပြန်တွင် နေမကောင်းသဖြင့် နောက်နေ့လာနိုင်မည် မဟုတ်ကြောင်း မစ္စအန်းကို ကိုရီမေ ပြောခဲ့၏။ စင်စစ် ဝက်သစ်ချမြိုင်ကို အပြီးအပိုင် နှုတ်ဆက်ခဲ့ခြင်း ဖြစ်သည်။ တသက်လုံး သွားဖို့ စိတ်မကူးတော့။ ဆိပ်ကမ်းရပ်ကွက်ကို ပြန်ရောက်တော့ ဆူဆူညံညံအသံတွေ ကြားရသည်။ လမ်းပေါ် မှာ လူတွေ မီးပုံပွဲကျင်းပနေကြခြင်း ဖြစ်၏။ ဝက်အူချောင်းတွေ တုတ်ထိုးပြီး ကင်နေကြ၏။ ကလေးတွေပါ စစ်ချီသီချင်းတွေ အော်ဆိုနေကြ၏။ ကိုရီမေ ပြေးချသွားသည်။ လူအုပ်ကြီး၏ အလယ်တွင် ယူနီဖောင်းအသစ်နှင့် စစ်သား တချို့ တွေ့ရ၏။ ရပ်ကွက်ထဲက ကောင်ကလေးတွေ တပ်ထဲ ဝင်ကြသဖြင့် လူတွေက ကောင်းချီး ပေးနေခြင်း ဖြစ်သည်။

“တော်တော်မိုက်မဲတဲ့ ကောင်ကလေးတွေပါလား” ဟု ကိုရီမေ စိတ်ထဲက အပြစ်တင် မိ၏။ ဒေါသလည်း ထွက်နေ၏။ ကောင်မကလေးတသိုက် ပြေးလာပြီး သူ့ကို ဝိုင်းဆွဲကြ သည်။ အနားရောက်သွားတော့မှ လူသစ် စစ်သားလူအုပ်ထဲတွင် ဘတ်ချ်ပါ ပါနေကြောင်း မီးရောင်တွင် တွေ့ရသည်။

လူတယောက် ကမ်းပေးသည့် ဝက်အူချောင်းကို စားရင်း ဘတ်ချ်က ကိုရီမေကို ပြုံးပြုံးကြီး ကြည့်နေသည်။ မီးခိုးရောင်ဝတ်စုံတွင် ကြယ်သီးတွေက ဖိတ်ဖိတ်တောက်လျက်။ ဖိနပ်ကလည်း အသစ်ကျပ်ချွတ်။ ကိုရီမေကို မြင်တော့ ရှက်ကိုးရှက်ကန်း ဖြစ်သွား၏။ တပြိုင်တည်းတွင် သူ့ကိုယ်သူ ဂုဏ်ယူဝင့်ကြွားနေဟန်လည်း ပေါ်နေ၏။

ကိုရီမေက သူ့ဆီ အတင်းတိုးသွားပြီး-

“အို.. ဘတ်ချ်ရယ်၊ ဖြစ်မှ ဖြစ်ရပလေဟယ်”

ဘတ်ချ်က ရင်ဘတ်ကို ပုတ်ပြီး-

“ကဲ … ကိုရီမေ၊ ယူနီဖောင်းအသစ်နဲ့ ငါ ကြည့်လို့ မကောင်းဘူးလား”

ကိုရီမေ အသက်ရှူမြန်လာသည်။ သူ့လက်မောင်းကို ဆွဲပြီး လူအုပ်ကြီး၏ အပြင်သို့ ဆွဲခေါ်လာခဲ့၏။

“ငါပြောလို့ နင် တပ်ထဲ ဝင်တာလားဟင် ဘတ်ချ်၊ ငါ့ကြောင့် နင် မိုက်တွင်းနက်တာ လား၊ ပြောစမ်းပါ”

“အဲ.. အဲဒီလိုလည်း မဟုတ်ပါဘူးဟာ၊ ဒါပေမဲ့ နင်ပြောတာတွေကို ငါ စဉ်းစား တော့ စဉ်းစားတယ်၊ ငါနဲ့ယူပြီး နင် အရှက်ရမယ့် ကိစ္စကို ငါ သေသေချာချာ စဉ်းစားတယ်၊ တိုင်းပြည်က လိုအပ်နေချိန်မှာ စစ်ထွက်ရမယ် ဆိုတာ…”

“မဟုတ်ဘူး ဘတ်ချ်၊ ငါ အဲဒီလို မမြင်တော့ဘူး၊ ဒုက္ခပါပဲ”

ပြောပြောဆိုဆို သူ့ကို အမှောင်ရိပ်ထဲ ဆွဲခေါ်သွားသည်။ လှေကားထစ်တခုကို ခလုတ်တိုက်မိသဖြင့် သူ့ကိုပါ ဆွဲပြီး ထိုင်ချလိုက်၏။

“ငါ စိတ်ပြောင်းသွားပြီ၊ နင့်ဆီကို ငါ မနက်ဖြန် လာခဲ့တော့မလို့”

“နင် တကယ် ပြောတာလား ကိုရီမေ၊ နင် တကယ် လာမှာလား”

“တကယ်၊ နင့်ကို ငါ တကယ်ချစ်တာပါ ဘတ်ချ်၊ ငါတို့ လက်ထပ်ကြမယ်၊ ငါ

အကောင်းဆုံး အိမ်ရှင်မဖြစ်အောင် ကြိုးစားမယ်၊ နင် တပ်ထဲက ပြန်ထွက်လိုက်”

“ဟာ.. အဲဒီလိုတော့ မဖြစ်ဘူး ကိုရီမေ၊ ငါ ထွက်လို့ မရတော့ဘူး၊ သူတို့ ငါ့ကို လာခေါ်ကြတာ”

“ဘယ်သူတွေ လာခေါ်တာလဲ၊ နင် ဘာတွေ ပြောနေတာလဲ ဘတ်ချ်”

“စစ်သားစုဆောင်းရေးက စစ်ဗိုလ်တွေ၊ ဥပဒေအသစ် ပြဋ္ဌာန်းလိုက်ပြီ တဲ့၊ လူငယ် တိုင်း စစ်ထဲ ဝင်ရတော့မယ်တဲ့”

ကိုရီမေ ပါးစပ်အဟောင်းသား ဖြစ်သွားသည်။

“နင်က မဝင်ချင်ဘဲ အတင်း သူတို့ ခေါ်တာပေါ့၊ ဟုတ်လား”

“နင်ပြောတာတွေ စဉ်းစားပြီး ငါကလည်း ဝင်ချင်ချင်လေ၊ ဒါပေမဲ့ ငါ့မြေကွက် ကလေး ဒီအတိုင်း ထားခဲ့ရတော့ ငါ ငိုမိမတတ်ပဲ”

ကိုရီမေ ခပ်ဖြည်းဖြည်း ထရပ်သည်။ သူတို့ အတင်းလုပ်ကြပြီကော။ ဘတ်ချ် အရေခွံ လန်အောင် လုပ်ခဲ့ရပြီး စိမ်းလန်းနေသည့် စိုက်ခင်းတွေ ဒီအတိုင်း ထားခဲ့ရပြီ။ သည်စိုက်ခင်း တွေနှင့် သစ်လုံးအိမ်ကလေးမှ သူ့ကို အရာရှိတွေက အတင်းဆွဲခေါ်လာခဲ့ကြပြီ။

“ခွေးသူတောင်းစားတွေ”

ကိုရီမေ့ နှုတ်မှ ရင့်ရင့်သီးသီး ထွက်သွား၏။

“ဟယ်.... ကိုရီမေကလည်းကွာ၊ နင်ဟာ ယဉ်ကျေးတဲ့ မိန်းကလေးပါ၊ အဲဒီလို မပြောပါနဲ့ဟာ”

ကိုရီမေက ချာခနဲလှည့်ပြီး သူနှင့် မျက်နှာချင်း ဆိုင်လိုက်သည်။

“စိတ်ထဲ ရှိတဲ့အတိုင်း ပြောတာ၊ နင့်ကို သူတို့ အတင်းဆွဲခေါ်ပြီး သူတို့လူမည်းတွေ မဆုံးရအောင် စစ်တိုက်ခိုင်းတာ၊ ငါ အဲဒီအတိုင်း ပြောတယ်၊ အဲဒါ အမှန်တရားပဲ၊ ငါ့ကို မပြောဖို့ တားရင် တားတဲ့ လူကို ငါ ပါးရိုက်မယ်”

ပြောပြောဆိုဆို မီးပုံပွဲဆီသို့ ကိုရီမေ ပြေးချသွားသည်။ လူတွေကို အတင်းတိုးဝှေ့ ဝင်သွား၏။ သူ ဘာမျှ မမြင်တော့။ ဘယ်သူလဲလဲ၊ ဘယ်သူကွဲကွဲ ကိုရီမေ မမှုတော့။ သည်ပွဲကို ရပ်ပစ်ရမည်၊ ရပ်အောင် လုပ်ပစ်ရမည်။ ဘယ်သူ့အတွက် တိုက်နေသည့် စစ်ပွဲလဲ ဆိုတာ အားလုံး နားလည်အောင်

ကျယ်ကျယ်လောင်လောင် ပြောရမည်။

ကလေးတယောက် သေတ္တာခွံပေါ်တွင် ထိုင်ပြီး မီးပုံပွဲကို ကြည့်နေသည်။ ကလေးကို တွန်းဖယ်ပြီး သေတ္တာခွံပေါ်သို့ ကိုရီမေ တက်ရပ်လိုက်၏။ ပြီးတော့ အသံကုန် အော်ပြော တော့၏။

“တော်ကြပါတော့၊ အားလုံး ရပ်လိုက်ကြပါ၊ အသံကုန် ဖွဲအော် မနေကြပါနဲ့၊ အားလုံး အိမ်ပြန်ပြီး ကိုယ့်အလုပ် ကိုယ်လုပ်ကြပါ၊ ရှင်တို့နဲ့ ဒီစစ်ပွဲနဲ့ ဘာမှ မဆိုင်ဘူး”

အားလုံး ငြိမ်ကျသွားပြီး ပါးစပ်အဟောင်းသား ဖြစ်ကုန်၏။

“ဟော့ .. အဲဒါ ဘယ်သူလဲကွ”

“အပွဂ္ဂျန်းကြီးရဲ့ သမီးလေး မဟုတ်လား”

“သူ့အဖေက တရားဟောဆရာလေ”

“သူ့အဖေက တပ်ထဲ ပါသွားတာပဲ”

မီးပုံပွဲထဲမှ တယောက်တပေါက် ထွက်လာသံများ ဖြစ်၏။

“ဟုတ်တယ်၊ ကျွန်မအဖေ စစ်ထဲ ပါသွားတယ်၊ ဘုမသိဘမသိနဲ့ ပါသွားတာ၊ သူတို့ ကျွန်တွေ မဆုံးရအောင် လူချမ်းသာတွေအတွက် တိုက်ရတဲ့ တိုက်ပွဲမှန်း သိရင် ပါသွားမှာ မဟုတ် ဘူး၊ ကျွန်မ ပြောတာ နားထောင်ကြပါ”

အားလုံး ကြောင်ပြီး နားထောင်နေကြသည်။ သေတ္တာပေါ် တက်ရပ်နေသည့် သူ့ကို မီးပုံပွဲမှ အလင်းရောင်က မီးမောင်းထိုးပြနေဘိသို့ ရှိ၏။ ကိုရီမေသည် အမှန်တရားကို အာပေါင် အာရင်းသန်သန်နှင့် အော်ပြောနေသည်။

“ဒီစစ်ပွဲဟာ ဘယ်လိုစစ်ပွဲမျိုးလဲ ရှင်တို့ သိကြရဲ့လား၊ ရှင်တို့ မသိပါဘူး၊ အမှန် တရားကို ဘယ်သူမှ ရှင်တို့ကို ပြောမပြတော့ ဘယ်သိမလဲ၊ ယန်းကီးတွေက တောင်ပိုင်းကို စစ်တိုက်တာ ဘာအတွက်လဲ သိလား၊ လူမည်းတွေကို လွတ်လပ်ရေး ပေးဖို့ရှင့်၊ သိကြ ရဲ့လား။

လူမည်းတွေ ကျွန်ဘဝက လွတ်လပ်သွားတော့ ဘာဖြစ်လဲ၊ ရှင်တို့နဲ့ ဘာဆိုင်လဲ၊ ရှင်တို့မှာ ကျွန်တယောက် ပိုင်တဲ့လူ ရှိလို့လား၊ ဒီတော့ ကျွန်ပိုင်တဲ့ လူတွေ စစ်တိုက်ကြ ပါစေပေါ့၊ ရှင်တို့က ယူနီဖောင်းအသစ်ကလေးနဲ့

လတ်လျားလတ်လျား လုပ်ရတာကို အဟုတ်ထင်နေကြတယ် မဟုတ်လား၊ ကိုယ်နဲ့ မဆိုင်တဲ့ စစ်ပွဲကို ဘာလို့ ဝင်တိုက်ရမှာလဲ၊ မတိုက်ဘူးလို့ ရှင်တို့ ဘာကြောင့် မပြောရဲကြတာလဲ"

"ဟာ... ဒီကောင်မလေး ပြောနေတာ နိုင်ငံတော် သစ္စာဖောက်မှုပဲ" ပရိသတ်ထဲမှ ထွက်လာသည့် အသံတသံ ဖြစ်၏။ ကိုရီမေ ပြန်အော်ပြောသည်။

"ဒါ သစ္စာဖောက်မှု မဟုတ်ဘူး၊ စဉ်းစားဖို့၊ ဆင်ခြင်တုံတရားရှိဖို့ ကျွန်မ ပြောနေတာ၊ လူချမ်းသာတွေက သူတို့ ကျွန်တွေ မဆုံးရအောင် ရှင်တို့ကို အသေခံခိုင်းနေတာ၊ သူတို့ကျွန်တွေ လွတ်လပ်ခွင့် ပေးလိုက်ရရင် ရှင်တို့ကိုလည်း လုပ်ခတွေ သူတို့ ပိုပေးရတော့မယ်၊ သဘော ပေါက်ကြရဲ့လား၊ နီဂရိုးတွေကို ရှင်တို့ လွတ်လပ်စေချင်သလား၊ ရှင်တို့..."

ဗိုက်တည့်တည့်ကို ခဲတလုံး လာမှန်သည်။ ကိုရီမေ အသက်ရှူ ရပ်သွား၏။

"ဝိုင်းဆော်ကြ၊ ဒီကောင်မလေးကို ထောင်ထဲ သွင်းကြ၊ ပါးစပ်ပိတ်အောင် လုပ်ကြ" တယောက်တပေါက် ဝိုင်းအော်သံတွေ ပေါ်လာသည်။ နောက်ထပ် ခဲတလုံး လာမှန်ပြန်သည်။ ကိုရီမေ လဲကျမလို ဖြစ်သွား၏။ သို့သော် သူ အော်ပြောနေဆဲ။

"ကျွန်မ ပါးစပ် မပိတ်ဘူး၊ ကျွန်မ သိတာတွေ ဆက်ပြောမယ်..."

"နင့်ပါးစပ် ပိတ်တော့" ဟူသည့် အသံနှင့်အတူ ခေါင်းကို တုတ်နှင့် အရိုက်ခံလိုက် ရသည်။ ကိုရီမေ သေတ္တာပေါ်မှ လဲကျသွားသည်။ အော်ဖို့ ကြိုးစားသော်လည်း မျက်နှာ တည့်တည့်ကို လက်သီးတလုံး ဝင်လာသဖြင့် အသံ မထွက်နိုင်တော့။

လူအုပ်ကြီး သူ့အနား ရောက်သွားပြီး ဝိုင်းရိုက်ကြသည်။ ကိုရီမေသည် တိရစ္ဆာန် တကောင်လို ပြန်လည် တိုက်ခိုက်သည်။ အနားရောက်လာသမျှ လူတွေကို လက်သီးနှင့် ထိုးသည်။ ခြေထောက်တွေကို ပါးစပ်နှင့် ကိုက်သည်။

ဘတ်ချ်၏ အသံကို သဲ့သဲ့ကြားရ၏။

"မလုပ်နဲ့၊ သူ့ကို မထိနဲ့၊ တော်ကြတော့"

သို့သော် ဘတ်ချ်ကို လှမ်းမမြင်ရ။ ဘယ်သူ့ကိုမျှ မမြင်ရတော့။ မြေကြီးပေါ်တွင် လဲနေပြီး သူ့အပေါ်သို့ လူတွေ ဝိုင်းပြီး ထုထောင်းနေကြသည်ကိုသာ သိနေ၏။ စစ်သားတွေ၊ လူကြီး လူငယ်တွေ၊ မိန်းမတွေ။ ဆံပင်ကို ဆောင့်ဆွဲသူက ဆွဲ၊ ခေါင်းကို ရိုက်သူက ရိုက်၊ မျက်နှာတခုလုံး

သွေးခြင်းခြင်းနီနေပြီ။ တယောက်က ဝမ်းဗိုက်တည့်တည့်ကို ဆောင့်ကန် သည်။ လောကကြီး အမှောင်ကျသွားတော့၏။

သတိရလာတော့ အမှောင်ထုထဲတွင်ပင် ရှိသေး၏။ တော်ကြပါတော့၊ တော်ကြပါတော့”

ဖူးရောင်နေသော နှုတ်ခမ်းမှ အသံတိုးတိုးကလေး ထွက်လာ၏။ သို့သော် အနားတွင် ဘယ်သူမျှ မရှိတော့။ ကိုရီမေ အံ့သြသွားသည်။ နားတွေ အူနေ၏။ တကိုယ်လုံး မခံမရပ်နိုင် လောက်အောင် နာကျင်နေ၏။ မျက်လုံး ဖွင့်ကြည့်သည်၊ မရတော့။ မျက်လုံးတဝိုက် ဖူးရောင် နေပြီ။

အသံတသံ ကြားလိုက်သည်။ အဝေးကြီးမှ လာသည့် အသံဟု စိတ်ထဲ ထင်လိုက်၏။

“မိန်းကလေး၊ မင်း ဘာဖြစ်တာလဲ”

မိမိဒဏ်ရာတွေကို ကိုင်ကြည့်ပြီး မေးနေသည့် လူတယောက်၏ အသံ။ မျက်လုံးကို ကြိုးစားပြီး ဖွင့်ကြည့်လိုက်သည်။ မှန်အိမ်ကို မြေကြီးပေါ် ချပြီး ဒူးထောက်ထိုင်နေသည့် ရဲသားတယောက်။

ရဲသားက မေးသည်။

“မင်း ထနိုင်သလား ဟင်”

“ကျွန်မ မသိဘူး”

စကားပြောတော့ ပါးစပ်တခုလုံး မခံနိုင်လောက်အောင် နာကျင်နေ၏။

“လာ မင်းကို ငါ တွဲထူပေးမယ်”

“ကျေးဇူးတင်ပါတယ် မစ္စတာ”

သူက ကိုရီမေ့ ချိုင်းအောက်မှ လျှိုမပြီး ထူပေးသည်။

“ဟုတ်ပြီ၊ ဖြည်းဖြည်းထ၊ ညက ရုတ်ရုတ်သဲသဲ ဖြစ်တုန်းက မင်း ခံလိုက်ရတာ ထင်တယ်”

“ဟုတ်ပါတယ်”

နာလွန်းလို့ အော်မငိုမိအောင် သတိထားရင်း ပြန်ပြောလိုက်၏။

“မိန်းကလေးတယောက်ကို ဒါလောက် ရက်ရက်စက်စက် လုပ်တဲ့ လူတွေ၊ တရား လွန်တာပေါ့”

သူ တွဲခေါ်နေစဉ် နာလွန်းသဖြင့် တချက် အော်လိုက်မိသည်။

“အသာနေ၊ မင်း လမ်းလျှောက်လို့ မဖြစ်ဘူး၊ ဒဏ်ရာတွေ တော်တော်များတယ်၊ ဒါပေမဲ့ အရိုးတော့ ကျိုးပုံ မရဘူး၊ မင်း သိပ်မလေးပါဘူး၊ မင်းကို ငါ ချီသွားမယ်၊ စကား သိပ်မပြောနဲ့၊ မင်း ဘယ်မှာ နေလဲ”

နေရာကို ကိုရီမေ ဗလုံးဗထွေး ပြောလိုက်သည်။

## (၃)

ရဲသား တံခါးခေါက်တော့ မစ္စက်အပ္ပဂျွန်း ဖွင့်ပေးသည်။

"ဟဲ့... ဘယ်သူလဲ"

"ဒီမိန်းကလေး အဓိကရုဏ်း ဖြစ်တဲ့နေရာမှာ ဒဏ်ရာရလာလို့ပါ ခင်ဗျာ"

မစ္စက်အပ္ပဂျွန်း အလန့်တကြား အော်သည်။

"အောင်မယ်လေး လုပ်ကြပါဦး၊ ကျုပ်သမီးလေး ကိုရီမေ ဒဏ်ရာ ရလာလို့တဲ့၊ ဆရာကြီးရယ် အထဲကို သွင်းပေးပါရှင်၊ သမီးလေး ကိုရီမေ သိပ်နာနေလားဟင်"

"ဒါလောက် မဟုတ်ပါဘူး အမေ၊ ကောင်းသွားမှာပါ"

အိပ်ရာပေါ် ရောက်တော့ ကိုရီမေက အမေ စိတ်သက်သာအောင် ပြောသည်။

"ဘယ်လိုဖြစ်တာလဲ ကိုရီမေရယ်၊ ဆူဆူညံညံတွေတော့ ကြားလိုက်သား၊ ကြောက်တာ နဲ့ ထွက်မကြည့်တာ"

ရဲသားက ဝင်ရှင်းပြသည်။

"ကျွန်တော်တို့လည်း ဘာဖြစ်မှန်း သေသေချာချာ မသိလိုက်ဘူး အဒေါ်၊ တယောက် ယောက်က ဆူဆူပူပူဖြစ်အောင် လုပ်လို့ ရိုက်ကြနှက်ကြတယ် ကြားတာပဲ၊ ရဲက သတင်းကြား လို့ ရောက်လာတော့ ထိန်းမနိုင်သိမ်းမရ ဖြစ်နေပြီ၊ အရမ်းကဲနေတဲ့ လူတချို့ကိုတော့ ဆွဲထား ပြီးပြီ၊ သူတို့ ငြိမ်သွားအောင် အချုပ်ထဲ ထည့်ထားလိုက်တယ်"

ကိုရီမေ့ ဒဏ်ရာတွေကို မစ္စက်အပ္ပဂျွန်းက ဆေးကြောပေးနေစဉ် ရဲသားက ရပ်ကြည့် နေသည်။

"အောင်မယ်လေးကွယ်၊ ဒဏ်ရာတွေက မနည်းပါလား၊ သမီးကလေးကို သူတို့ ဝိုင်းရိုက်ကြတယ် ဟုတ်လား"

"ကျွန်တော် သူ့ကို အဲဒီအတိုင်း တွေ့တာပဲ အဒေါ်၊ သူ မေ့ပြီး လဲနေတာ၊ တော်တော် မိုက်ရိုင်းတဲ့ လူတွေ"

အမေနှင့် ရဲသား ပြောနေသည်ကို ကိုရီမေ မကြားတချက် ကြားတချက်။ သိပ်လည်း ဂရုမစိုက်အား။ အမေက ဒဏ်ရာတွေကို ပတ်တီးစည်းပေးနေသည်။ ပြီးတော့ ကော်ဖီတခွက် ယူလာပေး၏။ အမေက ရဲသားကိုလည်း တခွက် တိုက်၏။ သူက မီးဖိုနံဘေးမှ ခုံတခုံတွင် ထိုင်နေသည်။

"ခုလို ကူညီတာ ကျေးဇူးတင်ပါတယ် ရှင်"

ကိုရီမေက ရဲသားကို လှမ်းပြောလိုက်၏။

"ရပါတယ်ကွယ်၊ ကူညီရမှာက တို့တာဝန်ပါ၊ ဘယ်လို စဖြစ်တာလဲ၊ မင်း အစ အဆုံး မြင်ရမှာပေါ့"

အမေ နောက်ယူလာသည့် စွပ်ပြုတ်ကို သောက်ရင်း ကိုရီမေ ချီတုံချတုံ ဖြစ်နေသည်။ သူ့မေးခွန်းက မိမိအတွက် အန္တရာယ်ရှိသည်။ အမှန်အတိုင်း ပြောလိုက်လျှင် သည်ရဲ မကူညီ သည့်အပြင် မိမိကို ဖမ်းပြီး အချုပ်ထဲ ပို့လိမ့်မည်။

"ကိုရီမေ၊ ဒီဆရာ မေးတာ ဖြေလိုက်လေ"

"အင်း. . . တယောက်ယောက်က စစ်သားစုဆောင်းတဲ့ ကိစ္စကို ဝေဖန်တာက စဖြစ်ကြတာပါ"

"ဟုတ်လား၊ စစ်တိုက်ရမှာ ကြောက်တဲ့ လူတွေ ဖြစ်မှာပေါ့၊ ဒီလို လူတွေကိုတော့ ထောင်ထဲ ထည့်ရမှာပဲ၊ စစ်မှုမထမ်း မနေရ ဥပဒေကို ချိုးဖောက်တဲ့ လူတွေ"

ကိုရီမေက စွပ်ပြုတ်တဇွန်း ထပ်သောက်ရင်း မေးလိုက်သည်။

"တကယ်ပဲ လူတိုင်း စစ်တိုက်ရမှာလား ဟင်"

"ဟုတ်တယ်၊ သက်ကြီးရွယ်အိုတွေကလွဲပြီး အားလုံး စစ်ထဲ ဝင်ရမှာ၊ ပြီးတော့ နာမကျန်းဖြစ်နေတဲ့ လူတွေနဲ့ ကျွန်တွေ အများကြီးပိုင်တဲ့ လူချမ်းသာတွေ စစ်မတိုက်ရဘူး"

"ဘယ်လို ဘယ်လို၊ ကျွန်ပိုင်ရှင်ကြီးတွေ ဟုတ်လား"

"ဟုတ်တယ်၊ ဥပဒေက ကျွန်နှစ်ဆယ်နဲ့ အထက်ပိုင်တဲ့ လူချမ်းသာတွေ စစ်မှုထမ်းခွင့် လွတ်ငြိမ်းစေရမယ်လို့ ဆိုထားတယ်၊ သူတို့တွေက အိမ်မှာနေပြီး

စိုက်ပျိုးရေးကို ဆက်လုပ်ကြ ရမယ်၊ ပြီးတော့ နီဂရိုးတွေကို စောင့်ကြည့်ရမယ် တဲ့"

"ဟုတ်လား"

စွပ်ပြုတ်တခွက် ဝင်သွားတော့ ကိုရီမေ နေသာထိုင်သာ ရှိလာသည်။ ပက်လက် လှန်ပြီး အခန်းပတ်ပတ်လည်ကို ကြည့်တော့ စုတ်ပြတ်နေသည့် နံရံတွေကို မြင်ရသည်။ ဝက်သစ်ချမြိုင်မှ ငွေလက်ကိုင် တံခါးရွက်များကို ပြန်တွေးမိ၏။ ပြီးတော့ ဖန်မီးဆိုင်းကြီးများ၊ ကျောက်ဖြူသား မီးလင်းဖိုများ၊ ကြိုးကျနေသည့် လူမည်းအစေခံများ၊ ရေညှိတွေ တွဲလောင်း ကျနေသည့် ဝက်သစ်ချပင်အိုများ၊ သူတို့ စည်းစိမ်ချမ်းသာကို ကာကွယ်ဖို့ စစ်တိုက်မည် တကဲကဲ ဖြစ်နေသည့် မျက်နှာများ။

"အလို… ဘုရား… သမီးလေး သတိမေ့သွားပြန်ပြီ၊ လုပ်ပါဦး ဆရာရယ်"

"ဟုတ်ကဲ့ပါ အဒေါ်၊ ဘာမှ မဟုတ်ပါဘူး၊ သူ စကားတွေ သိပ်ပြောချင်လွန်းအား ကြီးနေတာပါ၊ မိုက်ရိုင်းလိုက်တဲ့ လူတွေဗျာ၊ မိန်းကလေးတယောက်ကို ..."

ကိုရီမေ ကယောင်ကတမ်းတွေ ပြောနေ၏။ ဘာတွေ ပြောနေမှန်း အမေကြီး မသိ။ ပတ္တရောင်ရဲက တာဝန်နှင့်မို့ ထွက်သွားသည်။ အိမ်နီးနားချင်း အမျိုးသမီးများကို မစ္စက်အပ္ပဂျွန်း အော်ခေါ်သည်။

ကိုရီမေ တညလုံး အဖျားဝင်နေသည်။ ခဏခဏ ထထိုင်ပြီး စကားပြောဖို့ ကြိုးစား၏။ မအေကြီးက အတင်းဖိထားပြီး သတိရအောင် လုပ်နေ၏။ သို့သော် ကိုရီမေသည် ကောင်းကောင်း သတိလည်မလာဘဲ အိပ်ရာကို ထုရိုက်နေ၏။ ပါးစပ်မှ ရုန့်ရင်းကြမ်းတမ်းသည့် စကားလုံးများဖြင့် ဆဲရေးတိုင်းထွာနေ၏။

သမီးကလေးကို ကြည့်ပြီး မစ္စက်အပ္ပဂျွန်း နားမလည်နိုင်အောင် ဖြစ်နေသည်။ လန်း မိသားစုကို ရည်ညွှန်းနေမှန်းသိတော့ ပိုလို့ အံ့သြရ၏။ အစ်ကိုတွေ ဆုံးလို့ အလုပ်ပေးထားသည့် ကျေးဇူးရှင်တွေကို ဘာကြောင့် ကိုရီမေ ပြစ်မှားနေခြင်းလဲ။ နောက်နှစ်ပတ်ကြာမှ ဘတ်ချ် ရောက်လာသည်။ အိမ်ရှေ့တွင် မစ္စက်အပ္ပဂျွန်းအား အမျိုးမျိုး ကြိုးစားသော်လည်း စခန်းအပြင် သို့ ထွက်ခွင့်မရကြောင်း ရှင်းပြနေသည်။ ကိုရီမေ ထိုင်ပြီး ပြတင်းပေါက်မှ လမ်းပေါ်သို့ ငေးနေစဉ် သူ ရောက်လာခြင်း ဖြစ်၏။

မစ္စက်အပ္ပဂျွန်းကို ဘတ်ချ်က ထိုညအကြောင်း ပြောပြနေ၏။

"ကိုရီမေ ဘာဖြစ်မှန်း မသိခင် ကျွန်တော်တို့ကို အတင်း စခန်းပြန်ခေါ်သွားတာ၊ အဲဒီ ရုန်းရင်းဆန်ခတ်ထဲ ပါရမလား ဆိုပြီး ကျွန်တော်တို့ကို

နေ့ရောညပါ မောင်းတော့တာပဲ အဒေါ်၊ ကိုရီမေ ကျွန်တော့်ကို နားလည်ကောင်းပါတယ်နော်”

“နားလည်ရမှာပေါ့ကွယ်၊ မင်းလာတာ ဝမ်းသာတယ်၊ သူ့ကို အားပေးလိုက်ပါဦး၊ ဖျားပြီးနောက်ပိုင်း အရမ်း စိတ်ဓာတ်ကျနေတယ်”

“ခု ဘယ့်နှယ်နေသေးလဲ အဒေါ်”

ဘတ်ချ်က ပူပူပင်ပင် မေးသည်။

“ခုတော့ သက်သာသွားပါပြီ၊ ဒါပေမဲ့ စိတ်ဓာတ်တော့ ကျနေတုန်းပဲ၊ စကားလည်း မပြောဘူး၊ ပြတင်းပေါက်နားထိုင်ပြီး အပြင်ကိုချည်း ငေးနေတော့တာပဲ၊ အာရုံပြောင်းမလား ဆိုပြီး စစ်တပ်အတွက် ခြေအိတ်ထိုးပါ ဆိုလည်း ပြောလို့ မရဘူး၊ မင်း ရောက်လာတာ ကောင်းပါတယ်”

“ကျွန်တော် ဝင်သွားလို့ ရမလားဟင်”

“သွားလေ ရပါတယ်၊ မင်းကို တွေ့ရင် သူ အားရှိလာမှာပါ”

မစ္စက်အပ္ပဂျွန်းက တံခါးဖွင့်ပေးရင်း အတွင်းဘက်ကို လှမ်းအော်ပြောသည်။

“ကိုရီမေရေ့ .. ဧည့်သည်လာတယ် ဟေ့”

ဘတ်ချ်က ဦးထုပ်ကို ချွတ်ကိုင်ပြီး အိမ်ထဲ ဝင်သွားသည်။

“ဘယ့်နှယ်နေသေးလဲ ဟင်"

ကရုဏာသံဖြင့် ဘတ်ချ် မေးသည်။ ကိုရီမေ အပြင်သို့ ဆက်ငေးနေသည်။ ဒူးပေါ်တွင် ခြုံထည် တင်လျက်။ နဖူးပေါ်တွင် ပတ်တီး မဖြေရသေး။ အတော်ကလေး ပိန်ကျသွားသည်။ မျက်လုံးတစိုက်တွင် အညိုအမည်းတွေ မပျောက်သေး။

“တော်တော် အောက်တန်းကျတဲ့ လူတွေကွာ”

ဘတ်ချ် ယူကျုံးမရ ပြောနေ၏။

“ထိုင်လေ၊ နင့်ကို တွေ့ရလို့ ငါ ဝမ်းသာတယ် ဘတ်ချ်”

ကုလားထိုင်တလုံးတွင် ဝင်ထိုင်ရင်း မလာဖြစ်သည့် အကြောင်းကို

ရှင်းပြနေ၏။

"ဟိုနေ့ညက နင့်ဆီ ငါ ဝင်ဆွဲဖို့ လုပ်သေးတယ်၊ ငါ့ခေါင်းကို တယောက်က အုတ်ခဲ နဲ့ သမလိုက်တယ်လေ၊ ငါ ခဏ မေ့သွားတယ်"

"ထားပါတော့ဟာ၊ ငါ နင့်ကို အပြစ်မတင်ပါဘူး၊ ဘယ်သူ့မှ ငါ အပြစ်မတင်ချင် တော့ဘူး"

သူ့အမေ ပြောသည့်အတိုင်း ကိုရီမေ စိတ်ခတ်ကျနေသည်ဟု ဘတ်ချ် ထင်၏။ စကားပြောတော့လည်း စိတ်ပါ လက်ပါ မရှိချေ။ ပြုစုယုယဖို့ ဘတ်ချ် အသင့်ပြင်လာ၏။ သူ့ အယူအဆတွေ မှားနေကြောင်းလည်း ဖျောင်းဖျဖို့ စိတ်ကူးလာခဲ့၏။ သို့သော် သည် အကြောင်းတွေ မစခြင်းက ပိုကောင်းမည်ဟု စဉ်းစားမိ၏။ ရယ်စရာ မောစရာတွေ ရှာကြံ ပြောရမည်။

"အေးအေးဆေးဆေးနေနော် ဘတ်ချ်၊ အဒေါ် အပြင်ကွပ်ပျစ်မှာ ထွက်ပြီး အဝတ်ဖာ လိုက်ဦးမယ်၊ အပြင်က ပိုအေးတယ်ကွဲ့"

"ဟုတ်ကဲ့ပါ အဒေါ်"

ကိုရီမေဘက် လှည့်ပြီး ဘတ်ချ် စကားစသည်။

"ငါတို့ စခန်းကို ငတိတကောင် ရောက်လာတယ် သိလား၊ ဘင်တန်ဝုဒ်တောပိုင်း ကတဲ့၊ စခန်းကို ရောက်လာတဲ့အထိ စစ်ဖြစ်နေမှန်း သူ မသိဘူး၊ စစ်သား စုဆောင်းရေး အရာရှိတွေ ခေါ်လို့ လိုက်တာတာတဲ့၊ ဘာအတွက်မှန်း သူ မသိဘူး တဲ့၊ ဘယ်မြို့ကိုမှလည်း သူ မရောက်ဖူးဘူး၊ ဘွတ်ဖိနပ်လည်း မစီးဖူးဘူး တဲ့၊ လူက ခေါင်းကြီးကြီးနဲ့၊ စာခြောက်ရုပ်လိုပဲ..."

ဘတ်ချ်က ကိုရီမေကို အကဲခတ်လိုက်သည်။ စိတ်ဝင်စားပုံရသဖြင့် အားတက်သွား၏။

"ပြီးတော့ကော၊ သူ့ကို သူတို့ ဘာလုပ်လိုက်ကြသလဲ" ဟု မေးဖော်ရသည်။

"အင်း... သိပ်ရယ်ရတယ်၊ သူက မေးတယ်၊ ခုမောင်းထုတ်ရမယ့် ယန်းကီးဆိုတာ ဘာကောင်တွေလဲတဲ့၊ သူက ယန်းကီးဆိုတာ အနောက်ပိုင်းက တိရစ္ဆာန်တမျိုး အောက်မေ့ နေတာ ဆိုပဲ"

ဘတ်ချ် ပြောရင်း ရယ်သည်။

"ဒါလောက် အ လွန်းတော့ သူ့ကို လူတွေက ပထမ မယုံကြဘူး၊ သူ့ကို သေနတ်ကိုင် ဖူးလား ဝိုင်းမေးတော့ သေနတ်ကို လမ်းလျှောက်တတ်တဲ့ အရွယ်ကတည်းက သူ ကိုင်လာတာ တဲ့၊ ဘယ်သူမှ မယုံကြဘူး။ ပြောသေးတယ်၊ တောထဲမှာ ဘာကောင်ကို ပစ်ရ ပစ်ရ တတောင့် တကောင်ပဲတဲ့။ ဒါနဲ့ ရဲဘော်တွေက ပစ်ကွင်းစက်ဝိုင်း ကတ်ပြားကလေး မလှမ်းမကမ်းမှာ သွားချိတ်ပြီး ပစ်ခိုင်းတယ်၊ သူက ဝေးနိုင်သမျှ ဝေးဝေးကို လျှောက်သွားပြီးမှ ပစ်ထည့်လိုက် တယ်၊ စက်ဝိုင်းအလယ်တည့်တည့်ကို မှန်တယ်ဗျား။

အဲဒီတော့မှ သူ့ကို ယူနီဖောင်းတွေ ဘာတွေ အပြည့်အစုံထုတ်ပြီး ဝတ်ပေးကြတယ်၊ သူ အရမ်းပျော်သွားတယ်၊ သူ လမ်းလျှောက်ပုံ နင့်ကို ငါ မြင်စေချင်တယ်၊ မြေကြီးနဲ့ ခြေထောက် လွတ်နေသလိုပဲ၊ စစ်ပွဲဆိုတာ ယူနီဖောင်းသစ်နဲ့ ကိုယ်ဟန်ပြရတဲ့ ဖက်ရှင်ပွဲ တမျိုးလို့ သူ ထင်နေတယ် ထင်ပါရဲ့၊ ရွာမှာကျန်ခဲ့တဲ့ သူ့ကောင်မလေးကို မြင်စေချင် လိုက်တာလို့ တဖွဖွ ပြောနေတယ်လေ။

ရဲဘော်တယောက်က ကင်မရာ ပါလာတယ်၊ တပုံကို လေးဆင့်နဲ့ လျှောက်ရိုက်ပေး နေတယ်၊ ကိုယ်တို့ငနဲက စိတ်ဝင်စားပေမယ့် မကပ်ရဲဘူး၊ ပေါက်ကွဲမယ့် ပစ္စည်းတခုလို့ သူ ထင်နေတယ်၊ ဘာမှ အန္တရာယ် မရှိကြောင်း အားလုံးဝိုင်းပြောမှ ရွာပြန်ပို့ဖို့ သူ ဓာတ်ပုံ အရိုက်ခံတယ်၊ ဒါပေမဲ့ ကင်မရာကို သူကြောက်နေတုန်းပဲ၊ သေနတ်ကို အဆင်သင့် လုပ်ထား တယ်၊ သေတ္တာထဲက တခုခု ထွက်လာရင် ကင်မရာသမားကို ပစ်ဖို့တဲ့"

ကိုရီမေ ရယ်သည်။ ဘတ်ချ်လည်း ပြောရကျိုးနပ်သွားသဖြင့် သဘောကျနေ၏။ ကိုရီမေ ရယ်နေရာမှ ရှိုက်ကာ ရှိုက်ကာ ငိုတော့ ဘတ်ချ် ခြေမကိုင်မိ လက်မကိုင်မိ ဖြစ်သွား၏။

" ကိုရီမေရယ် ဘာလို့ ငိုတာလဲဟာ၊ ငါ့ ကို စိတ်ဆိုးလို့လား ဟင်၊ ငါ ဘာလုပ်ပေးရ မလဲ ဟင်၊ နင့်အတွက်ဆို ငါ ဘာပဲ လုပ်ပေးရ လုပ်ပေးရပါဟာ"

မျက်တောင်များပေါ်တွင် မျက်ရည်ဥကြီးတွေ ကြွေလျက် ကိုရီမေ မော့ကြည့်သည်။

"နင် ဘာမှ လုပ်မပေးနိုင်ပါဘူး ဘတ်ချ်၊ ဘယ်သူမှလည်း လုပ်ပေးနိုင်မှာ မဟုတ်ဘူး၊ ယန်းကီးဆိုတာတောင် မကြားဖူးတဲ့ အဲဒီ သနားစရာရဲဘော်ကို သူတို့တတွေ သေအောင် ရှေ့တန်းပို့ကြမယ်၊ နင့်မြေကွက်ကလေးလည်း ဆုံးအောင် သူတို့ လုပ်ကြတယ်"

ဘတ်ချိုက ဘာမျှ နားမလည်နိုင်သလို ပြန်ပြောသည်။

"ဟာ .. ကိုရီမေကလည်းကွာ၊ စစ်ဖြစ်နေတယ်လေ၊ စစ်တိုက်ရမှာပေါ့၊ နင် ငါ့အိမ် မှာ ပြောသွားသလိုလေ"

"ရှေ့တိုး ထိုင်စမ်းပါ ဘတ်ချိုရယ်၊ ငါ နင့်ကို ရှင်းပြမယ်"

"အေး ပြော"

ကုလားထိုင် ဆွဲပြီး ဘတ်ချို ရှေ့တိုးထိုင်သည်။

"ငါ အရိုက်ခံရတဲ့ ညကတည်းက နင့်ကို အားလုံး ပြောပြချင်နေတာ၊ ဒါပေမဲ့ အဲဒီညက လူတွေကို ချက်ချင်း နားလည်အောင် ငါ မရှင်းပြနိုင်ခဲ့ဘူး၊ အဲဒါ ငါ့အမှားပဲ။ ငါက စကားလည်း သိပ်မပြောတတ်ဘူးလေ၊ ရေလည်အောင် ပြောနိုင်ရင် သူတို့ သဘောပေါက်ကြမှာ"

သူ မျက်ရည် မကျတော့၊ အေးအေးဆေးဆေး ပြောနေ၏။

"နင် ငါ့အတွက်ဆို ဘာပဲ လုပ်ပေးရ လုပ်ပေးရလို့ ပြောတယ်နော်"

"ဟုတ်တယ်လေ၊ နင့်ကို ငါ ဘယ်လောက် ချစ်သလဲ၊ နင် မသိဘူးလား ကိုရီမေ" သူ့လက်ကို ကိုရီမေ လှမ်းဆုပ်လိုက်သည်။

"နင် အဲဒီ ယူနီဖောင်းကို ချွတ်လိုက်၊ ပြီးတော့ နင့်နဲ့ ငါနဲ့ အဝေးကြီးကို ထွက်ပြေးကြမယ်"

ဘတ်ချို လန့်သွားသည်။ သူ့နားကို သူ မယုံနိုင်အောင် ဖြစ်သွားသည်။

"ငါ ... ငါ ... တပ်ပြေး၊ တပ်ပြေး ..."

"ဟုတ်တယ်၊ နင် တပ်ပြေး ဖြစ်ရမယ်"

ဘတ်ချို ပါးစပ်အဟောင်းသား ဖြစ်သွား၏။

"နင်ပြောတာ ဘယ်လောက် အန္တရာယ်ကြီးလဲ၊ နင်သိလား ကိုရီမေ"

"ငါသိတယ်၊ အဲဒီကိစ္စ ငါ တချိန်လုံး စဉ်းစားနေတာ၊ ဒီတိုင်းပြည်မှာ နင်တို့၊ ငါတို့လို လူတွေအတွက် နေရာမရှိဘူး၊ တို့အတွက် ဘယ်သူမှ မစဉ်းစားကြဘူး၊ ဒီတော့ ငါ ထွက်ပြေးမယ်၊ မြစ်အနောက်ဘက်ကို ပြေးမယ်၊ အဲဒီမှာ အားလုံးကို

ချမ်းသာတဲ့ လူတွေ မပိုင်ဘူး၊ လူတွေကို ပိုးဟပ်တွေလို မဆက်ဆံဘူး၊ နင် ငါနဲ့လိုက်မယ် မဟုတ်လားဟင်၊ ဟိုရောက်ရင် တို့ လက်ထပ်ကြတာပေါ့၊ နင် မလိုက်လည်း ငါတယောက်တည်း သွားဖို့ ဆုံးဖြတ်ပြီးပြီ”

ဘာမျှ မပြောနိုင်ဘဲ ဘတ်ချ် ပါးစပ်အဟောင်းသား ဖြစ်နေ၏။ အတန်ကြာမှ ဖြည်းဖြည်း ပြောသည်။

“ငါတော့ သစ္စာဖောက် ဖြစ်တော့မှာပဲ”

“ဘယ်သူ့ကို သစ္စာဖောက်ရမှာလဲ၊ လူချမ်းသာတွေက ဘင်ခရာတွေနဲ့ စစ်ချီသီချင်း တွေ တီးပြီး နင်တို့ကို သွေးကြွအောင် မြှောက်ပေးတာ၊ ဘာအတွက် စစ်တိုက်ရတယ် ဆိုတာ နင်တို့ မစဉ်းစားမိအောင် တမင်လုပ်တာ”

ကိုရီမေက ခြုံထည်ကို ဒူးပေါ်မှ ဖယ်လိုက်ပြီး ထရပ်သည်။

“ဒီမယ် ဘတ်ချ်၊ နင်တို့ ဘာအတွက် စစ်တိုက်တာလဲ သိလား”

“တိုင်းပြည်အတွက်ပေါ့ဟ၊ တပ်ထဲက ထွက်ပြေးရအောင် နင်က ငါ့ကို သူရဲဘော ကြောင်တဲ့ ကောင် ထင်နေလို့လား”

“ဘယ်သူ့တိုင်းပြည်လဲ၊ တောင်ပိုင်းဟာ နင့်တိုင်းပြည် မဟုတ်ဘူး၊ လန်းမိသားစုရဲ့ တိုင်းပြည်၊ ရှာရမီ၊ ပါစယ်၊ ဆင်ကလဲယား၊ ဂျူဟန်မိသားစုရဲ့ တိုင်းပြည်၊ နင့်တိုင်းပြည်လို့ နင် ထင်နေသလား၊ ရယ်ဖို့ ကောင်းလိုက်တာ။ အေးလေ. . . နင့်အပြစ် မဟုတ်ပါဘူး၊ နင့်ကို ဘယ်သူမှ ပြောမပြတော့ နင် ဘယ်သိမလဲ”

“နင် ပြောတာ ငါ မယုံဘူး”

“အို... နင် ယုံရမယ်”

ကိုရီမေက သူ့ လက်မောင်းကို လှမ်းဆွဲပြီး ဆက်ပြောသည်။

“ဒီမယ် ဘတ်ချ်၊ ယန်းကီးတွေရန်က တိုင်းပြည်ကို ကာကွယ်ရမယ်လို့ နင်တို့ကို သူတို့ ပြောတယ် မဟုတ်လား၊ ဒါပေမဲ့ ယန်းကီးတွေ ရောက်လာရင် ဘာလုပ်မယ် ဆိုတာ နင် မသိဘူး မဟုတ်လား၊ ယန်းကီးတွေက နီဂရိုးတွေကို လွတ်လပ်ရေး ပေးမှာတဲ့၊ အဲဒီအခါမှာ နင်တို့လိုလူတွေကို သူတို့ ပိုက်ဆံပိုပေးရမှာ သိလား၊ သူတို့ အလကားခိုင်းရမယ့် ကျွန်တွေ မရှိတော့ဘူးလေ

“နီဂရိုးတွေကို လွှတ်ပေးမယ် ဟုတ်လား၊ နင့် ဘယ်သူ ပြောလဲ”

“သူတို့ ဝက်သစ်ချမြိုင်မှာ ပြောနေတာ ငါ ကြားတာ၊ နင်တို့ကို စစ်တိုက်ခိုင်းမယ်၊ ယန်းကီးတွေကို နိုင်မှ ကျွန်တွေကို သူတို့ ဆက်ထားလို့ ရမှာ”

“နီဂရိုးတွေကို ဘာလို့ လွတ်လပ်ရေး ပေးရမှာလဲ၊ လူဖြူတွေလို လုပ်ခနဲ့ အလုပ်လုပ် ရအောင် သူတို့က သခင်တွေကို မျက်နှာလိုအားရ အလုပ်မျိုးကလွဲပြီး ဘာလုပ်တတ်လို့လဲ”

“သူတို့ ခု အဲဒီအလုပ်မျိုးတောင် မလုပ်ကြတော့ဘူး၊ ဝက်သစ်ချမြိုင်မှာ သူတို့က ငါ့ကို နှုတ်တောင် မဆက်ကြတော့ဘူး၊ နောက်တခု နင့်ကို ငါ ပြောစရာ ရှိသေးတယ်၊ သူတို့ဟာ ကျွန်တွေကို ပိုက်ဆံပေးဝယ်ထားရလို့ သူတို့မှာ ပိုင်ဆိုင်ခွင့် ရှိချင်ရှိလိမ့်မယ်၊ ကျွန်ပိုင်တဲ့ လူဟာ စစ်မှုထမ်းခွင့်က ကင်းလွတ်ခွင့်ရတယ်လို့ ဥပဒေပြဋ္ဌာန်းထားတယ်တဲ့၊ မစ္စတာလန်းက သူ့သဘောနဲ့သူ တပ်ထဲ ဝင်တာ၊ ဒါပေမဲ့ နင့်ကျတော့ ဆင်းရဲလို့၊ ကျွန် မပိုင်လို့ တပ်ထဲ အတင်းဆွဲသွင်းခံရတာ”

ဘတ်ချ်သည် ခပ်ရေးရေး မြင်လာသလို ရှိသော်လည်း ကိုရီမေ ပြောသည်ကို ယုံရ ခက်ခက် ဖြစ်နေ၏။

“နင့်ကို အဲဒါတွေ ဘယ်သူ ပြောတာလဲ ကိုရီမေ”

“ရဲသားတယောက် ပြောတာ၊ ရဲတွေဟာ ဥပဒေကို သိကြတယ် မဟုတ်လား၊ နင်သာ ကျွန်နှစ်ဆယ်ပိုင်ရင် ဘယ်သူမှ နင့်ကို တပ်ထဲ အတင်းမဝင်ခိုင်းနိုင်ဘူး”

“ငါ ကြားဖူးသမျှထဲမှာ အဲဒါအဓိပ္ပာယ်မရှိဆုံးပဲ ကိုရီမေ၊ နင် စဉ်းစားကြည့်လေ၊ ငါ ကျောရိုးကျိုးမတတ် အလုပ်လုပ်ခဲ့ရတယ်”

သူ တွေပြီး စဉ်းစားနေသည်။ ပြီးမှ စကားဆက်၏။

“နင် ပြောသလိုဆို ငါ့မှာ ကျွန်ပိုင်ရှိရင် ငါ့ဘာသာငါ အိမ်မှာ အရက်သောက်နေလည်း စစ်မှုထမ်းခွင့်က ကင်းလွတ်မယ်ပေါ့”

“သိပ်ဟုတ်တာပေါ့”

ဘတ်ချ်က ထပြီး ကုလားထိုင်ကို ခြေထောက်နှင့် ကန်လိုက်သည်။ ပြီးတော့မှ ပြန်ဆွဲထိုင်ကာ ခေါင်းငိုက်စိုက်ချထား၏။ ကိုရီမေက သူ့ကို ထိုင်ကြည့်နေသည်။ စိတ်လိုက်မာန်ပါ ပြောပြီး အားကုန်သလို ဖြစ်သွား၏။ အတန်ကြာမှ ဘတ်ချ် စကားပြန်စသည်။

“ထွက်ပြေးတာတော့ ဟုတ်ပါပြီ၊ နင့်အမေကို ဘယ်လို လုပ်ထားခဲ့မလဲ”

“အဖေ့လခတဝက် မှန်မှန် ရနေတာပဲ”

နောက်တခါ ငြိမ်သွားကြပြန်သည်။ လမ်းပေါ်တွင် ကလေးတသိုက် ကြောင်တကောင်ကို လိုက်ဖမ်းနေသည်။ ဆူညံနေ၏။ ဘတ်ချ် ရုတ်တရက် ထရပ်လိုက်သည်။

“မတရားဘူး၊ လုံးဝ မတရားဘူး၊ ငါ ဆင်းရဲတာနဲ့ ငါ့မြေကွက်ကလေးကို ထားခဲ့ပြီး တပ်ထဲ ဝင်ခဲ့ရတယ်။ ကဲ… နင် ဘယ်ဘက် ပြေးမယ် စိတ်ကူးလဲ”

“ငါလည်း သိပ်တော့ မသိဘူး၊ တို့ အထက်ဘက်က ရေကာတာဆီကို သွားမယ်၊ အဲဒီမှာ အနောက်ဘက်သွားတဲ့ ကူးတို့လှေကပ်တယ်၊ အနောက်ဘက်ကမ်း ရောက်သွားရင် ပြီးပြီ၊ နင့်ကို ဘယ်သူမှ မသိတော့ဘူး၊ အဲဒီမှာ တို့နှစ်ယောက် ဘယ်သွားသွား ရပြီ”

“ငါ စာဖတ်တတ်ရင် သိပ်ကောင်းမှာ၊ မြေပုံတပုံရအောင် ရှာမယ်လေ”

“မြေပုံမလိုပါဘူးဟာ၊ ဘယ်သွားသွား ဘယ်ရောက်ရောက် ဒီနေရာထက်တော့ ပိုကောင်းမှာချည်းပဲ၊ နင် ငါနဲ့လိုက်ဖို့ စိတ်ဆုံးဖြတ်ပြီးပြီလား ဟင်”

“ဆုံးတော့ မဆုံးဖြတ်ရသေးဘူး၊ တပ်ထဲက ထွက်ပြေးဖို့ ဆိုတာ သိပ်လွယ်တဲ့ ကိစ္စ မဟုတ်ဘူး ကိုရီမေ၊ သိပ် အန္တရာယ်များတယ်”

သူက လက်သီးကို ကျစ်ကျစ်ပါအောင် ဆုပ်ပြီး ဆက်ပြောသည်။

“ဒါပေမဲ့ ငါ သဘောပေါက်လာပြီ၊ ငါ့ကိုသာ ချမ်းသာဖို့ သူတို့ အခွင့်အရေး ပေးရင် ငါ ဒီဘဝ ရောက်မှာ မဟုတ်ဘူး”

“သူတို့ ဘယ်တော့မှ နင့်ကို အဲဒီအခွင့်အရေးမျိုး ပေးမှာ မဟုတ်ဘူး၊ နောက်တခု ရှိသေးတယ်၊ နင် သတိမထားမိဘူးလား၊ သူတို့ နီဂရိုးတွေကို တယောက်မှ စစ်ထဲမထည့်ဘူး၊ ဘာလို့လဲ သိလား၊ ကျွန်က နင်တို့ထက် ဈေးကောင်းတာကိုး၊ နီဂရိုးတယောက် ထုတ်ရောင်း ရင် ပိုက်ဆံတွေ အများကြီးရတယ်၊ နင်က တလမှ ဆယ့်သုံးဒေါ်လာပဲ တန်တာ”

“ငါ သွားမယ် ကိုရီမေ၊ အချိန်စေ့တော့မယ်”

"နင် ငါ့ဆီ လာဦးမှာ မဟုတ်လား"

"လာမှာပေါ့ ကိုရီမေရယ်၊ အပြင်ထွက်ခွင့် ရရင်ချင်း ငါ ပြေးလာမှာပေါ့"

ကိုရီမေက တည်ငြိမ်သည့် အသံဖြင့် ပြောသည်။

"မြန်လေ ကောင်းလေပဲနော်၊ ငါ့ခြေထောက် ကောင်းသွားတာနဲ့ ငါ ဒီကနေ လစ်မှာ"

"သိပ် မလောပါနဲ့ဟာ၊ ငါ သွားမယ်နော်"

"ဂွတ်ဘိုင် ဘတ်ချ်"

ဘတ်ချ်က ကိုရီမေကို သိုင်းဖက်လိုက်သည်။ ကိုရီမေက သူ့ရင်ဘတ်နဲ့ မျက်နှာအပ် ထားလိုက်၏။

"ငါ နင့်ကို တကယ်ချစ်တယ် ဘတ်ချ်၊ ပြေးဖို့ ကြိုးစားနော်၊ သူတို့ နင့်ကို လုပ်တာ ငါ မကြည့်ရက်ဘူး"

ဘတ်ချ်က ငုံ့နမ်းပြီး နှုတ်မဆက်တော့ဘဲ လှည့်ထွက်သွားသည်။

# (၄)

နောက် ဆယ်ရက်လုံးလုံး ဘတ်ချ်ထံမှ သတင်း မကြားရ၊ လူလည်း ပေါ်မလာ။ တညနေခင်းတွင် တံခါးမခေါက်ဘဲ ဝုန်းခနဲတွန်းဝင်ပြီး သူ ရောက်လာသည်။ အမေ အိမ်မှာ မရှိ။ ကိုရီမေ ဝမ်းသာအားရ သူ့ကို ထပြီး ကြိုသည်။

ဘတ်ချ်က အတောင့်သားရပ်ပြီး အိမ်ထဲကို ကျီးကန်းတောင်းမှောက် ကြည့်သည်။

"နင့်အမေကော"

"မစ္စက်ဂရမ်းဘရဲလ်အိမ် သွားတယ်၊ အဘိုးကြီး ဆုံးပြီးကတည်းက သူတို့ ဒုက္ခရောက် နေကြတာလေ၊ ထိုင်လေ... ငါ ကော်ဖီ ဖျော်လိုက်မယ်"

"ကော်ဖီ မသောက်ပါဘူး"

အိမ်ထဲကို ကြိုကြိုကြားကြားမကျန် သူ ထပ်ကြည့်သည်။ ကိုရီမေ့လက်ကို တင်းတင်း ဆုပ်ကာ အသံကို နှိမ့်လျက်...

"ငါ ထွက်ပြေးလာခဲ့ပြီ ကိုရီမေ"

ကိုရီမေက ထခုန်ပြီး-

"နင် တကယ်ပြောတာလား ဘတ်ချ်"

"တကယ်၊ နင်ပြောတာတွေ ဟုတ်တယ် ဆိုတာ ငါ သိလာတယ်၊ နေ့တိုင်း နေ့တိုင်း ငါ့လိုငတုံးတွေ အများကြီး ထပ်ထပ်ရောက်လာတယ်၊ ဘာမှန်းမသိဘဲ စစ်ထဲ ဝင်ခဲ့ရတဲ့ လူငယ် တွေ၊ သူတို့လုပ်တာ လုံးဝ လူမဆန်ဘူး၊ အနောက်ဘက်ကမ်းကို တို့ ဒီည အရောက် ကူးမယ်"

ကိုရီမေ ရင်တွေ တဒိန်းဒိန်း ခုန်လာသည်။

"ဟုတ်ပြီ၊ ငါတို့ အတူတူသွားမယ်"

"ငါတို့ လုပ်တာ အဓိပ္ပာယ်ရှိပါ့မလား ဟင်"

"သိပ်ရှိတာပေါ့၊ နင့်အတွက် ငါ ဂုဏ်ယူတယ် ဘတ်ချ်၊ နင်က သိပ်သတ္တိကောင်း တာပဲ"

"နင် တကယ်ပြောတာလား ဟင်"

"တကယ်ပေါ့"

ကိုရီမေက သူ့ကို သိုင်းဖက်ပြီး နမ်းလိုက်သည်။ ဘတ်ချ်က ညင်ညင်သာသာ ပြန်ဖက် ထား၏။

"ကိုရီမေ၊ နင် သတ္တိတော့ ရှိရမယ်နော်၊ အခက်အခဲတွေ အများကြီး တွေ့နိုင်တယ်"

"အခက်အခဲပေါင်းများစွာ ငါ ဖြတ်ကျော်ခဲ့ပြီးပါပြီဟာ"

ကိုရီမေက ဘတ်ချ်ကို လက်မောင်းဆွဲပြီး ကုလားထိုင်တွင် ထိုင်ခိုင်းသည်။

"ကဲ... ထိုင်... ငါ့ကို ပြောပါဦး၊ နင် ဘယ်လို ထွက်ပြေးလာတာလဲ"

"ငါ အပြင်ထွက်ခွင့် ရတယ်လေ၊ ခြောက်နာရီမှာ ပြန်ဝင်ရမယ်"

နှစ်ယောက်သား ခေါင်းချင်းဆိုင်ပြီး တိုင်ပင်ကြသည်။ ဘတ်ချ်က ဝါဂွမ်းဂိုဒေါင်ထဲတွင် မှောင်သည်အထိ ပုန်းနေမည်။ ကိုရီမေ ရောက်လာလျှင် မြို့အထက်ပိုင်းက ရေကာတာဆီကို သွားပြီး မီရာကူးတို့လှေဖြင့် အနောက်ဘက်ကမ်းကို ကူးမည်။

သူတို့နှစ်ယောက်စလုံး အနောက်ဘက်ကမ်းကို မရောက်ဖူးကြ။ ကိစ္စမရှိ၊ ဟိုရောက် လျှင် သူတို့ကို သိသူ တယောက်မျှ မရှိနိုင်။ ကိုရီမေက သူဝတ်ဖို့ အဖေ့လောင်းကုတ် အင်္ကျီကြီးနှင့် လင်မဲ့အဝတ်တစုံ ယူလာခဲ့မည်ဟု ပြောသည်။

သူ ပိုင်ပိုင်နိုင်နိုင် ဆုံးဖြတ်ထားပုံ တွေ့ရတော့ ကိုရီမေ အံ့ဩနေ၏။ မိမိထက်ပင် သတ္တိကောင်းနေ၏၊ တည်ငြိမ်နေ၏။ လမ်းတွင် စားစရာနှင့် စုဘူးကလေးပါ ယူခဲ့မည်ဟု ကိုရီမေက အားတက်သရော ပြောသည်။

"နင် မကြောက်ပါဘူးနော် ကိုရီမေ"

ကိုရီမေ ခေါင်းယမ်းသည်။

"နင်ဟာ ယောကျ်ားတွေထက်တောင် သတ္တိကောင်းသေးတယ်၊ ဟိုဘက်ကမ်း

ရောက်ရင် ငါ ဘုရားမှာ ညတိုင်း ဆုတောင်းမယ်၊ နင့်ကို ငါ ကောင်းကောင်းမွန်မွန် အဆင့် အတန်းမီမီ ထားနိုင်ပါစေလို့။ အလုပ်လည်း မနားမနေ ကြိုးစားပြီး လုပ်မယ်၊ အိမ်မှာ ကော်ဇော ခင်းနိုင်ရမယ်၊ နင့်အတွက် သိုးမွေးခြုံထည် ဝယ်ပေးနိုင်ရမယ်၊ မီးလင်းဖို ကောင်းကောင်းနဲ့ အိမ်မျိုးမှာ နေနိုင်ရမယ်”

“ငါ အဲဒါတွေကို မက်မောပါတယ်၊ ဒါပေမဲ့ တို့နှစ်ယောက် ချစ်နေရရင် အဲဒါတွေ မလိုပါဘူး ဘတ်ချ်”

ချစ်သူ၏ နဖူးပေါ်တွင် ကျနေသည့် ဆံပင်တွေကို ကိုရီမေက သပ်တင်ပေးသည်။

“ကဲ... နင် သွားတော့၊ မှောင်တာနဲ့ ငါ ထွက်ခဲ့မယ်”

ဘတ်ချ် ပြုံးသည်။

“မနက်ဆို တို့ အနောက်ဘက်ကမ်း ရောက်နေပြီပေါ့နော်”

ဘတ်ချ်က ယုံယုံကြည်ကြည်ပြောရင်း အနမ်းဖြင့် နှုတ်ဆက်ပြီး ထွက်သွားသည်။

ဘတ်ချ် ပြန်သွားတော့ ကိုရီမေ တယောက်တည်း ကတုန်ကယင်ဖြစ် ကျန်ရစ်၏။ တွေးကြည့်တော့ ထိတ်လန့်စရာတွေ မြင်လာသည်။ သဲကန္တာရတွေ ဖြတ်ရလျှင်၊ အစာရေစာ ပြတ်လျှင်၊ အင်ဒီယန်တွေနှင့် တွေ့လျှင်။ အနောက်ဆိုသည့် အရပ်သည် ဘယ်က စ၍ ဘယ်မှာ ဆုံးသည်ကို မသိ။ ဘယ်နေရာတွင် တောတွေရှိပြီး ဘယ်နေရာတွင် မြစ်တွေ ရှိမှန်းမသိ။ မည်သို့ရှိစေ ရောက်အောင် သွားမည်။ သဲကန္တာရတွေဆီ အထိတော့ မရောက်တန်ရာ။ အနောက်ပိုင်းတွင် ယာတောတွေ ရှိသည်၊ ရွာတွေ ရှိသည်။ အနောက်ပိုင်းကို ထွက်သွားသည့် တောင်ပိုင်းသားတွေ ရှိသည်။ ဘာကြောင့် မိမိနှင့် ဘတ်ချ် မရောက်နိုင်ရမည်လဲ။ ဘတ်ချ်အတွက် အဝတ်အစားတွေကို ထုပ်သည်။ ပြီးတော့ ဘူးခွံတခုထဲတွင် ပေါင်မုန့်၊ ထောပတ်နှင့် အသားများ ထည့်သည်။ အားလုံး အသင့်လုပ်ပြီးတော့ ထိုင်စောင့်နေ၏။ အမေ့ အကြောင်း စဉ်းစားမိတော့ စိတ်မကောင်း။ စင်စစ် အမေ့ကို တယောက်တည်း ထားမသွားသင့်။ မိမိတဦးတည်းက လွဲပြီး အမေ့ တွင် ဘယ်သားသမီးမျှ မရှိတော့။ သို့သော် အမေသည် အဖေ့လခနှင့် ရပ်တည်နိုင်လိမ့်မည်။

ဘယ်သူနှင့်မျှလည်း မတိုင်ပင်ရဲ။ အမေ့အတွက် စာတစောင်တော့ ရေးထားခဲ့ရမည်။ အဖေ သင်ပေးထားလို့ အသံထွက် တချို့ကိုတော့

စာလုံးကြီးများဖြင့် ရေးတတ်သည်။

သို့သော် ရေးစရာစာရွက်ဟူ၍ အိမ်တွင် တရွက်တလေမျှ မရှိ။ နောက်မှ ကုန်ထုပ် စက္ကူတရွက် သွားတွေ့သည်။

အမေ

ကျွန်မအတွက် ဘာမှ မပူနဲ့

ကိုရီမေ

စာရွက်ကို အိပ်ရာပေါ်တွင် တင်ထားလိုက်၏။ မသွားခင် ဗိုက်ကို ဖြည့်သွားရမည်ဟု စိတ်ကူးထားသော်လည်း စားလို့ မရ။ လုံးဝ မဆာ။

အမေ ပြန်ရောက်လာပြီး မစ္စက်ဂရမ်းဘရဲလ် အိမ်အကြောင်းတွေ အကြာကြီး ပြော နေ၏။ ညစာ စားပြီးတော့ အမေက အဝတ်ထိုင်ချုပ်နေပြန်၏။ ကိုရီမေ ရင်တွေ ခုန်သည် ထက် ခုန်လာ၏။

အမေသည် တော်တော်နှင့် အိပ်ရာမဝင်ဘဲ တောက်တိုမည်ရတွေ လျှောက်လုပ်နေ၏။ နောက်ဆုံးတွင်မှ အိပ်ရာဝင်သည်။ ကိုရီမေသည်လည်း အိပ်ရာဝင်ဟန်ဆောင်ရ၏။ တကိုယ် လုံး ချွေးတွေ ရွှဲနေ၏။ အမေ နှစ်နှစ်ခြိုက်ခြိုက် အိပ်ပျော်သည့် အချိန်ကို စောင့်ရသည်ကို တကမ္ဘာလောက် ကြာသည် ထင်၏။ နောက်ဆုံး အမေ့ဟောက်သံကြားမှ စာကို မီးဖိုပေါ်တွင် တင်သည်။ အမေ မနက်အစောကြီး တွေ့စေချင်သောကြောင့် ဖြစ်၏။

အမေနှင့် ပြန်မှ တွေ့နိုင်ပါတော့မည်လား။ သည်ကိစ္စကို ခေါင်းထဲက ဖယ်ထား ဦးမည်။ ဘတ်ချ်ကို မြို့ပြင်သို့ ရောက်အောင် ထုတ်ဖို့က ပိုအရေးကြီးသည်။

အိမ်မှ အသာကလေး လစ်ထွက်ခဲ့၏။ အထုပ်တွေ ပိုက်လျက်၊ လမ်းတွေမှာ မှောင်မည်း နေ၍ ကိုရီမေကို ဘယ်သူမျှ မမြင်။ ဘတ်ချ် ပုန်းနေသည့် ဝါဂွမ်းဂိုဒေါင်ဆီသို့ မှန်းပြီး သုတ်ခြေတင် သွား၏။

မှောင်နှင့်မည်းမည်းထဲတွင် ဘတ်ချ်ကို ကိုရီမေ ရှာသည်။ အမှောင်ထဲတွင် တလှမ်းချင်း တရွေ့ရွေ့လျှောက်ပြီး ဂိုဒေါင်ထဲ ဝင်၏။ လှုပ်ရှားသံတခု ကြားလိုက်သဖြင့် ရပ်လိုက်၏။ တိုးတိုးကလေး ခေါ်ကြည့်သည်။

"ဘတ်ချ်"

"ရှူး"

ဘတ်ချ် ချက်ချင်း ပြန်ထူး၏။ ပြီးတော့ လေသံဖြင့် . . .

"ငါ ဒီမှာ၊ နင် အဆင်ပြေရဲ့လား"

"ပြေပါတယ်၊ ရော့"

အမှောင်ထဲတွင် မျက်စိကျင့်သားရသွားတော့ သူ့ကို ရေးရေးမြင်ရသည်။ သူ့အနား တွင် ဒူးထောက်ထိုင်ချပြီး ကုတ်အင်္ကျီရှည်ကြီးနှင့် အဝတ်ဟောင်းတစုံပေးသည်။

"ရော့ ... ဒါတွေ ဝတ်လိုက်"

သူ ဝတ်နေတုန်း ကိုရီမေက အပြင်ဘက်ကို ဂရုစိုက်ပြီး ကြည့်သည်။ ဘာမျှ ထူးခြား မှု မရှိ၊ ပကတိ မှောင်မည်း တိတ်ဆိတ်နေ၏။ ဘတ်ချ်က အဝတ်တွေ ဝတ်ပြီးသည်နှင့် "ငါတော့ အသင့်ပဲ" ဟု ပြောသည်။

ဂိုဒေါင်ကြီးဘေးမှ ကပ်ပြီး ထွက်လာခဲ့ကြ၏။ ဘတ်ချ်က တိုးတိုးကပ်ပြောသည်။

"ဆိပ်ကမ်းဘက်ကို မသွားနဲ့၊ နောက်ဖေးလမ်းကြားက သွားမယ်"

တလမ်းဝင် တလမ်းထွက်နှင့် စမ်းတဝါးဝါး လျှောက်ခဲ့ကြသည်။ ကြွက်တွင်းတွေ ထဲ နင်းမိပြီး ကိုရီမေ နှစ်ခါလောက် လဲကျမလို ဖြစ်သွားသေးသည်။ လူတယောက်စ၊ နှစ်ယောက်စ တွေ့သည်။ သူတို့ကို လုံးဝ ဂရုမစိုက်။

"မြို့စွန် ရောက်လာပြီ၊ ကမ်းနားလမ်းအတိုင်း လျှောက်ရင် ကောင်းမယ်"

ကိုရီမေက အကြံပေးသည်။

"အေး... ကောင်းတယ်၊ ဘယ်အချိန်လောက် ရှိပြီလဲ မသိဘူး"

"သန်းခေါင်လောက် ရှိရောပေါ့"

"ပင်ပန်းနေပြီလား"

"ဟင့်အင်း၊ မပင်ပန်းပါဘူး"

ကိုရီမေ ဒူးတွေတော့ ညောင်းစပြုနေပြီ။ ဘတ်ချ်က ကိုရီမေ လက်ကိုဆွဲကာ

ဝက်သစ်ချ ပင်တန်းများအောက်မှ ကွင်းကို ဖြတ်လျက် မြစ်ဘက်သို့ လျှောက်လာခဲ့သည်။

သည်အချိန်ကြီးတွင် ကမ်းနားလမ်းတလျှောက် ရထားတွေ သွားလာနေသဖြင့် ကိုရီမေ အံ့သြနေမိ၏။ အချို့ အမျိုးသားများက မြင်းစီးရင်း သီချင်းတွေ ဆိုလျက်။ အချို့ ရထားများ ပေါ်တွင် လူတွေ အများကြီး ပါလာ၏။

ညစာစားပွဲမှ ပြန်လာကြပုံရ၏။ ကမ်းနားလမ်းပေါ်မှ အချို့ အိမ်ကြီးများ မအိပ်ကြ သေး။ ပြတင်းပေါက်တွေ ဖွင့်ကာ မီးတွေ ထိန်ထိန်လင်းလျက်။ ဖယောင်းတိုင်တွေကို ကိုရီမေ နှမြောနေ၏။

နောက်ထပ် မြင်းခွာသံတွေ ကြားသဖြင့် ဘတ်ချ်က ကိုရီမေ့ကို ဆွဲကာ သစ်ပင်တပင် တွင် ကပ်နေလိုက်သည်။ ရထား လေးငါးစီး တဆက်တည်း မောင်းလာ၏။

ရထားပေါ် ပါလာသူတွေက ပတ်ဝန်းကျင်ကို လုံးဝဂရုမစိုက်ကြ။ ရထားတစီးနှင့်တစီး ပြတင်းပေါက်မှ လှမ်းစကားပြောလာကြ၏။

ရထားထိန်းတွေက မြင်းတွေကို ခပ်ဖြည်းဖြည်း မောင်းနေ၏။ အိမ်ကို ဘယ်အချိန် ပြန်ရောက်ရောက် ဂရုစိုက်ကြဟန် မရှိ။ အမျိုးသားတွေ၊ အမျိုးသမီးတွေ စကားလှမ်းပြောနေ ကြသည့် အသံတွေက ကျယ်ကျယ်လောင်လောင်။ မူးပြန်လာကြပုံ ရသည်။ အမျိုးသမီးများက ပန်းတွေနှင့် ဝေလျက်။ အမျိုးသားများက လက်ကို ဝှေ့ကာ ယမ်းကာဖြင့်။

ရထားတစီးပေါ်တွင် စစ်ဗိုလ်အချို့ ပါလာ၏။ သို့သော် ဘေးဘီကို ဘယ်သူမျှ မကြည့်။ နောက်ဆုံးရထားပေါ်တွင် အမျိုးသမီးတယောက်ကို စစ်ဗိုလ်တယောက်က နမ်းနေ သည်ကိုလည်း မြင်ရ၏။

"အင်း... စစ်ဖြစ်တာ သူတို့အတွက် ပျော်စရာကြီးပဲ"

ဟု ဘတ်ချ်က ကောက်ချက်ချသည်။

"ဟုတ်မှာပေါ့၊ သူတို့ စစ်ပွဲပဲ"

ရထားတွေ ဖြတ်သွားတော့ ဖုန်တွေ တသောသော ထကျန်ခဲ့၏။

"တို့ တာဘက်ကို ဖြတ်လျှောက်ကြရအောင်၊ ဒီနေရာက သဘော်ဆိပ်တည့်တည့် ဆိုတော့ ကမ်းနားလမ်းပေါ် လူသွားလူလာ ရှိနေဦးမှာ"

“အေး… ဟုတ်တယ်”

နှစ်ယောက်သား မြစ်ဘက်ကို ဆက်လျှောက်လာခဲ့ကြ၏။ အိမ်ကြီးတဆောင်၏ ပန်းခြံနံဘေးလမ်းကို ဖြတ်ရသည်။ တာပေါ်ရောက်အောင် လျှောက်ရမည်မှာ အတော်လှမ်း သေးသည်။

ရေကာတာနှင့် မြစ်၏ တဖက်တွင်တော့ မိုးကုပ်စက်ဝိုင်းအထိ ကျယ်ပြန့်သည့် ဝါဂွမ်းစိုက်ခင်းများ ရှိသည်။ ကိုရီမေ ပင်ပန်းလာပြီ။ သို့သော် ရှေ့ဆက်ရမည့် ခရီးက အတိုင်း အတာ အကွာအဝေး မှန်းမရသဖြင့် ပို၍ ပင်ပန်းဦးမည်။ ကိစ္စ မရှိပါ။ ပင်ပန်းပါစေ၊ ဘတ်ချိအတွက် စိတ်ချလုံခြုံသည့် နေရာကို ရောက်ဖို့သာ အရေးကြီးပါသည်။

တာခြေရင်းကို ရောက်လာတော့ မြက်တွေ ဖုံးနေသည့် တာဘောင်ပေါ်ကို မော်ကြည့် လိုက်သည်။ ကြယ်ရောင်အောက်တွင် တာရိုးကြီးသည် မည်းမှောင် ဖြောင့်တန်းနေ၏။ ကိုရီမေ့ စိတ်ထဲတွင် တာကြီးမှာ ထင်သည်ထက် ပိုမြင့်နေ၏။

“နင် သိပ်ပင်ပန်းနေပြီလား ဟင်”

ဘတ်ချ်ိက စိုးရိမ်ကဲနေသည့် အသံဖြင့် မေး၏။

“မပင်ပန်းပါဘူးဟယ်၊ ငါက သူဌေးသမီးမှ မဟုတ်တာပဲ”

“ဒါပေမဲ့ နင် မောနေပြီ ကိုရီမေ၊ တို့ အဝေးကြီး လျှောက်ရဦးမှာ”

“အို… သိပ်မဝေးပါဘူး၊ လာ .. တို့ တာပေါ်က တက်လျှောက်ကြရအောင်”

ဘတ်ချ်ိက တာပေါ်ကို မော်ကြည့်ပြီး-

“တာအောက်က မှောင်ရိပ်ခိုပြီး လျှောက်တာပဲ ကောင်းတယ် ကိုရီမေ၊ တာပေါ်က ဆို အဝေးကြီးက လှမ်းမြင်နိုင်တယ်”

တာခြေရင်းမှ သစ်ပင်တပင်တွင် မှီပြီး ကိုရီမေ ခဏ နားသည်။

“နင် ပိုက်လာတဲ့ အထုပ်က ဘာလဲ ဘတ်ချ်ိ” ဟု လှမ်းမေးလိုက်သည်။

“ငါ့ဦးထုပ်နဲ့ ယူနီဖောင်း”

“နင် အဲဒါ ဘယ်လိုလုပ်မှာလဲ ဟင်”

"ရေထဲ ပစ်ချမလို့"

ပြောပြောဆိုဆို တာဘောင်ပေါ် သူ ပြေးတက်သွားပြီး အထုပ်ကို မြစ်ထဲ ပစ်ချ လိုက်သည်။ ပြန်ပြေးဆင်းလာပြီး-

"ကဲ... စစ်တပ်နဲ့ ငါနဲ့ ဘာမှ မပတ်သက်တော့ဘူး၊ ကိစ္စပြတ်ပြီ" ဟု ပြောသည်။ တာခြေရင်းမှ သူတို့ ဆက်လျှောက်လာခဲ့ကြသည်။ မြောက်ဘက်စူးစူးကို သူတို့ ဦးတည်လျှောက်နေခြင်း ဖြစ်၏။ သူတို့ ညာဘက်တွင် စိုက်ကွင်းများသည် အနက်ရောင် ကတ္တီပါချပ်ကြီး ဖြန့်ခင်းထားသလို တမျှော်တခေါ်ကြီး။ ဘယ်ဘက်တွင်ကား မြစ်နှင့် စိုက်ခင်းများကို ကာခြားထားသည့် ဆယ့်ငါးပေအမြင့် တာရိုးကြီး ရှိ၏။ တာရိုးကြီး၏ တဖက်တွင်ကား မစ္စစ်စပီသည် ပင်လယ်ကွေ့ရှိရာသို့ တငြိမ့်ငြိမ့် စီးဆင်းလျက် ရှိ၏။ မြစ်၏ ဟိုမှာဘက်တွင်မူ ဘတ်ချ်အတွက် လွတ်မြောက်နယ်မြေ ရှိလေသည်။

စိတ်ထဲတွင် ဟိုဘက်ကမ်းကို လက်ပစ်ကူးသွားချင်စိတ်ပင် ပေါက်လာ၏။ မိုက်မဲစွာ တွေးမိခြင်း ဖြစ်၏။ မစ္စစ်စပီသည် နှစ်မိုင် သုံးမိုင်ခန့်ကျယ်သည့် မြစ်ကြီး ဖြစ်သည်။ ရေစီးက ကြောက်မက်ဖွယ် သန်၏။ မစ္စစ်စပီ၏ ကြီးမားသော ခွန်အားကို ကိုရီမေ တခါမျှ တွေးမကြည့် ခဲ့ဖူးပေ။

ကိုရီမေ ပင်ပန်းလှပြီ။ ဘတ်ချ်က အားစိုက်ပြီး တွဲခေါ်၏။ သို့သော် သူ့ခြေလှမ်းတွေ လည်း နှေးလာပြီ ဖြစ်ကြောင်း ကိုရီမေ သတိထားမိ၏။ ကိုရီမေ ဖိနပ်အကောင်းစားကလေး စီးလာသည်။ သူနှင့် မတော်သဖြင့် အန်း စွန့်ကြဲသည့် လည်ရှည်သားရေဘွတ်ဖိနပ် ဖြစ်၏။ ခုတော့ ရွှံ့တွေပေကျံပြီး လေးလံနေပြီ။ ဘတ်ချ်၏ စစ်သုံးတောစီးဖိနပ်က ပိုအဆင်ပြေပုံရ၏။

"ဝက်သစ်ချမြိုင် ယာတောစပ်မှာ ဂိုဒေါင်တလုံးရှိတယ်၊ ကြိမ်တွေ လှောင်တဲ့ ဂိုဒေါင်၊ လင်းအားကြီးလောက်မှ အဲဒီရောက်ရင် ဝင်အိပ်ကြမယ်၊ နေ့ခင်း ဆက်သွားလို့ မဖြစ်ဘူး၊ ညမှောင်မှ ခရီးဆက်ကြမယ်"

ကိုရီမေက အစီအစဉ်ဆွဲခြင်း ဖြစ်၏။

"မနက် ဝေလီဝေလင်း ထွက်တဲ့ ကူးတို့ ရှိမယ် ထင်တယ်၊ ဟိုဘက်ကမ်း ရောက်မှ ငါတို့ စိတ်ချရမှာ"

ကူးတို့ရှိလို့ ညတွင်းချင်း ကူးဖြစ်ရင်တော့ အတိုင်းထက် အလွန်ဟု ကိုရီမေ တွေး နေ၏။ တလမ်းလုံး အိပ်လိုက်သွားမည်။ ခုတော့ တလှမ်းပြီး တလှမ်း လှမ်းနိုင်အောင်သာ ကြိုးစားရဦးမည်။

"ဘာသံလဲ"

ဘတ်ချ်က ကိုရီမေ့ လက်မောင်းကို တင်းတင်းဆုပ်ပြီး အလန့်တကြား မေးလိုက်သည်။ သူတို့နှစ်ယောက် ရပ်ပြီး နားစွင့်သည်။ ခပ်လှမ်းလှမ်းမှ လူသံတွေ ကြားရ၏။

"ညအလုပ်ဆင်းတဲ့ နီဂရိုးတွေ ထင်ပါတယ်ဟာ"

"မဟုတ်ဘူး ကိုရီမေ၊ လူဖြူတွေရဲ့ အသံ"

ဘတ်ချ်က လေသံဖြင့် ပြန်ပြောတော့ ကိုရီမေက ရယ်ပြီး ခပ်တိုးတိုးကလေး ပြန်ပြောသည်။

"တို့နှစ်ယောက် အကြောက်လွန်နေတဲ့ ကြောင်ကလေးနှစ်ကောင်လို ဖြစ်နေပြီ၊ နင်ပြောတဲ့ ကူးတို့ဆိုက်တာ ဖြစ်မှာပါ၊ အဲဒီဘက်က လာတဲ့ လူသံတွေ ဖြစ်မှာပေါ့"

ထိုစဉ် အမှောင်ထဲမှ ယောကျ်ားတယောက်၏ လည်ချောင်းသံ ပေါ်လာသည်။

"ဟေ့ ... ရပ်လိုက်"

သူတို့နှစ်ယောက်စလုံး ကြက်သေ သေသွားကြသည်။ သူတို့ရှိရာသို့ လာနေသည့် မြင်းခွာသံများ ကြားရ၏။ သူတို့၏ အရိပ်မည်းမည်းများကို ကိုရီမေ လှမ်းမြင်နေရပြီ။ မြင်းသုံး စီးနှင့် လူသုံးယောက်။ ကြယ်ရောင်တွင် သေနတ်ပြောင်းတွေ တလက်လက်တောက်နေ၏။

တယောက်က လှမ်းအော်မေးသည်။

"ဟေ့ ... ညကြီးမင်းကြီး ဘာလုပ်နေကြတာလဲ"

ကိုရီမေက ဘတ်ချ်ကို တိုးတိုးကပ် ပြောသည်။

"နင် ဘာမှ မပြောနဲ့၊ ငါ ဖြေမယ်"

ကိုရီမေ ပြန်အော်ပြောလိုက်သည်။

"ကျွန်မတို့ လမ်းလျှောက်ထွက်လာတာပါ မစ္စတာ"

"အလဲ့... တယောက်က မိန်းကလေးဗျ"

ခပ်တိုးတိုး ရယ်သံတွေ ထွက်လာသည်။

"ဘယ်လို လုပ်မလဲ ဆရာ၊ အင်း . . . ဟုတ်ကဲ့"

ခပ်တိုးတိုး တိုင်ပင်ပြီး အသံမြှင့်ကာ ထပ်အော်ပြောသည်။

"ဝမ်းနည်းပါတယ် မိန်းကလေး၊ ဒါပေမဲ့ တာဝန်အရ မင်း အမျိုးသားကိုတော့ တို့ စစ်ရလိမ့်မယ်"

မြင်းပေါ်မှ ဆင်းလာပြီး မေးသည်။

"မင်းတို့ ဘာလုပ်ဖို့ ထွက်လာကြတာလဲ"

မြင်းပေါ်မှ တယောက်က ထပ်ပြောသည်။

"မင်းအမေက ဒီအချိန်မတော်ကြီး အပြင်ပေး ထွက်သလား"

"အသာနေစမ်းပါကွာ၊ သူတို့ကို မနှောင့်ယှက်ချင်ပါဘူး၊ ဒါပေမဲ့ တို့ ကင်းတာဝန် ကိုတော့ လုပ်ရမှာပဲ"

ထိုတယောက်က သူတို့အနား ရောက်တော့ မှန်အိမ်ကို မီးထွန်းသည်။ ကိုရီမေ တကိုယ်လုံး သွေးတွေ ခဲသွားသလို ခံစားလိုက်ရ၏။ ယူနီဖောင်းနှင့် စစ်သားတွေပါလား။ ကိုရီမေ တဆတ်ဆတ် တုန်နေသည်။ ဘတ်ချ်က ဣန္ဒြေမပျက် ရပ်နေ၏။ လက်တဖက်က သူ့ကို သိုင်းဖက်ထားဆဲ။

ဘုရား ဘုရား . . . တော်ပါသေး၏။ မှန်အိမ်ကို မြှောက်ပြီး သူတို့အနား ကပ်လာသည့် စစ်သားက သဘောကောင်းပုံ ရသည်။

"အနှောင့်အယှက် ပေးရတာ ခွင့်လွှတ်ပါနော်၊ ဒါပေမဲ့ ဒီအချိန်က မင်းတို့ အပြင်ထွက် ရမယ့် အချိန် မဟုတ်ဘူး၊ အဲဒီဘူးထဲက ဘာတွေလဲ"

"စားစရာတွေပါ"

ဘတ်ချ်က သံမှန်ဖြင့် ဝင်ဖြေသည်။

"ကြည့်ရအောင်"

ကိုရီမေ့လက်ထဲမှ ဘူးကို ဘတ်ချ်က ယူပြီး ဖွင့်ပြသည်။

"ဩော် .. မနက်စာအတွက် ထည့်လာတယ် ဆိုတော့ မင်းတို့

ဘယ်သွားကြမှာလဲ”

“အထက်ကို သွားမလို့ပါ၊ ဘာတွန်ရှုဂ်ကို”

စစ်သားက မှန်အိမ်ကို မြှောက်ပြီး ဘတ်ချ်၏ မျက်နှာကို ကြည့်သည်။

“မင်းနာမည် ဘယ်သူလဲ”

“ဂျွန်... ဂျွန်စမစ်”

“ဘယ်မှာ နေလဲ”

“ဒယ်လ်ရှိုင်းမှာပါ”

“ဘာလုပ်သလဲ”

“ဆိပ်ကမ်း အလုပ်သမားပါ”

“ဘာတွန်ရှုဂ်ကို ဘာသွားလုပ်မှာလဲ”

“အလုပ်သွားရှာမလို့ပါ”

“ဘာလို့ ညကြီးသန်းခေါင်မှာ ထွက်လာရတာလဲ”

ကိုရီမေ ဝင်ပြောသည်။

“ကျွန်မကြောင့်ပါရှင်၊ အိမ်က ကျွန်မကို သူနဲ့ သဘောမတူလို့ ထွက်ပြေးလာကြ တာပါ”

“ဩော်.. ဟုတ်လား”

သူက မီးအိမ်ကို နှိမ့်ပြီး ဘတ်ချ်၏ အောက်ပိုင်းကို ကြည့်သည်။ ဘတ်ချ်၏ လက်မောင်းကို ဖျတ်ခနဲ လှမ်းဆုပ်ပြီး-

“ကဲ.. မစ္စတာဂျွန်စမစ်၊ ဒီဖိနပ် ဘယ်က ရသလဲ”

“အဲ.. ကျွန်တော် လူတယောက်ဆီက ဝယ်စီးတာပါ”

“ဟုတ်လား၊ ဘယ်လောက် ပေးရလဲ”

“တဒေါ်လာခွဲပါ”

“ဘယ်သူ့ဆီက ဝယ်တာလဲ”

“အဲ.. သူ့နာမည်က ဘတ်ချ်ဖို့စတာပါ၊ လူဝီစီးနီးယား တပ်ခွဲဆယ့်ငါးကပါ”

“စစ်တပ်ပိုင်ပစ္စည်းကို သူက ဘာလို့ ရောင်းစားရတာလဲ”

“အဲဒါ ကျွန်တော် မသိပါဘူး၊ သူရောင်းလို့ ကျွန်တော် ဝယ်လိုက်တာပါ”

“ရောင်းလို့ ဝယ်လိုက်တယ် ဟုတ်လား၊ ကဲ . . . မောင်ရင် အမှန်အတိုင်း ပြောနေတာ လား၊ လိမ်နေတာလား ကြည့်ကြရအောင်”

ဘတ်ချ်က ထွက်ပြေးဖို့ ခြေလှမ်းပြင်လိုက်သည်။ သို့သော် စစ်သားက သူ့သေနတ် ဖြင့် လှမ်းထောက်ထားလိုက်၏။ ပြီးတော့ အခြားနှစ်ယောက်ဆီကို တွန်းခေါ်သွားသည်။ ကိုရီမေ အော်ပြီး နောက်က ပြေးလိုက်သွား၏။

မြင်းပေါ်မှ တပ်ကြပ်က အမိန့်ပေးသည်။

“သူ့ကိုယ်မှာ သေသေချာချာ ရှာစမ်း

စစ်သားက သေနတ်နှင့် ထောက်ထားပြီး ဘတ်ချ်ကို လက်မြှောက်ခိုင်းသည်။ ပြီးမှ အိတ်တွေကို လိုက်စမ်းသည်။ လောင်းကုတ်အင်္ကျီထဲမှ စာအုပ်တအုပ် တွေ့သဖြင့် ဆွဲထုတ် လိုက်သည်။

တပ်ကြပ်က လှမ်းမေးသည်။

“ဘာတွေ့လဲကွ”

“ကျမ်းစာအုပ်ပါ ဆရာ”

“ပြန်ပေးလိုက်ပါကွာ”

ကိုရီမေ ထခုန်မိမတတ် ဝမ်းသာသွား၏။ ဘုရား မတာပဲ၊ သူ့ ဘောင်းဘီအိတ်တွေကို နှိုက်မကြည့်ဘူး။

“ဒါက ဘာလဲကွ၊ ရည်စားစာလား”

ကိုရီမေ ဆုတောင်း မပြည့်ပါ။ ဘောင်းဘီအိတ်ကို နှိုက်ပြီး စာရွက်တရွက် ဆွဲထုတ် လိုက်သည်။ သူသည် ရယ်ရယ်မောမော ပြောနေရာမှ အထိတ်တလန့်

ဖြစ်သွားသည်။

"ကြည့်စမ်း ခွေးမသား၊ ကျမ်းစာအုပ်များ ယူလာသေးတယ်၊ သူ့ကို ချိန်ထားကြဗျို့၊ ဒီကောင် တပ်ပြေး၊ ဒီမှာ သူ့သက်သေခံစာရွက် ဆရာ၊ ကဲ... ရဲဘော် ဖို့စတာ၊ မင်း မြောက်ပိုင်းကို လစ်မလို့ မဟုတ်လား"

ကိုရီမေ၏ ဒူးတွေ ညွတ်ကျမလို ဖြစ်သွား၏။ ဘတ်ချ် ဆက်ပြောနေသည့် စကားလုံး များကို မကြားတော့။ တာဘောင်ပေါ်က မြက်ခင်းပေါ်သို့ မျက်နှာမှောက်ပြီး လဲကျသွား၏။ ပြီးတော့ ကယောင်ကတမ်း အော်လိုက်သည်။ အော်ဖို့ စိတ်မကူးဘဲ အော်လိုက်မိခြင်း ဖြစ်သည်။

ကိုရီမေ လုံးဝ အားအင် ကုန်ခန်းသွားလေပြီ။ အစီအစဉ်တွေ လုံးဝပျက်စီးသွားပြီ မဟုတ်လား။ ခေါင်းထဲတွင် နောက်ကျရီဝေနေသည့်ကြားမှ စာမတတ်သည့် ဘဝကို နာနာ ကြည်းကြည်း တွေးမိ၏။ ဘတ်ချ်သာ စာတတ်လျှင် သည်စာရွက်ကို အစောကြီး ဖျက်ဆီး ပစ်လိမ့်မည် ဖြစ်သည်။

ရဲဘော်တယောက်က ကိုရီမေကို ဖိနပ်ဦးနှင့် ထိုးပြီး-

"ကဲ... ထ ထ၊ စွတ်အော်မနေနဲ့၊ ပြောလို့မရရင် နင့်ကို ငါ ကြိုးနဲ့တုပ်ပြီး ခေါ်ရလိမ့်မယ်၊ ဒီကောင်မကလေးပါ ခေါ်ခဲ့ရမှာ မဟုတ်လား ဆရာ"

"ဒါပေါ့ကွ၊ တပ်ပြေးကို ကူညီတဲ့အပြစ် သူ ခံရမှာပေါ့"

စစ်သားက ကိုရီမေကို လက်မောင်းက ဆွဲပြီး ခပ်ကြမ်းကြမ်း ထူလိုက်သည်။ ဘတ်ချ်သည် ရှုံ့သွပ်သွားသည့်အလား စစ်သားကို ကန်ကျောက်တိုက်ခိုက်နေ၏။ သို့သော် အချည်းနှီး သာတည်း။ စစ်သားက သူ့ဦးခေါင်းကို သေနတ်ဒင်နှင့် ဖြတ်ရိုက်ချလိုက်သည်။ မြေကြီး ပေါ်သို့ သူ ကားခနဲ ကျသွားသည်။ ကိုရီမေ အသားကုန် အော်ပြန်၏။ စစ်သား၏ လက်ထဲမှ အတင်းရုန်းထွက်ပြီး ဘတ်ချ်ဆီကို ပြေးသွားဖို့ ကြိုးစားသည်။ သို့သော် စစ်သားက သူ့ကို တရွတ်တိုက် ဆွဲခေါ်သွား၏။

"လာပါ၊ နင့်ကောင် မသေပါဘူး"

ဘတ်ချ်ကိုလည်း တရွတ်တိုက် ဆွဲသွားပြီး မြင်းတကောင်ပေါ်သို့ ကန့်လန့်ဖြတ် တင်လိုက်သည်။ ကိုရီမေကိုလည်း မြင်းတကောင်ပေါ် တင်ပေး၏။ ရဲဘော်တယောက်က နောက်မှတက်ပြီး သူ့ကို ကိုင်လိုက်လာသည်။ တခါမျှ ကိုရီမေ မြင်းမစီးဖူးပေ။ အကြိမ်ကြိမ် ခုန်ချဖို့ ကြိုးစား၏။ သို့သော် ရဲဘော်က သူ့ကို မလွှတ်တမ်း ဖမ်းထား၏။ ခြေထောက်တွေ ကိုက်ခဲလာ၏။ ဒူးခေါင်းတွေရော ပေါင်တွေပါ နာလာသည်။ မြို့ထဲဘက် ပြန်လာနေသည့် အချိန်သည် ကမ္ဘာချီ၍

ကြာသည် ထင်နေ၏။

အချုပ်ထောင်နား ရောက်တော့ ရဲဘော်က ဆင်းပြီး သူ့ကို ဆွဲချသည်။ ကိုရီမေသည် ဖွဲ့အိတ်တလုံးလို ပြုတ်ကျလာ၏။ မနက်အရုဏ်တက်ချိန် ရောက်နေပြီ။ ရဲဘော် အတွင်းဘက် ဝင်သွား၏။ ထောင်အမှုထမ်းတယောက်နှင့် ပြန်ရောက်လာပြီး ကိုရီမေကို ဆွဲခေါ်သွား ကြ၏။

အတွင်းဘက် ရောက်တော့ အခန်းငယ်ကလေးတခုထဲသို့ သူ့ကို တွန်းထည့်လိုက် ကြ၏။ သမံတလင်းပေါ်သို့ မှောက်လျက် လဲကျသွားသည်။ ပက်လက်လှန်ကြည့်နိုင်သည့် အချိန်တွင် သံတိုင်များကြားမှ နေရောင်ထိုးကျနေပြီ။ အိပ်ပျော်သွားသည်လား၊ မေ့မြောနေ သည်လား သူ့ကိုယ်သူ မသိ။

အချိန်တွေ ဘယ်လိုဘယ်လို ကုန်နေသည် မသိ။ တနေ့ပြီးတနေ့ ကုန်ဆုံးနေ၏။ သို့သော် ဘယ်နှရက် ကုန်သွားမှန်း ကိုရီမေ မသိ။

တနေ့တွင် ရဲသားနှစ်ယောက် ရောက်လာပြီး ကိုရီမေကို ရုံးထုတ်သည်။ တရားရုံး တွင် လူတွေ အများကြီး တွေ့ရ၏။ တရားသူကြီးတယောက် ကုလားထိုင်မြင့်မြင့်ကြီးပေါ်တွင် ထိုင်နေသည်။ သူ့ကို တပ်ပြေးတယောက်အား ကူညီသည် ဟု ပြောကြ၏။ သူတို့ စကားတွေ အများကြီး ပြောကြ၏။ ကိုရီမေ ဘာမျှ နားမလည်။ တဖက်နှင့်တဖက် ဘာတွေ ပြောနေကြမှန်း မသိ။ ပြီးတော့ သူ့ကို ထောင်ထဲ ပြန်ခေါ်သွားကြသည်။

အမေ တခါတလေ လာတွေ့သည်။ ဘာမျှ မပြောနိုင်ဘဲ ငိုလို့ချည်း နေ၏။ ကိုရီမေ ဘာမျှ ဂရုမစိုက်တော့။ တချိန်လုံး မနိုးတဝက် နိုးတဝက်နှင့် အိပ်မက်မက်နေသလို ဖြစ်နေ၏။

ရက်ပေါင်းများစွာ ကြာမှ ဘတ်ချ် အကြောင်းကို မေးဖို့ သတိရသည်။ အကျိုးအကြောင်းကို အမေ ငိုကြီးချက်မနှင့် ပြောပြသည်။ ဘတ်ချ်ကို နံရံတွင် မှီရပ်ခိုင်းပြီး ပစ်သတ် လိုက်ကြသည်တဲ့။ တပ်ပြေးတယောက် ခံရမည့် ပြစ်ဒဏ်မှာ သေဒဏ် ဖြစ်၏။

※ ※ ※

# အခန်း(၈)

## (၁)

ကိုရီမေတယောက် ဘာဖြစ်သွားပါလိမ့်ဟု အန်းတယောက် မဆိုစလောက် အံ့သြ နေ၏။ ပထမတော့ နေထိုင်မကောင်း ဖြစ်နေသည် ထင်ပြီး စုံစမ်းဖို့ စိတ်ကူးသေးသည်။ ကိုရီမေ က ဆိပ်ကမ်းရပ်ကွက်တွင် နေကြောင်း ပြောဖူး၏။ ဆိပ်ကမ်းရပ်ကွက်ကို အန်း မသိ၊ ဘယ်နေရာ တွင် ရှိမှန်း မသိ။

သတင်းစာထဲတွင် တပ်ပြေးဖို့စတာကို ပစ်သတ်လိုက်သည့် သတင်းတော့ ဖတ်ရ သည်။ သို့သော် သည်သတင်းနှင့် ကိုရီမေ ဆက်စပ်ပတ်သက်နေမှန်း အန်း မသိနိုင်။ ဖို့စတာ ဟူသည့် နာမည်ကို အန်း တခါမျှ မကြားဖူး။ နောက်ဆုံးတွင် အိမ်ထောင်ရက်သား ကျသွားပြီး အလုပ်ကောင်း အကိုင်ကောင်း ရသွားခြင်း ဖြစ်နိုင်သည်ဟုသာ ကောက်ချက်ချထား လိုက်သည်။ အကြောင်းကြားဖော်ကလေးမျှ မရသည့် အတွက်တော့ သိပ်ဘဝင်မကျ။ တော်တော် ကျေးဇူးကန်းသည့် ကောင်မကလေး ဟု ထင်မိ၏။ ရက်များ မကြာခင် ကိုရီမေကို အန်း မေ့သွားတော့သည်။

သူ့အာရုံတွင် လွှမ်းမိုးနေသည်က စစ်သတင်းများ ဖြစ်၏။ ဒင်းနစ်က ဗစ်ဘတ်တွင် တာဝန်ကျနေပြီး ဗိုလ်မှူးကြီးရှာရမီက ဟဒ်ဆင် ဆိပ်ကမ်းခံတပ်တွင် ရောက်နေသည်။

မြစ်ကြောင်းတလျှောက်မှ ခံတပ်ကြီးများသည် မည်သို့မျှ ရန်သူ မထိုးဖောက်နိုင် သည့် ခံတပ်ကြီးတွေ ဖြစ်သော်လည်း အန်းသည် ယောကျ်ားအတွက်ရော အဖေ့အတွက်ပါ စိတ်မပူဘဲ မနေနိုင်အောင် ဖြစ်နေသည်။ စစ်ပွဲအစပိုင်းက လျှမ်းလျှမ်းတောက် အောင်မြင်မှု သတင်းများ စဲသွားပြီ။ နောက်ပိုင်းရသည့် သတင်းများက မကြားဝံ့မနာသာ နှလုံးသွေးပျက်ချင် စရာတွေ။

နယူးအော်လီယန်းတပ်များက မြစ်ရိုးတလျှောက်မှ ခံတပ်များကို အချိန်မရွေး စစ်ဆင် သိမ်းပိုက်နိုင်ကြောင်း သတင်းဖြစ်နေ၏။

အန်းတယောက် ကောင်းကောင်း အိပ်မပျော်တော့။ နိုးလာလျှင် သေနတ်သံတွေ ကြားရမည်လား စိုးရိမ်နေ၏။ သို့သော် တနေ့ပြီး တနေ့

ကုန်သွားသည်။ မြောက်ပိုင်းတပ်များ ရောက်မလာ။

သတင်းစာများတွင် စစ်သတင်းများမှလွဲ၍ အခြားသတင်း မပါသလောက်ပင်။ အကျ အဆုံးစာရင်းများသည် ရှည်လျားသည်ထက် ရှည်လျားလာသည်။ ထိုအခါ အန်း၏ စိုးရိမ်စိတ်တွေ ထိပ်တက်လာ၏။

တောင်ပိုင်း အောင်ပွဲသတင်းများ တဖြည်းဖြည်း နည်းလာ၏။ ထိတ်လန့်တုန်လှုပ်စရာ သတင်းတွေချည်း ကြားနေရ၏။ သည်လိုသတင်းတွေကို သတင်းစာများက ဖော်ပြခြင်း မပြုသော်လည်း အဆက်မပြတ် ကြားနေရ၏။ ရှီလ်အိုးစစ်ပွဲ ပထမနေ့တွင် ကတုတ်ကျင်းများအတွင်း သွေးတွေ လျှံသွားသည် ဆို၏။ ဒုတိယနေ့တွင် သွေးတွေခဲကာ နွံဖြစ်သွားသဖြင့် မြင်းတွေ သွေးနွံတွင် နစ်ကြသည် ဆို၏။ ကွန်းရစ်တွင် မြောက်ပိုင်းတပ်များ ထိုးစစ်ကြောင့် တောင်ပိုင်းတပ်သားများ သံဆူးကြိုး စည်းရိုးကို ကျော်တက် ထွက်ပြေးကြရာ ခြံစည်းရိုးပေါ်တွင်ပင် ကျည်သင့်၍ တိုးလိုးတွဲလောင်း သေကြသည်။ အချို့ အူတွေ တွဲလောင်း ထွက်လျက်၊ အချို့ မသေမရှင်နှင့် အော်ဟစ်ငိုယိုလျက်၊ စသည့် စသည့် သတင်းများ။

စစ်ဆိုသည်မှာ သည်အတိုင်းသာ ဖြစ်၏။ စစ်ထွက်မည့်ဆဲဆဲ စစ်ရေးပြပွဲတွင် ပန်းတွေ ကြဲကြ၏။ သူရဲကောင်းများကို စစ်ချီသီချင်းတွေဖြင့် ဂုဏ်ပြုကြ၏။ အန်းသည် လှေကားခုံခြေရင်းတွင်ထိုင်ကာ ဒင်းနစ်၏ပုံကြီးကို ငေးကြည့်နေသည်။ မီးခိုးရောင် စစ်ဝတ်စုံဖြင့်။ မိမိ အတင်းတိုက်တွန်းသဖြင့် ဆွဲဖြစ်ခဲ့သည့် ပန်းချီကားကြီး။

ဘုရားသခင်ကို အာရုံပြုပြီး ဆုတောင်းလိုက်သည်။

“သူတို့ခံတပ်တွေ မကျအောင် စောင့်ရှောက်တော်မူပါ ဘုရား၊ သူ အသက်မသေ အောင် စောင်မတော်မူပါ ဘုရား”

တနေ့လျှင် အကြိမ်တဒါဇင်မက အန်း ဆုတောင်း၏။ ဤသို့ဖြင့် ပြည်တွင်းစစ် ကာလ နှစ်နှစ်ကြာခဲ့လေပြီ။ ဒင်းနစ်တယောက် အိမ်ပြန်နားခွင့် မရသေး။ ခွင့်ဖြင့် ပြန်ရောက် လာနိုးလာနိုးနှင့် အန်းတယောက် ရင်တမမဖြင့် စောင့်ရသည့် ရက်တွေလည်း မနည်းတော့ပြီ။ သူထွက်သွားမှ သူ့ကို ဘယ်လောက်ချစ်နေမိကြောင်း အန်း သိလာသည်။ ကလေးဆန်လှသည့် မင်္ဂလာပွဲကိုလည်း ပြန်တွေးနေမိ၏။

စစ်သည် အန်းကို ပြောင်းလဲစေခဲ့ပြီ ဖြစ်၏။ ဆုံးရှုံးမှုတွေ၊ စိတ်အားငယ်မှုတွေ အကြောင်း နားလည်လာ၏။ နောက်ဆုံးတွင်မှ ဒင်းနစ် ခွင့်ရပြီ ဖြစ်ကြောင်း

မင်္ဂလာသတင်း ရောက်လာသည်။ သူ ပြန်လာလျှင် မိမိအတွေးအမြင် ပြောင်းလဲလာပုံများကို သူ့အား ပြောပြမည်၊ ခွဲခွာနေရသည့် ကာလများအတွက် အတိုးချပြီး စကားတွေ ပြောမည်၊ ဘဝကို ပြန်လည် ဆန်းသစ်မည်။

သို့သော် ဒင်းနစ် ပြန်ရောက်လာသောအခါ လူက ချုံးကျပြီး မျက်နှာထားက သုန်သုန် မှုန်မှုန် ဖြစ်နေ၏။ သူ့ကြည့်ရသည်မှာ စစ်ကို စိတ်အနာကြီး နာလာဟန် တူ၏။ အခြား ဘာအကြောင်းပြောပြော ရသည်။ စစ်အကြောင်း လုံးဝ မပြောရ။ နားမထောင်၊ စကားမစ။ မိန်းမကို စစ်သတင်း မှောင်ချထားလိုဟန် တူ၏။

သို့သော် စစ်မြေပြင် အကြောင်းတွေ အန်း အားလုံးကြားပြီး ဖြစ်ကြောင်း သူ သိဟန် မတူ။ သူ့စိတ်ထဲတွင် အန်းသည် စစ်ကို စစ်ရေးပြပွဲတခုအဖြစ်၊ စစ်ချီသီချင်းတွေ ဆိုကာ ပန်းပွင့်တွေကြဲသည့် အခမ်းအနားတခုအဖြစ်သာ မြင်နေဆဲ ထင်၏။

ဗစ်ဘတ်တွင် သွေးပင်လယ်ဝေခဲ့၏။ ငရဲခန်းတမျှ ထိတ်လန့်တုန်လှုပ်စရာတွေနှင့် ရင်ဆိုင်ခဲ့၏။ ဝက်သစ်ချမြိုင်သို့ ပြန်ရောက်သခိုက်တွင် ငြိမ်းချမ်းမွေ့ပျံ့သော အရိပ်တွင် မေ့မိုတ်ခိုနားနေချင်၏။ ဝက်သစ်ချမြိုင် အလှသခင်မ၏ ရင်ခွင်တွင် မေ့စက်ကာ စစ်ကို မေ့ထားချင်၏။

မိန်းမကို မျက်စိအောက်က အပျောက်မခံဘဲ၊ မိန်းမအနားတွင် မခွာဘဲ နေ၏။ လက်မောင်းသားနှင့် ပခုံးသားများကို ကိုင်ကြည့်ပြီး တအံ့တသြ ပြောသည်။

“မင်းဟာ နူးညံ့ရှင်းသန့်လွန်းပါတယ် အန်းရယ်”

မြင်ခဲ့တွေ့ခဲ့ရသည့် စစ်၏ အနိဋ္ဌာရုံတွေအကြောင်း လုံးဝ မပြော။ သည်တော့ အန်း ကလည်း ဘာမျှ မမေးတော့။ မိမိ ကြားသိထားသမျှ အကြောင်းအရာများကိုလည်း မသိသလိုပဲ နှုတ်ပိတ်နေလိုက်တော့၏။

အိမ်တွင် မိမိရင်ဆိုင်ခဲ့ရသည့် စစ်၏ ဂယက်ရိုက်ခတ်မှု အကြောင်းများကိုပင် မပြော တော့ဘဲ ရေငုံနေလိုက်တော့၏။ ဆပ်ပြာတတောင့် တဒေါ်လာ၊ သွားပွတ်တံတချောင်း နှစ်ဒေါ်လာ ဖြစ်နေကြောင်းတွေ၊ ဈေးဆိုင်များတွင် ပစ္စည်းတွေ ပြတ်လပ်ကာ ဘာမျှ ရှာမရတော့သည့် အကြောင်းတွေ၊ ကုန်သွယ်ရေးလမ်းကြောင်းတွေ ပိတ်သွားကတည်းက အပ် တချောင်း၊ ကြယ်သီးတလုံးပင် ရဖို့ မလွယ်တော့ကြောင်းတွေ၊ ပစ္စည်းတခု ပျက်စီးသွား လျှင် အစားမထိုးနိုင်တော့ကြောင်းတွေ သူ့ကို ပြောပြမနေတော့။ စိတ်ထဲတွင် ခွင့်နှင့်ပြန်လာ သူက မိမိမျှော်လင့်နေသည့် ဒင်းနစ် မဟုတ်ဘဲ အခြားတယောက်လို ဖြစ်နေ၏။ သူ့ကိုလည်း ဘာမျှမမေးတော့၊ မိမိပြောချင်သည်များကိုလည်း

မျိုချထားလိုက်၏။ သူ့အလိုလိုက် သူ့ အကြိုက် အတိုင်း နေပြီး သူ မေ့ချင်သည့် စစ်ကို မေ့နိုင်အောင် ကြိုးစားနေလိုက်၏။

နောက်ဆုံး ခွင့်စေ့လို့ ဗစ်ဘတ်သို့ မပြန်ခင် ကပွဲကြီးတခု လုပ်ပေးဖို့ ဆုံးဖြတ်လိုက်၏။ သည်ကပွဲအတွက် ပြင်ဆင်ရသည်မှာ ပင်ပန်းလှ၏။ တသက်တွင် တခါမျှ သည်လောက် မပင်ပန်းဖူးခဲ့။ သို့သော် သူ့ရှေ့တွင် ခါတိုင်းလို သာမန် ကပွဲတခုဖြစ်အောင် လုပ်နေသည့်အလား ဟန်ဆောင်ထားခဲ့သည်။ စစ်သည် ဒင်းနစ်အတွက်ရော မိမိအတွက်ပါ စိတ်ဓာတ် တက်ကြွချင်စရာ၊ ဂုဏ်ယူချင်စရာ အမျိုးသားရေး လက္ခဏာတရပ်ဖြစ်ကြောင်း ယုံကြည်ဟန်လည်း ဆောင်ထား၏။

ငွေကို ရေလိုသွန်ပြီး သုံးရ၏။ ဂျုံ၊ ကော်ဖီ၊ ဟင်းမွှေး၊ အသီးအရွက်တွေ၊ ချောကလက် နှင့် ဓိမ်ခံပစ္စည်းတွေက စျေးတွေ ခေါင်ခိုက်နေ၏။ အဝါ ရောင် တောင်ပိုင်း ငွေစက္ကူတွေကို အထပ်လိုက် ထုတ်သုံးနေရ၏။

စစ်တပ်အတွက် သီးသန့်ထားသည့် ပစ္စည်းတွေ ထုတ်ရောင်းအောင် ဆိုင်ထိုင်တွေ၊ အရောင်းစာရေးတွေကို အန်း မျက်နှာချိုသွေးရ၏။ ပလူးပလဲ လုပ်ရ၏။ သည်လို သည်လို လုပ်နေရသည့် အဖြစ်ကို ဒင်းနစ် သိလျှင် ဘယ်လိုမှ ခွင့်ပြုလိမ့်မည် မဟုတ်ပေ။ သို့သော် သူ မသိအောင် အန်း လုပ်နိုင်ခဲ့၏။

ဒင်းနစ်သည် စစ်ပွဲကို ရင်ဆိုင်တိုက်နေပြီး စစ်ကြောင့် ရိုက်ခတ်သည့် ဂယက်တွေကို မသိ။ ဂျုံကို စည်လိုက်ရဖို့ စစ်တပ် အရောင်းဆိုင်က ငြင်းသည်။ ဆေးရုံကို အဓိကထား ပို့ပေးရမည်ဆို၏။ ဒင်းနစ် ဝယ်ပေးသည့် လက်ကောက်ကလေး စားပွဲပေါ်တင်လိုက်မှ ကိစ္စပြီး တော့၏။ ဒါတွေ သူသိ၍ မဖြစ်။ ပထမဆုံး ရန်ဖြစ်အပြီးတွင် ဝယ်ပေးပြီး ချော့သည့် အမှတ် တရ ပစ္စည်းကလေး။ အပြေးအလွှား ဝယ်ခြမ်းပြင်ဆင်ရင်း အန်း ရယ်မိသည်။

အိမ်ပြန်ရောက်လျှင် မိန်းမ ဘယ်လောက်လှကြောင်း၊ စကားပြော ဘယ်လိုလိမ္မာ ရေးခြား ရှိကြောင်း၊ ဘယ်လောက် ချစ်ကြောင်းများသာ တတွတ်တွတ် ပြောနေ၏။ အန်းက ယားလို့မှ မကုတ်နိုင်အောင် အလုပ်တွေ ရှုပ်နေ၏။ သူက မကျေနပ်။ ဘာသာတို့၊ နပိုလီယံ တို့နှင့် လွဲထားလို့ မဖြစ်ဘူးလားဟု မေးသည်။

အထူးပွဲဖြစ်၍ မိမိကိုယ်တိုင် ကြီးကြပ်နေကြောင်း အန်းက သူ နားဝင်အောင် ပြောရ သည်။ စင်စစ် မစ္စက်မိတ်လင်း အလုပ်ထွက်သွားကတည်းက အိမ်မှုကိစ္စတွေမှာ အန်း ပါနေခဲ့ ရသည်။ ဤသို့ဖြင့် စစ်အကြောင်း ဘာမျှ မသိဟန်ဆောင်ရင်း အန်းသည် ကပွဲအတွက် အောက်ခြေသိမ်း လိုက်လုပ်နေရသည်။

ပင်ပန်းရမှန်း မသိဘဲ မနားမနေလုပ်နေစဉ် စိတ်အနှောင့်အယှက်ဖြစ်စရာ တခါတော့ ကြုံရ၏။ အဘွားကြီး မစ္စက်လန်းက သည်လောက်သုံးစွဲပြီး သည်ပွဲကို ကြီးကျယ်အောင် လုပ်နေသည်ကို သဘောမကျကြောင်း လေသံ ထွက်လာသည်။ အန်းက အေးစက်စက်လေသံ ဖြင့် ပြန်ပက်၏။

“ကျွန်မက တမျိုးတွေးတာ၊ တောင်ပိုင်းပိုက်ဆံတွေကို ဘာမှ မသုံးဘဲ ကပ်စေးကုတ် နေရတာဟာ အောက်တန်းကျတဲ့ လူတွေရဲ့ အလုပ်ပဲ”

ဒင်းနစ်နား မပေါက်အောင် ပြောရခြင်း ဖြစ်၏။ ဂျုံရဖို့ လက်ကောက်တကွင်း လာဘ်ထိုး ခဲ့ရကြောင်း၊ ငွေရဖို့ နာရီတွေ၊ ရင်ထိုးတွေ၊ လက်စွပ်တွေကို အောက်ဈေးဖြင့် ပေါင်ခဲ့ရကြောင်း တွေတော့ အဘွားကြီးကို ပြော၍ မဖြစ်။

တနေ့နေ့မှာ လက်ဝတ်ရတနာတွေ အကြောင်း ဒင်းနစ် မေးလာရင်ကော။ သည် အတွေးကို အခြား အခြားသော စိတ်ရှုပ်ထွေးစရာတွေနှင့် ရောနှော ဖျောက်ဖျက်ပစ်လိုက်၏။

သည်လိုဖျောက်ဖျက်ပစ်နိုင်ခြင်းကလည်း စိတ်ရှုပ်ထွေးစရာများထဲတွင် သည်ကိစ္စထက် ကြီးမား သည့် ဖြစ်နိုင်ခြေများ ပါဝင်နေသောကြောင့် ဖြစ်၏။ သည်ဖြစ်နိုင်ခြေများနှင့် စာလျှင် လက်ဝတ် ရတနာကိစ္စသည် အသေးအမွှား ဖြစ်သွားတော့၏။ ဥပမာ ဗစ်ဘတ်မှ သူ ဘယ်တော့မှ ပြန်ပေါ် မလာနိုင်တော့ ဟူသည့် အတွေးမျိုး။ သည်အတွေးမျိုးကို လုံးဝ လက်မခံချင်သော် လည်း ဖြစ်နိုင်ခြေရှိသည် ဆိုသည်ကိုတော့ လက်ခံရမည်။

လောလောဆယ်တွင်တော့ ဒါတွေ မစဉ်းစားနိုင်သေး။ ညစာဝိုင်း မုန့်တွေအတွက် အလျင်စိတ်ပူရမည်။ ကိတ်မုန့်တွေကို သကြားဖြူ ရှာမရ၍ သကြားညိုနှင့် ဖုတ်ထားရ၏။ ဘုရား၊ သိကြားမလို့ ဒင်းနစ် မရိပ်မိပါစေနှင့်။ သကြားညိုမှတဆင့် ရှေ့တန်းစခန်းအကြောင်း တွေ မစဉ်းစားမိပါစေနှင့်။

ဝတ်စုံကို ဘာသာ့ အကူအညီဖြင့် ချုပ်သည်။ အစိမ်းရောင် ကတ္တီပါစက လမ်းတွေ ပိတ်ထားသည့်ကြားမှ စွန့်စွန့်စားစား ကုန်ကူးနေကြသည့် မှောင်ခိုသမားများဆီမှ ဝယ်ထား ခြင်း ဖြစ်၏။ တကိုက်ကို တောင်ပိုင်းပိုက်ဆံ ဒေါ်လာခြောက်ဆယ် ပေးရသည်။ လည် အဟိုက်တွင် ကွပ်ဖို့ဇာကို မင်္ဂလာဆောင်တုန်းက ဝတ်သည့် ဝတ်စုံမှ ဖြုတ်ယူရ၏။ သည်လို လုပ်ရခြင်းအတွက် ရင်ထဲ နင့်သွား၏။ အကယ်၍များ နောက်ထပ် သမီးကလေး ရလျှင် - - - ။

ဖက်ရှင်တွေ ဘယ်လောက်ဆန်းဆန်း သည်ဝတ်စုံမျိုး နောက်ထပ်ပေါ်ဖို့

မလွယ် တော့။ ကလေးအကြောင်း တွေးမိတော့ ဇာစကို ညှပ်နေရင်း ကလေးရှိများ နေပြီလားဟု စိတ်ထဲ ထင်လာ၏။ ငိုချင်စိတ် ပေါက်သွားသည်။ မိန်းကလေး ဖြစ်လျှင် သည်ဝတ်စုံက သမီးကလေး ဝတ်ရမည့် ဝတ်စုံ မဟုတ်လား။

သည်အကြောင်းများကို ဒင်းနစ် မသိအောင် ဖုံးထား၏။ ဝတ်စုံချုပ်ပြီးတော့ သူ့ကို တခါ ဝတ်ပြသည်။ သူ ဘာကိုမျှ သတိမထားမိ။

ကလေး ရှိချင်နေသည့် အကြောင်းကစ သူ့ကို ဘာကြောင့်လျှို့ဝှက်ထားမိမှန်း ကိုယ့်ကိုယ်ကိုယ်လည်း မသိ။ စစ်မြေပြင် ပြန်သွားလျှင် သူ စိတ်စနိုးစနောင့် ဖြစ်မည် စိုးခြင်း ကြောင့် ဖြစ်နိုင်သည်။

ဘယ်လောက်ပဲ တန်ဖိုးကြီးကြီး သူ စိတ်တိုင်းအကျဆုံး ဖြစ်အောင် အလှပြင်မည်၊ သူ အမြဲတမ်း သတိရအောင် လုပ်မည်။ ကပွဲည ရောက်တော့ အန်းသည် မြင်သူ ဗျာပွေလောက် အောင် အစိမ်းရောင်ဝတ်စုံနှင့် လှနေ၏။ ရင်ဘတ်ပေါ်တွင် ဒင်းနစ်ကလေး၏ပုံ ထည့်ထား သည့် လော့ကက်သီးကလေး ဆွဲထား၏။ ကပွဲကြီးသည် ဝက်သစ်ချမြိုင် သမိုင်းတွင် အမှတ် ထင်ထင်အရှိဆုံး ကပွဲကြီး ဖြစ်သွား၏။

ကပွဲလာ ပရိသတ်ထဲမှ အမျိုးသားအများစုမှာ ယူနီဖောင်းဝတ်များ ဖြစ်ကြ၏။ အချို့က လက်မောင်းကို ကြိုးသိုင်းလျက်၊ အချို့က အင်္ကျီလက်ထဲတွင် လက်မရှိ။ အချို့က ချိုင်းထောက်နှင့် လာရသဖြင့် ဝင်မကနိုင်။

သူတို့အများစုမှာ စစ်မှုထမ်းခွင့်မှ ကင်းလွတ်သူများ ဖြစ်ကြ၏။ ဒင်းနစ်လို ကိုယ့် သဘောနှင့် ကိုယ် လိုက်သွားကြသူများ ဖြစ်သည်။ အမျိုးသမီးများက ဒဏ်ရာရသူများကို ပို၍ အရေးတယူ ဆက်ဆံကြသည်။ လက်တဖက် ပြတ်နေသူနှင့် တွဲကရသည်မှာ အဆန်း မဟုတ်သလို ဟန်ဆောင်ထားကြ၏။

ဂျယ်ရီကလည်း ယူနီဖောင်းဝတ်နှင့် ဖြစ်နေပြီ။ ဆာရာပါစယ်နှင့် လွန်ခဲ့သည့် လက လက်ထပ်ပြီး မကြာသေးမီကမှ တပ်ထဲ ဝင်လိုက်ခြင်း ဖြစ်၏။ ဒင်းနစ်နှင့်အတူ ဗစ်ဘတ်သို့ လိုက်သွားရမည် ဆို၏။

အန်းက ဆာရာ့အစ်ကို ဟူးချ်နှင့် တွဲကနေသည်။ ဟူးချ်ကလည်း ခွင့်နှင့် ပြန်လာသူ ဖြစ်၏။ ကနေရင်း အန်း သတိထားလိုက်မိသည်။ အမျိုးသမီးတိုင်း မိမိလိုပင် အကောင်းဆုံး အဝတ်အစားများ ဝတ်ဆင်လာကြပါကလား။ မိမိလိုပင် မျိုးချစ်စိတ်ရှိလှပါချေရဲ့ဆိုပြီး မြောက်ပိုင်းက မှောင်ခိုဝင်လာသည့် အဝတ်အထည်များကို မတန်တဆ ဈေးကြီးပေး ဝယ်ချုပ် လာကြခြင်း ဖြစ်မည်။ သည်နည်းမှ လွဲ၍ အခြား အဝတ်ကောင်းကောင်း ဘယ်လိုမှ မရနိုင်။

သည့်ကိစ္စကို မြောက်ပိုင်း အားပေး မိန်းမတွေဆိုပြီး ဒေါ်တာသကြီး ဝေဖန်သည့် အမျိုးသားများ၏ အသံကို ကြားရ၏။ မောင်ခိုသမားများသည် ဆင်းရဲသားများအတွက် ကုန်ပစ္စည်းများကို သွင်းမလာဘဲ ပိုးဖဲကတ္တီပါတွေကိုသာ ခိုးသွင်းနေကြောင်းလည်း မကျေ မချမ်း ပြောနေကြ၏။

အန်းက သရော်ပြုံးပြုံးရင်း ခြေလှမ်းတွေ မှားမလို ဖြစ်သွားသည်။ ဂီတသံကို မနည်း ပြန်ပြီး အာရုံပြုရ၏။ သည်လိုကာလကြီးမှာ မိန်းမတွေက ဖက်ရှင်ကို မစွန့်နိုင်ခြင်းအတွက် သူတို့ ဒေါပွနေကြခြင်း ဖြစ်၏။

"ဒီညလောက် မစ္စအန်း လှတာ ကျွန်တော် တခါမှ မတွေ့ဖူးသေးဘူး"

ဟူးချ်ပါစယ်က ကနေရင်း အန်း၏ အလှကို ချီးမွမ်းခန်း ဖွင့်သည်။

"ကျေးဇူးတင်ပါတယ် ဟူးချ်၊ ခွင့်ရက်များများ ရတဲ့အတွက်လည်း ဝမ်းသာပါတယ်"

"နောက်အပတ်ဆို ပြန်ရမှာပါ"

"ဟုတ်လား၊ ဘယ်ကိုလဲ"

"ဟာဒ်ဆင် ခံတပ်ကိုပါ"

"ဟုတ်လား၊ အဲဒီမှာ ကျွန်မအဖေ ရှိတယ်လေ"

"ဗိုလ်မှူးကြီး ရှာရမီလို အထင်ကရ စစ်ဗိုလ်ကြီးတွေ အဲဒီလိုနေရာမှာ သိပ်လိုအပ် ပါတယ် မစ္စအန်း"

"ဟာဒ်ဆင် ခံတပ်လို ဟာမျိုးကိုတော့ ယန်းကီးတွေ မဖြိုနိုင်ဘူး ဟုတ်လား"

"ဘယ်... ဝေးပါသေးတယ်၊ မြစ်ကြောင်းကို ကျွန်တော်တို့ ကောင်းကောင်းထိန်းနိုင် ပါတယ် မစ္စအန်း"

အန်း စိတ်ထဲမှ ပြောလိုက်၏။

"ရှင် ဒါလောက်ပဲ ကျွန်မတို့ကို ပြောနိုင်တယ် မဟုတ်လား၊ ကျွန်မတို့ကလည်း ဒါလောက် ပဲ သိတယ်လို့ ရှင် ထင်နေတယ် မဟုတ်လား"

ဟူးချ်နှင့် တွဲကနေရာမှ တီးလုံး ဆုံးသွားတော့ စိတ်ထဲ ပေါ့သွားသလို ဖြစ်သွား၏။ ဂျယ်ရီကို လူအုပ်ထဲတွင် ရှာကြည့်သည်။ ဂျယ်ရီက ပွင့်လင်းသည်။

သူ့အမြင်ကို နားထောင် ကြည့်ချင်သည်။ စန္ဒရားနှင့် ပြတင်းပေါက် အကြားတွင် သူ ရပ်နေသည်ကို တွေ့ရ၏။ ကနေ ကြသည့် အတွဲများကို ပြုံးကြည့်နေသည်။ စစ်ဝတ်စုံနှင့် သူ့ကို ကြည့်ရသည်မှာ ပို၍ အရုပ်ဆိုးနေ၏။

"ဂျယ်ရီ ... ပျော်ရဲ့လား ဟင်"

အန်းက မေးလိုက်သည်။

"ပျော်ပါ့ဗျား၊ ပျော်မှပျော်"

မဲ့ပြုံးပြုံးပြီး ဆက်ပြောသည်။

"နင်ဟာ အတော်ဆုံး အိမ်ရှင်မပဲ၊ တောင်ပိုင်းရဲ့ ပန်းတပွင့်လို့တောင် . . ."

"ကဲ.. အဲဒါတွေ တော်စမ်းပါ ဂျယ်ရီရယ်"

အန်းက အသံကျယ်ကျယ် အော်ပြောလိုက်၏။ ဂျယ်ရီက မျက်ခုံးချီပြီး-

"ဒါဆို ငါ ဘာပြောရမှာလဲ"

"အမှန်နဲ့ အနီးစပ်ဆုံး အကြောင်းတွေ ပြောစမ်းပါ"

အန်းက ဆင်စွယ်ယပ်တောင်ရိုးကို တင်းတင်းဆုပ်လျက်-

"အန်း နည်းနည်းစိတ်ဓာတ်ကျနေတယ် ဂျယ်ရီ"

စန္ဒရားသံကြောင့် ဂျယ်ရီ အသံကို မြှင့်ပြီး ပြန်ပြောသည်။

"ဘာစိတ်ဓာတ် ကျစရာရှိလဲ၊ နင့်ယောက်ျား ဒါလောက် ပျော်တာ ငါ တခါမှ မတွေ့ဖူးဘူး၊ နင့်ကို ရွှေတံဆိပ်ပေးဖို့တောင် ကောင်းတယ်"

"ဒါဆို အန်း လုပ်တာ မှန်တယ်ပေါ့"

"မှန်တာပေါ့ ၊ ဘာလို့ မမှန်ရမှာလဲ"

"ဒီမယ် ဂျယ်ရီ၊ ဒီပွဲကို အန်းလုပ်တာ ဒင်းနစ် အတွက်လား၊ အန်း အတွက်လား၊ ဒင်းနစ်ကို လက်မထပ်ရင် အန်း ဒီလို ဖြစ်ပါ့မလား"

ဂျယ်ရီက အစိမ်းရောင် စကတ်ကြီးနှင့် နှမလုပ်သူကို ခြေဆုံး ခေါင်းဆုံး ကြည့်ပြီး-

"အဲဒါတော့ ငါလည်း မသိဘူး"

"ဘာလို့ မသိတာလဲ"

"ဘာလို့လဲဆိုတော့ နင် ဒင်းနစ်ကိုပဲ လက်ထပ်မှာ မဟုတ်လား၊ ဒင်းနစ် မဟုတ်လည်း ဒင်းနစ်လိုလူကိုပဲ နင်ယူမှာ မဟုတ်လား"

အန်းက နှုတ်ခမ်းကို ကိုက်ပြီး ယပ်တောင်လက်ကိုင်ကို တင်းတင်းဆုပ်ထားသည်။ ဝေါ့ဇ်တီးလုံး ဆုံးသွားသဖြင့် အန်းက ဂျယ်ရီကို မော်ကြည့်လိုက်သည်။

"အန်း ဘာဖြစ်နေမှန်း မသိဘူး ဂျယ်ရီ၊ ခေါင်းတွေ ရှုပ်နေတယ်၊ ဘာမှ အဖြေထွက် အောင် စဉ်းစားလို့ မရဘူး။ ကဲ . . . သန်းခေါင်ကျော်ပြီ၊ ထမင်းစားခန်းထဲ ပြောင်းကြရအောင်"

"နင့်ကို ငါ ပြောမယ်၊ စိတ်မဆိုးနဲ့နော်၊ နင် အရမ်း စိတ်လှုပ်ရှားနေတယ်၊ သတိထား နေ အန်း အလုပ်တွေ ရှုပ်လာပြန်သည်။ ညစာခန်းမဆောင်ထဲတွင် အားလုံး မလစ်ဟင်း ရအောင် လိုက်ကြည့်နေရ၏။ အဘွားကြီးတွေ အားလုံး ထိုင်ခုံရကြရဲ့လား၊ အမျိုးသားတိုင်း အတွက် စကားပြောဖို့ အမျိုးသမီးတွေ နေရာမှန်မှန် ယူကြရဲ့လား။

"ကျွန်တော် ပန်းကန်ယူလာပေးရမလား မစ္စအန်း"

ဟူးချ်ပါစယ် အနားရောက်လာပြီး မေးသည်။ အန်းက သူ၏ နာမည်ကျော် အိမ်ရှင့် အပြုံးကို ပြုံးလိုက်ပြီး-

"ကျေးဇူးပါပဲရှင်၊ ဒါပေမဲ့ အန်း မစားအားသေးပါဘူး"

"ဒါဖြင့်လည်း တခုခု သောက်မှပေါ့၊ ခဏလေးနော်"

အနားရောက်လာသည့် နပိုလီယံ၏ လင်ပန်းထဲမှ ရှန်ပိန်နှစ်ခွက် ယူပြီး ဟူးချ်က တခွက် ကမ်းပေးသည်။

"တောင်ပိုင်းကို ဘုရားသခင် စောင့်ရှောက်တော်မူပါစေ" ဟု ဆုတောင်းတော့ အန်းက လိုက်ဆိုသည်။ သို့သော် စိတ်ထဲက အဓိပ္ပာယ်ရှိသည် မထင်။

ရှန်ပိန်သောက်လိုက်တော့ ပေါ့ပါးလန်းဆန်းသလို ဖြစ်လာသဖြင့် ဟူးချ်ကို ကျိတ်ပြီး ကျေးဇူးတင်လိုက်မိသည်။ ဖန်ခွက်လွတ်ကို ချခဲ့ပြီး အလန်ဂျူဟာန်နှင့်

အတူရှိနေသည့် စိန်ကလဲယား ညီအစ်မတသိုက် ရှိရာသို့ လျှောက်လာခဲ့၏။ ဂျူဟာန်မိသားစုမှာ ပစ္စည်းချမ်းသာ သော်လည်း စာပေဗဟုသုတ သိပ်ရှိဟန် မတူ။ မိသားစုထဲမှ ယောက်ျားလေး တော်တော် များများကို "အလန်" ဟူသည့် နာမည်တွေ တယောက်ပြီး တယောက် ပေးလေ့ရှိ၏။

ဂျူဟာန်မိသားစုထဲမှ တယောက်သည် ထောင့်တထောင့်တွင် ငြိမ်ငြိမ်ကလေး ထိုင်နေ၏။ သူ့မှာ ခြေထောက် တဖက်သာရှိပြီး လက်တဖက်က ကြိမ်လုံးကို ကိုင်ထား သည်။ နယူးအော်လီယန်းမှ ရှင်ကျန်သူတယောက် ဖြစ်၏။

အန်းက မိန်းမချောကလေးတယောက်ယောက်ကို အနီးအနားတွင် ရှာသည်။ သူ့ အနားတွင်သွားပြီး စကားပြော ညှိခံဖို့ဖြစ်၏။ သူငယ်ချင်း ဆာရာကို သတိရသည်။ ချက်ချင်း မသင့်လျော်မှန်း သတိရ၏။ ယောက်ျား ရှေ့တန်းထွက်မည့်ဆဲဆဲတွင် ရှေ့တန်းက ပြန်လာသည့် ခြေပြတ်လက်ပြတ် တယောက်နှင့် စကားမပြောသင့်ပေ။

ဤတွင် စင်သီယာလန်း ဘွားခနဲ ပေါ်လာ၏။

"မမအန်း ဘယ်သူ့ကို ရှာနေတာလဲဟင်"

"အေး...အင်း"

အန်းက စင်သီယာကို ခြေဆုံး ခေါင်းဆုံး ကြည့်လိုက်သည်။ စင်သီယာ ဆယ့်လေးနှစ် ပြည့်တော့မည်။ ပိန်ပိန်သွယ်သွယ်နှင့် မျက်နှာမှာ ဖြူဖြူဖျော့ဖျော့ကလေး ဖြစ်သည်။ ဆံပင်တွေကတော့ နက်မှောင်သန်စွမ်းသည်။ သို့သော် မိန်းမချောကလေးတယောက်တော့ ဖြစ်လာမည် မဟုတ်ပေ။ အေးအေးဆေးဆေးနှင့် လိမ္မာရေးခြားတော့ ရှိ၏။ အန်း သူ့ကို သဘော ကျသည်။

"ဒီမယ် စင်သီယာ၊ မမကို ကူညီပါလားဟင်၊ ဟိုမှာ ခြေထောက်တဖက်ပြတ်နေတဲ့ မစ္စတာဂျူဟာန်ကို တွေ့တယ် မဟုတ်လား"

"အင်း . . . တွေ့တယ်၊ စင်သီယာ ဘာလုပ်ပေးရမလဲ ဟင်"

စင်သီယာက ခပ်အေးအေး ပြန်မေးသည်။

"စင်သီယာ သူနဲ့သွားပြီး စကားပြောနေ၊ စစ်မြေပြင် အကြောင်းတော့ မပြောနဲ့နော်၊ ကျန်တာ ဘာပြောပြော ရတယ်"

စင်သီယာ ပြုံးပြီး ခေါင်းညိတ်သည်။

"ဟုတ်ပြီ မမအန်း၊ စင်သီယာ နားလည်တယ်"

အန်း ခုမှ သက်ပြင်းချနိုင်သည်။ အခန်းထဲတွင် လူတွေ ပြည့်လျှံနေ၏။ အန်း ခေါင်း တွေ အုံခဲလာသည်။ ကိုယ့်ကိုယ်ကိုယ် သတိထားဖို့ စိတ်တင်းလိုက်၏။ အိမ်ရှင်တို့၏ တာဝန်ကို နှလုံးသွင်းလိုက်၏။

ဧည့်သည်စစ်ဗိုလ်များက တယောက်ပြီးတယောက် သူ့ကို ရှန်ပိန်ခွက်တွေ ကမ်းပေး ကြ၏။ အန်းက မငြင်း။ ယဉ်ကျေးစွာ လက်ခံ၏။ သူ့တွင် ဧည့်ခံရ၊ ရှန်ပိန်သောက်ရနှင့် စားချိန်ဟူ၍ မရှိတော့။ သိသိသာသာ ပင်ပန်းလာပြီ။ ဘာထရန်စိန်ကလဲယားနှင့် ရှန်ပိန် သောက်ပြီးတော့ မနည်းဟန်ထားရ၏။

သတိထားရတော့မည်ဟု ကိုယ့်ကိုယ်ကိုယ် အားပေးလိုက်၏။ ဗိုက်ထဲမှ ရှန်ပိန် တန်ခိုးပြနေပြီ ဖြစ်သော်လည်း သည်ပွဲမှာ ဒင်းနစ်၏ နောက်ဆုံးပွဲ ဖြစ်ကောင်း ဖြစ်မည်။ ဘာပဲ ဖြစ်နေ ဖြစ်နေ အစဉ်အလာကို ထိန်းရမည်။ တာဝန်အကျေဆုံး၊ ပျော်စရာ အကောင်းဆုံး ပွဲများ၏ အိမ်ရှင်မ၊ ဝက်သစ်ချမြိုင်၏ သခင်မ မဟုတ်လား။

ဣန္ဒြေ ပြန်ဆည်လိုက်၏။

"မစ္စက်စိန်ကလဲယားရှင့်၊ ကြက်သားကြော်လေး မြည်းကြည့်ပါဦး၊ အန်းရဲ့ထမင်းချက် က သူ့လက်ရာကို သိပ်ဂုဏ်ယူတာ၊ ဟင်းတွေ ကျန်နေရင်တော့ သူ ယန်းကီးတွေဆီ ထွက်ပြေး လိမ့်မယ် ထင်တယ်၊ ဟဲ့ . . . နပိုလီယံ၊ ကြက်ကြော်နဲ့ ဝေဖာ ထပ်ချပေးပါ ဦး"

"ဒေါက်တာပါစယ် ကျန်းမာပါရဲ့နော်၊ ကျွန်မလား နေကောင်းပါတယ်၊ ကျေးဇူးတင် ပါတယ်ရှင်၊ ကိတ်မုန့်တွေ သဘောကျတယ် ဆိုလို့ ဝမ်းသာပါတယ်၊ ချောကလက်ဝေဖာ လည်း မြည်းကြည့်ပါဦး၊ ကော်ဖီနဲ့ အရမ်းလိုက်ပါတယ်၊ မစ္စဖဲလ်ကိုး ဒီမှာ ကျွန်မ ဗိုလ်ကြီး ချောင်စီနဲ့ မိတ်ဆက်ပေးပါရစေ၊ ဗိုလ်ကြီးက ဗာဂျီးနီးယားက အရေးတကြီးကိစ္စနဲ့ ရောက်လာ တာလေ၊ မြစ်ကြောင်း ကာကွယ်ရေးတဲ့"

နောက်ဆုံးတွင် နံရံတဖက်ကပ်ပြီး စားသောက်နေသည့် ပရိသတ်ကို စောင့်ကြည့်နေ၏။ ဖယောင်းတိုင် အလင်းရောင်တွင် ပန်းတွေ ဝေနေ၏။ ခေါင်းညိတ်ညိတ်၊ လည်ခါ ခါ နှင့် စားရင်းသောက်ရင်း စကားပြောနေကြသည့် ဧည့်သည်များ။ သူတို့ပခုံးပေါ်မှ ကြယ်ပွင့်များ၊ သူတို့မျက်နှာပေါ်မှ အမာရွတ်များ၊ ပြီးတော့ နံရံတွင် ထောင်ထားသည့် ချိုင်းထောက်များ။ နှစ်ကုန်လျှင် သူတို့အထဲမှ အသက်ရှင်ကျန်မည့်သူ ဘယ်နှယောက် ရှိမည်လဲဟု အန်း တွေးကြည့်နေ၏။

နှစ်ကုန်လျှင် အိမ်က မွေးခန်းထဲတွင် ကလေးမွေးရဦးမည်။ နောက်တယောက် လည်း ထပ်ယူဦးမည် ဟု စိတ်ကူးနေ၏။ သည်လို ခေတ်ဆိုး ခေတ်ကျပ်ကြီးထဲတွင် ကလေး မွေးရမည့် အဖြစ်ကိုလည်း စဉ်းစားမိ၏။

ဆံပင်ပုံအမျိုးမျိုးထဲတွင် သူများတကာထက် ခေါင်းတလုံးပိုမြင့်နေသည့် ဒင်းနစ်ကို လှမ်းမြင်နေရ၏။ မိန်းမကို မြင်တော့ လှမ်းပြုံးပြသည်။ အန်းက လက်တဖက်မြှောက်ပြီး လက်ထိပ်ကလေးများကို မသိမသာ နမ်းပြ၏။

လက်တဖက်ကို နောက်ပစ်လိုက်တော့ ရှန်ပိန်ပုလင်းကို ကိုင်မိသည်။ ပုလင်းကို ကိုင်မည် လုပ်တော့ ဂျယ်ရီ ချက်ချင်း အနားရောက်လာ၏။

“နင် တော်လောက်ပြီ အန်း”

သူ့အသံက တိုးသော်လည်း အမိန့်ပေးသံ ပါနေ၏။

“ဘာကို တော်ရမှာလဲ”

“နင် မူးနေပြီ”

“ဘာ .. ဘာဖြစ်လို့”

“လာ.. အထဲကို လာ”

ဂျယ်ရီက ခပ်မာမာပြောပြီး ဆွဲခေါ်သွားသည်။ စာကြည့်ခန်းထဲ ရောက်တော့ အန်းက ဂျယ်ရီကို တအံ့တသြ မော့ကြည့်နေသည်။

“ဟာ … ဂျယ်ရီကလည်း၊ ဘယ်ကလာ . . . အန်း ဘယ်တုန်းက မူးဖူးလို့လဲ”

“ဒီမယ်အန်း၊ နင့်ကိုယ်နင် မသိပေမယ့် ငါသိတယ်၊ နင် တချိန်လုံး ရှန်ပိန်တွေ သောက်နေတာ နည်းလား၊ ခုလည်း ထပ်သောက်ဦးမလို့ လုပ်နေတယ်၊ တော်တော့”

“ဂျယ်ရီ ဘာတွေ ပြောနေတာလဲ၊ ဒီပွဲပြီးအောင် အန်း မနည်းအားတင်းပြီး လုပ်နေ ရတာ”

“အေးပါ … ငါ သိပါတယ်”

ဂျယ်ရီက အန်း၏ပခုံးကို ညင်ညင်သာသာ သိုင်းဖက်သည်။ အန်းက ကုလားထိုင် တလုံးပေါ်တွင် အရုပ်ကြိုးပြတ် ထိုင်ချလိုက်၏။

“အန်း ခေါင်းထဲမှာ မီးတောက်နေတယ် ဂျယ်ရီ၊ တခုခုမလုပ်ရင် အန်း တစစီ ဖြစ်သွားလိမ့်မယ်”

“အဲဒါ နင် တယောက်တည်း ဖြစ်နေတယ် အောက်မေ့နေလား”

ဂျယ်ရီက စိတ်လိုက်မာန်ပါ ပြောပြီးမှ သူ့ရင်ထဲက အတွေးများ ပွင့်ထွက်သွားမည် စိုးပြီး လေသံ လျှော့လိုက်သည်။

“နင့်ကို ငါ ဆရာ မလုပ်ချင်ပါဘူး အန်း၊ တခုပဲ နင့်ကို ငါ ကြိုပြောထားချင်တယ်၊ သြော်… ဒါ့ထက်”

“ဘာလဲ”

“အဲ.. ငါမှာချင်တာကတော့ ဆာရာကို ဂရုစိုက်ပါဟာ နော်၊ ငါ တပ်ထဲ ဝင်တာ သူ လုံးဝ သဘောမတူဘူး”

“သူ သဘောမတူတာ မဆန်းပါဘူး၊ ဂျယ်ရီက ဘာလို့ ဝင်ရတာလဲ၊ ဒင်းနစ်ကိုလည်း အန်း မဝင်စေချင်ဘူး၊ အဖေကတော့ ထားပါတော့၊ သူက တသက်လုံး စစ်တိုက်လာတဲ့ လူ၊ ဒါပေမဲ့ ဒင်းနစ်နဲ့ ဂျယ်ရီက တမျိုးပဲ”

နောက်ဆုံး ဒင်းနစ်ကို မပြောဖြစ်ခဲ့သည့် စကားလုံးများဖြင့် ဂျယ်ရီအား ပစ်ပေါက်နေ မိ၏။

“စစ်မှုမထမ်းမနေရ ဥပဒေက ဘာလို့ကင်းလွတ်ခွင့်ပေးထားလဲ သိလား၊ အရပ်ဘက် မှာလည်း လူတွေရှိဖို့ လိုလို့ပေါ့။ ပညာတတ်တွေ လူမှုရေးပိုင်း၊ ယဉ်ကျေးမှုပိုင်း၊ အုပ်ချုပ်ရေး ပိုင်းမှာ မရှိရတော့ဘူးလား”

“နင်ကလည်းဟာ၊ တို့ အကြာကြီး နေမှာမှ မဟုတ်ဘဲ၊ နောက်ပြီးတော့ ငါ နင့်ကို ရှင်းအောင် မပြောတတ်ဘူး၊ လာ .. သွားကြစို့”

အန်း မထချင် ထချင်ဖြင့် ထသည်။ ဧည့်သည်တွေ နှုတ်ဆက်ပြီး ပြန်ကြတော့ မနက် လေးနာရီထိုးပြီ။ ဒင်းနစ်က အားလုံးကို တံခါးဝအထိ လိုက်ပို့သည်၊ အားလုံး ပြန်သွားတော့ မိန်းမကို ရင်ခွင်ထဲ ဆွဲသွင်းသည်။

“ဒါလောက် ကြီးကျယ်တဲ့ပွဲမျိုး မောင်ဖြင့် တခါမှ မကြုံဖူးဘူး”

“မောင် ပျော်တယ်ပေါ့နော်”

“မောင့်ဘဝမှာ အပျော်ဆုံး နေ့တနေ့ပဲ၊ ဟိုမှာ တအိမ်လုံး ဖြစ်ကျန်ခဲ့ပုံလည်း

ကြည့်ပါဦး”

ရှုပ်ပွကျန်ခဲ့သော အခန်းကြီးကို အန်း ဝေ့ကြည့်လိုက်သည်။

“ကိစ္စမရှိဘူးလေ၊ ကောင်မကလေးတွေ မနက်ဖြန် ရှင်းကြလိမ့်မပေါ့”

“မင်း ပင်ပန်းလှပါပြီ အန်းရယ်”

အန်းက ရယ်ပြီး ပြန်ပြောသည်။

“သိပ်မပင်ပန်းပါဘူး၊ ဒါပေမဲ့ မဟန်နိုင်တော့ဘူး”

အစိမ်းရောင် စကတ်အတွန့်ထဲတွင် အန်း၏ လက်သီးတွေ ကျစ်ကျစ်ပါအောင် ဆုပ် ထားကြောင်း ဒင်းနစ် မသိ။

“ကပွဲနဲ့ ညစာစားပွဲ ပေါင်းလုပ်ရတာ မလွယ်ဘူး မောင်၊ စီစဉ်ရတာတွေ အများကြီးရယ်”

“မောင် သိပါတယ်ကွယ်၊ မင်းမို့ လုပ်နိုင်တာပါ၊ လာ. . . အိပ်ကြစို့”

“အရမ်း အိပ်ချင်နေပြီ မောင်”

“မောင် ပွေ့ခေါ်မယ်၊ မောင့်လည်ပင်းကို သိုင်းဖက်ထား”

“မောင် နိုင်ပါ့မလား”

“ကြည့်ပေါ့”

အန်း ရယ်သည်။ ဒင်းနစ်က သူ့ကို ပွေ့ယူလိုက်၏။

“အဝတ်တွေ ဒါလောက်များများကြီးနဲ့ မိန်းမတွေ ဘယ်လိုများ လမ်းလျှောက်ကြပါလိမ့်”

အန်း၏ စကတ်ကြီးသည် သူတို့နှစ်ယောက်စလုံးကို လွှမ်းခြုံထားမတတ် ဝေ့ဝဲနေ၏။

“ဒီည အရမ်း အရမ်းလှတာပဲ” ဟု ဒင်းနစ်က ထပ်ပြော၏။

လှေကားကြီးပေါ်ကို ဝေ့ဝိုက်တက်သွားစဉ် အန်းက သူ့ကို တင်းတင်းဖက်ထား၏။ အပေါ်ဆုံးအကွေ့ ရောက်လို့ သူနားတော့ အန်းက သူ့ကို

နမ်းသည်။ နှုတ်ခမ်းများ မွတ်မွတ် သိပ်သိပ် ထိတွေ့ကြ၏။

လှေကားထိပ်က သည်နေရာတွင် သူနမ်းသည့် အနမ်းကို အန်း အမြဲ သတိရနေမည်ဟု စိတ်ထဲ စွဲထားလိုက်၏။ နှစ်ယောက် ခွဲခွာရမည့် နောက်ဆုံးည။

ပျော်ပျော်ရွှင်ရွှင်နှင့် သူ ပြန်သွားဖြစ်မည့်အတွက် အန်း ဝမ်းသာနေ၏။ သည်နေ့၊ သည် အချိန်၊ သည်နေရာကို အန်း မေ့တော့မည် မဟုတ်ပေ။

ရန်သူလက်သို့ ဗစ်ဘတ် ခံတပ် ကျသွားပြီ။ ခံတပ်ကို ရန်သူတွေ ဝိုင်းထားစဉ် ဒင်းနစ် ကျဆုံးသွားသည် ဆို၏။ ထိုအချိန်အထိ ထိုညကို ပြက်ပြက်ထင်ထင် အန်း မြင်ယောင် နေသေးသည်။

(၂)

ဗစ်ဘတ် ကျပြီးနောက် ဇူလိုင်လထဲ ရောက်မှ ဒင်းနစ် ကျဆုံးကြောင်း သတင်း ရောက်လာခြင်း ဖြစ်သည်။ ခံတပ်ကို ရန်သူတွေ ဝိုင်းဝန်းပိတ်ဆို့ထားချိန်တွင် သူတို့တပ်မှ ဘာသတင်း မျှ မရခဲ့ပေ။

အ မင်္ဂလာသတင်း ရောက်လာတော့ အန်းတယောက် အလွန်အမင်း မအံ့ဩ တော့ပေ။ သူ ပြန်သွားကတည်းက ခံစားခဲ့ရသည့် အထီးကျန်ဝေဒနာ ပိုပြီး နက်ရှိုင်းလာခြင်း လောက်သာ ထူးခြား၏။

စောစောပိုင်းက အဖြစ်သည် ကျွန်းတကျွန်းပေါ်သို့ တယောက်တည်း ရောက်နေ သည်နှင့် တူ၏။ အပြင်လောကကြီးနှင့် လုံးဝ အဆက်ပြတ်နေခဲ့သည်။ မရေမရာ ကောလာ ဟလသတင်းများသာ ရခဲ့၏။ ခုတော့ သေချာသွားပြီ၊ ဒင်းနစ် မရှိတော့။ အန်းအတွက် တောင်ကြီး ပြိုခဲ့ခြင်းပင် ဖြစ်သည်။

လောကကြီးထဲတွင် တယောက်တည်း ကျန်ရစ်ခဲ့သလို ဖြစ်သွား၏။ ထိတ်လန့်တုန်လှုပ် စရာတွေ ဝန်းရံလျက်။ ကလေးတယောက်နှင့် ကျန်ခဲ့ခြင်းဖြစ်ပြီး မကြာခင် တယောက် ထပ်မွေးတော့မည်။ ကလေးတွေအကြောင်း စဉ်းစားကြည့်သည်။ အကာအကွယ်မဲ့ ဘဝ။ ခံနိုင်ရည်တို့ ကုန်ဆုံးကာ ကမ္ဘာကြီးထဲတွင် တယောက်တည်း။

ဝေဒနာကို ရင်ဖွင့်ကြေညာရမည့်သူ ရှိလျှင် တော်သေး၏။ စဉ်းစားကြည့်တော့ ဘယ်သူမျှ မမြင်။ စင်စစ် အန်းသည် ဘယ်သူ့ အကူအညီမျှ ယူခဲ့သူတော့ မဟုတ်။ ထို့ကြောင့် မျှဝေခံစားရမည့် သူလည်း မရှိပေ။

ဒင်းနစ်၏ အမေနှင့်ကတော့ မဖြစ်နိုင်ဆုံး။ ဒင်းနစ် ပြန်ထွက်သွားပြီး မကြာမီ ဖရန်း စက်၏ မြို့ထဲမှအိမ်ကို စစ်တပ်က ဌာနချုပ်ဖွင့်ဖို့ အလှူခံသည်။ သည်တော့ သားအမိနှစ်ယောက်ကို ဝက်သစ်ချမြိုင်သို့ ပြန်လာနေဖို့ အန်း ခေါ်ရတော့၏။ တအိမ်တည်းနေပြီး သမီးယောက္ခမ စိမ်းကားလျက်ပင်။ ပို၍ ရင်းနှီးလာခြင်းမျိုး လုံးဝ မရှိခဲ့။

ယခုမှ ဖရန်းစက်ကို အန်း အားကျစရာကောင်းမှန်း သိလာ၏။ သားတယောက်လုံး ဆုံးရသည့် အဖြစ်ကို ဖရန်းစက်သည် သတ္တိရှိရှိ တည်ငြိမ်စွာ ခံယူလေသည်။

ညအခါများမှာ အန်းသည် အိပ်ခန်းကြီးထဲတွင် တယောက်တည်း လှဲကာ မျက်စိနှစ်လုံးပေါ်ကို လက်ဖြင့် အုပ်ရင်း စဉ်းစားသည်။

"အဘွားကြီး ငါ့ဆီလာပြီး စကားပြောဖော်ရရင် ကောင်းမှာ"

သို့သော် ဖရန်းစက်ကား သူ့ဆီသို့ ပေါ်မလာခဲ့ပေ။ သူ့ဆီကို သွားဖို့ကတော့ အန်းအနေ ဖြင့် မရဲပေ။ ဖရန်းစက်သည် သွေးဆုတ်နေသည့် မျက်နှာဖြင့် အိမ်ထဲတွင် လျှောက်သွားနေ၏။ ဆောက်တည်ရာမရ ဖြစ်နေသည့် အန်းက သူ့ဆီကို သွားချင်ပါသည်။ သို့သော် လက်မခံဘဲ မောင်းထုတ်လေမည်လားဟု တွေးမိတော့ မိမိအနေဖြင့် အရှက်တကွဲ အကျိုးနည်း ဖြစ်ရမည့် အလုပ်မျိုးကို မလုပ်နိုင်။ သည်တော့ သူ့လို တင်းခံနိုင်သည့် ပုံမျိုးဆောင်ကာ အခန်းထဲမှ မထွက်တော့ဘဲ ကျိတ်ငိုနေခဲ့၏။

သို့သော် အန်းသည် ထူးထူးဆန်းဆန်း အလုပ်တခုကို လုပ်ဖြစ်ခဲ့သည်။ မိမိအတွေး၊ မိမိဆုံးဖြတ်ချက်နှင့် ဆုံးဖြတ်ချက်အတိုင်း လုပ်ဆောင်နိုင်ခဲ့ခြင်းအတွက် ကိုယ့်ဘာသာကိုယ် ပြန်ပြီး အံ့ဩနေခဲ့သည်။

ဇစ်ဘတ် ကျသွားပြီ ဆိုလျှင် ဟာဒ်ဆင် ခံတပ်ကို မြောက်ပိုင်းတပ်တွေ မရမနေ သိမ်းတော့မည်ဟု အန်း တွက်လိုက်၏။ ဟာဒ်ဆင် ကျပြီ ဆိုလျှင် သူတို့ တရကြမ်း စုန်ဆင်းလာ ကြမည်မှာ အသေအချာပဲဟုလည်း စဉ်းစား၏။

စင်သီယာကို အကူအညီတောင်းပြီး နှစ်ယောက်သား ညဥ့်သန်းခေါင်မှ အရုဏ်တက် အထိ အလုပ်လုပ်ကြ၏။ အတွင်းပစ္စည်းတွေကို ပန်းခြံထဲတွင် တွင်းတူးပြီး မြှုပ်ကြသည်။ အပေါ်တွင် မြေပြန်ဖို့ပြီး မူလပန်းပင်တွေ ပြန်စိုက်သည်။

အခြား အဖိုးတန် ပစ္စည်းများကို မြေအောက်ခန်းထဲတွင် ဝှက်ထားပြီး ဝိုင်ပုလင်းများ တင်သည့် စင်ကြီးကို တွန်းရွှေ့ပြီး နံရံသဖွယ် ကာထားလိုက်သည်။

အလုပ်တွေပြီးတော့ အန်း အရမ်းပင်ပန်းသွားသည်။ လှေကားရင်းတွင် ပုံလျက်သား ကျတော့မတတ် ပျော့ခွေ နေတော့၏။ မတ်မတ် မရပ်နိုင်တော့။ အပေါ်ထပ်ကို လေးဖက် ထောက်ပြီး တဖြည်းဖြည်း တက်ရ၏။ ကူလုပ်နေသော စင်သီယာသည် မပေါ့မပါးကြီးနှင့် သည်မျှ အပင်ပန်းခံနိုင်သော အန်းကို ကြည့်ပြီး အံ့ဩလေးစားနေမိ၏။

"မမအန်းရယ်၊ ဒါလောက် အပင်ပန်းခံလို့ ကောင်းပါ့မလား၊ မပေါ့မပါးနဲ့၊ နပိုလီယံ ကို ခိုင်းရင် မဖြစ်ဘူးလား"

အန်း ခေါင်းယမ်းသည်။ နီဂရိုးတွေကို အန်း မယုံချင်တော့။ ကွင်းထဲမှ

နီဂရိုးအချို့ ထွက်ပြေးကုန်ကြပြီ။ အိမ်ဝန်ထမ်းတွေကတော့ ဆက်ပြီး အလုပ်လုပ်နေကြသေးသော်လည်း ဘယ်သူ့ကိုမျှ အန်း မယုံတော့။ သစ္စာရှိ၍ အိမ်တွင် ဆက်ရှိနေကြခြင်းလား၊ ကွင်းထဲက နီဂရိုး တွေနှင့် ဆက်သွယ်ဖို့ အခွင့်မသာသေးခြင်းလား ခွဲခြား မသိနိုင်။

အိပ်ရာထဲကို ဘယ်လို ဘယ်လို ရောက်သွားမှန်း မသိလိုက်။ ရောက်သည်နှင့် တန်းအိပ် ပျော်သွားတော့သည်။ မနက် နေအတော်မြင့်မှ နိုးသည်။ တကိုယ်လုံး ကိုင်ရိုက်ထားသလို နာကျင်နေ၏။

နံရံက လူခေါ်ခေါင်းလောင်းကြိုးကို ဆွဲဖို့ပင် မနည်း အားစိုက်နေရ၏။ ပြောင်းဖူးဖုတ်နှင့် ကန်စွန်းဥပြုတ် မမ်မီ လာပို့သည်။ ကော်ဖီ မသောက်ရသည်မှာ ကြာပြီ။ ခြင်ထောင်အမိုးကို မော်ကြည့်လိုက်၏။ ပေါက်ပြဲနေပြီ။

နေရောင်သည် ကြမ်းပြင်ပေါ်သို့ ထိုးကျနေ၏။ မွန်းတည့်ချိန် ရောက်တော့မည်။ တံခါး ခပ်တိုးတိုးခေါက်ပြီး စင်သီယာ ဝင်လာသည်။

“နိုးနေပြီလား မမအန်း”

“အေး.. . ဘာထူးလဲ စင်သီယာ”

အန်းက ကိုယ်တဝက်ထူပြီး မေးလိုက်သည်။ စင်သီယာ့ လက်ထဲတွင် လင်ပန်းတချပ် ပါလာ၏။

“စင်သီယာ မနက်စာ လာပို့တာပါ၊ မစ္စပါစယ်လည်း ရောက်နေတယ်၊ ဂျယ်ရီ အကြောင်း ပြောချင်လို့ သစ်ဖြူတောက လာခဲ့တာတဲ့၊ ဂျယ်ရီ ဘာမှ မဖြစ်ဘူးတဲ့ မမအန်း”

“ဟုတ်လား”

အံ့သြဝမ်းသာမှုဖြင့် ရင်ထဲ စိမ့်ခနဲ ဖြစ်သွား၏။ သေဆုံးစာရင်းတွင် ဂျယ်ရီနာမည် မပါသော်လည်း သတင်းကောင်း ကြားရမည်ဟု မျှော်လင့် မထားခဲ့။

စင်သီယာက ခြင်ထောင်ကို မ တင်ပေးပြီး-

“မမအန်း အောက်ဆင်းနေရမှာ စိုးလို့ မေမေနဲ့ မစ္စပါစယ် အပြင်ဧည့်ခန်းမှာ တက်ပြီးစောင့်နေ ကြတယ်၊ မမ သိပ်နေမကောင်းဘူးလို့ စင်သီယာ ပြောထားတယ်၊ တညလုံး ပင်ပန်းထားတော့ ထမှ ထနိုင်ပါ့မလားလို့၊ ဘယ်လိုနေလဲ ဟင်”

“တကိုယ်လုံး ရိုက်ထားသလိုပဲ”

“အင်း... ထင်သားပဲ”

စင်သီယာက လင်ပန်းကို စားပွဲကလေးပေါ် တင်ရင်း “ကဲ. . . စားလိုက်ဦး” ဆိုတော့ အန်းက လင်ပန်းကို ငုံ့ကြည့်သည်။

“အလို.... ဘယ်လိုလဲ စင်သီယာ”

စင်သီယာက ဂုဏ်ယူသည့် လေသံဖြင့်-

“ချောကလက်လေ”

“ဘယ်က ရလဲဟင် စင်သီယာ”

“ဩော်... အိမ်နောက်မှာ အကျန်ကလေး သွားတွေ့တာ၊ ကပွဲညက လက်ကျန် ထင်တယ်၊ သောက်လိုက်နော်၊ အားရှိသွားအောင်”

အန်းက အလောတကြီး သောက်ပြီး-

“စင်သီယာ မင်းကို ကိုယ် သဘောကျတယ်”

“ဟုတ်လား၊ ကျေးဇူးတင်ပါတယ် မမအန်း”

“မဟုတ်ဘူး၊ ကိုယ်ဆိုလိုတာက မင်းဟာ တခြားလူတွေနဲ့ မတူဘူး၊ ကိုယ့်ကို သနားလှ ပါချေရဲ့ဆိုပြီး တရားနဲ့ဖြေဖို့ နှစ်သိမ့်စကားတွေ လာမပြောဘူး၊ မင်းက လုပ်စရာရှိတာကို လက်တွေ့ကျကျပဲ လုပ်တယ်၊ အဲဒါကို သဘောကျတာ”

“စင်သီယာ စကားသိပ်မပြောတတ်ပါဘူး မမအန်း၊ မေမေက ပြောတယ်၊ စင်သီယာ ဟာ သူ တွေ့ဖူးသမျှထဲမှာ စကားပရိယာယ် မကြွယ်ဆုံးပဲတဲ့၊ ထတော့မလား ဟင်”

“အင်း . . . တော်တော် လန်းသွားပြီ၊ မမ်မီကော ဟင်”

“ကလေးအဝတ်တွေ လျှော်နေတယ်၊ သူ မပါဘဲ အဝတ်လဲလို့ ဖြစ်ပါ့မလားဟင်”

“လဲချင်စိတ်တောင် မရှိတော့ပါဘူးကွယ်”

အိပ်ရာပေါ်မှ လျှောဆင်းပြီး အဝတ်ဗီရိုဆီသို့ ထသွားသည်။ ဆံပင်ကို

တချက်၊ နှစ်ချက်ဖြီးပြီး အပေါ်ဝတ်ရုံကို ကောက်စွပ်သည်။ တချို့နေရာတွင် ချုပ်ရိုးတွေ ပြဲနေပြီ။ ဖာရထေးရဦးမည်။ အင်း . . . ကိုယ်တိုင် လုပ်ရတော့မှာပါလားဟု ခါးခါးသီးသီး တွေးမိ၏။ ပြင်သစ်မှာ ကျောင်းနေစဉ်က အချုပ်အလုပ် သင်ခဲ့ဖူး၍ တော်ပါသေး၏။ တကြောင်း ထိုးတော့ ချုပ်တတ်သည်။ တံခါးဖွင့်ပြီး စင်သီယာနှင့်အတူ အပြင်ဧည့်ခန်းသို့ ထွက်ခဲ့သည်။ ဆာရာနှင့် မစ္စက်လန်းတို့ နှစ်ယောက် ဧည့်ခန်းထဲတွင် ထိုင်စောင့်နေကြ၏။ စင်သီယာ က ဒူးကို ပိုက်ပြီး ကော်ဇောပေါ်တွင် ထိုင်ချလိုက်သည်။ ဆာရာက အသားဖြူသလောက် ဆံပင်နီသည့် အမျိုးသမီး ဖြစ်၏။ သူ့အသားက တတိုင်းမွေး ပွင့်ဖတ်အရောင်။

သူတို့ ဗစ်ဘတ် အကြောင်း ပြောကြ၏။ အန်းက သိပ်ဝင်မပြောဘဲ နှုတ်ဆိတ်နေ သည်။ ခုတလော လူတွေက ဗစ်ဘတ်အကြောင်း ပြောလျှင် အန်း ကလော်တုတ်ပစ်ချင်သည်။ သူတို့ ခံတပ်ကို ဝိုင်းဝန်းပိတ်ဆို့ထားသည့် ကာလတလျှောက်လုံး ဂျယ်ရီမသေ မပျောက် ရှိခဲ့ကြောင်း၊ သည်မနက်ပင် သူ့ဆီက စာရောက်လာကြောင်း ဆာရာက ပြောပြ သည်။

“ခု သူ ထောင်ထဲမှာလား”

အန်းက မေးလိုက်သည်။

“ဟင့်အင်း မဟုတ်ပါဘူး၊ နက်ချက်ဇ် ဆေးရုံမှာပါ”

“ဒါဆို ငတ်ပြတ်တဲ့ဒဏ် ခံရတာပေါ့”

“ဟုတ်တယ် အန်း၊ ဝဲတွေပေါက်၊ ယားနာတွေ ပေါက်ပေါ့”

အားလုံး ငြိမ်သွားကြသည်။ အန်းက မစ္စက်လန်းကို တချက်မျှ မကြည့်။

အန်းတယောက် အတွေးယောက်ယက် ခတ်နေသည်။

ဂျယ်ရီ၊ ဒင်းနစ်၊ ရိက္ခာပြတ်၊ အစာငတ်၊ ဝဲတွေပေါက်၊ စစ်ဆိုတာ အရှင်လတ်လတ် ငရဲပြည် ရောက်ခြင်းပါကလား။

ပြတင်းပေါက် အပြင်ကို အန်း ငေးကြည့်နေသည်။ ပန်းခြံထဲမှ ဇီဇဝါရုံကို လှမ်းမြင် နေရ၏။ ဇီဇဝါရုံအောက်၌ ညက မြှုပ်ခဲ့သော ပစ္စည်းများထဲတွင် မင်္ဂလာဆောင်တုန်းက ဖရန်းစက် လက်ဖွဲ့ခဲ့သည့် ရတနာပစ္စည်းများ ပါသည်။

စင်သီယာက ခပ်ဖြည်းဖြည်း ဝင်ပြောသည်။

“ဗစ်ဘတ် မကျခင် ဝိုင်းထားခံရတဲ့ ရက်တွေမှာ ဘယ်လောက် ဆိုးဆိုးဝါးဝါး ဖြစ်ခဲ့သလဲ မသိဘူးနော်”

“ဆာရာ့အထင်တော့ ဒင်းနစ်လို ကျဆုံးသွားတဲ့ လူတွေကမှ ပိုကံကောင်းလိမ့်ဦးမယ်”

“သူတို့ ကြွက်တွေပါ စားကြရတယ် ဆို”

“ကြွက်တင် ဘယ်ကမလဲ စင်သီယာ၊ မြင်းသားတွေရော ခွေးသားတွေပါ စားကြရတာ။ တူးမြှုပ်ထားတဲ့ မြည်းတွေတောင် ဖော်ပြီး စားကြတယ်တဲ့”

“စင်သီယာ ကြားတော့ သူတို့ လနဲ့ချီပြီး ငတ်နေကြတယ် ဆိုပဲ”

“သူတို့ လက်နက်ချတော့ တချို့ လမ်းတောင် မလျှောက်နိုင်ကြတော့ဘူး တဲ့”

“ကဲ .. တော်ကြပါတော့၊ မင်းတို့နှစ်ယောက် အခန်းထဲက ထွက်ကြစမ်း”

မစ္စက်လန်းက စင်သီယာနှင့် ဆာရာကို ဟောက်သည်။ မိန်းကလေးနှစ်ယောက် ပါးစပ်အဟောင်းသား ဖြစ်နေကြသည်။ အခန်းထဲတွင် အဘွားကြီး ရှိနေမှန်း သူတို့ မေ့နေ ကြ၏။ မစ္စက်လန်းက တခွန်းမျှ ဝင်မပြောဘဲ အရုပ်ကြီးတရုပ်လို ထိုင်နေခြင်း မဟုတ်လား။

သူတို့နှစ်ယောက် ကြောင်ပြီး ထိုင်နေစဉ် အန်းက အလျင်ထသွားသည်။ သူ့အခန်း ထဲ ပြန်ဝင်သွားပြီး တံခါးကို ဆောင့်ပိတ်လိုက်၏။ မျက်နှာဖြူဖပ်ဖြူရော် ဖြစ်ကျန်ရစ်သည့် စင်သီယာနှင့် ဆာရာကို ကြည့်ပြီး-

“သမီးတို့နှစ်ယောက်မှာ နှလုံးသား မရှိဘူးလား”

စင်သီယာက နောင်တရသည့် လေသံဖြင့်-

“မေမေရယ်၊ သမီးတို့ အဲဒီလို မစဉ်းစားမိလိုက်ဘူး”

ဆာရာက မျက်ရည်ကျပြီး-

“ဆာရာက သူ သိပြီးသား ထင်တာကိုး၊ ဒါတွေက လူတိုင်း သိပြီးသားတွေ မဟုတ်လား”

“သိပြီးသားတော့ သိပြီးသားပေါ့၊ ဒါတွေကို ထပ်ကာထပ်ကာ ပြောနေဖို့ လိုသလား”

စင်သီယာက စိတ်မကောင်းခြင်း များစွာဖြင့်-

"သမီး တောင်းပန်ပါတယ် မေမေ၊ ဒါပေမဲ့ ခုတလော သမီးခေါင်းထဲမှာ ဇစ်ဘတ် ကလွဲပြီး ဘာမှ မရှိဘူး၊ ဒင်းနစ်တယောက် ကြွက်တွေ မစားရခင် ကျဆုံးသွားတာ ဖြစ်ပါ စေလို့"

"ကဲ… တော်ပါတော့လို့ ဆိုနေ"

အဘွားကြီး နောက်တကြိမ် ထပ်အော်သည်။ စင်သီယာက အမေ့ဆီ ပြေးသွားပြီး ငိုရင်း-

"သမီးဟာ တကယ် မိုက်မဲပါတယ် မေမေရယ်"

သူ့အမေ ဒေါသထွက်သည်ကို စင်သီယာ တခါမျှ မမြင်ဖူးပေ။ အလွန်စိတ်ထိန်းနိုင် သည့် မေမေ ဖြစ်၏။ သား သေဆုံးသည့် သတင်းရစဉ်ကပင် လူရှေ့သူရှေ့တွင် မငိုဘဲ ကွယ်ရာ တွင် ကျိတ်ပြီး မျက်ရည်ကျသည်။

စင်သီယာက မအေကြီးကို သိုင်းဖက်ပြီး-

"သမီး တောင်းပန်ပါတယ် မေမေ၊ ဒါပေမဲ့ သမီးယုံတယ်၊ ဒင်းနစ် အငတ်ငတ် အပြတ်ပြတ် သေရတာ မဟုတ်ပါဘူး၊ သူ အစောကြီး ကျဆုံးသွားတာ ဖြစ်ရမယ်၊ မေမေ့ သားက အရင်ဆုံး ရှေ့က ထွက်မယ့် လူမျိုး မဟုတ်လား"

သုံးယောက်သား ဘာမျှ ဆက်မပြောဘဲ ငြိမ်သွားကြသည်။ စင်သီယာ့ ပခုံးပေါ်ကို အဘွားကြီးက မျက်နှာမှောက်ချထား၏။ ဆာရာက ပြတင်းပေါက်တွင် သွားရပ်နေသည်။

မေမေကြီး ဖရန်းစက်က ခေါင်းထောင်ပြီး-

"အန်း ဘယ်လိုနေလဲ မေမေ သွားကြည့်လိုက်ဦးမယ်"

"သမီး လိုက်ခဲ့ရမလား ဟင်"

"မလိုက်ခဲ့နဲ့၊ သမီးတို့နှစ်ယောက် နောက်ကို သူ့ရှေ့မှာ ဘယ်တော့မှ အဲဒီအကြောင်း တွေ မပြောနဲ့၊ ကြားလား"

အန်း၏ အိပ်ခန်းထဲသို့ ဖရန်းစက် ဝင်သွားသည်။ အန်းက အိပ်ရာပေါ်တွင် ကန့်လန့် ဖြတ် မှောက်လျက်။ ခေါင်းအုံးတလုံးဖက်ပြီး ထောင့်စွန်းကို ကိုက်ထား၏။ တအား မငိုမိစေရန် ချုပ်တည်းနေခြင်း ဖြစ်၏။

ဖရန်းစက် ခုတင်စွန်းတွင် ဝင်ထိုင်သည်။ အန်း၏ ပခုံးကို လှမ်းကိုင်ပြီး ပြောသည်။

"သမီးလေးအန်း၊ အဖြစ်ဆိုးလိုက်တဲ့ ကလေးရယ်"

အန်း လက်သီးဆုပ်လိုက်သည်။ ခေါင်းအုံးကို တအားကိုက်ထည့်လိုက်၏။ ခေါင်းအုံး ပေါက်ပြဲသွားသံ ကြားလိုက်ရသည်။

အန်း ဆတ်ခနဲ ခေါင်းထောင်လိုက်သည်။

"ကျွန်မ တယောက်တည်း နေပါရစေ၊ အမေဟာ ရေခဲတုံးပဲ၊ ကျွန်မကို စိတ်သက်သာ ရအောင် မလုပ်နိုင်..."

ဖရန်းစက်၏ နှလုံးတည့်တည့် ရင်ဘတ်နေရာတွင် အောင့်ခနဲ ဖြစ်သွားသည်။ နှလုံး ရောဂါ နှင့် ပတ်သက်၍ ဖရန်းစက် ခံနိုင်ရည်ရှိနေပြီ။ သို့သော် သည်လိုနာကျင်မှုမျိုး တခါမျှ မဖြစ်ဖူးခဲ့။

"သမီး... အန်း၊ သူ့ကို အမေလည်း ချစ်တယ် ဆိုတာ မင်း သတိရဖို့ ကောင်းပါတယ်" အားနည်းစွာ ဖရန်းစက် ပြောသည်။ အန်းသည် ခေါင်းအုံးထဲကို မျက်နှာမြှုပ်ထား လိုက်၏။ ယောက္ခမကြီး၏ စကားလုံးများကို ခပ်တိုးတိုး ကြားနေရ၏။

"သူ့ကို ကမ္ဘာပေါ်မှာ အရာအားလုံးထက် အမေ ပိုချစ်တယ်၊ ဒါပေမဲ့ အဲဒါကို သူ မသိဘူး။ ထားပါလေ၊ အမေ့ကို မင်း အကောင်း မမြင်နိုင်တာ သဘာဝကျပါတယ်။ ဒါပေမဲ့ အားလုံး ပြီးသွားပြီလေ၊ သူ မရှိတော့ဘူး၊ ဒါကြောင့် သူနဲ့ ပတ်သက်ပြီး မင်းနဲ့ အမေ ပြဿနာ ဖြစ်စရာ မလိုတော့ဘူး အန်း။ မင်းက အနိုင်ရသူပါ။ မင်း သူ့ကို ရခဲ့တယ်၊ ပိုင်ခဲ့တယ် မဟုတ်လား။ အမေက ရှုံးတဲ့ သူပါကွယ်"

ရင်ထဲမှာ ပူလောင်လာသော်လည်း ဖရန်းစက်က မမှုဘဲ အန်းကို ကလေးတယောက် လို ပွေ့ယူပြီး နမ်းသည်။ နှလုံးကို တယောက်ယောက် ဆွဲဆုပ်ပြီး ညှစ်ထားသလို ခံစားနေ ရ၏။ သို့သော် ဖရန်းစက် မမှုအား။

အန်း၏ ဦးခေါင်းကို သူ့ရင်ခွင်ထဲ ထည့်ထား၏။ နဖူးပေါ် ကျနေသည့် ဆံပင်တွေကို ပင့်တင်ပြီး ပွတ်သပ်ပေးနေ၏။ ပြီးတော့ တိုးတိုးပြောသည်။

"အန်း... သမီး... အမေ့ကို ခွင့်လွှတ်နိုင်ရဲ့လားဟင်"

အန်း ဘာမျှ ပြန်မပြောဘဲ ငြိမ်နေသည်။ အတန်ကြာမှ မော်ကြည့်မိ၏။ မျက်လုံးချင်း ဆုံမိကြ၏။ အန်း မျက်ရည်တွေ ကျလာသည်။ ဖရန်းစက်၏ အင်္ကျီကော်လာတွင် မျက်ရည်တွေ စွန်းကုန်၏။

"အမေ ကျွန်မကို အသုံးမကျတဲ့ ကောင်မကလေးလို့ ထင်ခဲ့တယ် မဟုတ်လားဟင်"

"ဟုတ်တယ် အန်း"

"ဒါဖြင့် ဒါဖြင့် ဘာလို့.

"မဟုတ်ဘူး သမီး.."

ဝန်ခံရမှာ ခက်နေသည့်အလား ဖရန်းစက် စကားလုံး ရွေးနေသည်။

"သမီးဘဝ အခြေခံကြောင့် ဒီလို ဖြစ်လာတယ် ဆိုတာ အမေ ခု သဘောပေါက်ပါပြီ"

အန်း သက်ပြင်းရှည်ကြီးတချက် ချလိုက်သည်။

"အန်းရော၊ အမေရော မှားခဲ့တယ် ထင်ပါတယ်၊ တယောက် တကမ္ဘာစီနေပြီး အထီးကျန်ဝေဒနာကို ကျိတ် ခံစားနေခဲ့ကြတယ်"

"အဲဒါကို မင်း ဘယ်လိုလုပ် သိသလဲ အန်း"

"အထီးကျန် ဝေဒနာအကြောင်း အန်း နားလည်လာပြီလေ၊ လူတွေနဲ့ စကားတွေ ပြောကြပေမယ့် ရင်ထဲမှာရှိတဲ့ အကြောင်းတွေကို လူတွေ ပြောလေ့မရှိကြပါဘူး အမေ၊ ဒီတော့ တယောက်အကြောင်း တယောက် မသိကြဘူးပေါ့၊ ကလေးတွေ ရတဲ့အတွက် ကျေးဇူးတင်မိတယ်၊ ခုတလော သူတို့အကြောင်းပဲ တွေးနေမိတယ်၊ အနာဂတ်ဟာ သူတို့အတွက် ဖြစ်ရ မယ်၊ အန်းဘဝ ဘာဖြစ်ဖြစ် သူတို့ကို မထိခိုက်စေရဘူး၊ ဒါကြောင့် အတွင်းပစ္စည်းတွေ အန်း ဝှက်ထားတာပေါ့"

"ဘာ. . . ဘယ်လို၊ အတွင်းပစ္စည်းတွေ ဟုတ်လား"

"မနေ့ညကပေါ့၊ အန်း တွေးကြောက်လာတယ်၊ အန်း တခုခုဖြစ်ရင် ပစ္စည်းတွေ ဝှက်ထားတဲ့ နေရာကို စင်သီယာ သိတယ်၊ ဒါတွေဟာ ဆွေစဉ်မျိုးဆက် အမွေတွေပဲ၊ သူ့ မျိုးဆက်သွေးတွေအတွက် ဒင်းနစ် ထားခဲ့တဲ့ ပစ္စည်းတွေပဲ

မဟုတ်ဘူးလား”

အန်းသည် စကားတန်ဆာမဆင်ဘဲ ကလေးတယောက်၏ ရိုးသားမှုမျိုးဖြင့် ပြောနေ ခြင်း ဖြစ်၏။ နောက်ဆုံး ဖရန်းစက် မှတ်ချက်ချသည်။

“မင်းဟာ တော်တော်သတ္တိကောင်းတဲ့ အမျိုးသမီးပဲ အန်း”

အန်းက နားမလည်နိုင်စွာဖြင့် မျက်လွှာပင့်ပြီး-

“ရှင် . . . အန်း သတ္တိကောင်းတယ် ဟုတ်လား၊ မဟုတ်ဘူး၊ အန်း ကြောက်နေတာ၊ စိတ်ဓာတ်တွေ ကျနေတာ”

နှစ်ယောက်သား ငြိမ်သွားကြ၏။ အန်းသည် ဖရန်းစက်၏ ရင်ခွင်ထဲတွင် စိတ်သက်သာ ရာ ရနေ၏။ ခဏကြာမှ စကားစသည်။

“ခုလို နှစ်သိမ့်တာ ကျေးဇူးတင်ပါတယ် အမေ”

“လွန်ခဲ့တဲ့ နှစ်တွေကတည်းက အဲဒီလို ဖြစ်ရမှာ၊ မဖြစ်ခဲ့တဲ့အတွက် အမေ စိတ်မကောင်း ပါဘူး သမီး”

“အဲဒါတွေ မေ့လိုက်ပါတော့ အမေ၊ အန်းကလည်း ဟိုတုန်းက အမေ့နှစ်သိမ့်မှု လိုမှ မလိုခဲ့တာပဲ”

ဖရန်းစက် မဆိုစလောက်ကလေး ပြုံးသည်။ သူ့ကို ဘယ်သူမှ မလိုသည်မှာ နှစ်ပေါင်း များစွာ ကြာခဲ့ပါပြီလားဟု တွေးမိ၏။ ဒင်းနစ်က အမေ့အနားကပ်သူ မဟုတ်၊ စင်သီယာက လည်း သူ့ဘာသာသူ လွတ်လွတ်လပ်လပ် နေချင်သူဖြစ်၏။

အန်းသည် ပထမဆုံးအကြိမ်အဖြစ် စဉ်းစားမိ၏။ စစ်ဖြစ်လာပြီး မိမိဘဝ မုန်တိုင်းကျ ကတည်းက ကွန်းခိုရာကို ယခုမှ တွေ့ရခြင်းပါကလား ဟူ၍...။

ဒုတိယအကြိမ် ဖရန်းစက်၏ မျက်နှာကို မော်ကြည့်လိုက်သည်။ အလွန်မဟာဆန် သည့် မျက်နှာ။ မုန်တိုင်းပြယ်စ ဆိတ်ငြိမ်မှုမျိုးလို တည်ငြိမ်သည့် မျက်နှာမျိုး ဖြစ်၏။ ဒင်းနစ် မရှိတော့သော်လည်း မိမိအား စောင့်ရှောက်မည့်သူ အမေ ရှိသေးသည် ဟူသည့် အတွေးမျိုး ခုမှ ဝင်လာခြင်း ဖြစ်လေသည်။

ထိုစဉ် တံခါးခေါက်သံ ပေါ်လာ၏။

“နေ... နေ၊ အမေ သွားဖွင့်ပေးမယ်”

အိပ်ရာပေါ်သို့ အန်း ပြန်လှဲနေလိုက်၏။ စင်သီယာ့ အသံ ကြားရသည်။

"မေမေ၊ အန်း ဘယ်လိုနေသေးလဲ ဟင်"

"နေကောင်းပါတယ်၊ ဘာဖြစ်လို့လဲ"

"သူ့ကို သမီး ပြောစရာရှိတယ်၊ ဒါပေမဲ့ မေမေပြောတာ ပိုကောင်းပါတယ်"

စင်သီယာ တိုးတိုးပြောသော်လည်း အန်း ကြားလိုက်သည်။ အိပ်ရာပေါ်မှ ဖျတ်ခနဲ ထထိုင်ပြီး-

"ဘာလဲဟင်၊ ဘာဖြစ်လို့လဲ စင်သီယာ"

"ဒုက္ခပါပဲ မေမေရယ်၊ သမီး အပြင်မှာ စောင့်နေဖို့ ကောင်းတာ၊ အဲဒီလို ကိစ္စမျိုးတွေ သမီး ဘယ်လိုလုပ်ရမှန်း သိပ်နားမလည်ဘူး"

ဖရန်းစက်က တံခါးဝတွင် ရပ်နေဆဲ၊ စင်သီယာ့ လက်ထဲတွင် သတင်းစာတစောင်။ ခုတင်တိုင်ကို ကိုင်ပြီး အန်း မတ်တတ်ရပ်ရင်း လှမ်းမေးလိုက်သည်။

"စင်သီယာ .. ဟာဒ်ဆင်ခံတပ် မဟုတ်လား"

"ဟုတ်တယ် အန်း၊ လက်နက်ချရတော့မယ် တဲ့"

"ဗိုလ်မှူးကြီး ရှာရမီကော"

အန်း ခပ်တိုးတိုး မေးလိုက်သည်။

"ကျသွားပြီ မမအန်း"

စင်သီယာက အန်းကိုတလှည့်၊ အမေကိုတလှည့် ကြည့်နေ၏။ သတင်းစာကို သူ့လက်ထဲတွင် ကြိုးတချောင်းလို ဆွဲလိမ်နေသည်။

"အို... ဒုက္ခပါပဲ၊ စင်သီယာ ပြောသင့်၊ မပြောသင့်လည်း မစဉ်းစားတတ်တော့ဘူး၊ စင်သီယာ သွားမယ်"

ပြောပြောဆိုဆို တံခါးကို ပိတ်ကာ စင်သီယာ ပြေးထွက်သွားသည်။ အန်းက ခုတင် တိုင်ကိုင်ပြီး တွေရပ်နေ၏။ ဖရန်းစက်က တံခါးနားမှ ဆိုဖာတလုံးတွင် ဝင်ထိုင်လိုက်သည်။ အခန်းထဲတွင် တိတ်ဆိတ်ကျန်ရစ်၏။

အခန်းကို ဖြတ်ပြီး အန်း လျှောက်လာသည်။ အံဆွဲတခုထဲမှ ဗိုလ်မှူးကြီး၏ ပုံကို ထုတ်ယူလိုက်သည်။ ပြီးတော့ စိုက်ကြည့်နေ၏။ ဘယ်လောက် ငြိမ်သက်ပြီး သိမ်မွေ့သည့် မျက်နှာပါလဲ။ မိမိအား အလွန်ချစ်ရှာသည့် ဖေဖေ၊ မိမိ ဘယ်လောက် သုံးသုံးဖြုန်းဖြုန်း ရက်ရက်ရောရော လိုက်လျောသည့် ဖေဖေ။

ထူးဆန်းပုံကို အန်း တွေးကြည့်နေသည်။ သောကပင်လယ် ဝေနေသည့်ကြားတွင် သည်သတင်း ရောက်လာခြင်းကြောင့် မိမိပုံလျက်သား ကျသွားနိုင်၏။ သို့သော် ဗစ်ဘတ်ကျပြီးလျှင် ဟာဒ်ဆင်ခံတပ် ကြွံကြွံမခံနိုင်ဟု ကြိုတွက်ပြီးသား ဖြစ်နေ၍ မိမိအနေဖြင့် အထိမနာခြင်း ဖြစ်နိုင်သည်။ မည်သို့ဖြစ်စေ အဖေ့ကို မသေစေချင်သေး။ ဓာတ်ပုံကို စိုက်ကြည့်လျက် အန်း အသံထွက်လာသည်။ အလေးအနက် ပြောနေခြင်း ဖြစ်၏။

“ဖေဖေဟာ မသေသင့်ဘူး၊ သေတော့လည်း သူရဲကောင်းဆန်ဆန် ကျဆုံးခြင်းမျိုး မဖြစ်နိုင်ဘူး၊ လုံးဝသဘာဝမကျတဲ့ ကျဆုံးခန်းပဲ၊ ဘာဖြစ်လို့လဲ ဆိုတော့. . . အမေ့မို့ ဖွင့်ပြောရဲ တာပါ၊ အဖေဟာ ယုံကြည်ချက်နဲ့ ကျဆုံးသွားတာ မဟုတ်ဘူး၊ အဖေဟာ ခွဲထွက်ရေးကို ဘယ်တုန်းကမှ မထောက်ခံခဲ့ဘူး၊ ဒါပေမဲ့ တသက်လုံး စစ်တိုက်ခဲ့တဲ့ စစ်သား ဆိုတော့ တဖက်ဖက်က ဝင်တိုက်ချင်တယ်၊ ဒါပေမဲ့ သေနတ်ပြောင်းကို ကိုယ့်လူတွေဘက်ကို ကိုယ် ပြန်မလှည့်ချင်ဘူး၊ ဒါပေမဲ့ စစ်ဖြစ်လာတော့ ဒီစစ်ပွဲကို မယုံတဲ့အကြောင်း တခွန်းမှ မပြောဘူး၊ တောင်ပိုင်းတခွင်လုံးက ထိန်းမနိုင် သိမ်းမရ တက်ကြွနေကြတာကိုး၊ သူ့အနေနဲ့ ပြောစရာ အကြောင်းလည်း မရှိဘူးလေ၊ သူ့အတွက် တော်တော်အစဉ်းစားရကျပ်မယ့် အခြေအနေမျိုးပဲ၊ မက္ကဆီကိုစစ်ပွဲအပြီး ပြည်ထောင်စုတပ်ရဲ့ စစ်သွေးစစ်မာန်တွေ ကြွနေတဲ့အထဲမှာ အဖေ လည်း ပါတယ်၊ အဲဒီအခြေကနေ ပြည်ထောင်စုစစ်တပ်က ထွက်ပြီး. .. အင်း . . . အန်းအနေနဲ့ သမီးတယောက်ရဲ့တာဝန် အဖေ့အပေါ်မှာ မကျေပွန်ခဲ့ပါဘူး”

ဖရန်းစက်က ထရပ်သည်။ အန်း လှည့်ကြည့်လိုက်၏။ ဖရန်းစက်သည် လက်သီး နှစ်ဖက်ကို ရှေ့တွင် ဆုပ်ထား၏။ ရှေ့တည့်တည့်ကို စိုက်ကြည့်နေ၏။ သို့သော် သူ ဘာမျှ မြင်ပုံ မရ။

“သူရဲကောင်းဆန်တယ် ဆိုတဲ့စကား ထည့်မပြောနဲ့ အန်း၊ ဒီစစ်ပွဲကို တို့တတွေ ယုံကြည်ဟန်ဆောင်ခဲ့ကြတာ။ ဒါပေမဲ့ အစကတည်းက သိကြပါတယ်၊ မိုက်ရူးရဲ ထတိုက်တဲ့ စစ်ပွဲ၊ ခွေးသေ ဝက်သေ သေမယ့် စစ်ပွဲပဲ”

စကားလုံးများကို ရှိသမျှ အားအင်ညှစ်ထုတ်ပြီး ပြောနေပုံရ၏။ သူ့ကို ကြည့်ပြီး အန်း လန့်လာသည်။ စစ်၏ အနိဋ္ဌာရုံတွေကို ကြုံခဲ့ရပြီး သားပါ ဆုံးခဲ့ရသဖြင့် ကြိတ်မှိတ်ခံကာ တင်းထားခဲ့ရာမှ ဗိုလ်မှူးကြီးရှာရမီ၏

ကျဆုံးသတင်းကြောင့် ဖရန်းစက်တယောက် ဆောက်တည်ရာမရ တုန်လှုပ်ချောက်ချားနေခြင်းလား။

ဖရန်းစက်သည် ပြောနေရာမှ ရပ်ပြီး လက်နှစ်ဖက်ဖြင့် ဘယ်ဘက်ရင်အုံအောက်ကို ဖိလိုက်သည်။ သူ့လည်ချောင်းထဲမှ ညည်းတွားသံလိုလို၊ ညှစ်အော်သည့် အသံလိုလို ထွက် လာ၏။ အန်း သူ့ဆီ ပြေးသွားသည်။

"အမေ လာ၊ ကျွန်မ တွဲမယ်"

အဘွားကြီးက သူ့ရင်ဘတ်ကို ဖိထားလျက်က ကြိုးစားပြီး စကားပြောသည်။

"မရတော့ဘူး သမီး၊ အမေ မတတ်နိုင်တော့ဘူး"

ပြောပြောဆိုဆို ကော်ဇောပေါ်သို့ ပုံကျသွားတော့၏။ အန်း အလန့်တကြား အော်လိုက် သည်။ စိတ်က လုပ်စရာကို အလိုလို သိလိုက်ပုံဖြင့် အန်းသည် ဖရန်းစက် အသက်ရှူ ချောင်အောင် အကျႌကော်လာကို ဆွဲဖြုတ်သည်။ သို့သော် အကြောင်း မထူးတော့။

နောက်ပိုင်းတွင် စင်သီယာကို ပြောပြမိသည်။

"ကိုယ်တော့ အမြဲသတိရနေတော့မှာပဲ စင်သီယာ၊ ကိုယ်တို့နှစ်ယောက်ဟာ တယောက် နဲ့ တယောက် နားလည်ပြီးခါမှကွယ်၊ စိတ်ထဲမှာ တယောက်တည်း ကျန်ခဲ့သလိုပဲ"

ဖရန်းစက်၏ ရင်ခွင်ထဲတွင် လုံခြုံမှုရလိုက်သည့် တဒင်္ဂကို အန်း သတိရနေ၏။ သည်လို စိတ်၏ ငြိမ်းချမ်းမှုမျိုး နောက်ရနိုင်ပါတော့မည်လား ဟူသည်ကို သံသယ ဖြစ်မိသည်။ ဖရန်းစက်သည် နောက်ဆုံးအချိန်အထိ မိမိကို အားပေးဖို့ ကြိုးစားခဲ့ကြောင်း အန်း သိခွင့် ရလိုက်သည်။ ကမ္ဘာကြီးထဲတွင် တယောက်တည်း ကျန်ခဲ့သလို စိတ်ထဲ ထင်လိုက်၏။ အားလုံး မိမိအား စွန့်ခွာသွားခဲ့ကြပြီ။ ဘာမျှ မကျန်တော့၊ ဘာဆို ဘာမျှ မရှိတော့။

ဘာမျှ နားလည်နိုင်စွမ်း မရှိသော လောကကြီး အလယ်တွင် မျက်စိသငယ်ဖြင့် ကျန်ခဲ့ ပြီဟု စိတ်ထဲ ထင်လိုက်၏။

# (၃)

အန်း၏ ဒုတိယကလေးမှာ မိန်းကလေး ဖြစ်သည်။ နွေခေါင်ခေါင် အောက်တိုဘာ ရက်တရက်တွင် မွေးဖွားခဲ့ခြင်း ဖြစ်သည်။ အပူရှိန်သည် အညှာအတာ ကင်းမဲ့စွာဖြင့် နှိပ်စက် နေ၏။ သစ်ပင်၊ ပန်းပင်များပင် မခံနိုင်တော့သလို ငိုက်ယွန်း ညှိုးကျနေကြ၏။ အန်းသည် ဟိုတုန်းက နွေကို ချစ်ခဲ့သည်။ မြောက်ပိုင်းသို့ သွားလည်ရလျှင် ပျော်သည်။ သည်နှစ်တော့ သစ်ပင်၊ ပန်းပင်များနှင့်အတူ ညှိုးနွမ်းနေ၏။ စိတ်ရော ကိုယ်ပါ ယဲ့ယဲ့သာ ကျန်တော့သည်။

သည်လိုအခြေအနေမျိုးတွင် မည်သူမဆို သည်လိုပဲ ရှိမည်။ အားနည်းနေသောကြောင့် ကြောက်စိတ်တွေ ဝင်နေခြင်း ဖြစ်မည်ဟု ကိုယ့်ကိုယ်ကိုယ် အားတင်း၏။

သတင်းစာ လုံးဝမဖတ်တော့။ ဘာသတင်းမျှ မသိချင်တော့။ တယောက်တည်းပဲ နေချင်တော့သည်။ ခံစားမှုတွေ ထုံထိုင်းနေပြီ။ ပတ်ဝန်းကျင်တခုလုံး ဘာကြီး ဖြစ်နေ ဖြစ်နေ မိမိဆီသို့ ဂယက်တွေ ရိုက်ခတ် မလာလျှင် တော်ပြီ။

ဒေါက်တာပါစယ်ရော အခြား ဆရာဝန်များပါ ဘယ်သူမျှ မရှိကြတော့။ ရှေ့တန်း ပြန် ဒဏ်ရာရ စစ်သားများနှင့် သူတို့ လက်မလည်ကြတော့ပေ။ ကလေးကို မမ်မီနှင့် ဘာသာ တို့ အားကိုးဖြင့် မွေးရသည်။

မွေးပြီးတော့ သမီးကလေးကို ကြည့်ချင်လှသည်။ အနိုင်နိုင်ကြိုးစားပြီး မျက်စိဖွင့် ရ၏။ မမ်မီက ပုခက်ထဲထည့်မည် လုပ်တော့ တိုးတိုးကလေး ပြောလိုက်နိုင်၏။

"မထည့်နဲ့၊ မထည့်နဲ့၊ ဒီကိုပေး"

လက်မောင်းနှစ်ဖက်ကို အားတင်းပြီး မလိုက်၏။ သမီးကလေးကို သိုင်းဖက်လိုက် သည်။ ကလေးပေါက်စကလေး၏ လက်ဖြင့် သူ့ပါးပြင်ကို အပ်ထားလိုက်သည်။ ရင်ထဲ နွေးသွား၏။ သားဦးကလေးကို ပွေ့ချီရစဉ်ကလည်း သည်အတိုင်းပဲ။ ပန်းတိုင်ဆီကို သွားနေ သည့် ခရီးရှည်ကြီးလိုပါပဲလား။

သို့သော် သမီးကလေးက ပိုထူးခြားနေသလို ထင်ရ၏။ ဒင်းနစ်၏ နောက်ဆုံးအမွေ။ သူကိုယ်တိုင် ထားခဲ့မှန်း သိမသွားရှာသော အမွေ။

ကာလပျက်နေချိန် မွေးလာသော သမီး ကလေး။

ရင်ခွင်ထဲမှ သမီးကလေးမှာ နွေးထွေးနေ၏။ သားကလေးကို ပင်ပန်းနွမ်းနယ်နေသည့် ကြားမှ သတိရလာသည်။ လောကကြီး ဘာပဲ ဖြစ်နေဖြစ်နေ ကလေးတွေအတွက် အနိဋ္ဌာရုံ ဟူသရွေ့ မြူငွေ့မျှ မထင်စေရဟု သန္နိဋ္ဌာန်ပြုလိုက်သည်။ စိတ်ထဲ ပေါ့သွား၏။ ခန္ဓာကိုယ်မှ နာကျင်မှု ဝေဒနာများလည်း ပိန်းကြာဖက်တွင် ရေမတင်သလို ကင်းစင် လွင့်ပျောက်သွားကြ၏။

ပြတင်းပေါက် ခန်းဆီးများကို မမ်မီ လိုက်ဆွဲချနေသံ ကြားရ၏။ တခန်းလုံး မှောင်သွား သည်။ အန်း ပြုံးလိုက်၏။ ပြီးတော့ နှစ်နှစ်ခြိုက်ခြိုက် အိပ်ပျော်သွားတော့သည်။ အိပ်မောကျနေစဉ် အသံဗလံတွေ ကြားနေ၏။ ဘာသံတွေမှန်းတော့ မသိ။ အနာကျင် ဆုံး ဝေဒနာခံစားရပြီး အိပ်စက်နားနေချိန် ထိုအသံများသည် အညှာအတာ ကင်းမဲ့စွာ နှောင့်ယှက် ဖျက်ဆီးနေ၏။

ထိုအသံများသည် မိမိအား အတင်းနှိုးနေသလိုရှိ၏။ နိုးလာတော့ သမီးကလေးပါ လန့်နိုးလာသည်။ အလန့်တကြား အော်ငို၏။ အန်းက ကလေးကို ချော့သည်။ ကြားနေရသည့် အသံတွေ ဆူသည်ထက် ဆူလာသည်။ တဒုန်းဒုန်း တဒိုင်းဒိုင်းဖြင့် ခြေသံတွေ၊ ပြီးတော့ ဆူဆူညံညံ ယောကျ်ားသံများ။

ခန်းဆီးများကြားမှ ဝင်နေသည့် အလင်းရောင်တန်းကြောင့် အခန်းထဲတွင် သိပ် မမှောင်။ အလင်းရောင် ထိုးဆင်းနေပုံကို ကြည့်ပြီး အိပ်ပျော်သွားသည်မှာ တနာရီ၊ နှစ်နာရီ သာ ရှိမည်ဟု အန်း ခန့်မှန်းလိုက်သည်။

အိမ်ပေါ်ထပ်တွင် ဆူနေသူတွေက ဘယ်သူတွေလဲ၊ မီးနေသည် အနားမှာ ဒါလောက် ဆူရသလား။ မမ်မီတို့၊ နပိုလီယံတို့၊ စင်သီယာတို့ ဘယ်ရောက်နေကြလဲ။ ဘာဖြစ်လို့ ဆူညံသံ တွေကို မတားကြတာလဲ။ ဒါထက် ဘယ်သူတွေ လာဆူနေကြတာလဲ။ ထဖို့ ကြိုးစားကြည့် သည်။ မရ။ နဖူးတွင် ချွေးတွေ စို့လာ၏။

ဝုန်းခနဲ တံခါးပွင့်သွားသည်။ မမ်မီကို တွန်းပြီး စစ်သားတယောက် ဝင်လာ၏။ အပြာ ရောင် ယူနီဖောင်းဝတ်တွေ။ မမ်မီ တားနေသည်ကို လုံးဝ ဂရုမစိုက်။ ပြီးတော့ တယောက်ပြီးတယောက် ဝင်လာကြသည်။ တခန်းလုံး ပြည့်လုခမန်း ဖြစ်သွား၏။ အန်းကို တယောက်မျှ ဂရုမစိုက်ကြ။

တယောက်က ဖယောင်းတိုင်ခွက်ကို ကောက်ကိုင်ပြီး-

"ဟေး… ဒီမှာ ကြည့်စမ်း၊ ငွေအစစ် ထင်တယ်ကွ"

နောက်တယောက်က ပုခက်နှင့် ဝင်တိုက်ပြီး လဲကျမလို ဖြစ်သွားသည်။ နှစ်ယောက် က အဝတ်ဗီရိုတံခါးကို ဆွဲဖွင့်ကြ၏။ မိနစ်ပိုင်းအတွင်း အဝတ်တွေ အားလုံး ကြမ်းပြင်ပေါ် ပုံကျလာသည်။ သူတို့မှာ အချိန်များများ ရဟန်မတူ။ အတင်းတိုးဝှေ့ ခွဲဝေယူနေကြ၏။ အချို့ က အဝတ်တွေပေါ် တက်နင်းမိကြ၏။

ဒေါသကြောင့် အန်း အသားတွေ ဆတ်ဆတ်တုန်နေသည်။ သို့သော် ဘာမျှ မတတ် နိုင်။ သမီးကလေးကို တင်းတင်း ဖက်ထား၏။ အားနည်း ဖျော့တော့နေတာတွေ မေ့သွားပြီး သမီးကလေးအပေါ် အန္တရာယ်တမျိုးမျိုး ကျရောက်လာမည်ကို စိုးရိမ်စိတ်ဖြင့် အကာအကွယ် ပေးနေသည့်အလား။ အသံမထွက်အောင် ခေါင်းအုံးနှင့် မျက်နှာအပ်ပြီး ကျိတ်ငိုနေမိ၏။ အခန်း ထဲမှ ဆူဆူညံညံအသံတွေကို လွှမ်းပြီး အပြင်မှ စင်သီယာ၏ စူးစူးဝါးဝါးအော်သံ ကြားလိုက် ရသည်။

“ရှင်တို့တွေဟာ လူတွေ မဟုတ်ကြဘူးလား၊ အားလုံး ထွက်ပေးပါ၊ သူသေရင် ရှင်တို့ တရားခံပဲ၊ သွေးနုသားနုရှင့်”

ဗိုလ်ကြီးတယောက် အခန်းထဲ ဝင်လာသည်။ သူ့လူတွေကို တိုးဝှေ့ပြီး အန်း၏ ခုတင်ဆီ လျှောက်လာသည်။

ဟော့ . . . ထွက်ကြစမ်း၊ ဒီမှာ ဟိုမိန်းကလေး ပြောတာ အမှန်ပဲ၊ သွားကြ”

“လက်ထဲမှ အဝတ်တွေကို ချပြီး စစ်သားတွေ ထွက်သွားကြ၏။ ဗိုလ်ကြီးက ခုတင် နံဘေးတွင် ရပ်ပြီး မေးသည်။

“ကလေးက ဘယ်တုန်းက မွေးတာလဲ” မျက်ရည်တွေ ကျလျက်က အန်း ဖြေသည်။

“နာရီပိုင်းပဲ ရှိသေးတယ်”

ဗိုလ်ကြီးလုပ်သူ အထိတ်တလန့် ဖြစ်သွားသည်။ အန်း၏ လက်မောင်းကို ကိုင်ပြီး တောင်းပန်သည်။

“ခုလို ဖြစ်ရတာ ကျွန်တော် ဝမ်းနည်းပါတယ် မဒမ်၊ တောင်းပန်ပါတယ်”

အန်း ဘာမျှ ပြန်မပြောနိုင်။ ထိန်းလို့ မရဘဲ ဆက်ကျနေသည့် မျက်ရည်တွေကို ကျိတ်ပြီး ကျိန်ဆဲလိုက်မိ၏။ ကြမ်းပြင်ပေါ်တွင် ပြန့်ကျဲနေသည့် အဝတ်တွေကို သူ ဖိနပ်ဖြင့် လမ်းရှင်း ပြီး ထွက်သွားသည်။

တယောက်တည်း ကျန်ရစ်တော့ မျက်နှာကို လက်ဝါးဖြင့် အုပ်ကာ မျက်ရည်ကို ထိန်းဖို့ကြိုးစားသည်။ ဘာကိုမှ မစဉ်းစားချင်တော့။ ဒေါသလည်း ဖြစ်၊ အားလည်း ကုန်နေပြီ။ ကလေး ဘာမှ မဖြစ်သည့် အတွက်တော့ ဝမ်းသာနေ၏။

ဘယ်လောက် ကြာသွားသည် မသိ၊ အိပ်ရာမှ နိုးလာအောင် လုပ်သည့်အသံတွေ တဖြည်းဖြည်း ဝေးသွားသည်။ စင်သီယာ ကမန်းကတန်း ဝင်လာသည်။ ရှုပ်ပွပြန့်ကျဲနေသည့် အခန်းကို ကြည့်ပြီး ခုတင်နံဘေးတွင် ဒူးထောက် ထိုင်ချလိုက်သည်။

“မိုက်ရိုင်းလိုက်တဲ့ လူရမ်းကားတွေ၊ မမအန်း ဘာမှ မဖြစ်ဘူးနော်၊ သူတို့ ဘာလုပ် သေးလဲဟင်”

“ဘာမှ မဖြစ်ပါဘူးကွယ်၊ သူတို့ ဘာလာလုပ်တာလဲဟင် စင်သီယာ”

အန်းက အားယူပြီး ခပ်တိုးတိုး ပြန်မေးသည်။

“မမအန်း အနားကို ဒင်းနစ်ကလေး လာဆော့နေမှာစိုးလို့ စင်သီယာ သူနဲ့ ပန်းခြံ ထဲမှာ ကစားနေတာ၊ သူတို့ ဘွားခနဲ ပေါ်လာတာပဲ၊ မြေကြီးထဲက ထွက်လာသလား အောက်မေ့ ရတယ်၊ သူတို့ ဘာတွေ လုပ်သွားတယ် ဆိုတာ စင်သီယာ အားလုံးတောင် မသိဘူး၊ မြည်းတွေ တော့ မောင်းယူသွားတယ်၊ ကုန်သလောက်ပဲ။ ဝက်သားခြောက်တွေ၊ ကြက်တွေရောပဲ၊ တအိမ်လုံးလည်း မွှေနှောက်သွားတယ်၊ မမအန်း မျက်နှာမြင်နေတဲ့ အကြောင်း စင်သီယာ ပြောပါတယ်၊ သွေးတက်ပြီး သေသွားနိုင်တယ်လို့၊ ဒါပေမဲ့ သူတို့ မယုံကြဘူး၊ နောက်ဆုံးမှ ဗိုလ်ကြီးကို အတင်းဆွဲခေါ်ပြီး တက်လာတာ”

“သူတို့ ပြန်သွားကြပြီလား”

“အင်း... ပြန်သွားကြပြီ၊ ဘာမှ မပူနဲ့တော့နော်၊ မမအန်း ပြန်အိပ်လိုက်”

“ဒင်းနစ်ကလေးကော စင်သီယာ”

“မမ်မီ ထိန်းနေတယ်”

“သူ ဘာမှ မဖြစ်ဘူးနော်”

“ဘာမှ မဖြစ်ပါဘူး မမအန်းရဲ့၊ ကဲ . . . ပြန်အိပ်လိုက်နော်”

“ကိုယ် ကြည့်ချင်သေးတယ်ကွယ်၊ ခဏ ခေါ်လာပေးပါလား”

ဒင်းနစ်ကလေးကို အန်း ခေါ်လာပြသည်။ ခုမှ အန်း သက်ပြင်းချနိုင်၏။ ဘာမျှ မဖြစ် သည့်ပြင် ချာတိတ်က ပိုမြူးနေ၏။ ယိုတွေ စားထားတာ တကိုယ်လုံး ပေကျံလို့။ စစ်သား တယောက်က ချောကလက်၊ တယောက်က ယိုဘူး ပေးသွားသည် တဲ့လေ။ ဒင်းနစ် စိတ်ကြိုက် စားနေပုံရ၏။

"တော်သေးတယ် မမအန်း၊ သူတို့ မြေအောက်ခန်းထဲ မဆင်းကြဘူး၊ ကာထားတဲ့ ဝိုင်ဗီရိုထဲက ပုလင်းတွေတော့ ကုန်ပြီ၊ မမအန်းက သိပ်တော်တာပဲ၊ ပစ္စည်းတွေ ဝှက်ထားတာ လက်မတင်ကလေးပဲနော်"

စင်သီယာ အားတက်သရော ပြောနေ၏။ အန်းက ခေါင်းညိတ်ပြီး-

"ကဲ... သွားကြတော့၊ သွားကြတော့""

သူတို့ တူဝရီး ထွက်သွားသည်နှင့် တန်းပြီး အိပ်ပျော်သွားတော့၏။

နောက်ရက်သတ္တပတ်ပေါင်းများစွာ အန်းသည် မူးရီမူးဝေ ဖြစ်နေ၏။ ပတ်ဝန်းကျင် တွင် ဖြစ်ပျက်နေသည်များကို ဝိုးတဝါးသာ မှတ်မိ၏။ ကြားရသည့် သတင်းများသည် နားထဲ သာ ဝင်ပြီး ခေါင်းထဲသို့ မရောက်။

ဒယ်လ်ရှိုင်းသည် စစ်အုပ်ချုပ်ရေး လက်အောက်သို့ ရောက်နေပြီ။ စစ်တပ်က ထုတ်ပေးထားသည့် လက်မှတ်မပါလျှင် ဘယ်သူမျှ လမ်းပေါ် မထွက်ရ။

အစေခံတွေ အိမ်မှ ပျောက်သွားကြပြီ။ နပိုလီယံ၊ ဘာသာ၊ မမ်မီနှင့် ဘာသာ့သား ကလေး ဂျင်မီတို့သာ ကျန်ရစ်၏။

"ကိစ္စမရှိဘူး၊ အန်း ဘာမှ ဂရုမစိုက်ဘူး၊ အန်းတယောက်တည်းပဲ နေချင်တယ်" ဟု ထပ်ကာထပ်ကာ ပြောနေ၏။ အန်းတယောက် တော်တော်နှင့် နာလန်ပြန် မထူနိုင် ဖြစ်နေသည်။ နောက်ဆုံးတွင်မှ အောက်ထပ်သို့ ဆင်းနိုင်သည့် အခြေအနေသို့ ရောက်လာသည်။ သမီးကလေးကို ပွေ့ပြီး အန်း ဆင်းလာသည်။ ကလေးကို "ဗာဂျီးနီးယား" ဟု နာမည် ပေးလိုက်၏။ သည်နာမည်ကို အန်း ကြိုက်သဖြင့် ရွေးပေးခြင်း ဖြစ်၏။ ငယ်ငယ်တုန်းက ကစားစရာ အရုပ်ကလေးတွေကိုလည်း သည်နာမည်ပင် ပေးခဲ့၏။

လှေကားအောက်ဆုံး အထစ်တွင် ထိုင်ပြီး ခန်းမဆောင်ထဲကို ငေးကြည့်လိုက်သည်။

"စင်သီယာ၊ ပန်းချီကားတွေကော"

“ထပ်ခိုးပေါ်မှာ မမအန်း၊ နပိုလီယံနဲ့ စင်သီယာ ဖြုတ်ပြီး ဝှက်ထားလိုက်တယ်၊ တချို့ကားတွေက အဖိုးတန်တွေ မဟုတ်လား”

“ဟုတ်လား”

ခုမှ အန်းရင်ထဲ အေးသွားသည်။ မြန်မြန်ပြန်ချိတ်ရမည်။ သည်ပုံတွေကို ပြန်ကြည့်ချင် နေ၏။ သည်မျက်နှာများသည် လန်းမျိုးဆက်ကို လက်ဆင့်ကမ်းခဲ့သည့် မျက်နှာများ ဖြစ်သည်။ သည်ပုံများနှင့် သည်ပုံများ နောက်ကွယ်မှ ပုံပြင်ဆန်ဆန် သမိုင်းဖြစ်စဉ်များကို သားနှင့် သမီးအား ပြောပြရမည်။

အန်းသည် ဟိုစဉ်က မျိုးဆက်သွေး အကြောင်းကို အလေးအနက်ထားပြီး မစဉ်းစားခဲ့ ဖူးပေ။ ယခုတော့ အန်း နားလည်လာပြီ။ နားလည်ခွင့်ရခဲ့သည့် အတွက်လည်း ကျေးဇူးတင် နေ၏။

မျိုးဆက်သွေး၏ တန်ဖိုးအကြောင်းကို အမြဲသတိရနေစေဖို့ ယင်း၏ သင်္ကေတများ ဖြစ်သည့် ပန်းချီကားကြီးများကို အမြဲ ကြည့်နေချင်၏။ ငုံ့ကြည့်ပြီး ရင်ခွင်ထဲမှ သမီးကလေး၏ ဦးခေါင်းကို နမ်းလိုက်၏။

သည်တော့မှ လှေကားခြေရင်းက ကြမ်းခင်းကို ငုံ့ကြည့်မိသည်။

ဟယ်... စင်သီယာ၊ ဒါ ဘာဖြစ်တာလဲဟင်၊ မြင်းခွာရာလိုပဲ”

“ဟုတ်တယ် မမအန်း၊ ယန်းကီးတယောက်က ခန်းမထဲအထိ မြင်းစီးပြီး ဝင်လာ တယ်လေ”

စင်သီယာက မကျေမချမ်း လေသံဖြင့် ပြောပြသည်။ လှေကားကြီးကို အန်း မော်ကြည့် သည်။ ကျူးကျော်စော်ကားသူများရဲ့ မြင်းခွာရာ ထင်ကျန်စေဦးတော့ “ဘဝဆိုတာ ဒီလှေကား ကြီးလိုပဲ တဆင့် တဆင့် ဇွဲဝိုက်ပြီး မြင့်တက်သွားရမယ်” ဟု လှေကားရင်းတွင် ထိုင်ရင်း စဉ်းစား၏။

သို့သော် စိတ်ထဲ ရှိသည့်အတိုင်း ဖြစ်လာဖို့ကား လွယ်မည် မဟုတ်ပါချေ။ စစ်က မပြီးသေး၊ ဆက်တိုက်နေကြတုန်း။ လောကကြီးတွင် စစ်ကလွဲ၍ မရှိသည့်အလား။ စစ် အကြောင်းက လွဲပြီး ဘာမျှ မပြောတော့။

စကားဝိုင်းများထဲသို့ အန်း မဝင်တော့။ အန်း စကားနည်းလာ၏။ တယောက်တည်း နေတတ်လာ၏။ လုပ်စရာရှိသည့် ကိစ္စမှလွဲ၍ ဘယ်မှ မသွားတော့။ ကလေးနှစ်ယောက်၏ ဝေယျာဝစ္စတွေ လုပ်သည်။ ဘာသာ့ကို

အိမ်မှုကိစ္စတွေ သင်ပေးသည်။

ဝက်သစ်ချမြိုင်ကို အစေခံ သုံးယောက်တည်းဖြင့် မနိုင်နိုင်။ ဖုန်သုတ်သည့် အလုပ် ကိုပင် ပုံမှန် မလုပ်နိုင်တော့။

ဤသို့ မနိုင်မနင်း ဖြစ်လာသည့်အခါ လူက ထုံထိုင်းထိုင်း ဖြစ်လာ၏။ ဘာသာကို တောင် ဆရာ မလုပ်တတ်သလို ဖြစ်လာ၏။ “ငါ ဘာလို့ ဒါလောက် တုံးနေရတာလဲ” ဟု ကိုယ့်ကိုယ်ကိုယ် အားမလိုအားမရ ပြောမိသည်မှာ အကြိမ်ကြိမ်။ သည်အကြောင်းများကို အန်း ဘယ်သူ့မျှ ဖွင့်မပြော။ အပျက်အစီးတွေ၊ မီးလောင်မြေများ အကြောင်းကို မပြောသလို အိမ်တွင် ဖြစ်နေသည့် ကမောက်ကမ ကိစ္စအားလုံး ဘယ်သူနှင့်မျှ မျှဝေခံစားခြင်း မပြု။

သို့သော် မိမိသည် ဝက်သစ်ချမြိုင်၏ အရှင်သခင်မ ဖြစ်နေသေးသည်။ သည်တော့ သတ္တိရှိဟန် ဆောင်နေရဦးမည်။ ဤမျှနှင့် ပြီးပါစေတော့ဟု ဆုတောင်းသော်လည်း ဇာတ်လမ်း က မဆုံး။ လူတွေ သေနေကြဆဲ၊ တဖက်နှင့်တဖက် ရက်ရက်စက်စက် သတ်နေကြဆဲ။

လူတွေက မိမိ၏သတ္တိကို ချီးကျူးကြသည်။ ထင်ကြပါစေ၊ အန်း ငြိမ်ငြိမ်ကလေး နေလိုက်သည်။ လူတွေ အပိုင်းပိုင်း အပြတ်ပြတ် သေဆုံးကြသည့်သတင်း၊ ကတုတ်ကျင်း များတွင် သွေးတွေ လျှံသွားသည့် သတင်းများ ကြားရသည့် အခါ မျိုးတွင် ရူးမလိုလို ဖြစ်သွားပြီး အိပ်မက်ဆိုးတွေ ဆက်တိုက်မက်ဖူးကြောင်း ဘယ်သူ့မျှ ထုတ်မပြော။ ညညတွင် ထထိုင်ပြီး နားထင်နှစ်ဖက်ကို လက်နှင့်ဖိကာ “တော်ကြပါတော့၊ ရပ်ကြပါတော့၊ သူတို့လိုချင်တာ ပေးလိုက် ကြပါတော့” ဟု အမှောင်ထဲတွင် ရှိုက်ကြီးတငင် ငို၍ ပြောတတ်ကြောင်းကို ဘယ်သူ့မျှ မသိ။

※※※

# အခန်း(၉)

## (၁)

ဆိပ်ကမ်းတွင် ရပ်ပြီး စစ်တပ်ရိက္ခာလှည်းမှ လစ်ထားလိုက်သည့် ငှက်ပျောသီးတလုံး ကို ကိုရီမေ စားနေသည်။ နေပူကျဲကျဲထဲတွင် ဖြစ်၏။ ထောင်ထဲတွင် အကြာကြီး နေခဲ့ပြီးနောက် နေရောင်ခြည်သည် ကိုရီမေအတွက် ပျော်စရာ ဖြစ်နေ၏။ မြစ်ထဲမှ ဆူဆူညံညံ အသံများကို နားဝင်ပီယံ ဖြစ်နေ၏။ ဖိနပ်မပါသည့် ခြေထောက်အောက်မှ ပူချစ်နေသည့် ကြမ်းခင်းများ နှင့် ဆံပင်ကျွတ်ပါသွားမတတ် တိုက်ခတ်နေသည့် လေသည်လည်း ချစ်စဖွယ် ဖြစ်နေ၏။

အဝတ်တွေ စုတ်ပြတ်နေသော်လည်း စိတ်ဓာတ်တက်ကြွလျက် ရှိသည်။ ဗိုက်ဖြည့်ရန် စစ်တပ်ပိုင်ပစ္စည်းကို ခိုးဖို့လည်း ဝန်မလေး၊ ကြောက်စိတ် မရှိ။

ပြည်တွင်းစစ်ကြီး ပြီးဆုံးသွားပြီ။ အရာတိုင်း ပြောင်းလဲတော့မည်။ ကောင်းလာမည် လား၊ ဆိုးလာမည်လား မသိ။ ဘာပဲဖြစ်ဖြစ် ကိုရီမေ ရင်ဆိုင်ဖို့ အသင့်ပြင်ထားပြီး ဖြစ်၏။ ထောင်ထဲတွင် နေရသည့် ကာလတလျှောက်လုံး ငရဲပြည်ရောက်နေသည်နှင့် တူ၏။ အစားအသောက်က တိရစ္ဆာန်ကို ကျွေးလျှင်ပင် စားမည့် အစာမျိုး မဟုတ်။ အတူတူ နေရသည့် အမျိုးသမီးတွေက စိတ်ညစ်စရာ။

အရက်မူး၍ ထောင်ကျသူများ၊ ပြည့်တန်ဆာများ ဖြစ်၏။ သို့သော် နေသားကျသွားပြီး တော့လည်း သူတို့နှင့် ဆက်ဆံရသည်မှာ အဆိုးကြီး မဟုတ်ပါ။ သူတို့သည် အကြင်နာတရား ရှိသူများ ဖြစ်သည်။

ကမ္ဘာကြီးထဲတွင် နေရသည့် ဘဝသည် ကြမ်းတမ်း ခက်တရော်လှသည်။ သို့သော် မှုနေ၍ မဖြစ်။ ဒီကမ္ဘာကြီးထဲတွင်ပင် မဖြစ် ဖြစ်အောင် နေရမည်ဟု သူတို့က ကိုရီမေကို ဆုံးမစကား ဆိုသည်။

ကိုရီမေ ပြောသမျှကိုလည်း သူတို့ နားထောင်ကြ၏။ ကိုရီမေက သူ့ဇာတ်လမ်းကို ပြောပြသည်။ စစ်သားတွေက ဘတ်ချ်ကို ပစ်သတ်သည့် အခန်းရောက်တော့ သူတို့ ငိုကြသည်။ သူတို့လို မိန်းမများ မျက်ရည်ကျလိမ့်မည်ဟု ကိုရီမေ လုံးဝ မမျှော်လင့်ခဲ့။ သို့သော် သူတို့သည် ဒေါသဖြစ်ရမှန်း မသိ၊

ဝမ်းနည်းရုံသာ ဝမ်းနည်းတတ်ကြ၏။ သည်အတွက် သူတို့ကို ကိုရီမေ နားမလည်နိုင်အောင် ဖြစ်ရသည်။

ဘတ်ချ် ပစ်သတ်ခံရသည့်သတင်း ရရချင်း ကိုရီမေ ယူကျုံးမရ ဖြစ်ရသည်။ ပြီးတော့ ဒေါသအမျက် ခြောင်းခြောင်း ထွက်ခဲ့၏။ ပြီးတော့ ခါးသီးပြင်းထန်သည့် ဆုံးဖြတ်ချက်ကို ချမိလျက်သား ဖြစ်သွားသည်။

ထောင်က လွတ်လျှင်လွတ်ချင်း ဘဝကို အစက ပြန်စမည်။ ဘယ်တော့မျှ အမခံတော့။ အတွေ့အကြုံတွေက ကျွဲပခုံးထနေပြီ မဟုတ်လား။ ထို့ကြောင့်လည်း တနေ့တွင် အပြာရောင်ဝတ်စုံနှင့် စစ်သားတယောက် ရောက်လာပြီး "ဟဲ့ကောင်မတွေ ဖယ်ပေးကြ၊ ဒီနေရာကို တို့ ဆေးရုံလုပ်မလို့" ဟုပြောတော့ သူများတွေလို မေးခွန်းတွေ ထုတ်မနေဘဲ ကိုရီမေ အသာကလေး ထွက်လာခဲ့သည်။

ငှက်ပျောခွံကို မြစ်ထဲ ပစ်ချပြီး ပန်းခြံဘက်ကို လျှောက်လာခဲ့၏။ အလုပ်ကလေးများ ရလိုရငြား စနည်းနာရဦးမည်။ ခေတ်ပြောင်းချိန် အပြင်လောကတွင် ဘာတွေ ဖြစ်နေမှန်း ကိုရီမေ မသိ။ သို့သော် ပန်းခြံက လူစုသည့် နေရာ၊ လူစုံသည့် နေရာ၊ သတင်းစုံသည့် နေရာ မဟုတ်လား။ တရားရုံးမှာ သန့်ရှင်းရေး အလုပ်မျိုး ဖြစ်ဖြစ်ပေါ့။

တလမ်းလုံး ယူနီဖောင်းအပြာနှင့် စစ်သားတွေ ရှောင်လို့ မလွတ်အောင် ပြည့်နေ၏။ တရားရုံး ရောက်အောင် မနည်း တိုးဝှေ့သွားရ၏။ တရားရုံးရှေ့မှ မြက်ခင်းပြင်တွင် နီဂရိုးတွေ ပြည့်ကျပ်နေ၏။ သူတို့အားလုံးက တရားရုံးလှေကားထစ်ပေါ်တွင် ရပ်ပြီး မိန့်ခွန်းခြွေနေသူ တယောက်ကို ကောင်းချီးပေးနေကြခြင်း ဖြစ်သည်။ ကိုရီမေ ရှိရာသို့ သူ့စကားလုံးတွေ ပျံ့လွင့်လာ၏။

"......ချစ်စွာသော သူငယ်ချင်းအပေါင်းတို့၊ သင်တို့အား သည်အနှောင်အဖွဲ့နယ်မြေမှ တရားဥပဒေ၏ ဦးသျှောင် အရှင်မောရှေ ခေါ်ဆောင်သွားသလို လွတ်မြောက်ရာ နယ်မြေသို့ မဟာလင်းယုန်ကြီးက အတောင်ကို ဖြန့်ကြက်ပြီး သင်တို့ကို ခေါ်ဆောင်သွားလိမ့်မည်"

သူက ကောင်းကင်ကို မော်ကြည့်ပြီး လက်နှစ်ဖက်ကို မြှောက်ကာ ပြောနေခြင်း ဖြစ်၏။

"ဟုတ်တယ်၊ မှန်တယ်၊ အဲဒီဆရာ ပြောတာ အမှန်တရားတွေ"

လူမည်းတို့၏ အသံကြီး ထုနှင့်ထည်နှင့် ထွက်လာ၏။ တရားဟောဆရာ

စကား ဆက်သည်။

. .မိတ်ဆွေတို့၊ မဟာလင်းယုန်ကြီး၏ မြင့်မြတ်တဲ့ တောင်ပံများဟာ လွတ်လပ်ရေး ကို အစဉ်ထာဝရ ကာကွယ်လိမ့်မယ်”

သူ လက်မြှောက်ပြသည့် ကောင်းကင်ပြင်ကို ကိုရီမေ မော်ကြည့်လိုက်သည်။ ဘာမျှ မတွေ့ရ။ လင်းယုန်လည်း မမြင်ရ၊ လင်းယုန်တောင်ပံကိုလည်း မမြင်ရ။

ကိုရီမေ သတိရပြီ။ လင်းယုန်ကို မြင်ဖူးသားပဲ။ ငွေစက္ကူ နောက်ကျောမှာလေ။ ငွေစက္ကူ အကြောင်း စဉ်းစားမိမှ ကိုယ့်ကိစ္စ ကိုယ် စဉ်းစားမိသည်။ မိမိက ပိုက်ဆံရဖို့ အလုပ်ရှာ နေခြင်းပဲ။ သည်တော့မှ နီဂရိုးလူအုပ်ထဲမှ တိုးဝှေ့ပြီး ပြန်ထွက်ဖို့ ကြိုးစားသည်။

လူမည်းတယောက်က အော်သည်။

“ဟဲ့ ... အဖြူမ၊ အရမ်း မတိုးနဲ့လေ”

“တိုးတော့ ဘာဖြစ်လဲ”

လော့ကားထစ်ပေါ်မှ တရားဟောဆရာ၏ အသံ ဆက်လက် ထွက်ပေါ်နေ၏။

“ . . . ဒီအလံတော်အောက်မှာ လူသားအားလုံးဟာ လွတ်လပ်တဲ့၊ ညီမျှတဲ့ အခွင့်အရေးရှိတယ်”

“ဟုတ်တယ်၊ မှန်တယ်”

ထောက်ခံသံတွေ ဟိန်းထွက်လာပြန်၏။

“ဟဲ့ . . .အဖြူမ၊ အရမ်းမတိုးနဲ့လေ၊ တို့အားလုံး တန်းတူ ဖြစ်နေပြီပဲ”

“တန်းတူအခွင့်အရေး ဆိုရင် လမ်းဖယ်ပေးပါလား”

နီဂရိုးက ကိုရီမေကို မိုးကြည့်ပြီး-

“တန်းတူအခွင့်အရေး လိုချင်ရင် လမ်းမပေါ်မှာ လျှောက်၊ လူသွားလမ်းပေါ်မှာ လာမလျှောက်နဲ့၊ လူသွားလမ်းဆိုတာ လူကြီးလူကောင်းတွေအတွက် ထားတာ”

“ဘာလူကြီးလူကောင်းလဲ၊ နီဂရိုး လူကြီးလူကောင်းလား၊ သွားသေလိုက်”

ကိုရီမေ လမ်းမပေါ်သို့ လှည့်ထွက်လာခဲ့၏။ အရမ်း ဒေါသထွက်နေ၏။

သို့သော် စိတ်ထိန်းရမည်။ ဒေါသထွက်ရမည့် အချိန်မဟုတ်၊ သူက မိမိထက် ခွန်အားကြီးသည်။ လျှော့ပေး ရမည်။ မတန်သည့် အားကို အန်တုမိ၍ တခါခံရဖူးပြီ မဟုတ်လား။ သေကောင်းပေါင်းလဲ ခံခဲ့ရပြီ မဟုတ်လား။ ပြီးတော့ မိမိ၏ ကိစ္စက အလုပ်ရရှိရေး မဟုတ်လား။ ထမင်းစားဖို့ ကိစ္စကို အဓိက ထားရမည်။

လူအုပ်ကြီးထဲက တိုးထွက်ခဲ့ပြီး အပြင်ရောက်မှ လက်ကိုင်အသံချဲ့ အော်လံဖြင့် တရားဟောနေသူကို လှမ်းကြည့်လိုက်သည်။ မျက်ပေါက်ကျဉ်းကျဉ်း၊ ပိန်ပိန်ရှည်ရှည်နှင့် လူတယောက်။ အဝတ်အစား စုတ်စုတ်ပြတ်ပြတ်နှင့်။ သူ့လေသံက နှာခေါင်းသံပါပြီး မြောက်ပိုင်းသံ ဝဲနေသဖြင့် မြောက်ပိုင်းသားမှန်း သိသာ၏။

လေထဲကို လက်သီးနှင့် ထိုးပြီး အာပေါင်အာရင်း ဆက်သန်နေ၏။ နီဂရိုးတွေက သူပြော သမျှ ဩဘာပေးနေ၏။ အဖေ့ကို ကိုရီမေ သွားသတိရသည်။ အဖေ တရားဟောပုံနှင့် ခပ်ဆင်ဆင် တူသောကြောင့် ဖြစ်၏။ အဖေ ဘယ်ဆီ ရောက်နေပါလိမ့်။ ထောင်ထဲတွင် နေခဲ့ရသည့် အချိန် များသည် ကိုရီမေအတွက် တိမ်းတိမ်းပွေပွေ ကာလများ ဖြစ်၏။ အမေ ထောင်ဝင်စာ လာ မတွေ့သည်မှာ တနှစ်လောက်ရှိပြီ ထင်၏။ သိပ်တော့ မမှတ်မိ။

တရားဟောဆရာကြောင့် အဖေ့ကို သတိရမိခြင်း ဖြစ်၏။ စကားကြီး စကားကျယ်တွေ ပြောပုံက အဖေနှင့် တပုံစံတည်း။ ပရိသတ်ကို ဆွဲဆောင်နိုင်စွမ်း ရှိ၏။ ပရိသတ်က သူပြောသမျှ အဟုတ် ထင်၏။

သူက လူမည်းတွေကို ပျားရည်တွေ၊ နို့တွေ အလျှံပယ် စားရတော့မည်ဟု ကတိပေး နေ၏။ ပေါင်မုန့်နှင့် ဝိုင်တွေ စားလို့သောက်လို့ မကုန်နိုင်အောင် ရတော့မည်ဟု ပြော၏။ အ နှင့် ဘာထူးလဲ။ ကျမ်းစာအုပ်ထဲက စာကြောင်းတွေကို မကိုးကားခြင်းပဲ ထူးသည်။ အဖေက ကျမ်းစာထဲက စကားလုံးတွေကို ထုတ်နုတ်ပြီး “ရွှေခေတ်ကို ရောက်ရမည်မှာ မလွဲပါ” ဟု ပြော၏။ သူက အလံတော်၊ လင်းယုန်ကြီးနှင့် နိုင်ငံတော်အစိုးရက ပဒေသာပင် ပေါက်အောင် လုပ်ပေးမည် ဆို၏။

သို့သော် ရွှေခေတ်ကို ဘယ်လို ရောက်မည်၊ ပျားရည်နှင့် နွားနို့တွေ ဘယ်က ရမည် ဆိုသည်ကိုကား နှစ်ယောက်စလုံး ဝိုးတိုးဝါးတား။

ဒီလူက ဘာရည်ရွယ်ချက်နဲ့ ဒါတွေ ပြောနေတာလဲ၊ သူတို့ဆီက ဘာရမှာမို့လဲ။ အဖေ ကတော့ ဟောပြောပြီးလျှင် ဦးထုပ်ကို ပက်လက်လှန်ပြီး ပရိသတ်ထဲကို လက်ဆင့်ကမ်းသည်။ သည်လူက အလှူခံခြင်း မရှိ။ သို့သော် သူသည် လူမည်းတို့၏ ထောက်ခံမှုကို ရယူနေသည် မှာတော့ မြင်သာသည်။

သေချာတာတခုတော့ ရှိ၏။ သူတို့ဆီမှ သူ လိုချင်တာ တောင်းလို့ ရပြီ။ ကိုရီမေ ရယ်ချလိုက်၏။

တပြိုင်တည်းတွင် သူ သည်နေရာကို ရောက်လာခြင်း ကိစ္စ ခေါင်းထဲ ပြန်ဝင်လာ၏။ တရားရုံး၏ နောက်ဘက်သို့ လျှောက်လာခဲ့သည်။ အစောင့်စစ်သားက အလုပ်လိုချင်လျှင် မစ္စတာဂီးလ်ဒေးဆီ သွားဟု ပြော၏။

"ကျေးဇူးတင်ပါတယ်ရှင်၊ သူ့ကို ဘယ်မှာ တွေ့ရမလဲ ဟင်"

"ဝရန်တာဘက်ကို လျှောက်သွား၊ ဘယ်ဘက်ကို ကွေ့၊ မင်းက ဘာအတွက် အလုပ် လုပ်ချင်ရတာလဲ"

"ဘာအတွက်ရမလဲ၊ ထမင်းစားဖို့ပေါ့"

"သိပ်ဒေါသမကြီးပါနဲ့ကွယ်၊ မင်းလိုရုပ်မျိုးနဲ့ . . .၊ စိတ်မရှိပါနဲ့ကွာ၊ ကိုယ်ဆိုလို တာက…"

တဖက်သို့ကပ်ပြီး လမ်းဖယ်ပေးတော့ သူ့အင်္ကျီလက်တဖက်ထဲတွင် ဘာမျှ မရှိဘဲ တွဲလောင်းကြီး ကျနေသည်ကို တွေ့ရ၏။

ကိုရီမေ အရမ်း စိတ်မကောင်း ဖြစ်သွားသည်။

"ကျွန်မလည်း တောင်းပန်ပါတယ် မစ္စတာ၊ စိတ်မကောင်းလိုက်တာ၊ အဲဒီလက်က ဘယ်မှာ… စစ်ပွဲမှာလား ဟင်"

သူ ခေါင်းညိတ်သည်။

"ဟုတ်တယ်၊ မင်းစဖီး စစ်ပွဲမှာ"

ကိုရီမေ သူ့ကို အကဲခတ်လိုက်သည်။ လူက ခပ်ပျပ်ပျပ်၊ တောင့်တောင့်တင်းတင်းဖြစ်၏။

"စိတ်မကောင်းပါဘူးရှင်၊ ကျွန်မ ပြောတာတွေ ရိုင်းသွားတယ်နော်"

"အို…ထားလိုက်စမ်းပါ၊ ကိစ္စမရှိပါဘူး"

"ရှင့်ကို သူတို့ အိမ်ပြန်ပို့ဖို့ ကောင်းတာပေါ့"

သူက ပခုံးတွန့်ပြီး-

"ဘာအတွက် ပြန်ပို့ရမှာလဲ"

"တပ်ထဲ မဝင်ခင်က အလုပ်ကို ရှင်ပြန်လုပ်ဖို့ပေါ့"

"ကိုယ်က ပန်းပဲသမားလေ"

ကိုရီမေ သက်ပြင်းချသည်။

"စစ်ဆိုတာ မကောင်းပါဘူးနော်"

သူက ဝတ်ထားသည့် ယူနီဖောင်းကို ငုံ့ကြည့်ပြီး-

"ဟုတ်ပါတယ်၊ ဒါပေမဲ့ ပြည်ထောင်စု မပြိုကွဲတော့ဘူးလေ၊ လူမည်းတွေ လွတ်လပ်ရေး ရသွားပြီလေ"

"အင်း... အင်း""

ကိုရီမေ သူ့ကို စိတ်ဝင်တစား မော်ကြည့်မိသည်။ ပြည်ထောင်စု ပြိုကွဲသည်၊ မပြိုကွဲ သည်ကို ကိုရီမေ နားမလည်။ စိတ်လည်း မဝင်စား။ ကျွန်တွေ အကြောင်းတော့ သိချင်သည်။

"နီဂရိုးတွေ တကယ်လွတ်လပ်သွားပြီလားဟင်၊ တသက်လုံး ကျွန်ဘဝက လွတ်လပ် ကြတော့မှာလား"

စစ်သားက သူ့ကို တအံ့တသြ ကြည့်ရင်း-

"ဒါပေါ့၊ အဲဒါတွေ မင်း မသိရအောင် ဘယ်သွားနေလို့လဲ"

"အဲဒါ ရှင့်ကိစ္စ မဟုတ်ပါဘူး၊ တခု ကျွန်မကို ပြောပြပါ၊ သူတို့ အလုပ် လုပ်ရင် လုပ်ခ ရကြမှာလား"

"ရကြမှာပေါ့၊ သူတို့ အလုပ်လုပ်ခွင့် ရကြပြီလေ၊ သူတို့ လွတ်လပ်သွားပြီ၊ ငါတို့ မင်းတို့နဲ့ တန်းတူအခွင့်အရေးရပြီ"

ကိုရီမေ ရယ်သည်။

"အဲဒါတွေ ကျွန်မကို ရွှတ်ပြမနေပါနဲ့၊ ရှင်ပြောချင်တာ ကျွန်မ သိပါတယ်"

"ဒါပေမဲ့ မင်းခေါင်းထဲမှာ စွဲနေဖို့ အရေးကြီးတယ်၊ မင်းရော၊ မင်းတို့လို သူပုန်မ ကလေးတွေရောပေါ့ ၊ နီဂရိုးအားလုံး လွတ်လပ်သွားပြီ"

"ကျွန်မအနေနဲ့ ပြောစရာ မရှိပါဘူး၊ ဝမ်းသာပါတယ်"

"ဝမ်းသာတယ် ဟုတ်လား၊ မင်းက သူပုန် မဟုတ်ဘူးလား"

"ကျွန်မ တောင်ပိုင်းမှာ မွေးလို့ ရှင် အဲဒီလို ထင်တာလား၊ ဒါပေမဲ့ ကျွန်မစိတ်ခါတ်က ယန်းကီးရှင့်၊ ရှင် ကျွန်မကို နားလည်နိုင်ပါ့မလား မသိဘူး၊ အင်း. . . ကျွန်မလည်း ဘာပြော ရမှန်း မသိတော့ပါဘူးရှင်"

"ဆက်ပြောပါ မစ္စ.."

"အင်း . . . ရှင့်လက်တဖက် ဆုံးရတာ ကျွန်မ စိတ်မကောင်းပါဘူး၊ ရှင်တို့ မြောက်ပိုင်း သား လူကြီးလူကောင်းတွေကို ကျွန်မ လေးစားပါတယ်၊ စစ်ထဲဝင်ပြီး တောင်ပိုင်းက လူမည်း တွေ လွတ်လပ်အောင် လုပ်ပေးလို့လေ၊ ကျေးဇူးတင်ပါတယ်နော်"

ကိုရီမေက လှည့်ထွက်ပြီး ပြေးမည့်ဟန် ပြင်တော့ သူက တားသည်။

"မင်းဟာ နှလုံးသားရှိတဲ့ မိန်းကလေးပဲ၊ တောင်ပိုင်းသူထဲမှာ ကိုယ့်ကို ယဉ်ယဉ် ကျေးကျေး စကားပြောတာ မင်းတယောက်ပဲ ရှိသေးတယ်၊ ပြန်တွေ့ချင်ပါသေးတယ်၊ မင်း နာမည်ကလေးတော့ ပြောသွားဖို့ ကောင်းတာပေါ့ကွာ"

"ကျွန်မနာမည် ကိုရီမေအပွ၇ျွန်းပါ"

"ကိုယ်က ဂျက်လင်းဆေးပါ၊ အင်ဒီယားနားတပ်ရင်း နှစ်ဆယ့်တစ်ကပါ"

"တွေ့ရတာ ဝမ်းသာပါတယ်ရှင်၊ ကဲ . . . ကျွန်မ မစ္စတာ ဂီးလ်ဒေးကို သွားတွေ့လိုက်ဦး မယ်၊ ဒါထက် သူက ဘာလဲ ဟင်"

"သူက အစိုးရကိုယ်စားလှယ်လေ၊ ဒီမှာ စီမံခန့်ခွဲရေး တာဝန်ခံပေါ့ ၊ လူမည်းတွေကိစ္စ လည်း သူ ကိုင်ရတယ်၊ မင်း အလုပ်ရပါစေလို့ ကိုယ် ဆုတောင်းပါတယ် မစ္စအပွ၇ျွန်း"

"ကျေးဇူးတင်ပါတယ်ရှင်၊ ဂွတ်ဒ်ဘိုင်"

တယောက်ကိုတယောက် ပြုံးကြည့်ကာ ကိုရီမေ တရားရုံးရှေ့ဘက်သို့ ထွက်ခဲ့သည်။ ဂျက် ညွှန်လိုက်သည့် အခန်းထဲတွင် မသေမသပ် စားပွဲကြီးတလုံးနှင့် စာအုပ်ဗီရိုတလုံး၊ ကုလားထိုင်အချို့နှင့် ကြေးထွေးခံကြီးတလုံး ရှိသည်။

လူခုနစ်ယောက်၊ ရှစ်ယောက် ထိုင်နေ၏။ အားလုံးလိုလို စားပွဲပေါ်ကို ခြေထောက်တင် ထားကြ၏။ ဆေးလိပ်သောက်ရင်း ပုလင်းတလုံးကို တယောက်တလှည့် မော့နေကြ၏။ ကိုရီမေ ဝင်သွားတော့ အားလုံး စိတ်ဝင်တစား ဝိုင်းကြည့်နေကြသည်။

"ရှင်တို့အထဲက မစ္စတာဂီးလ်ဒေး ဆိုတာ ဘယ်သူပါလဲ"

စားပွဲနောက်တွင် ထိုင်နေသူက-

"ကျုပ်ပဲ၊ မင်း ဘာလိုချင်လို့လဲ"

သူက ခပ်ပြုံးပြုံး ဖြေသည်။ ထောင်ထဲက ထွက်လာသည့်တိုင် မိမိတွင် အလှတမျိုးမျိုး ရှိနေဆဲ ဖြစ်လိမ့်မည်ဟု ကိုယ့်ကိုယ်ကိုယ် ထင်လိုက်၏။ လက်စသတ်တော့ မစ္စတာဂီးလ်ဒေး ဆိုသူမှာ စောစောက နီဂရိုးများကို မစားရ ဝခမန်း တရားဟောနေသည့် လူပဲ။

ကိုရီမေ အားတက်သွားသည်။ အဖေနှင့်တူသည့် လူမျိုးအား မည်သို့ ပေါင်းရမည်ကို ကိုရီမေ သိသည်။ သူတို့ ရုံးခန်းတွေထဲတွင် သန့်ရှင်းရေးအလုပ်သမား လိုသည်မှာ သေချာ နေသည်။ ကြမ်းပြင်တွင် ဆေးလိပ်ပြာတွေ၊ စက္ကူစုတ်တွေ ရှုပ်ပွနေ၏။ တပတ်လုံးလုံး တံမြက်လှည်းထားဟန် မတူ။ ကိုရီမေက စားပွဲဆီသို့ လျှောက်သွားပြီး တရားရုံး ရုံးခန်းများ တွင် သန့်ရှင်းရေး အလုပ်သမအဖြစ် အလုပ်လုပ်ချင်ကြောင်း ပြောပြလိုက်၏။

မစ္စတာဂီးလ်ဒေးက သူ့ကို ခြေဆုံး ခေါင်းဆုံး ကြည့်သည်။ သည်လို အကြည့်ခံရပေါင်း များပြီ ဖြစ်၍ ကိုရီမေ မဖြုံတော့။

"မင်းက ဒီမှာ အလုပ်လုပ်ချင်တယ်ပေါ့၊ ဟုတ်လား"

"ဟုတ်ကဲ့"

သူက ပြုံးပြီး မျက်စိပေါက် ကျဉ်းကျဉ်းကလေးကို မှေးစင်းကာ-

"ကဲ .. ဒါဖြင့် ထိုင်ပါဦး။ ဒေါ်ဆင် . . . ၊ အမျိုးသမီး ထိုင်ဖို့ မင်းခြေထောက် ချလိုက်စမ်း"

ဒေါ်ဆင် ဆိုသူက သဘောကောင်းစွာဖြင့် ခြေထောက်ကို ချပေးသည်။

ကိုရီမေက စားပွဲစွန်းက ခုံတွင် ဝင်ထိုင်ရင်း ပြောလိုက်သည်။

"ကျေးဇူးတင်ပါတယ်ရှင်"

"အင်း...မင်းလို မိန်းမချောကလေး တယောက်က ဒီလိုအလုပ်မျိုး ဝင်လုပ်မယ် ဆိုတော့ စိတ်မကောင်းစရာပဲ၊ မင်းကို လုပ်ကျွေးမယ့် ယောကျ်ား မရှိဘူးလား"

"ကျွန်မမှာ ယောကျ်ား မရှိပါဘူး"

"ကြည့်ပါဦးကွာ၊ တောင်ပိုင်းသားတွေဟာ ချာကို ချာတယ်၊ ဒါလောက် လှတဲ့ မိန်းကလေးကို လက်ထပ်မယ့်လူ မရှိဘူးတဲ့"

သည်နေရာတွင်တော့ တောင်ပိုင်းသားများဘက်မှ ကိုရီမေ ကာကွယ်လိုက်သည်။

"ကျွန်မ လက်ထပ်မယ့်ဆဲဆဲပါ၊ သူ သေသွားလို့"

မစ္စတာဒေါ်ဆင်က ဝင်ပြောသည်။

"စိတ်မကောင်းစရာပဲ၊ တိုက်ပွဲမှာ ကျတာလား"

"အင်း...ဆိုပါတော့"

မစ္စတာဂီးလ်ဒေးကလည်း ကိုရီမေဘက် ကိုင်းပြီး-

"ဟုတ်တယ်၊ စိတ်မကောင်းစရာပဲ"ဟု ပြောရင်း လက်က ကိုရီမေ ဒူးခေါင်းပေါ် ရောက် လာသည်။ ဝီစကီနံ့ တထောင်းထောင်း ထွက်နေ၏။ အမွေးအမှင်ထူထူနှင့် သူ့လက်ကြီးကို ကိုရီမေက ယူပြီး စားပွဲပေါ် တင်လိုက်သည်။ ပြီးတော့ အေးစက်စက်အသံဖြင့် ပြောလိုက်၏။

"ရှင့်လက်ကို တခြားနေရာမှာ သုံးပါ"

အားလုံး သဘောကျပြီး ဝိုင်းရယ်ကြသည်။

"ဂီးလ်ဒေး ခံလိုက်ရပြီဟေ့"ဟု တယောက်က ပြောသည်။ ကိုရီမေပါ ရယ်ချင် လာသည်။ မစ္စတာဂီးလ်ဒေးလည်း ရယ်ပြီး ကြမ်းပြင်ပေါ်မှ ပုလင်းကို ကောက်ယူရင်းမေးသည်။

"မင်းကော နည်းနည်းလုပ်ပါလား"

ကိုရီမေက ရိုင်းရာမကျအောင် ပုလင်းကို လက်ခံသည်။ ပြီးတော့ လျှာနှင့် ထိရုံတို့ပြီး ပုလင်းကို စားပွဲပေါ် ပြန်တင် ထားလိုက်၏။

“ကဲ … ကျွန်မ အလုပ်ရပြီပေါ့”

“သေချာသွားပြီပေါ့”

မစ္စတာဂီးလ်ဒေးက ခပ်ရွှင်ရွှင် ပြောသည်။

“ကျေးဇူးတင်ပါတယ် မစ္စတာဂီးလ်ဒေး၊ ကျွန်မ ကြိုးစားပြီး လုပ်ပါ့မယ်၊ ရှင်းသန့် ပြောင်လက်နေအောင် ကျွန်မ လုပ်နိုင်ပါတယ်”

မစ္စတာဒေါ်ဆင်က-

“အင်း..အမျိုးသမီး သန့်ရှင်းရေးသမားမှပဲ တို့ရုံးခန်းနဲ့ ဖြစ်မှာပါ၊ မင်း ဘယ်လောက် လိုချင်လဲ”

“အဲဒါတော့ ကျွန်မ မပြောတတ်ပါဘူး၊ ဘယ်လောက် ပေးနိုင်မယ် ထင်လဲဟင်”

“တပတ်ကို ငါးဒေါ်လာ ဆိုရင်ကော”

မစ္စတာဒေါ်ဆင်က စျေးစပြောသည်။ ကိုရီမေ ဝမ်းသာလုံး ဆို့သွား၏။ တပတ် ငါးဒေါ်လာတဲ့။ သည်လောက် များများ ဘယ်တုန်းကမျှ မရဖူးခဲ့။ သို့သော် သူ ဘာမျှ မပြောနိုင်ခင် မစ္စတာဂီးလ်ဒေးက မစ္စတာဒေါ်ဆင်ကို လှမ်းပြောသည်။

“နည်းလွန်းပါတယ်ကွာ၊ ဆယ်ဒေါ်လာ ပေးလိုက်ပါ”

“ဆယ်ဒေါ်လာ ဟုတ်လား”

ကိုရီမေ တအံ့တသြ ပြန်မေးလိုက်သည်။ သူ့ပေါင်ပေါ်သို့ ဂီးလ်ဒေး၏ လက် ရောက် လာပြန်၏။

“ဟုတ်တယ်၊ ဆယ်ဒေါ်လာ”

ဂီးလ်ဒေးက အတည်ပြုသည်။

ကိုရီမေ ပြုံးလိုက်သည်။ သူ့လက်ကို စားပွဲပေါ် ပြန်တင်ရင်း-

“ကျွန်မကို ငါးဒေါ်လာပဲ ပေးပါ၊ ပြီးတော့ ရှင့်လက်ကို အကျီအိတ်ထဲမှာပဲ

ထည့် ထားပါ” ဟု သူ့မျက်နှာကို တည့်တည့်ကြည့်ပြီး ပြောလိုက်၏။

အားလုံး ဝိုင်းရယ်ကြပြန်သည်။ မစ္စတာဂီးလ်ဒေးပါ ရယ်သည်။ ပြီးတော့ လယ်ဂျာ စာအုပ်ကြီး ဖွင့်ရင်း-

“ကဲပါ လေ၊ ဆယ်ဒေါ်လာပဲ ယူပါ” ဟု ပြောသည်။ စာမျက်နှာတိုင်းတွင် ဆေးရောင်စုံ ပြည်ထောင်စုအလံတံဆိပ် ပါ၏။

သူက ကလောင်တံကို မင်အိုးထဲ နှစ်ရင်း မေးသည်။

“မင်းနာမည်”

“ကိုရီမေအေပွဂ္ဂျန်း

“အသက်”

“နှစ်ဆယ်”

သူက ရေးရင်း အသံထွက် ဖတ်နေ၏။

“၁၈၆၅ ခုနှစ် အောက်တိုဘာလ ၃ ရက်၊ ကိုရီမေအေပွဂ္ဂျန်း၊ အသက်နှစ်ဆယ်၊ သန့်ရှင်း ရေးအလုပ်သမ၊ တပတ် ဆယ်ဒေါ်လာ”

အံဆွဲထဲမှ ကျမ်းစာအုပ်ကို သူက ထုတ်ယူလိုက်ပြီး-

“ရော့. . . ဒီမှာကိုင်၊ “ပြည်ထောင်စု၏ ဖွဲ့စည်းအုပ်ချုပ်ပုံ စည်းမျဉ်းဥပဒေကို သစ္စာရှိစွာ လိုက်နာပါမည်၊ ကွန်ဂရက်က ပြဋ္ဌာန်းသည့် ဥပဒေများကို သစ္စာရှိစွာ လိုက်နာပါမည်”...”

“လိုက်နာပါ့မယ်၊ အဲဒါနဲ့ ကျွန်မ သန့်ရှင်းရေး အလုပ်နဲ့ ဘာဆိုင်လို့လဲ”

“ ကဲ...ကဲ...အလုပ်ဖြစ်ပါပြီ”

မစ္စတာဂီးလ်ဒေးက ခပ်ရွှင်ရွှင် ပြောလိုက်သည်။ ကိုရီမေက စားပွဲမှ ထပြီး-

“ကျွန်မ ဒီနေ့ စ လုပ်ရမလား၊ မနက်ဖြန်မှ စ ရမလား”

“ဒီနေ့ပဲ စပေါ့၊ မင်းမှာ ဖိနပ်စီးစရာတောင် မရှိဘူး မဟုတ်လား”

မစ္စတာဂီးလ်ဒေးက ကရုဏာသက်စွာ ပြော၏။

"ရပါတယ်၊ ပူတဲ့ ရာသီပဲ"

"ရော့ပါ၊ သွားဝယ်စီးလိုက်"

မစ္စတာဂီးလ်ဒေးက အိတ်ထဲမှ ပိုက်ဆံအထပ်လိုက် ထုတ်ပြီး တရွက်ဖြုတ်၍ စားပွဲပေါ် တင်ပေးသည်။

ငွေစက္ကူကို သူ့ဘက် ပြန်တွန်းပေးရင်း ကိုရီမေက-

"ကိစ္စမရှိပါဘူး မစ္စတာဂီးလ်ဒေး"ဟု ပြောတော့ ကျန်လူတွေ ရယ်နေကြသည်။

"ကဲ….ကျွန်မကို ခွင့်ပြုပါဦး၊ မနက်ဖြန်မှပဲ လာတော့မယ်"

ကိုရီမေ ထွက်လာသည်အထိ သူတို့ ရယ်ကျန်ရစ်၏။ သူတို့ ဘယ်သူတွေလဲ၊ သူတို့ အလုပ်က ဘာလဲ၊ ကိုရီမေ မသိ။ သို့သော် သူတို့ကိုတော့ သဘောကျသလိုလို ဖြစ်သွား၏။ ပျော်စရာကောင်းပုံ ရသည်။

မစ္စတာဂီးလ်ဒေး သွေးတိုးစမ်းပုံမျိုးကိုတော့ ကိုရီမေ မကြောက်။ ဒါမျိုးတွေ အရှောင် အတိမ်း လုပ်လာတာ ဆယ့်နှစ်နှစ်သမီးကတည်းက မဟုတ်လား။ တပတ်ဆယ်ဒေါ်လာ တဲ့။ ဝရန်တာတလျှောက်တွင် ခပ်မြှုးမြှုးကလေး လျှောက်လာခဲ့၏။

"အလုပ် ရခဲ့ပြီလား"

တရင်းတနှီး မေးလိုက်သံ။ ကြည့်လိုက်တော့ မစ္စတာဂျက်လင်းဆေး။

"ဟုတ်ကဲ့ အဆင်ပြေခဲ့ပါတယ်၊ မနက်ဖြန် စ ဆင်းရမယ်"

"ဝမ်းသာပါတယ်ကွာ၊ မနက်ဖြန် ဆုံကြသေးတာပေါ့"

"ရှင်က နေ့တိုင်း အစောင့်တာဝန် ကျသလား"

သူက ခေါင်းညိတ်ပြီး-

"လက်တဖက်တည်း ဆိုတော့ အခြားအလုပ် မလုပ်နိုင်ဘူး၊ သူတို့ ထိုက်ထိုက် တန်တန် ပေးရဲ့လား"

"ဟုတ်ကဲ့၊ တပတ် ဆယ်ဒေါ်လာ ပေးတယ်"

"ဟိုက်…ဟုတ်လှချည်လား၊ အစိုးရကိုယ်စားလှယ်တွေ ငွေတကယ် ပေါတာပဲ၊ ကိုယ်လည်း အလုပ်သွားတောင်းရ ကောင်းမလားပဲ"

"တပ်ထဲမှာထက် ပိုရပေါ့မလား"

"ကိုယ့်လခက တလမှ ဆယ့်ကိုးဒေါ်လာ ရယ်လေ"

ကိုရီမေ စဉ်းစားရကျပ်သွားသည်။ သန့်ရှင်းရေး အလုပ်သမားကို ဆယ်ဒေါ်လာပေး နိုင်ရင် မသန်မစွမ်း စစ်သည်တော် များကို ပိုမပေးသင့်ပါလား။

ဂျက်က ဆက်မေးသည်။

"သူတို့ အဲဒီ ပိုက်ဆံတွေ ဘယ်က ရတယ် ထင်လဲ"

"သူတို့ ချမ်းသာလို့ နေမှာပေါ့"

"သူတို့ ကြည့်ရတာ ချမ်းသာပုံ မရပါဘူး၊ ဝါရှင်တန်အစိုးရက ပေးနေတာ ဖြစ်မယ်၊ မင်း ပန်းသီး စားမလားဟင်"

"ကျေးဇူးတင်ပါတယ် ဂျက်"

အိတ်ထဲမှ နှစ်လုံးထုတ်ပြီး တလုံးကို ကိုရီမေဆီ ကမ်းပေးသည်။ တရားရုံးနောက် ဘက်မှ လှေကားထစ်ပေါ်တွင် သူတို့နှစ်ယောက် ထိုင်လိုက်ကြသည်။

"ပန်းသီးက ဒီအရပ်မှာ သိပ်ရှားတာ၊ ရှင် ဘယ်ကရလဲ ဟင်"

"အမေ ပို့ပေးတာ၊ အိမ်မှာ အပင်တွေ ရှိတယ်လေ"

နှစ်ယောက်သား ငြိမ်ပြီး ပန်းသီး ဝါးစားနေကြသည်။ ကိုရီမေ သူ့ကို သဘောကျနေ သည်။ ဘတ်ချ်လိုပင် ရိုးသားသည်၊ ဖြောင့်မတ်သည်။ တွဲလောင်းကျနေသည့် အင်္ကျီလက် တဖက်ကို ကြည့်ပြီး ကိုရီမေ ကရုဏာသက်နေ၏။

ဂျက်က သူ့အိမ်အကြောင်း ပြောပြနေသည်။

"ရွာမှာ အိမ်ကလေး သေးသေးကလေးပါ၊ ဒါပေမဲ့ သေသေသပ်သပ်ကလေး၊ အိမ်မှာ အမေရယ်၊ ပန်းပဲဖိုရယ်ပဲ ရှိတယ်၊ ခုနေ အိမ်ပြန်သွားရင် ကိုယ် ဘာလုပ်ရမှန်း မသိဘူး၊ မြင်းကို သံခွာ ဘယ်လိုရိုက်မလဲ။ တခုခုတော့

ရှာကြံလုပ်ရမှာပေါ့လေ။ ကိုယ်တို့ မြောက်ပိုင်းက ပျော်စရာ ကောင်းတယ်၊ ကျွန်တွေလည်း မရှိဘူး၊ လူကြီးသူမတွေ ပြောလို့ တချို့အရပ်မှာ ကျွန်တွေရှိတယ် ကြားဖူးတယ်၊ ဒါ ပေမဲ့ ဒီကျွန်စနစ်ဟာ မရှိအပ်ဘူး ဆိုပြီး အားလုံးကို လွှတ်ပေး လိုက်တယ်တဲ့၊ ကိုယ်မှတ်မိတဲ့ အရွယ်ကတည်းက မြောက်ပိုင်းမှာ အားလုံးဟာ သာတူညီမျှပဲ၊ အင်ဒီယားနားမှာ ချမ်းသာတဲ့လူ၊ ဆင်းရဲတဲ့လူတော့ ရှိတာပေါ့ ၊ ဒါပေမဲ့ တန်းတူအခွင့်အရေးပဲ၊ ဒီအခွင့်အရေးကို ဥပဒေနဲ့ အကာအကွယ် ပေးထားတယ်”

“အင်း . . . ဒါဆို မြောက်ပိုင်းဟာ ပျော်စရာကြီး နေမှာပဲနော်၊ ဒီမှာတော့ မိုးနဲ့မြေပဲ”

ဂျက်က ဆက်ရှင်းပြသည်။

“အဲဒါကြောင့် စစ်ဖြစ်လာတာလေ၊ နောက်ဆို အားလုံး တန်းတူအခွင့်အရေး ရကြတော့မယ်၊ တရားမျှတပြီး လွတ်လပ်ကြတော့မယ်”

“အဲဒီလို ဖြစ်လာရင်တော့ ကျွန်မ ပျော်မှာပဲ”

“ဒါဆို အဲဒီလို ဖြစ်နေပြီသား မြောက်ပိုင်းကို မင်း သဘောကျမှာပေါ့”

ကိုရီမေ သက်ပြင်းချသည်။

“အင်း. . . ကျွန်မ သဘောကျမှာပါ”

အရိပ်တွေ ရှည်လျားစ ပြုလာပြီ။ ကိုရီမေ သူ့ကို နှုတ်ဆက်သည်။ မကြာခင် မှောင်လာ တော့မည့် အကြောင်း ပြောသည်။ ဂျက်က ခေါင်းညိတ်လိုက်၏။ လူဝီစီးယားနားတွင် မိုးချုပ် မြန်လွန်းသည်။ မြောက်ပိုင်းတွင် မိုးချုပ်အောင် အကြာကြီး စောင့်ရ၏။ အိပ်စရာနေရာ မရှိသဖြင့် ကိုရီမေသည် ဖဲလ်ကိုး ဂိုဒေါင်ကြီးများဆီသို့ လျှောက်လာခဲ့သည်။ တဲတလုံးထဲမှ ဝါဂွမ်းထုပ်ကြီးတွေပေါ် တက်ပြီး ကွေးလိုက်၏။ မှောင်ကြီးမည်းမည်းထဲတွင် ကိုရီမေ တွေးနေ သည်။

အဖြစ်ဆိုးများ ပြီးဆုံးခဲ့ပြီး ခေတ်ကြီး ပြောင်းလာတော့မှာလား။ တောင်ပိုင်းသည် မြောက်ပိုင်းကဲ့သို့ လူတိုင်း လူတိုင်း တန်းတူအခွင့်အရေး ရကြမှာလား။ ဂျက် ပြောသည့်အတိုင်း ဖြစ်လာနိုင်မည် ထင်၏။ သူက ပိုသိမည်။ မြောက်ပိုင်းစစ်တပ်မှ စစ်သားတယောက် မဟုတ် လား။

ခေတ်ကောင်းလျှင်တော့ အိမ်ထောင်ပြုပြီး ကလေးတွေ ယူမည် စိတ်ကူး၏။ ကလေးတွေ ကြီးလာလျှင် မိမိ ငယ်စဉ်က ကြီးပြင်းခဲ့ရသည့် ခေတ်အကြောင်းကို

ပြန်ပြောရမည်။

သည်ခေတ်ထဲမှာတော့ ရိုးရိုးသားသား ကြိုးကြိုးစားစား အလုပ်လုပ်လျှင် လူလူသူသူ နေနိုင် စားနိုင်ကောင်းရဲ့ဟု အောက်မေ့၏။

(၂)

ကိုရီမေ အလုပ်ခွင်တွင် အဆင်ပြေနေသည်။ မစ္စတာဂီးလ်ဒေးက စနေနေ့တိုင်း လုပ်ခ ရှင်းပေး၏။ သူတို့လူသိုက်နှင့် အလုပ်လုပ်ရသည်မှာ စိတ်အနှောင့်အယှက် ဖြစ်စရာကလေး များနှင့် မကြာခဏ တွေ့ရ၏။ သို့သော် ကြီးကြီးကျယ်ကျယ် မဟုတ်။ မစ္စတာဂီးလ်ဒေးသည် မိန်းမမြင်လျှင် လက်ဆော့ချင်သည်။ ကိုရီမေ အဖို့တော့ ရိုးသွားပြီ။ အရှောင်အတိမ်းတွင် လျှင်ပြီးသား မဟုတ်လား။ အဆိုးအကောင်း အကျိုးအကြောင်းကို တွက်တတ်ပြီးသား မဟုတ်လား။ သည်တော့ ကိုယ့်ကိုယ်ကိုယ် ကာကွယ်ဖို့ သိပ်မခက်တော့။

တိုက်ပွဲတွင် ယောကျ်ားကျဆုံးသွားသည့် မုဆိုးမတယောက်၏ အခန်းကို ငှားပြီး သူနှင့် အတူနေသည်။ အခန်းခ မှန်မှန်ပေးသည်။ ရိုးရိုးသားသား မိန်းကလေးတယောက်ဖြစ်၍ အမျိုးသမီးက ကိုရီမေကို သဘောကျသည်။

နေရာက ဆိပ်ကမ်းရပ်ကွက် မဟုတ်၊ လူသန့်သည့် မြို့ထဲရပ်ကွက် ဖြစ်၏။ မြက်မြက် ကလေးရနေသဖြင့် ဝတ်ကောင်း စားလှများ ဝယ်ဝတ်နိုင်ပြီဖြစ်၍ ကိုရီမေတယောက် သားသားနားနား ဖြစ်နေပြီ။

ဆိပ်ကမ်းရပ်ကွက်ကို သွားပြီး အမေ့အကြောင်း စုံစမ်းသေးသည်။ အမေ ဆုံးပြီဖြစ် ကြောင်း မစ္စက်ဂရမ်ဘရဲလ်က ဆီးပြောသည်။ အဖေ့အကြောင်းတော့ ဘာမျှ မကြားရကြောင်း ပြော၏။ ထို့ကြောင့် အဖေ သေလား၊ ရှင်လား မသိ၊ အဖေ့လို လူစားတွေ အများကြီး ရှိသည်။ ကျဆုံးစာရင်းတွင် မပါဘဲ ပျောက်ဆုံးနေသည့် စစ်သားတွေ ထောင်သောင်းမက ရှိ၏။

အမေ့အတွက် ကျိတ်ပြီး ငိုရသည်။ သနားစရာ ကောင်းသည့် အမေ။ သူ့ခမျာ ဘာမျှ ခံစားမသွားရ။ မိမိ ပြေပြေလည်လည် ရှိချိန်တွင် အမေ မရှိတော့။ ဘယ်သူမျှ မရှိကြတော့ပြီ။ စစ်မဖြစ်မီကာလက အရာတိုင်းသည် မိမိထံမှ ထွက်ခွာသွားကြလေပြီ။ ကိုရီမေသည် အတိတ် မရှိသော မိန်းကလေးတယောက်လို ဖြစ်နေ၏။

အရာတိုင်းသည်လည်း အပြောင်းလဲကြီး ပြောင်းလဲခဲ့ပြီ ဖြစ်၏။ တသက်လုံး ရင်းနှီး ကျွမ်းဝင်ခဲ့သည့် ဆိပ်ကမ်းတဝိုက်မှ လမ်းအနေအထားများပင် ပြောင်းလဲကုန်ပြီ။

တမြို့လုံးတွင် တက်ကြွပျော်ရွှင်နေသူများနှင့် မကျေမနပ် စိတ်ခေတ်ကျနေသူများ ရောပြွမ်းနေ၏။ တမြို့လုံး တွင် ပြည်ထောင်စုအလံတွေ နေရာတကာတွင် တလူလူလွင့်နေ၏။ အစိုးရ အဆောက်အအုံများတွင်သာမက လမ်းတကာ၊ အိမ်တကာတွင် လွှင့်ထူထား၏။

ရောမ သူဌေးအိမ်ကြီးများထဲမှ ထွက်လာသူတို့သည် အလံရှိသည့် နေရာကို ရှောင်ကွင်း ၍ သွားကြ၏။ အလံတော် အောက် ရောက်လျှင် ရပ်ပြီး အလေးပြုရမည်ဟု ဥပဒေ ပြဋ္ဌာန်း ထားသောကြောင့် ဖြစ်၏။ သူတို့သည် မြောက်ပိုင်းအလံကို အူထဲ၊ အသည်းထဲက မုန်းနေသူ များ ဖြစ်၏။

ကိုရီမေကမူ ကျိတ်ပြီး ပျော်နေသည်။ သူတို့သည် စစ်ရှုံးပြီး ကျွန်တွေ ဆုံးသည့် လူချမ်းသာ များ ဖြစ်၏။ သူတို့သည် ကျွန်တွေကို တသက်လုံး ပိုင်ရမည်ဟု ကောင်းကင်ဘုံနှင့် စာချုပ် ချုပ်ထားပြီး ယခုတော့ ဘုရားသခင်က သူတို့ကို လှည့်စားလေပြီဟု ထင်နေကြသူများ ဖြစ်၏။

အပြာရောင် ယူနီဖောင်းဝတ် စစ်သားတွေ မြို့ထဲတွင် ရှောင်လို့ မလွတ်နိုင်အောင်ပင်။ ကြည့်လို့ ကောင်းပါ၏။ သို့သော် ကိုရီမေ နားမလည်နိုင်သည်က စစ်ကြီး ပြီးသွားပြီ၊ သူတို့ ဘာလို့ အိမ်မပြန်ကြတာပါလိမ့်။ သူတို့ ပြောသလို ပြည်ထောင်စုကြီး မပြိုကွဲအောင် အသက် တွေ ပေးလှူပြီးပြီ။ တိုက်ခိုက် အောင်မြင်ခဲ့ပြီးပြီ။ ပြီးလျှင် အိမ်ပြန်ကြတော့ပေါ့။ သူတို့အထဲ တွင် နီဂရိုးစစ်သားများလည်း ပါ၏။ သူတို့သည် လူဖြူစစ်သားများနှင့်အတူ ရင်ကော့ပြီး လျှောက်နေကြ၏။ ထိုအခါ လမ်းပေါ်က နီဂရိုးများလည်း သူတို့ကို ကြည့်ပြီး အောက်ခြေ လွတ်ချင်လာကြ၏။

အပြာရောင်စစ်တပ်သည် မြို့ပြင်တွင် စခန်းချထားသည့် နီဂရိုးတွေကို စုခေါ်ပြီး ထမင်း ကျွေးထား၏။ ဆူဆူညံညံ မဖြစ်အောင် ထိန်းပေး၏။ သို့သော် သူတို့က မနေချင်။ ပညာမဲ့သည့် ဦးနှောက်တွေက မတော်တရော်တွေကို မျှော်မှန်းနေ၏။

သူတို့ လွတ်လပ်ပြီ၊ တန်းတူအခွင့်အရေး ရပြီ၊ ရှန်ပိန် သောက်ရတော့မည်၊ ရောမအိမ်ကြီး တွေ ရတော့မည်၊ ရထားကြီးတွေ စီးရတော့မည် ထင်နေကြ၏။ ကိုရီမေ ရယ်ချင်လှသည်။ အတွင်းကျကျ သိထားသောကြောင့် ဖြစ်၏။ သူတို့ကို မစားရ ဝခမန်း ပြောခဲ့သည့် အစိုးရကိုယ်စားလှယ် ဆိုသူများအကြောင်းကို သိနေသောကြောင့် ဖြစ်၏။ တောင်ပိုင်းစစ်သားများနှင့် ပြည်ထောင်စုအစိုးရ ကိုယ်စားလှယ်များသည် သာတူညီမျှ အခွင့်အရေးအကြောင်း ပြောပြီး နီဂရိုးများ၏ အသားကို မထိချင်ကြသူများ ဖြစ်သည်။ မိမိနှင့် မဆိုင်သဖြင့် ကိုရီမေ ဒါတွေကို ခေါင်းထဲမှ ထုတ်ပစ်လိုက်သည်။ ကိုယ် အလုပ် အဆင်ပြေဖို့သာ အာရုံပြုရမည်။

လပေါင်းများစွာ ကြာလာတော့ သည်ခေတ်နှင့် ကိုရီမေ အထာကျ သွား၏။

နေရေးထိုင်ရေး အဆင်ပြေသဖြင့် ပျော်နေ၏။ ဂျက်ကို ကိုရီမေ သဘောကျသည်။ အခြား စစ်သားများနှင့်လည်း ဂျက်က မိတ်ဆက်ပေး၏။ အားလပ်ရက်များတွင် သူတို့နှင့်အတူ ပျော်ပွဲစား ထွက်သည်၊ ကဇာတ် လိုက်ကြည့်သည်။

တရားရုံးခန်း သန့်ရှင်းရေး အလုပ်ခွင်တွင်လည်း ကိုရီမေသည် အားလုံးနှင့် ရင်းနှီးနေပြီ။ နောက်လိုက် ပြောင်လိုက်ဖြင့် ပျော်ပျော်ပါးပါးပင်။ ဂီးလ်ဒေးက ကိုရီမေကို အရမ်း လိုက်လျော နေ၏။

ကိုရီမေ ကြမ်းတိုက်နေလျှင် အလုပ်ရပ်ထားပြီး စကားစမြည် ပြောသည်။ ညှော့ခံပွဲ သွားဖို့၊ ကဇာတ်ကြည့်ဖို့ ဖိတ်သည်။ ကိုရီမေ တခါမျှ လက်မခံ။ ဂီးလ်ဒေးသည် ကိုရီမေအား အံ့သြမဆုံး ဖြစ်နေသည်။ ပိုက်ဆံဘယ်လောက်မျှ မသုံးနိုင်သည့် ဂျက်တို့ စစ်သားတသိုက် ဖိတ်တာကို လက်ခံပြီး မိမိကို ဘာကြောင့် ငြင်းရသလဲ မေးတော့ ကိုရီမေက ရယ်ပစ်သည်။ သို့သော် သူတို့နှစ်ယောက် မကြာခင် ပို၍ ရင်းနှီးလာခဲ့ကြသည်။ ပို၍ ပွင့်လင်းလာ ကြသည်။ သူ ဘာလိုချင်နေသည်ကို ကိုရီမေ သိသည်။ သူ့ကို ဘယ်လိုပင့်ပင့်၊ ဘယ်လောက် မြှောက်မြှောက် ကိုရီမေသည် သူ့ထက် ဂျက်ကို ပိုခင်သည်။ ဂျက်က အကျင့်စာရိတ္တကောင်း သည်။ မိန်းကလေးတယောက်ကို လေးစားရမှန်း သိသည်။

ကိုရီမေသည် သူ့အလုပ်ကို လေးစား၏။ ရုံးခန်းတိုင်း ရှင်းသန့်နေအောင် လုပ်၏။ ပြည်ထောင်စုအလံရှေ့ ရောက်တိုင်း ရပ်ပြီး အလေးပြု၏။ ပြည်ထောင်စုအစိုးရ အမှုထမ်းတွေက အလံတွေ များများထူထားခြင်းကို သဘောကျ၏။ တလမ်းထဲတွင် သုံးလေးနေရာလောက် ရပ်ပြီး အလေးပြုရသဖြင့် ဒေါသအမျက် ခြောင်းခြောင်းထွက်နေသည့် တောင်ပိုင်း လူချမ်းသာ တို့၏ မျက်နှာကို ကြည့်ပြီး ကျေနပ်နေကြ၏။

တနေ့ ကြမ်းတိုက်နေရင်း မစ္စတာဂီးလ်ဒေးကို ကိုရီမေက မေးကြည့်သည်။

“အလံတွေ များများထူထားတာ ဘာဖြစ်လို့လဲဟင်၊ လူတွေ ခဏခဏရပ်ပြီး အလေးပြု နေရတော့ စိတ်အနှောင့်အယှက် ဖြစ်စရာ ဖြစ်မနေဘူးလား”

သူက ဆေးတံကို ခေါက်သည်။ ပြာမှုန့်တွေ ကြမ်းပြင်ပေါ် ကျကုန်၏။

“သူတို့ကို နှောင်တရအောင် လုပ်ထားတာလေ၊ စစ်ရှုံးတယ် ဆိုတာ အမြဲ သတိရနေ အောင်လို့”

ကိုရီမေ ငုံ့ပြီး ကြမ်းတိုက်နေရင်း ပြုံးသည်။ သူ မမြင်အောင် ပြုံးခြင်း ဖြစ်သော်လည်း သူ မြင်သွား၏။

"မင်း ဘာလို့ ပြုံးတာလဲ၊ ဘာပြုံးစရာ ရှိလို့လဲ"

ကိုရီမေက ကြမ်းကို နာနာ ဖိတိုက်ရင်း-

"အဲဒါတွေ ကျွန်မနဲ့ မဆိုင်ပါဘူး"

"အကြောင်းတခုခု ရှိရမယ်၊ မင်း မညာနဲ့နော်၊ ကိုယ် စိတ်ဆိုးလာလိမ့်မယ်"

ကိုရီမေ ကြမ်းပြင်ပေါ် ထိုင်ချလိုက်သည်။

"မစ္စတာဂီးလ်ဒေး၊ စစ်မဖြစ်ခင်က ကျွန်ပိုင်ရှင်တွေကို ကျွန်မ မေတ္တာမရှိဘူး၊ သူတို့က ကျွန်မတို့ကို အမှိုက်သရိုက်လို ဆက်ဆံတာ၊ ခု ရှင်တို့က ရှင်တို့ အလံတော်ကို သူတို့ အလေး ပြုအောင် လုပ်နိုင်တယ်၊ နီဂရိုးတွေ သူတို့ကို ဘေးချင်း ဝင်တိုက်သွားအောင် လုပ်နိုင်တယ်၊ ဒါပေမဲ့ သူတို့ဟာ သူတို့ပဲ၊ ကျွန်မ ပြောတာ မရှင်းဘူး ထင်တယ်"

"ဆက်ပြောပါဦး"

သူက မေးစေ့ကို ပွတ်ရင်း အလေးအနက် တွေးနေပုံဖြင့် ထောက်ပေး၏။ ကိုရီမေ ဆက် ပြောသင့်၊ မပြောသင့် စဉ်းစားနေသည်။ နောက်မှ သတိရ၏။ တန်းတူအခွင့်အရေး ရှိနေပြီပဲ။ ပြောချင်တာ ပြောလို့ ရပြီပေါ့။

"သူတို့ဟာ သူများတွေထက် သာတယ် ဆိုတဲ့ အစွဲကို ချွတ်ဖို့ သိပ်မလွယ်ဘူး ထင်တယ်၊ သူတို့က ရှင်တို့၊ ကျွန်မတို့ထက် ပညာတတ်တယ်၊ ယဉ်ကျေးတယ်။ လန်းမိသားစု၊ ရှာရမီ မိသားစုတွေဟာ မျိုးရိုးစဉ်ဆက်က ချမ်းသာခဲ့ကြတယ်၊ ဘုရားသခင်က မြေမှုန့်တမျိုးစီ ကိုင်ပြီး ဖန်ဆင်းလိုက်သလား မသိဘူး၊ ရှင်တို့၊ ကျွန်မတို့ မွေးကတည်းက သူတို့လို မဟုတ်ဘူး လို့ သူတို့က ထင်တာ"

မစ္စတာဂီးလ်ဒေးက သူ့ကို သေသေချာချာ အကဲခတ်နေသည်။ နှုတ်ခမ်းကို တင်းတင်း စေ့ပြီး ပြုံးရင်း မေးသည်။

"မင်း အဲဒါတွေ ဘယ်လိုလုပ် သိလာတာလဲ ကိုရီမေ"

ကိုရီမေက မတ်တတ်ထပြီး-

"ကျွန်မ ဘာမှ များများစားစား မသိပါဘူးရှင်"

“မင်းမှာ စဉ်းစားတွေးခေါ်တတ်တဲ့အသိ ရှိပါတယ်၊ ပြီး မင်း တနေ့တခြား လှလာ တယ်”

ကိုရီမေက အမှိုက်တွေကို ပုံးထဲ သွန်ထည့်ရင်း-

“ကျေးဇူးတင်ပါတယ်ရှင်” ဟု သူ့ဘက် လှည့်မကြည့်ဘဲ ပြောလိုက်သည်။ အပြာရောင် ချည်ထည်ဂါဝန်ပေါ်တွင် အဖြူရောင်ခါးစည်း ထပ်ဝတ်ထား၏။ ကြည့်လို့ ကောင်းနေသည်တော့ အမှန်။ အန်း၏ အကျႌတွေ ဝတ်ခဲ့ရသည့် ဘဝမှ ဖိနပ် ကောင်းကောင်း၊ အဝတ်ကောင်းကောင်း ဝယ်ဝတ်နိုင်သည့် ဘဝကို ရောက်ခဲ့ပြီ။

မစ္စတာဂီးလ်ဒေးက စကားဆက်သည်။

“မင်းရတဲ့ လုပ်ခကို ကျေနပ်ရဲ့လား”

“ကျေနပ်ပါတယ်ရှင့်၊ ကျေးဇူးတင်ပါတယ်”

ကိုရီမေက မော်မကြည့်ဘဲ ပြောလိုက်၏။

“မကြာခင် မင်းကို ထပ်တိုးပေးဖို့ ကိုယ်တို့ စဉ်းစားနေတယ်”

“ဒုက္ခမရှာပါနဲ့ရှင်၊ ကျွန်မ အဆင်ပြေနေပါတယ်”

“ဒုက္ခမရှာပါဘူး၊ မင်းက ငါတို့လို အစိုးရဆီက လခရနေတာပဲ၊ ကိုယ့်အိတ်ထဲက စိုက်ရတာမှ မဟုတ်တာ”

“ဟုတ်ကဲ့၊ အစိုးရက ပေးတာ ကျွန်မအတွက် လုံလောက်ပါတယ်”

“ဒါပေမဲ့ အစိုးရက မင်းတို့၊ ငါတို့ကို ဂရုစိုက်တာ မဟုတ်ဘူး။ အစိုးရဆီမှာ လုပ်လုပ်၊ အပြင်မှာ လုပ်လုပ် ကိုယ့်တက်လမ်းကို ရှာရတယ်၊ မင်းမှာ ဦးနှောက်ရှိပါတယ်၊ မင်းနဲ့ ကိုယ်နဲ့ တူပါတယ်”

“ကျေးဇူးတင်ပါတယ်၊ ဒါပေမဲ့ ရှင်က ဖျံကျတာပါ”

“ဖျံကျတယ် ဟုတ်လား၊ ဖျံကျတယ်လို့ မင်း ပြောတာ ဟုတ်လား၊ မဟုတ်လားတော့ မသိဘူး။ ဒီမှာကြည့်၊ လူချမ်းသာတွေကို ကိုယ် အရှိုက်ထိုးတော့မယ်၊ ဒီစာအုပ် အဖုံးကို ဖတ်ကြည့်”

“ကျွန်မမှ စာမဖတ်တတ်တာ”

“ဒါပေမဲ့ ဒီအကြောင်းတွေ သိမှာပါ၊ ဒါ အခွန်ကောက်မယ့်နှုန်းထား စာအုပ်လေ”

“အစိုးရဘက်က လူတွေ အခွန်ကောက်မယ် ဆိုတဲ့သတင်း ကြားပါတယ်၊ ကျွန်မကို မကောက်ရင် ပြီးတာပဲ၊ ဘယ်သူ့ ကောက်ကောက်ပေါ့”

ဂီးလ်ဒေးက ရယ်ပြီး-

“မင်းကို မကောက်ပါဘူးကွာ။ မင်းပြောတဲ့ လန်းတို့၊ ရှာရမီတို့၊ စိန်ကလဲယားတို့၊ ပါစယ်တို့တွေပေါ့။ သူတို့ ပေးနေရပြီလေ”

ကိုရီမေက ခပ်ပေါ့ပေါ့ ရယ်ပြီး-

“အဲဒီလို ဖြစ်သင့်တာ ကြာပြီပဲ”

“ဟုတ်တယ်၊ စစ်အတွက် တာဝန်ရှိတဲ့ လူတွေ ပေးကြရမယ်၊ သူတို့က စတိုက်တာလေ”

“ဒါပေါ့၊ ဟုတ်တာပေါ့”

ကိုရီမေ အလုပ်ရပ်ပြီး စိတ်ဝင်တစား နားထောင်သည်။

“သေချာတာပေါ့၊ ဝါကြိတ်စက်ကို ရောက်လာတဲ့ ဝါဂွမ်းတပေါင်ပေါ်မှာ သုံးဆင့် အခွန်ဆောင်ရမယ်၊ အဲဒါ ဘယ်သူ ပေးရမယ် ထင်လဲ”

“ဝါစိုက်တဲ့လူ ပေးရမှာပေါ့”

“သကြားတပေါင်ကို နှစ်ဆင့်”

“ဟုတ်လား၊ ကောင်းလိုက်တာ”

“မင်း ပြောတာ ဟုတ်တယ် ကိုရီမေ၊ ဒီလို လုပ်သင့်တာ ကြာပြီ”

“အဲဒီ အခွန်ပိုက်ဆံတွေကို ဝါရှင်တန် ပို့ရတာပေါ့ ဟုတ်လား၊ ကျွန်မတို့ ရှင်တို့ ရနေတာ အဲဒီပိုက်ဆံတွေပေါ့ ဟုတ်လား”

“မင်း လခရနေတာ အဲဒီအထဲက ဟုတ်တယ်၊ အဲ... ဒါပေမဲ့ ကိုယ်ကတော့”

သူက တံဆိပ်ရိုက်ထားသည့် စာရွက်တရွက်ကို အံဆွဲထဲက ထုတ်ယူလိုက်သည်။

"ကိုယ်က လမ်းပြင်ဖို့ ကန်ထရိုက်တခု ရတယ်လေ၊ မြက်မြက်ကလေး စားရမယ့် အကွက်ပေါ့၊ ကမ်းနားလမ်းကို ပြင်ရမယ်"

"ဟုတ်လား ကောင်းတာပေါ့ ၊ လမ်းတွေ ပြင်ပြီးရင် ပိုက်ဆံတွေ ရမှာပေါ့"

သူက ကုလားထိုင်နောက်ကျောကို မှီသည်။ ဆေးတဆုံ ဖြည့်သည်။

"ကမ်းနားလမ်း ပြင်ဖို့ ကိုယ် ဘာမှ လုပ်စရာ မလိုဘူး ကိုရီမေ"

"ဟင်... လမ်းတွေက အရမ်းပျက်စီးနေတာပဲ"

မစ္စတာဂီးလ်ဒေးက အေးစက်စက် လေသံဖြင့်-

"အဲဒီလမ်းတွေ ဘယ်သူ့ကြောင့် ပျက်တာလဲ။ ဘယ်သူတွေ သုံးတာလဲ။ မင်းလည်း မဟုတ်ဘူး၊ ကိုယ်လည်း မဟုတ်ဘူး။ အဲဒီ အိမ်ကြီးရှင်တွေ၊ စိုက်ပျိုးရေး လုပ်ငန်းရှင်ကြီးတွေ၊ သူတို့ကြောင့် ပျက်တာ။ သူတို့ ပြင်ကြရမှာပေါ့"

"ဒါပေမဲ့ အစိုးရဆီက ရတဲ့ ပိုက်ဆံကျတော့ ရှင်က ထုတ်ယူမယ် ဟုတ်လား၊ ဒါ သိပ်မဟုတ်သေးဘူး၊ အလုပ် မလုပ်ဘဲနဲ့ ခေါင်းပုံဖြတ်တာပဲ"

"ဟိုစားပွဲပေါ်က မီးခြစ် ယူပေးစမ်းပါကွာ"

သူက မီးခြစ်လှမ်းယူရင်း ကိုရီမေကို စိန်းစိန်းကြည့်သည်။

"ဒီမယ် ကိုရီမေ၊ မင်း အဲဒီလူတွေဘက်က ဝင်ပြောစရာ အကြောင်း ဘာမှ မရှိဘူး၊ ကိုယ်က ဒီကန်ထရိုက်နဲ့ ချမ်းသာတော့မှာ၊ ကိုယ် ကောင်းစားရင် မင်းလည်း အခြေအနေ ပိုကောင်းမှာပေါ့။ အဲ..လောကနီတိတွေတော့ လာမပြောနဲ့"

ကိုရီမေ နောက်ဆုတ်သွားသည်။

"မစ္စတာဂီးလ်ဒေး၊ ကျွန်မ ဒီအရွယ်အထိ မရိုးမသား တခါမှ မလုပ်ခဲ့ဖူးဘူး၊ ရှင် ခုလုပ်မှာက သူခိုးအလုပ်ပဲ"

"အင်း...မင်းကို ကျုပ် ဘာလို့ အလုပ် မဖြုတ်သေးတာလဲ၊ ကျုပ်ကိုယ်ကျုပ် နားမလည်နိုင်အောင်ပဲ"

ဘာကြောင့် သည်လို ပြောလိုက်မိမှန်း ကိုရီမေ သူ့ကိုယ်သူ မသိလိုက်။ လွှတ်ခနဲ ထွက်သွားခြင်း ဖြစ်၏။ သို့သော် ဂီးလ်ဒေးက သဘောကျသလို သူ့ကို ပြုံးပြီး အကဲခတ်နေ၏။

“ကဲ… ကိုယ် စိတ်မဆိုးခင် မင်း သွားတော့”

“ဟုတ်ကဲ့ရှင့်”

အမှိုက်ခြင်းနှင့် ဂေါ်ပြားကို ကိုင်ပြီး အခန်းထဲမှအထွက် တံခါးဝအရောက်တွင် လှည့်ပြီး ကိုရီမေ ပြောလိုက်သည်။

“ကျွန်မနဲ့ အတူတူနေတဲ့ အမျိုးသမီးက ရှင်တို့အကြောင်း မကောင်းသတင်းတွေ ပြောနေတယ်”

မစ္စတာဂီးလ်ဒေးက မဖြူသည့် လေသံဖြင့်-

“ကဲ… ပြောစမ်းပါဦး၊ ဘာတွေများ ပြောလို့လဲ”

“ရှင်တို့ကို ကော်ဇောအိတ်သမားတွေတဲ့”

မစ္စတာဂီးလ်ဒေးက ဆေးတံကို တအား ဖွာလိုက်ပြီး-

“အဲဒါ ဘာဖြစ်လဲ၊ ဆဲတာမှ မဟုတ်တာ၊ ဒါထက် အဲဒါ ဘာအဓိပ္ပာယ်လဲ ကိုရီမေ”

“သူတို့ပြောတော့ ရှင်တို့ မြောက်ပိုင်းသားတွေ တောင်ပိုင်းကို လာတုန်းက ဘာမှ မပါဘူးတဲ့၊ ကော်ဇောစုတ်ကို ဖျက်ချုပ်ထားတဲ့ အိတ်ကလေးနဲ့ ရောက်လာကြတာတဲ့၊ ဒီရောက်မှ ချမ်းသာကြတာတဲ့”

“အင်း… သူတို့ ပြောတာ ဟုတ်ချင်လည်း ဟုတ်မှာပေါ့ကွာ”

သူ့ကြည့်ရသည်မှာ လုံးဝ စိတ်အနှောင့်အယှက် ဖြစ်ဟန် မတူ။ ရယ်စရာတခုလိုပဲ သဘောထားပုံ ရ၏။

“သူတို့ ပြောတုန်းက ကျွန်မ နားမလည်ဘူး၊ ခု ရှင် ကန်ထရိုက်အကြောင်းပြောမှ သဘောပေါက်တော့တယ်၊ မြောက်ပိုင်းသား အစိုးရကိုယ်စားလှယ်တွေအားလုံး အဲဒီလိုချည်းပဲ လား ဟင်”

“ဒီလိုတော့ မဟုတ်ဘူး၊ မင်း ပြောသလို ဖျံကျတဲ့ လူတွေပဲ ရတာ”

ကိုရီမေ ထွက်လာခဲ့သည်။ ဂျက်နှင့်အတူ လှေကားထစ်တွင် ထိုင်ပြီး နားသည်။ သည်တော့မှ စိတ်ထဲ လွတ်လပ် ပေါ့ပါးသွား၏။ ဂျက်က မြောက်ပိုင်းသား ဖြစ်ပေမယ့် ကော်ဇောအိတ်သမား မဟုတ်။ သူက ရိုးရိုး သားသား ပျော်ပျော်ရွှင်ရွှင်

နေတတ်သူ၊ သူ့အမေ ပို့လာသည့် ပန်းသီးတွေ ကျွေးပြန်သည်။

“ဂျက်ရဲ့အမေက ပန်းသီးတွေ အများကြီး ပို့ပေးလို့လား”

“အများကြီးတော့ မဟုတ်ပါဘူး၊ အမေ သနားပါတယ်၊ ကိုယ်က လွဲပြီး သူ့မှာ ဘယ်သူမှ ရှိတာ မဟုတ်ဘူး”

“ကျွန်မလည်း အမေ့အတွက် အရမ်း အကူအညီ ပေးချင်တာပဲ”

“မင်းအမေက ဘယ်မှာလဲဟင်”

“သေပြီ၊ ကျွန်မမှာ ဘယ်သူမှ မကျန်တော့ဘူး”

“အင်း . . . စိတ်မကောင်းပါဘူးကွာ၊ ဒါပေမဲ့ မင်း ကိုယ့်ဝမ်း ကိုယ်ကျောင်းပြီး ကိုယ့် ကိုယ်ကိုယ် ထိန်းနိုင်တာကို သဘောကျပါတယ်၊ မင်း တော်လို့ပေါ့”

“ကျွန်မ မတော်ပါဘူး ဂျက်”

“တော်ပါတယ်၊ မင်းကို ကိုယ် သဘောကျတယ် ကိုရီမေ၊ ကိုယ်က မင်းလို မတော် ဘူးလေ”

ကိုရီမေ သူ့ကို ငဲ့ကြည့်သည်။ ဟုတ်သည်။ မစ္စတာဂီးလ်ဒေးလို လူကိုမှ လူတော်ဟု ခေါ်ရမည်။ မိမိ၊ ဘတ်ချ်နှင့် ဂျက်တို့က အရိုးခံသမားတွေ။ ဘယ်တော့မှ ကြီးပွားမည် မဟုတ်။ သူက ဂျက်ကို မေးခွန်းထုတ်သည်။

“ဂျက်၊ ရိုးသားတဲ့ လူတွေ သေရင် ကောင်းကင်ဘုံ ရောက်တယ် ဆိုတာ ယုံလား ဟင်"

“ယုံတာပေါ့၊ အပြစ်မရှိတဲ့ လူ သေရင် ကောင်းကင်ဘုံ ရောက်တာပေါ့”

“ဒါပေါ့နော်၊ ရိုးသားမှုအတွက် တနေရာရာမှာ တစုံတရာတော့ ရထိုက်တာပေါ့”

ဂျက်က သူတို့ မသန်မစွမ်း စစ်ပြန်တွေကို အစိုးရက ပင်စင် ဆယ့်ငါးဒေါ်လာ ပေးမည် ကြားကြောင်း၊ ရွာပြန်ပြီး ဈေးဆိုင်ကလေးတဆိုင် ဖွင့်ဖို့ ရည်ရွယ်ကြောင်း ပြောပြ၏။

“ဂျက်က ဈေးရောင်းတတ်လို့လား”

“တောင်သူလယ်သမားတွေ ဘာလိုတယ် ဆိုတာလောက်တော့ သိတယ်လေ။ အလှကုန်ပစ္စည်းလေးတွေ၊ လယ်ယာသုံးပစ္စည်းတွေ တင်ရောင်းမှာပေါ့”

“အလှကုန်နဲ့ လယ်ယာသုံးပစ္စည်းတွေ တွဲရောင်းတာ ကျွန်မတော့ မတွေ့ဖူးဘူး၊ မြောက်ပိုင်းမှာတော့ ရှိချင် ရှိမှာပေါ့လေ”

“မြောက်ပိုင်းနဲ့ တောင်ပိုင်း ဘာမှ မတူဘူး”

သူက ဖိနပ်တွင် ပေနေသည့် ရွှံ့တွေကို ငုံ့ကြည့်ရင်း-

“ဩော်... ဒါထက် ကိုရီမေ...”

သူ့မျက်နှာတမျိုးဖြစ်ပြီး ဘာမျှ ဆက်မပြောဘဲ နေသည်။

“ပြောလေ ဂျက်၊ ဘာပြောမလို့လဲ”

“အဲ . . ပန်းသီး နောက်တလုံး စားဦးမလား”

“အင်း. . . စားမယ်၊ ဂျက်က ကျွန်မအပေါ် သိပ်ကောင်းတာပဲ၊ ကျေးဇူးတင်ပါတယ်နော်”

“မင်းဟာ သိပ်ပြီး . . . သိပ်တော်တဲ့ မိန်းကလေးပါ ကိုရီမေ၊ အင်ဒီယားနားကို မင်း သဘောကျမှာ”

“အင်း... ကျွန်မ ဘယ်မှ မရောက်ဖူးဘူး၊ သဘောကျမယ် ထင်ပါတယ်”

ထိုစဉ် မစ္စတာဂီးလ်ဒေးနှင့် သူ့အဖွဲ့သားနှစ်ယောက် အနား ရောက်လာသည်။ သူ့ကို “သူခိုး”ဟု မပြောခဲ့သလို တရင်းတနှီး ကိုရီမေကို နှုတ်ဆက်သည်။

“ဟေး... ကိုရီမေ၊ အခြေအနေ ကောင်းတယ်နော်”

“ဟုတ်ကဲ့၊ ကောင်းပါတယ် မစ္စတာဂီးလ်ဒေး၊ ကျေးဇူးတင်ပါတယ်”

“တို့ ညစာ သွားစားကြမလို့၊ လိုက်ခဲ့ပါလား”

“ကျေးဇူးပါပဲ၊ မလိုက်တော့ပါဘူး မစ္စတာဂီးလ်ဒေး”

အခြားနှစ်ယောက်က ဂီးလ်ဒေးကို ကြည့်ပြီး ရယ်တော့ သူကလည်း လိုက်ရယ်သည်။ ပြီးတော့ မလျှော့သေးဘဲ -

“တို့ ငါးပေါင်းဟင်းနဲ့ စားမှာ ဆိုလည်း မင်း ငြင်းမှာပဲလား”

“ဟုတ်ကဲ့၊ ကျွန်မ မလိုက်နိုင်လို့ပါ၊ အလုပ်လည်း ရှိသေးတယ်လေ”

သူက ရယ်ပြီး-

“အင်း. . . အဲဒီလိုပြောမယ် ထင်သားပဲ၊ ကဲ.. တို့ သွားကြစို့”

သူတို့ ထွက်သွားတော့ ကိုရီမေ တွေးနေသည်။ တော်တော်အရေထူတဲ့ လူပါလား၊ သူ စိတ်မှ ဆိုးတတ်ရဲ့လား။

“ကဲ .. ကျွန်မ လစ်ဦးမယ် ဂျက်၊ အလုပ် ဆက်လုပ်လိုက်ဦးမယ်”

ဂျက်ပါ ထရပ်လိုက်သည်။

“ဩော် ကိုရီမေ”

“ပြောလေ ဂျက်”

“အဲဒီ ဂီးလ်ဒေး ဆိုတဲ့ကောင် မင်းကို ရိသဲ့သဲ့ လုပ်နေတာလား”

“အို…သူ့ကို ကျွန်မ ဂရုမစိုက်ပါဘူး”

“ကိုယ်လည်း ထင်ပါတယ်လေ၊ ဒီလူက အဆင့် မရှိပါဘူး”

ကိုရီမေ ပြုံးသည်။

“သိပ်အဆိုးကြီးတော့ မဟုတ်ပါဘူး၊ ကျွန်မ သူတို့နဲ့ နေတတ်ပါတယ်၊ ဘာမှ မပူပါနဲ့”

“မင်းလို မိန်းကလေးက သူတို့လို လူတွေဆီမှာ အလုပ်လုပ်တာ သိပ်တော့ ကြည့်မကောင်းဘူး”

“အို… ကိစ္စမရှိဘူး၊ ကဲ…… ကျွန်မ သွားမယ်နော်”

အခန်းထဲတွင် သန့်ရှင်း တိုက်ချွတ်ပြီးတော့ ဝရန်တာကို ထွက်ပြီး ကြမ်းတိုက်ရ၏။ တနေ့လျှင် တံမြက်စည်း သုံးလေးခါ လှည်းမှ တန်ကာ ကျသည်။

နီဂရိုးတွေ၊ ကော်ဇောအိတ်သမားတွေက စက္ကူစုတ်တွေ၊ ဆေးလိပ်တိုတွေကို စည်းမဲ့ ကမ်းမဲ့ ပစ်ကြ၏။ ငှက်ပျောခွံတွေကို ကြမ်းပြင်ပေါ် ပစ်ချချင် ချထားခဲ့၏။

ရှင်းလို့ မနိုင် နိုင်အောင်ပင်။ သို့သော် ကိုရီမေ မမှု၊ အလုပ်ရှုပ်နေမှ ပို၍ စဉ်းစားချိန် ရသည်။

ဂျက်အကြောင်း၊ အင်ဒီယားနား အကြောင်း စဉ်းစားနေမိ၏။ မိမိကို ဂျက် သဘောကျ နေသည်မှာ သေချာသည်။ သူ အလေးအနက် ပြောတော့မည့် ဆဲဆဲတွင် မစ္စတာဂီးလ်ဒေး ရောက်လာခြင်း ဖြစ်သည်။

မစ္စတာဂီးလ်ဒေး ရောက်လာခြင်းအတွက် ကိုရီမေ ရင်ထဲ ပေါ့သွားသလို ခံစားလိုက် ရ၏။ သည်အတိုင်း ဆက်သွားလျှင် ဂျက် ဖွင့်ပြောတော့မှာ သေချာသည်။ ဂျက်သည် လူကောင်း တယောက် ဖြစ်၏။ ဘတ်ချ်ကဲ့သို့ ရိုးသားဖြောင့်မတ်သူ ဖြစ်၏။ လက်တဖက် မရှိသည်က အကြောင်း မဟုတ်၊ သူနှင့် လက်တွဲပြီး သူ့ကို ဦးဆောင်သွားနိုင်သည်။ သို့သော် သူ့ကို မိမိရင်ထဲက လက်ထပ်ချင်စိတ် ရှိရဲ့လား။ သည်မေးခွန်းအတွက် သေချာသည့် အဖြေ ကိုရီမေတွင် မရှိ။

ထိုနေ့ညနေ အလုပ်မှ ပြန်ချိန်ရောက်တော့ ဂျက်ကို ရှောင်ပြီး ပြန်လာခဲ့၏။ အိမ်ပြန်ရောက်တော့ အခန်းရှင် အမျိုးသမီး ကျွေးသည့် ညစာကို စားပြီး အိပ်ရာထဲ တန်းဝင်ခဲ့သည်။ ဂျက်အကြောင်း စဉ်းစားချင်သေးသည်။

အင်ဒီယားနားကို လိုက်သွားပြီး ဂျက်နှင့် လက်ထပ်လိုက်လျှင် ဘဝသည် အတည်တကျ ဖြစ်သွားမည်။ နှစ်ယောက်သား ကုန်စုံဆိုင်ကလေး ဖွင့်ကာ ကလေးတွေ ရမည်၊ ကျောင်းထား မည်။ ဂျက်သည် လင်ကောင်းတယောက် ဖြစ်လာမည်မှာ သံသယရှိစရာ မလို။ ဆင်းရဲ၊ ချမ်းသာ တန်းတူအခွင့်အရေးရှိသည့် မြောက်ပိုင်းတွင် မုချ ပျော်စရာ ကောင်းလိမ့်မည်။

သူ ဖွင့်ပြောလာလျှင် လက်ခံတော့မည်။ ရိုးသားအေးဆေးသည့် ဘဝကလေးတခု တည်ဆောက်မည်။ မုန်တိုင်းထန်လှသည့် ဘဝ တကဏ္ဍ ရပ်သင့်ပြီ။

နောက်တနေ့မနက် အလုပ်ဆင်းတော့ ဂျက်က ရုံးနောက်ဘက် လှေကားတွင် အသင့် စောင့်နေသည်။

ရှက်ရွံ့ရွံ့ အမူအရာဖြင့် –

“ဒီမှာ ဒါလေး ကိုယ် ဝယ်ထားတယ်”

“အို... လှလိုက်တာ၊ ဂျက်က သိပ်သိတတ်တာပဲ”

ခေါင်းစည်း ဖဲပြားကလေး ဖြစ်၏။ ကိုရီမေ မျက်ရည်များတောင် လည်ချင်လာသည်။ ဖဲပြားကလေးနှင့် ဆံပင်တွေကို ချက်ချင်း စုစည်းလိုက်သည်။

"ဪ. . . ကိုရီမေ၊ စခန်းမှာ တနင်္ဂနွေနေ့ကျရင် သူငယ်ချင်းတွေစုပြီး ကောင်လုံးကင် ပွဲ လုပ်မလို့၊ လာခဲ့ပါလားဟင်၊ လိုက်မယ် ဆိုရင် ကိုယ်နဲ့အတူ သွားတာပေါ့"

"လိုက်လို့ ကောင်းပါ့မလား"

"ဘာလို့ မကောင်းရမှာလဲ၊ သိပ်ကောင်းတာပေါ့"

ဂျက် ပြုံးသည်။ သူ့အပြုံးက သိပ်သေချာနေသည့် အပြုံးမျိုး။ သူက ဖွင့်ပြောပြီး ကိုရီမေက လက်ခံထားသည့် အပြုံးမျိုး။

ကိုရီမေသည် မနက်ခင်း အလုပ်ကို မြူးမြူးကြွကြွ စသည်။ သူ့ကို သဘောကျနေ၏။ ချစ်သူရှိနေသည့် ဘဝမျိုးသည် စိတ်ချမ်းမြေ့စရာ ကောင်းလှသည်။ မစ္စတာ ဂီးလ်ဒေး၏ ရုံးခန်း ထဲဝင်ပြီး သူ မရောက်ခင် ပြီးအောင် ခပ်သွက်သွက် အလုပ် လုပ်သည်။

သို့သော် သူ့စားပွဲကို ရှင်းနေတုန်း သူ ရောက်လာသည်။ ပြုံးရွှင်ချိုသာစွာ တရင်းတနှီး နှုတ်ဆက်သည်။

"ဒီနေ့ ရာသီဥတု ကောင်းတယ်နော်၊ သာယာနေတာပဲ"

"ဟုတ်ကဲ့၊ ချမ်းစိမ့်စိမ့်ကလေး"

"မင်း အရမ်း အလုပ်များနေလား"

"ဟုတ်ကဲ့၊ အခန်းတွေ အများကြီး ကျန်သေးတယ်"

"ဒါလောက် အလောတကြီး လုပ်စရာ မလိုပါဘူးကွာ"

သူ့ကို တချက် ကြည့်လိုက်သည်။ ဝတ်စုံအကောင်းစားကို ဆင်မြန်းလာ၏။ ဝက်သစ်ချ မြိုင်ကို လာသည့် ဧည့်သည်တွေအတိုင်း သားနားနေ၏။ ပါဆယ်ထုပ်တထုပ်ကို စားပွဲပေါ် တင်လိုက်သည်။ ပြီးတော့ ကြိုးတွေ ဖြေနေ၏။

"ကိုရီမေ...ဒီမှာ ကြည့်စမ်း၊ သဘောမကျဘူးလား"

သူက သိုးမွေးခြုံထည်ကို ဆွဲထုတ်ပြီး ဖြန့်ပြသည်။ အနီနှင့် အညိုရောင်

ပန်းပွင့်ကြီးတွေ ထိုးထားသည့် သိုးမွေးထည်။ အနားကို ပိုးစနှင့်ကွပ်ပြီး ဖွာချထား၏။ သိုးမွေးထည်ကို ယူပြီး ကိုရီမေ ကိုင်ကြည့်လိုက်သည်။ နူးညံ့အိထွေးနေ၏။

"လှလိုက်တာနော်၊ အမျိုးသမီးတယောက်ကို လက်ဆောင်ပေးဖို့ပေါ့၊ ဟုတ်လား"

"ဟုတ်တယ်၊ မင်းအတွက်လေ"

"ရှင်"

သိုးမွေးထည်ကို ကိုရီမေ လွှတ်ချလိုက်၏။ မစ္စတာဂီးလ်ဒေးက ကုလားထိုင်တွင် ဝင်ထိုင်ပြီး နောက်ကို မှီလိုက်သည်။

ကိုရီမေက ဖုန်သုတ် အဝတ်ကို ကောက်ယူပြီး-

"မလုပ်ပါနဲ့ မစ္စတာဂီးလ်ဒေး၊ ကျွန်မ မလိုချင်ပါဘူး"

ပြောပြောဆိုဆို တံခါးဝကို သုတ်ခြေတင်ပြီး သူ ဘာမျှ မပြောနိုင်ခင် ထွက်လာခဲ့သည်။ နောက်ဘက်ကို ခပ်သွက်သွက် ထွက်လာခဲ့၏။ ဂျက်က နီဂရိုးတသိုက်အား အစိုးရကိုယ်စား လှယ် ရုံးခန်းကို လမ်းညွှန်နေ၏။

ကိုရီမေက နီစပ်စပ်နှင့် ရီးသားသည့် ဂျက်၏ မျက်နှာကို ကြည့်နေသည်။ ဂျက်က ပြုံးနေ၏။

"ဘယ်ကို သုတ်ခြေတင်မလို့လဲ၊ အလောတကြီးနဲ့ပါလား၊ ဟင် . . . မျက်နှာတွေလည်း နီလို့၊ ဘယ်သွားမလို့လဲ ကိုရီမေ"

တရားရုံးထဲသို့ နီဂရိုးတွေ အုပ်လိုက် ဝင်လာနေကြ၏။ ကိုရီမေ တွေပြီး ရပ်နေသည်။ လုပ်စရာ ရုံးခန်းတွေ အများကြီး ကျန်သေး၏။ ဂျက်နှင့်လည်း စကားပြောချင်နေသေးသည်။ အလုပ်ကို ခဏလေး ချိတ်ထားဖို့ ဆုံးဖြတ်လိုက်သည်။

ဂျက်က စကားစသည်။

"အမေ့ဆီက စာလာတယ်၊ မြောက်ပိုင်းမှာ တအား အေးနေပြီတဲ့၊ နှင်းတွေ ကျနေ ပြီတဲ့"

"ဟုတ်လား၊ နှင်းကျတာ ကျွန်မ တခါမှ မမြင်ဖူးဘူး"

"သိပ်လှတာပဲ၊ အားလုံးကို နှင်းတွေဖုံးပြီး ဖွေးနေတာပဲ၊

လမ်းတွေပေါ်မှာလည်း ရေခဲ တွေ ဖုံးနေတယ်၊ အဲဒီအခါ စွတ်ဖားနဲ့ သွားရတယ်”

“စွတ်ဖား ဆိုတာ ဘာလဲဟင်”

“မြင်းလှည်းတမျိုးပါပဲ၊ ဒါပေမဲ့ ဘီးနဲ့ မဟုတ်ဘူး၊ သံလေးတွေနဲ့ နှင်းပေါ်မှာ ဆွဲတာ၊ ခေါင်းလောင်းကလေးတွေ တချွင်ချွင်နဲ့ပေါ့၊ သိပ်ပျော်စရာ ကောင်းတာ၊ မင်း သဘောကျ မှာပါ”

ကိုရီမေက အုတ်နံရံကို မှီပြီး-

“ကျွန်မ မြောက်ပိုင်းမှာ အားလုံးကို သဘောကျမှာပါ၊ ရွာကို ဂျက် အောက်မေ့နေ မှာပဲနော်”

“သိပ်အောက်မေ့တာပေါ့၊ အိမ်က ထွက်လာတာ သုံးနှစ်တောင် ရှိပြီ”

“ဒါဆို စစ်စဖြစ်တော့ တပ်ထဲ မရောက်သေးဘူးပေါ့”

သူ ခေါင်းယမ်းသည်။

“ကိုယ် မဝင်ချင်ပါဘူး၊ တောင်ပိုင်း အကြောင်းလည်း ကိုယ် ဘာမှ မသိဘူး၊ ပြီးတော့ အမေကလည်း ရှိသေးတယ်၊ ဒါပေမဲ့ သူတို့ အတင်းခေါ်တယ်လေ၊ စစ်မှုမထမ်း မနေရ ဥပဒေကြောင့် ကိုယ် ပါလာတာ”

“ဟင်.... အဲဒီမှာလည်း ဒီဥပဒေရှိတယ် ဟုတ်လား”

ကိုရီမေ အရမ်းအံ့ဩသွားသည်။ မြောက်ပိုင်းတွင် သည်ဥပဒေ ရှိသည် မထင်။

“ရှိတာပေါ့၊ ဒါမှ ပြည်ထောင်စု မပြိုကွဲမှာလေ”

“လူတိုင်း ဝင်ရသလား”

“လူတိုင်းတော့ မဟုတ်ဘူး၊ ကလေးငယ်ရှိတဲ့ လူတွေ၊ မကျန်းမာတဲ့ လူတွေကို အတင်း မခေါ်ပါဘူး၊ ပြီးတော့ စစ်မှုထမ်းခွင့် လွတ်ငြိမ်းမှုအတွက် ပိုက်ဆံပေးနိုင်တဲ့ လူတွေပေါ့”

ကိုရီမေ ပါးစပ်အဟောင်းသား ဖြစ်သွားသည်။

“ပိုက်ဆံပေးနိုင်တဲ့ လူတွေ ဟုတ်လား”

“ဟုတ်တယ်၊ ဒေါ်လာသုံးရာ ပေးနိုင်ရင် လွတ်ငြိမ်းခွင့် ရတယ်”

“ဒါဆို လူချမ်းသာတွေ စစ်ထဲ မဝင်ချင် ရတယ်ပေါ့”

“ဒါပေမဲ့ တခါတလေ တော်ရုံ ချမ်းသာရုံနဲ့ မလွတ်ဘူး၊ စစ်မှုထမ်း ဥပဒေက စစ်အခြေအနေအရ တခါတလေ ပြင်းထန်တယ်၊ အဲဒီအခါ ဈေးပိုကြီးတယ်၊ တချို့လူတွေ အများကြီး ပေးရတယ်၊ ထပ်ကာ ထပ်ကာ ပေးရတယ်”

“ဩော်. . . မြောက်ပိုင်းဆိုတာ အဲဒါမျိုးလား”

ကိုရီမေက အလေးအနက် တွေးနေဟန်ဖြင့် မေးသည်။ နာနာကြည်းကြည်း လေသံဟု ဂျက် ထင်လိုက်၏။

“ဘာဖြစ်လို့လဲဟင် ကိုရီမေ”

“ရှင်က ဘာလို့ ပိုက်ဆံပေးပြီး အိမ်မှာ မနေတာလဲ၊ ဒါဆို ဘုရားသခင် ဖန်ဆင်းပေးတဲ့ ရှင့်လက်တဖက် ဘယ်ဆုံးမလဲ”

ဂျက်က နာနာကြည်းကြည်း ရယ်သည်။

“ကိုယ့်မှာ ပိုက်ဆံများများ ရှိမယ်လို့ မင်း ဘာလို့ ထင်နေတာလဲ”

ကိုရီမေ သက်ပြင်းချသည်။

“ဟုတ်ပါတယ်၊ ရှင့်မှာ ပိုက်ဆံ မရှိဘူး၊ နောင်လည်း ရှိမှာ မဟုတ်ဘူး၊ ရှင်မှ ဖျံမကျတတ်ဘဲကိုး”

“ဟာ.... ကိုရီမေကလည်း ကိုယ် ဘယ်တုန်းကမှ ဖျံမကျခဲ့ဖူးဘူး၊ ဒါပေမဲ့ မင်း ဘယ်လောက်လှတယ် ဆိုတာတော့ သိတယ်၊ ခုလို ဖဲပြားကလေး ခေါင်းမှာ စည်းထားတော့ ပိုလှနေတယ်၊ ကောင်လုံးကင်ပွဲနေ့ကျရင်လည်း စည်းခဲ့နော်”

ကိုရီမေ သူ့ဘက်ကို ချာခနဲ လှည့်လိုက်သည်။

“အဲဒီပွဲကို ကျွန်မ မလိုက်တော့ဘူး၊ ရော့...ရှင့်ဖဲပြား ပြန်ယူ၊ တခြားမိန်းကလေး တယောက်ယောက်ကို ပေးလိုက်၊ ရှင်နဲ့ လိုက်မယ့် ခပ်ထူထူ မိန်းကလေးပေါ့”

ဂျက် အလန့်တကြား ဖြစ်သွားသည်။

“ကိုယ် ဘာပြောမှား ဆိုမှား ရှိလို့ မင်း ဒေါပွသွားတာလဲ ကိုရီမေ”

"အို....ဘာမှ မဟုတ်ပါဘူး၊ ကျွန်မ ဘာမှ မပြောချင်တော့ဘူး၊ ဘုရားသခင်က လူတချို့ကို ခပ်တုံးတုံးဖြစ်အောင် ဖန်ဆင်းပေးတယ်လို့ ကျွန်မ ထင်တယ်၊ အဲဒီလူတွေက ဖျံကျတဲ့ လူရဲ့ အလုပ်ကို လုပ်ပေးနေရတယ်၊ ကျွန်မလည်း ရှေ့လျှောက် ဖျံကျတော့မယ်။ ဒီတော့ ရှင့်ဖဲပြား ရှင်ပြန်ယူ၊ ခေါင်းလောင်းတွေနဲ့ စွတ်ဖားတွေဆီ ရှင်ပြန်သွား၊ တန်းတူအခွင့်အရေး ရှိတယ် ဆိုတဲ့ ရှင့်မြောက်ပိုင်းကို ရှင့်ဘာသာ ရှင်ပြန်၊ တောင်ပိုင်းကို မြောက်ပိုင်းဖြစ်အောင် လုပ်ဖို့ ရှင် ဘာမှ ပူစရာ မရှိဘူး၊ အလိုလို တူပြီးသား ဖြစ်နေပြီ။ တောင်ပိုင်းမှာရော၊ မြောက်ပိုင်းမှာရော လူနှစ်မျိုးပဲ ရှိတယ်၊ တမျိုးက သူတို့ လိုချင် တာကို ရအောင် ယူတတ်ကြတယ်၊ နောက်တမျိုးက သူများ ပြောသမျှ ယုံပြီး အသက်သေ ကြတယ်၊ လက်ပြတ် ခြေပြတ် ဖြစ်ကြတယ်၊ ရှင့်လို လူမျိုးတွေပေါ့"

ကိုရီမေ ပြောပြီး လှည့်ထွက်ပြေးဖို့ ပြင်သည်။ သို့သော် ဂျက်က လမ်းပိတ်ရပ်ထား လိုက်၏။ သူ ဘာရည်ရွယ်ချက်ဖြင့် ဘာတွေ ပြောသွားမှန်း ဂျက် မသိ။ အံ့သြခြင်းအတိဖြင့် မေးလိုက်သည်။

"တခုတော့ ပြောပါ ကိုရီမေ၊ ကိုယ် ဘာပြောမိလို့လဲ၊ ကိုယ် ဘာရည်ရွယ်ချက်နဲ့မှ ပြောတာ မဟုတ်ပါဘူးကွာ"

"ဟုတ်ပါတယ်၊ ရှင့်မှာ ဘာရည်ရွယ်ချက်မှ မရှိပါဘူး၊ အင်ဒီယားနားကို ပြန်ပြီးဘုရားသခင်ရဲ့ ကူညီစောင့်ရှောက်မှုပဲ ခံယူပါ၊ ဘာဖြစ်လို့လဲ ဆိုတော့ ဘယ်သူမှ ရှင့်ကို ကူညီ မှာ မဟုတ်လို့ပဲ။ ကဲ . . . ကျွန်မ သွားမယ်"

ဖဲပြားကို ကြမ်းပြင်ပေါ် ပစ်ချခဲ့ပြီး ကိုရီမေ တရားရုံးထဲသို့ ပြေးဝင်လာခဲ့သည်။ ဒေါသ ကြောင့် တကိုယ်လုံး ပူထူနေ၏။ ဘယ်သူ့ကိုမျှ ဒေါပွခြင်း မဟုတ်။ မိမိကိုယ်မိမိ ခွင့်မလွှတ် နိုင်ခြင်း ဖြစ်၏။ ရိုးသား ဖြောင့်မတ်မှုကို သွားပြီး အထင်ကြီးမိခြင်း။

ရိုးရိုးသားသား လုပ်ကိုင်စားသောက်လိုသည့် မိမိအစ်ကိုနှစ်ယောက်သည် လူချမ်းသာ တို့အတွက် အသက်ဆုံးခဲ့ရ၏။ ဂျက်သည် ရိုးသားသဖြင့် ပိုက်ဆံ မပေးနိုင်သောကြောင့် လက်တဖက် ပြတ်ခဲ့ရ၏။ ကျွမ်းကျင်သည့် အလုပ်ကို စွန့်လိုက်ရ၏။

ပါးနပ်သူများက သူတို့ ယုံသလို မယုံကြည်ကြ။ ဥပမာ မစ္စတာဂီးလ်ဒေး၊ ဝတ်ကောင်း စားလှနှင့် အိတ်ထဲတွင် ဒေါ်လာ အထပ်လိုက် ထည့်သုံးနိုင်၏။ ကိုရီမေသည် တံခါးလက်ကိုင်ဖု ကို လှည့်ပြီး မစ္စတာဂီးလ်ဒေး၏ ရုံးခန်းထဲသို့ ပြန်ဝင်ခဲ့သည်။

မစ္စတာဂီးလ်ဒေးက စုတ်စုတ်ပြတ်ပြတ် တောင်ပိုင်းစစ်ဝတ်စုံနှင့် လူတယောက်ကို လက်ခံစကားပြောနေသည်။ ဖြူဖျော့နေပြီ ဖြစ်သော သူ့အင်္ကျီတွင် ကြယ်သီးတလုံးမျှ မရှိတော့။ တောင်ပိုင်းစစ်ဝတ်စုံကို မဝတ်ရဟု အမိန့်ထုတ်ထား၏။ မရှိဆင်းရဲလို့ ဝတ်လျှင် အဆင့်တံဆိပ်များကို ဖြုတ်ပစ်ရမည်။ ကြယ်သီးများပါ ဖြုတ်ပစ်ရမည်။ မူလအမိန့်ကို ထပ်မံ လျှော့ပေးသည့် အမိန့် ထုတ်ပြန်ပေးထားသည်။

သည်အမိန့်ကို မကြားသိ၍ တစုံတယောက်က တောင်ပိုင်းယူနီဖောင်း အပြည့်အစုံ ဝတ်လာလျှင် ကော်ဇောအိတ် သမားများက ဖြုတ်စရာ ရှိသည်များကို နီဂရိုးများအား အတင်း လိုက်ဖြုတ်ခိုင်း၏။ သည်လို လုပ်ရသည်ကို သူတို့ ပျော်သည်။

တောင်ပိုင်း စစ်ပြန်သည် မစ္စတာဂီးလ်ဒေး၏ ဩဝါဒကို အလွန်အမင်း ရိုကျိုးစွာ သေသေ ချာချာ နာခံလျက် ရှိ၏။

"ကျွန်တော် အရမ်းကျေးဇူးတင်ပါတယ် မစ္စတာဂီးလ်ဒေး၊ ခုလို ကူညီတဲ့အတွက် ဘယ်တော့မှ ကျွန်တော် မမေ့ပါဘူး"

"ကဲ...သွားတော့၊ နေ့တိုင်း လုပ်ရမှာနော်၊ ရာသီဥတု ဘာဖြစ်နေ ဖြစ်နေ"

"ဟုတ်ကဲ့၊ ကျွန်တော် နားလည်ပါတယ် ခင်ဗျာ"

လူစိမ်းက အရိုအသေပေးပြီး ထွက်သွားသည်။ သူပြောပုံ ဆိုပုံ လေသံက အောက်တန်း စားထဲက မဟုတ်။ အထက်တန်းလွှာမှ ပညာတတ်တယောက် ဖြစ်ဟန်တူ၏။ ခုတော့ စုတ်စုတ်ပြတ်ပြတ်နှင့် သနားစရာ။ ကိုရီမေ မဲ့ပြုံးပြုံးလိုက်သည်။ တချိန်တုန်းက ကျွန်တွေကို မောင်းခဲ့သည့် ပုဂ္ဂိုလ် ဖြစ်ကောင်း ဖြစ်မည်။ စစ်တိုက်ဖို့ တက်ကြွခဲ့သူ ဖြစ်ကောင်း ဖြစ်မည်။ ဒါဆိုရင်တော့ တန်ပြန် အကျိုးသက်ရောက်မှုကို ခံပစေပေါ့။

မစ္စတာဂီးလ်ဒေးက ကိုရီမေကို ခြေဆုံးခေါင်းဆုံး ကြည့်သည်။ သူက သည်လို ကြည့်နေ ကျ ဖြစ်၏။ ကိုရီမေ ဝတ်ထားသည့် အဝတ်များကို ဖောက်ထွင်းမြင်ရသည့်အလား။

သူက တခြမ်းပြုံး ပြုံးပြီး-

"မင်း ဘာလိုနေလဲ ကိုရီမေ"

ကိုရီမေက သူ့ဆီ လျှောက်သွားပြီး စားပွဲစွန်းကို မှီလိုက်သည်။

"ခုတင်က ခြုံထည်ကော ဟင်"

ဂီးလ်ဒေးက မဆိုစလောက် အံ့သြသွားဟန်ဖြင့် မျက်ခုံးချီပြီး-

"ရှိပါ့ဗျာ၊ ဟောဒီမှာ"

"ကျွန်မ စဉ်းစားမိတယ်၊ အဲဒီ ခြုံထည်ကို မြင်လိုက်ပြီး လှလွန်းလို့ ကျွန်မ အရမ်းလိုချင် ပြီး လန့်သွားတာ ဖြစ်မယ်လို့"

မစ္စတာဂီးလ်ဒေးက စားပွဲပေါ် လက်နှစ်ဖက် ထောက်လျက် မေးစေ့ကို လက်ပေါ်တင် သည်။

"အင်း... အင်း... နောက်ဆုံးကျမှ မင်း နားလည်လာတာပေါ့ ဟုတ်လား"

"ဟုတ်တယ်၊ ကျွန်မ နားလည်လာပြီ"

သူ ခပ်တိုးတိုး ရယ်သည်။ တစုံတခုကို အောင်မြင်လိုက်သဖြင့် ရယ်သည့် ရယ်သံမျိုး။

"ကဲ... ကဲ ... ရော့ ယူ၊ မင်းက သေသေချာချာ စဉ်းစားပြီးမှ လက်ခံတဲ့ သဘောပေါ့ ဟုတ်လား"

ကိုရီမေ ရယ်သည်။ အပေါက်ဝဘက်ကို ပြန်လှည့်ကြည့်ပြီး-

"ခုတင်က လူက ဘယ်သူလဲ ဟင်"

"ဪ... သူက စာပို့သမား လုပ်မယ့် လူလေ"

"ဟုတ်လား"

စိတ်ထဲတွင် ကျိတ်ပြီး ပျော်သွား၏။

"စာပို့လုပ်ငန်းအတွက် ကိုယ် ကန်ထရိုက် ရတယ်လေ၊ တလကို ဒေါ်လာ တရာ ရမယ်၊ သူ့ကို ဒေါ်လာလေးဆယ် ပေးပြီး တဆင့် ပြန်ခိုင်းလိုက်တာရယ်"

မစ္စတာဂီးလ်ဒေးက ကိုရီမေ့ လည်တိုင်ကို လှမ်းကိုင်ပြီး ပွတ်သည်။

"အဲဒါပဲ ကလေးမရဲ့၊ အဲဒီ အလုပ်မျိုးကို တော်းတွေ လုပ်ကြပစေပေါ့"

ကိုရီမေ ပြုံးသည်။ စိတ်ထဲတွင် လုံးဝ အေးဆေးနေ၏။ သို့သော်

မစ္စတာဂီးလ်ဒေးက အလေးအနက် တွေးနေပုံ ရသည်။ ကိုရီမေ စားပွဲပေါ် တက်ထိုင်လိုက်သည်။ လက်နှစ်ဖက်ကို ပေါင်ပေါ် တင်ထား၏ ဂီးလ်ဒေးက သူ့လက်ကို ကိုရီမေ့ လက်ပေါ် ထပ်အုပ်လိုက်၏။ ကိုရီမေက သူ့ကို ကြည့်ပြီး ပြုံးပြလိုက်သည်။ နှစ်ယောက်သား ချက်ချင်း ပိုရင်းနှီးသွားသည့်နှယ်။

ငယ်ပေါင်းကြီးဖော်များနှယ် ဖြစ်သွား၏။ ဘာမျှ ပြောစရာ မလိုဘဲ မျက်လုံးချင်း နားလည်ပြီး သား ဖြစ်သွား၏။

“ရှင် စစ်တပ်ထဲ ဝင်ဖူးသလားဟင်၊ စစ်ဖြစ်တုန်းကလေ”

သူ မရယ်ချင့် ရယ်ချင် ရယ်သည်။

“ဘယ် ဒါလောက် မိုက်ပါ့မလဲကွာ”

"အင်း...ထင်ပါတယ်လေ၊ စစ်မှုထမ်းခွင့် မရအောင် ဘယ်လို လုပ်သလဲဟင်”

“လွယ်ပါတယ်၊ ပိုက်ဆံ ပေးလိုက်တာပေါ့”

“အင်း . . . ကျွန်မ ထင်တဲ့ အတိုင်းပါ ပဲ၊ ပိုက်ဆံရှိရင် လုပ်ချင်တာ လုပ်လို့ ရတယ်နော်”

သူက ခပ်ရွှင်ရွှင် အမူအရာဖြင့် ခေါင်းညိတ်ပြီး-

“ဒါပေါ့၊ ဒါပေါ့”

“အင်း .. ဆက်ပြောပါဦး၊ ရှင် ဘယ်လိုလုပ်ပြီး ပိုက်ဆံတွေ ဒါလောက်များများ ရလာ တာလဲ၊ စစ်မဖြစ်ခင်ကတည်းက ချမ်းသာတာလားဟင်”

“လုံးဝ မဟုတ်ဘူး၊ အမှန်အတိုင်း ပြောရရင် စစ်မဖြစ်ခင်ကလေးမှာ ကိုယ် အလုပ် ကောင်းကောင်းတခုရတယ်၊ ဒါပေမဲ့ ကံဆိုးချင်တော့ အလုပ်ပြုတ်သွားတယ်၊ ကံကောင်းချင် တော့ ကိုယ် မြောက်ပိုင်းကို ပြန်ရောက်သွားတယ်၊ အထည်ချုပ် စက်ရုံပိုင်ရှင်တယောက်နဲ့ အဆက်အသွယ်ရတယ်၊ အပေါစား ယောကျ်ားဝတ်တွေ ချုပ်တဲ့ စက်ရုံကလေးပါ၊ သူနဲ့ပေါင်းပြီး စစ်ဝတ်စုံတွေ ချုပ်ဖို့ ကိုယ်တို့ ကန်ထရိုက်ရတယ်၊ အဲဒီအချိန်က ဘယ်သူဖြစ်ဖြစ် အထည်ချုပ် လုပ်ငန်းရှိတဲ့ လူတိုင်း ကန်ထရိုက်ရကြတဲ့ ခေတ်ပေါ့”

“သြော် . . အဲဒီကတည်းက အစိုးရဆီက ပိုက်ဆံကို ရအောင် ယူခဲ့တာပေါ့၊ ဟုတ်လား”

မစ္စတာဂီးလ်ဒေးက ရယ်ပြီး-

"သိပ်ဟုတ်တာပေါ့၊ အဲဒီတုန်းက အခြေအနေ သိပ်ရှုပ်ထွေးနေတယ်၊ အစိုးရက တွေ့သမျှလူကို တပ်ထဲ ဆွဲသွင်းနေချိန်လေ၊ ဘယ်သူမှ အဝတ်အစား မပါကြဘူး။ သေနတ်၊ မြင်းကုန်းနှီး၊ စောင်၊ ဘာမှ မပါကြဘူး။ အဲဒီမှာ စစ်ပစ္စည်း မှန်သမျှကို ကန်ထရိုက်ရကြတာ လေ၊ တိုင်းပြည်မှာ သားရေတို့၊ သိုးမွေးတို့ ရှိတော့တာမှ မဟုတ်ဘဲ"

သူက ရယ်ပြီး ကိုရီမေ့ လက်ကို ပုတ်သည်။ ကိုရီမေက ရှေ့ကို ကိုင်းပြီး-

"အဲဒီတော့ ဘာဆက်လုပ်လဲ၊ ပြောပါဦး"

"အပေါတကာ့ အပေါဆုံး ပိတ်စတွေ ရှာပြီး ယူနီဖောင်းချုပ် သွင်းတယ်လေ၊ ဂျုံအိတ်ကို ဆေးဆိုးပြီး ချုပ်တဲ့ အထည်တွေတောင် ပါသေးတယ်၊ ဈေးကျတော့ တောင်းသလောက် ရတယ်"

ကိုရီမေက ရယ်ပြီး ပြောသည်။

"မစ္စတာဂီးလ်ဒေး၊ ရှင်ဟာ တကယ့်မျိုးချစ်တယောက်ပဲ"

ဂီးလ်ဒေးက သရော်တော်တော် ပြန်ရယ်ပြီး-

"ဒါပေါ့၊ ကိုယ်က မျိုးချစ်စစ်စစ်လေ၊ ရတဲ့ ပိုက်ဆံတွေနဲ့ အစိုးရဆီက ငွေစုလက်မှတ်တွေ ပြန်ဝယ်တယ်လေ၊ အဲဒါ တိုင်းပြည်ကို ပံ့ပိုးတာပေါ့၊ မဟုတ်ဘူးလား။ ဆေးရုံတွေအတွက် ရန်ပုံငွေတွေလည်း ကိုယ် ထည့်တယ်။ ရှေ့တန်းရဲဘော်တွေအတွက် ရောင်းတဲ့ ရင်ထိုးကလေး တွေ၊ တံဆိပ်ကလေးတွေလည်း ကိုယ် ဝယ်တယ်။ အဲဒီ မျိုးချစ်လုပ်ငန်းတွေ ကိုယ်မလုပ်ခဲ့ရင် ဒီအစိုးရကိုယ်စားလှယ်အလုပ် ဘယ်ရမလဲ ကိုရီမေ။ နီဂရိုးတွေ ပြန်လည်နေရာချထားဖို့ အလုပ်မျိုးတွေ၊ တောင်ပိုင်းသူဌေးတွေဆီက အခွန်ကောက်ဖို့ အလုပ်မျိုးတွေ ကိုယ် ဘယ်ရ မလဲ"

ကိုရီမေ သူ့ကို ကြည့်ပြီး ခေါင်းယမ်းသည်။ သဘောကျသည့် လေသံဖြင့်-"မစ္စတာဂီးလ်ဒေး၊ ရှင်ဟာ ကျွန်မ တွေ့ဖူးသမျှ လူတွေထဲမှာ အောက်တန်းအကျ ဆုံးပဲ"

"ကိုယ်လည်း အဲဒီအတိုင်းပဲ ထင်ပါတယ် မိန်းကလေးရယ်"ဟု မစ္စတာဂီးလ်ဒေးက ပြုံးပြုံးကြီး ပြန်ပြောသည်။ ပြီးတော့ သူ့လက်ကို ရုပ်ပြီး ကိုရီမေကို သဘောကျသည့် မျက်နှာ ပေးဖြင့် ငေးကြည့်နေ၏။

ကိုရီမေက တွဲတိုးကြီး မေးလိုက်သည်။

“မစ္စတာဂီးလ်ဒေး၊ ရှင် ဘယ်သူလဲဟင်၊ ရှင် ဘယ်က လာတာလဲ”

ဂီးလ်ဒေးက ကိုရီမေဆီမှ မျက်စိမခွာဘဲ ဖြေသည်။

“ကိုယ့်ဇာတိကို မေးတာလား၊ ယောက်ပြည်နယ် ကင်စတန်နားက အာလ်စတာဆိုတဲ့ ဇနပုဒ်ကလေးမှာ ကိုယ့်ကို မွေးတယ်”

သူ့မျက်ပေါက်ကျဉ်းကျဉ်းတွေ ပိုကျဉ်းသွားသည်။ ကိုရီမေကို ကျော်ပြီး နံရံကို စိုက်ကြည့်နေ၏။ တခုခုကို ပြောတော့ မလို နှုတ်ခမ်းကို တင်းတင်းစေ့ထား၏။

“ရှင် လုပ်သမျှတွေဟာ တခုမှ မဟုတ်ဘူး၊ ဒါပေမဲ့ အဲဒါတွေဟာ လုပ်ဖို့ လိုသလိုပဲ”

“လုပ်ဖို့ လိုတယ် ဟုတ်လား၊ ဒါပေါ့ .. လိုတာပေါ့”

သူ နံရံကို စိုက်ကြည့်နေဆဲ ဖြစ်၏။ နံရံကို ဖောက်ပြီး သူ့ဇာတိ အာလ်စတာကို မြင်နေ ရသည့်အလား။ ခဏနေမှ သူ စကားဆက်သည်။

“အမေက ကလေးဆယ့်သုံးယောက် မွေးတယ်၊ လေးယောက်ပဲ အဖတ်တင်တယ်။ ကိုးနှစ်သားမှာ ကိုယ် အလုပ် လုပ်နေရပြီ၊ မနက်လေးနာရီမှာ ထပြီး နွားတင်းကုပ်ထဲ ဝင်ရတယ်၊ ဆောင်းတွင်းဆို ဘယ်လောက်အေးလဲ သိလား၊ ညှစ်ထားတဲ့ နွားနို့တောင် ခဲတယ်၊ နှင်းဝဲတွေ စွဲတယ်”

“နှင်းဝဲဆိုတာ ဘာလဲဟင်”

“အေးလွန်းလို့ ပေါက်တဲ့ ယားနာတွေပေါ့၊ တောင်ပိုင်းကို ထွက်ပြေးလာတဲ့ အကြောင်း ထဲမှာ မြောက်ပိုင်း ဆောင်းဒဏ်ကို မခံနိုင်တာလည်း ပါတယ်၊ ကိုယ် အဲဒီအကြောင်းတွေ မပြောတာ ကြာပြီ၊ ဘာလို့ လျှောက်ပြောနေမိပါလိမ့်”

“ဆက်ပြောပါ၊ ကျွန်မ နားထောင်ချင်တယ်”

သူ မတ်တတ်ထရပ်သည်။ လက်သီးကို ဆုပ်ပြီး ကုတ်အင်္ကျီအိတ်ထဲ ထည့်သည်။ ပြီးတော့ ပြတင်းပေါက်ဆီ လျှောက်သွားသည်။ အပြင်သို့ ငေးရင်း စကားဆက်၏။

“ပထမဆုံး တောင်ပိုင်းရောက်စမှာ ဗာဂျီးနီးယား စိုက်ကွင်းတခုမှာ ဝင်အလုပ်လုပ် တယ်၊ ခြံပိုင်ရှင်က ခြံကို လှည့်မကြည့်ဘူး၊ နယူးယောက်

သွားလည်လိုက်၊ ဥရောပသွား လိုက်နဲ့။ အသုံးအဖြုန်း ကြီးလွန်းတော့ ကြွေးပတ်လည် ဝိုင်းလာတယ်၊ မြေဩဇာဝယ်ဖို့တောင် ပိုက်ဆံ မရှိတော့ဘူး၊ ခြံကြီးဟာ သဲကန္တာရဖြစ်လုနီးပါး ပျက်စီးသွားတယ်။

အဲဒီမှာ ကိုယ်နဲ့ နောက်တယောက်နဲ့စပ်ပြီး ဈေးပေါပေါရတဲ့ မြေကွက်ကလေး တကွက် ဝယ်လိုက်တယ်၊ အဲဒီမှာ နီဂရိုးတွေ မွေးပြီး ဈေးတင် ရောင်းတယ်၊ ပေါက်စကလေး တွေကစ ဈေးရတယ်၊ အဲဒီမှာ ကိုယ်တို့ တော်တော်လေး အလုပ် ဖြစ်တာပေါ့။ ငါးဆယ့်သုံးခုနှစ် စီးပွားပျက်ကပ် ဆိုက်လာတော့ ကိုယ်တို့ အလုပ်တွေလည်း ခွင်ပျက်ကုန်တယ်။ စုမိထားတာ လေးလည်း ကုန်ရော၊ အဲဒီမှာ ဝါစိုက်ပျိုးခင်းမှာ ပြန်ပြီး အလုပ်ကြပ်လုပ်ဖို့ ဂျော်ဂျီယာကို ကိုယ် ရောက်သွားတယ်။ ငါးဆယ့်ကိုးခုနှစ် နွေရာသီမှာ သစ်ဖြူတောက မိုလ်မှုးကြီးရှာရမီ အလုပ်ကြပ် လိုတယ် ကြားတာနဲ့ ကိုယ် ဒီရောက်လာတာ”

“မိုလ်မှုးကြီးရှာရမီဆီမှာ လုပ်သေးတယ် ဟုတ်လား”

ဂီးလ်ဒေး နာနာကြည်းကြည်း ပြုံးလိုက်သည်။

“သိပ်မကြာလိုက်ပါဘူး၊ သူ့မှာ သမီးတယောက်ရှိတယ်၊ ကိုယ့်ကို သူ သဘော မကျဘူး တဲ့လေ”

“မစ္စအန်းရှာရမီကို ပြောတာလား၊ မစ္စတာဒင်းနစ်လန်းနဲ့ လက်ထပ်သွားတယ်လေ”

“အစစ်ပေါ့ဗျာ၊ သူပေါ့။ တနေ့ လမ်းမှာ တွေ့လို့ နှုတ်ဆက်တာကို မမက ရွှေဘောတော် ကျဟန် မတူဘူး၊ မလေးမစား လုပ်တယ် ဆိုပြီး သူ့အစ်ကိုနဲ့ အဖေကို တိုင်တယ်တဲ့လေ၊ အဲဒါ နဲ့ ပြုတ်ရော ဆိုပါတော့”

“ဆက်ပြောပါဦး၊ သူ လက်ထပ်တာ ကျွန်မ မှတ်မိနေတယ်”“

“ကိုယ်လည်း သိပ်မှတ်မိတာပေါ့ကွာ၊ သူတို့ မင်္ဂလာခရီးထွက်တဲ့ သင်္ဘောနဲ့ ကိုယ် ပါသွားတာပဲ၊ ဆိပ်ကမ်းမှာတောင် စကားပြောလိုက်ရသေးတယ်။ ဒါပေမဲ့ ကိုယ်က ကုန်းပတ် ပေါ်က လိုက်ရတဲ့ ခရီးသည်လေ၊ သူတို့က ပထမတန်း သီးသန့်ခန်းနဲ့ပေါ့၊ ချမ်းသာတဲ့ လူတွေ သူ့ကုသိုလ်နဲ့သူ ဖြစ်လာတာ ဆိုပြီး ကိုယ် တခါမှ မနာလို မဖြစ်ခဲ့ဘူး၊ ဒါပေမဲ့ အဲဒီသင်္ဘော ပေါ်မှာ ဆုတောင်းခဲ့တယ်၊ တနေ့နေ့မှာ အဲဒီလိုလူတွေကို လက်စားချေနိုင်တဲ့ကိုယ် ဖြစ်ရပါ လို၏လို့။ ဒီမယ် ကိုရီမေ၊ ဒီနေ့ ဒီအခွင့်အရေး ကိုယ့်မှာ အပြည့်အဝ ရှိနေပြီ”

ကိုရီမေ ခပ်ဖြည်းဖြည်း ရပ်သည်။

“ရှင့်ဆုံးဖြတ်ချက်တွေ သိပ်မှန်တာပဲ၊ ကျွန်မလည်း အဲဒီ ဆုံးဖြတ်ချက်မျိုး ချခဲ့ဖူးတယ်၊ အဲဒီ မိန်းမဆီမှာ ကျွန်မ အလုပ်လုပ်ခဲ့ဖူးတယ်လေ”

“ဟုတ်လား၊ တကယ်၊ ဒါဆို တို့ အဖော်ရပြီပေါ့။ ဒီမယ် ကိုရီမေ၊ သူတို့ ကိုယ့်ကို ဘယ်လိုပဲထင်ထင် ကိုယ့်စက်ကွင်းက သူတို့ ဘယ်လိုမှ မလွတ်နိုင်ဘူး။ ကိုယ်တို့ အလှည့် ရောက်ပြီကွ”

ကိုရီမေ တိုးတိုးလေး ပြန်ပြောသည်။

“ဟုတ်တယ်၊ ကျွန်မတို့ အလှည့် ရောက်ပြီ”

ကိုရီမေက သူ ရပ်နေသည့် ပြတင်းပေါက်နားသို့ လျှောက်သွားသည်။ ဂီးလ်ဒေးက လှည့်လာပြီး သူ့ကို သိုင်းဖက်သည်။ ကိုရီမေ သူ့ကို မော်ကြည့်သည်။ မျက်နှာက လေးထောင့် စပ်စပ်။ လိုချင်တာ သိပြီး ရအောင် ယူတတ်သည့် ပုံစံမျိုး။

ပြောချင်တာတွေ များပြီး ဘာပြောရမှန်း မသိသည့် အဖြစ်မျိုးနှင့် ကိုရီမေ ပထမဆုံး ကြုံရသည်။ သူသည် သေလျှင် ငရဲကျမည့် အောက်တန်းကျကျလူမျိုး ဖြစ်၏။ သို့သော် မိမိလိုချင်သမျှတွေ သူ့ဆီမှာ ရှိနေသလို ထင်ရ၏။ သူ တင်းတင်း ဖက်လာချိန်တွင် လုံးဝ မငြင်းဆန် တော့ပေ။ ကြောက်ရွံ့ခြင်း၊ အံ့သြခြင်း၊ ပျော်ရွှင်ခြင်းတို့ တပြိုင်တည်း ရောထွေးခံစားရသည့် ထိုတဒင်္ဂ။

ကိုရီမေ အလန့်တကြား မေးသည်။

“နေဦး၊ နေဦး. . . မစ္စတာဂီးလ်ဒေး၊ ရှင့်ပထမနာမည်က ဘာလဲဟင်”

ဂီးလ်ဒေး ပြုံးပြီး ဖြေသည်။

“ဆမ်ပါတဲ့ ဗျာ”

“ရှင်ဟာ တကယ့်ကို ရင်ခုန်ချင်စရာ ကောင်းတဲ့ လူပဲ”

ဂီးလ်ဒေးက ရယ်ပြန်သည်။

“မင်းနဲ့ ကိုယ် နှစ်ယောက်ပေါင်းရင် ပျော်စရာ ကောင်းမှာပါ ကိုရီမေ”

“ရှင်ပြောတာ ဟုတ်တယ်၊ ပျော်မှာပါ”

※※※

# အခန်း(၁၀)

ဂီးလ်ဒေးက သူ့အတွက် အိမ်တလုံး ပေးမည် ဆိုတော့ ကိုရီမေ တကိုယ်လုံး စိမ့်သွားအောင် ဝမ်းသာသွား၏။ အိမ်ကို ကြည့်ဦးလေ၊ လေသာဆောင်တွေ ပါသည့် ဂျူဟာန် မိသားစုပိုင် အိမ်ကြီး။ စစ်ရေးပြပွဲတုန်းက သူတို့သူငယ်ချင်းတသိုက် အရိပ်ခိုပြီး ကြည့်ခဲ့ရသည့်အိမ်ကြီး။ သင်္ဘောတည်ဆောက်ရေး လုပ်ငန်းကြီး၏ အရှင်သခင် ဂျူဟာန်မိသားစုသည် အခွန်တွေ မပေးနိုင်သဖြင့် အိမ်ကြီးကို စွန့်ခွာသွားခဲ့ရလေသည်။

သည်အိမ်ကြီးတွင် နေရမည် ဆိုတော့ ကိုရီမေ ကတုန်ကယင် ဖြစ်နေသည်။ ဆိပ်ကမ်း ရပ်ကွက်မှ ကိုရီမေ ဆိုသည့် ကောင်မကလေးက နန်းတော်ကြီးတမျှ ကြီးမားသည့် ဒယ်လ်ရှိုင်း မျက်နှာဖုံးရပ်ကွက်မှ အိမ်ကြီးတွင် နေရတော့မည်။

သို့သော် အိမ်ကြီးထဲ ဝင်ကြည့်တော့ ကိုရီမေ စိတ်ပျက်သွားသည်။ အပြင်က ကြည့်လို့ လှသလောက် အတွင်းပိုင်းက ဆေးရောင်တွေ ပြယ်နေပြီ။ အတွင်းပိုင်းကို နည်းနည်း ပြုပြင်ချင် သည် ပြောတော့ ဂီးလ်ဒေးက သဘောတူသည်။

ကိုရီမေက ဒီဇိုင်းလှလှ နံရံကပ်စက္ကူတွေ ကပ်သည်။ ခန်းဆီးတွေကို ကတ္တီပါစများ ဖြင့် အလှဆင်သည်။ မီးလင်းဖိုပေါ်တွင် ငွေနားကွပ် ကြည့်မှန်ကြီး ချိတ်သည်။ အနီရောင် ဆိုဖာများကို ခန်းမရှေ့ဘက် ပြတင်းပေါက်များ အောက်တွင် စီချသည်။

ထမင်းစားခန်းထဲတွင် သစ်သီးပန်းချီကားတွေ၊ ငါးပုံတွေ ချိတ်သည်။ ဖန်ခွက်စင်တွင် ပန်းရောင် ဖန်ခွက်တွေ ဖြည့်ထားသည်။ မြင်းရုပ်တွေ ပါသည့် ပန်းကန်ခွက်ယောက်တွေ ဝယ်ဖြည့်သည်။

သူလုပ်သမျှ ဂီးလ်ဒေးက ကျေနပ်ခြင်း တဝက်၊ ပျော်ရွှင်ခြင်းတဝက်ဖြင့် အားလုံး သဘောတူသည်။ ငွေကို ကြိုက်သလို သုံးနေရသည့်အတွက် ကျေနပ်နေသည့် ကိုရီမေအား ကြည့်ပြီး ဂီးလ်ဒေး သဘောကျနေ၏။

“အရမ်း ပျော်စရာ ကောင်းတာပဲ” ဟု ကိုရီမေက လုပ်ချင်တာ လုပ်နေရသဖြင့် ကျေနပ် နေလျှင် ဂီးလ်ဒေးက “ဆက်လုပ်၊ ဆက်လုပ်” ဟု ပြောတတ်၏။

"မင်းကို ကိုယ်ပြောသားပဲ၊ ဒါ တို့အလှည့်ပါ ဆို"

ဟုတ်သည်။ သည်တကွေ့ကတော့ ကိုရီမေ၏ အလှည့် ဖြစ်သည်။

အိမ်ကြီးတအိမ်လုံး ကော်ဇောအသစ်တွေ ခင်းရင်း ကိုရီမေ ပျော်နေ၏။ ဖယောင်းတိုင် တွေကို ခွက်ရှိသမျှထဲတွင် ထည့်ထွန်းသည်။

အိမ်ကြီးကတော့ ခမ်းနားနေပြီ။ သို့သော် အဝတ်အစားဝယ်ဖို့ ကိစ္စတွင် မဆိုသလောက် အထစ်အငေါ့ကလေးတွေ ရှိနေ၏။ ဆိုင်ထဲ ဝင်သွားလျှင် ကိုရီမေသည် အကျင့်ပါနေသဖြင့် အရောင်းစာရေးများကို မရွံ့မရဲလေသံနှင့် လိုချင်သည့် ပစ္စည်းများကို တောင်းတောင်းပန်ပန် ပြခိုင်းသည်။ အရောင်းစာရေးများ၊ ဆိုင်ထိုင်များကို ခယဝပ်တွားနေမိ၏။

နောက်မှ သတိရသည်။ ဒါ အထက်တန်းလွှာ ပုံစံမှ မဟုတ်တာ။ ကိုရီမေ သူ့ကိုယ်သူ ပြုပြင်သည်။ ဟိုဟာပေးစမ်း၊ ဒီဟာပေးစမ်း ဟူသည့် စကားလုံးနောက်တွင် "ပါကွယ်" တခုသာ ထည့်တော့၏။

သည်တော့မှ သူတို့တတွေ ပိုပြီး အပိုးကျိုးလာကြသည်။ အဝတ်အထည်ချုပ်သည့် နေရာတွင်လည်း အမျိုးသမီးတွေ တန်းစီနေလျှင် ကိုရီမေကို ဦးစားပေးကြရ၏။ လက်ငင်းပေး နိုင်သူက ရှားသည် မဟုတ်လား။ တသက်လုံး မော်ကြည့်ခဲ့ရသည့် လူချမ်းသာတွေက အခွန်ပိနေသဖြင့် မွဲကုန်ကြပြီ မဟုတ်လား။

ရှင်ပြုစဉ်က ရွှေထီးဆောင်းခဲ့ကြသည့် မမများကတော့ အခွန်တွေ စွတ်ကောက်နေသည့် ကော်ဇောအိတ်သမားများကို မေတ္တာပို့ကြသည်။

ကိုရီမေကတော့ စိတ်ထဲက ကြုံးဝါးသည်။

"အလှည့်ကျရင် မနွဲ့ကြစတမ်းပေါ့နော်၊ ကိုယ်တို့ လမ်းခရီးကတော့ ဖြောင့်ဖြူးနေပြီကွဲ့"

ကိုရီမေတွင် အစေခံတွေလည်း ရှိလာပြီ ဖြစ်၏။ ကြေးပိုင် ကျွန်ပိုင်များကို ပုန်ကန်ပြီး ထွက်လာကြသည့် နီဂရိုးတွေမှာ ခဲလေသမျှ သဲရေကျ ဖြစ်နေကြ၏။

အစိုးရက သူတို့ကို ထမင်း မကျွေးမှန်း သိသွားကြပြီး ကွင်းထဲမှ နီဂရိုးများသာမက အိမ်တော်ကြီးများမှ အိမ်စေများလည်း အပြင်ထွက် အလုပ် လုပ်နေကြရပြီ။ သူတို့ အရှင်သခင်တွေ သူတို့ကို လုပ်ခ မပေးနိုင်ကြတော့။ ကိုရီမေက ပေးနိုင်သည်လေ။

သို့သော် အစေခံနှင့် မနေခဲ့ရဖူးသည့် ကိုရီမေတွင် အခက်အခဲတော့ ရှိသည်။ မည်သို့ ခိုင်းရမှန်း မသိ၊ မည်ပုံ ကိုင်တွယ် ရမှန်းမသိ။ သို့သော် အပတ်စဉ် ငွေရှင်းချိန်တွင်တော့ ကိုရီမေ ပြောတတ်သည်။

"ခေတ်ကြီး ပြောင်းသွားပြီ၊ နင်တို့ ကျွန်ဘဝတုန်းက နင်တို့ ကျွန်ပိုင်တွေက ထမင်း ကျွေးတယ်၊ ခု နင်တို့ အလုပ်လုပ်မှ ထမင်းစားရမယ်၊ နင်တို့ ကျွန်တွေ မဟုတ်ကြတော့ဘူး။

နင်တို့ လုပ်ခစားတွေ၊ အချိန်မရွေး ငါ ဖြုတ်ပစ်နိုင်တယ်၊ ငါ စိတ်တိုင်း မကျရင်ပေါ့လေ၊ ဒါကြောင့် နင်တို့ အလုပ်ကို ကြိုးစားကြ"

သူတို့ ပြောင်းလဲလာကြသည်။ မလေးမခန့် မလုပ်ရဲကြတော့။ စင်စစ် အိမ်ကြီးရခိုင် များမှ အိမ်စေဟောင်းများသည် သူတို့ အရှင်သခင်ဟောင်းများလို အပြောင်းအလဲကို ဖြုန်းခနဲ ရင်မဆိုင်နိုင်ကြခြင်းသာ ဖြစ်သည်။

ကိုရီမေသည် အိမ်ကြီးရခိုင်နှင့်၊ ခြွေရံသင်းပင်းနှင့်၊ ဝတ်ကောင်းစားလှများနှင့် စိတ်ချမ်းသာ ပြီး ပိုလှနေ၏။

အိမ်သာထဲက မှန်ကြီးတွင် သေသေချာချာ ကြည့်မိသဖြင့် သိရခြင်း ဖြစ်၏။ နေလောင် ထားသည့် အသားအရေမျိုး မဟုတ်တော့။ အသားလှဆီ လိမ်းထားတော့ မျက်နှာကလေးမှာ နုညက်စိုပြည်နေ၏။ အလုပ်ကြမ်း မလုပ်ရတော့သဖြင့် လက်တွေလည်း နုနယ်လာ၏။ လက်သည်း ကိုလည်း ကိုရီမေ ခုမှ ဆိုးဖူးခြင်း ဖြစ်သည်။ စင်စစ် ကိုရီမေသည် မှန်ကြီးထဲတွင် ခုမှ ကိုယ့်ရုပ် ကို ကိုယ် သေသေချာချာ ကြည့်ဖူးခြင်း ဖြစ်၏။ မျက်ဝန်းက နက်မှောင်ပြီး မျက်တောင်တွေက ကော့ရွှန်းနေ၏။

ခေါင်းကိုလည်း ခုမှ အေးအေးဆေးဆေး လျှော်ဖူးပြီး သေသေချာချာ ဖြီးသင်ဖူးခြင်း ဖြစ်၏။ ကိုရီမေ၏ ဆံပင်ရောင်မှာ ရွှေရောင်ခပ်ဖျော့ဖျော့ ဖြစ်သည်။

ညှော့ခံပွဲကို ရောက်လာကြသည့် ဂီးလ်ဒေး၏ မိတ်ဆွေတွေက "ရွှေရောင်ဆံပင်တွေက လှလိုက်တာကွယ်"ဟု ချီးကျူးထောမနာ ပြုတတ်ကြသည်။

ကိုရီမေသည် အခြားအမျိုးသမီးများလို အခုအခံတွေ မလုပ်။ အခုအခံတွေ မပါဘဲ ကိုယ်လုံးကိုယ်ပေါက် လှနေပြီးသား။ ဂီးလ်ဒေးကလည်း အခုအခံနှင့် မိန်းမတွေကို ခံစားလို့ မရကြောင်း ပြောဖူး၏။

"မင်း အလုပ်ကြမ်း ခဏလုပ်ဖူးတာ သိပ်ကောင်းသွားတယ်၊ ဒါကြောင့် မင်း ကိုယ်လုံး ကိုယ်ပေါက် လှနေတာ" ဟုလည်း ချီးကျူး၏။

ကိုရီမေ ခပ်ဖွဖွရယ်သည်။ ယောကျ်ားတွေ သူ့ကို ကြည့်ပြီး သဘောကျခြင်းထက် သူ့ကိုယ် သူ ရှာဖွေတွေ့ရှိခြင်းတွင် ကိုရီမေ ပိုသဘောကျ၏။ သည်အကြောင်းကိုတော့ သူတို့ အား ပြောပြ၍ မဖြစ်။

ပြီးတော့ ယောကျ်ား၊ မိန်းမ ဘယ်သူ့မျှ ပြောပြ၍ မရသည့် အချက်တချက် ရှိသေး သည်။ ကိုယ်လုံးပေါ်မှန်ရှေ့ ရပ်ကြည့်မိမှ သိရခြင်း ဖြစ်၏။ အန်းရှာရမီထက် မိမိ အပုံကြီး ပိုလှနေသည့် အချက် ဖြစ်၏။

သူတို့တွင် မိတ်ဆွေအပေါင်းအသင်းတွေက များပြားလှသည်။ ညတိုင်းလိုလို ဧည့်သည် တွေ အိမ်နှင့်အပြည့်။ အားလုံးလိုလိုမှာ နေ့ချင်းညချင်း ချမ်းသာလာသည့် ခေတ်ပျက်သူဌေးများဖြစ်၏။ အခွန်ကောက်ခံရေးသမားတွေ၊ နီဂရိုးများ ပြန်လည်နေရာချထားရေး အဖွဲ့ဝင်တွေ၊ အစိုးရအမှုထမ်း မဟုတ်သည့် မြောက်ပိုင်းသား ဧည့်သည်တွေ။ သူတို့က တောင်ပိုင်းမှ ရွေးကောက် ပွဲဝင်ဖို့ အကွက်လာချောင်းနေသူများ ဖြစ်၏။

အချို့က အတွဲများ ပါလာကြ၏။ သူတို့အတွဲ ကောင်မကလေးများကလည်း ကိုရီမေလို နေ့ချင်း ညချင်း ထိပ်တန်း ရောက်လာသူများ ဖြစ်၏။

မစ္စတာဒေါ်ဆင်က သူ့ဇနီး အသစ်စက်စက်ကလေးကို ခေါ်လာ၏။ ကောင်မကလေး နာမည်က "လော်ရာ"။ ဘယ်မှာ တွေ့ပြီး ဘယ်လို ညားလာမှန်း ဘယ်သူမျှ မသိ။ လော်ရာက အထက်တန်းကျကျ စကားပြော၏။ သူကို မစ္စက်ဒေါ်ဆင်ဟု ခေါ်လျှင် သဘောကျ၏။ ကိုရီမေ က သူ့ကို ရယ်ချင်ပက်ကျိစိတ်ဖြင့် ဆက်ဆံနေရသည်။

ဂီးလ်ဒေးက ဒေါ်ဆင်ထက် အရေးပါသည်။ ဒေါ်ဆင်က ဂီးလ်ဒေးလောက် ဖျံမကျ သည်မှာ သေချာနေ၏။ ထို့ကြောင့် ဂီးလ်ဒေးက သူ့ထက် နှစ်ဆ ချမ်းသာသည်။ နှစ်ဆ သုံးနိုင် ဖြုန်းနိုင်သည်။ ပြီးတော့ ဒေါ်ဆင်က အရက်ကို မူးအောင် သောက်တတ်သည်။ အပေါင်းအသင်း တွေက ဒေါ်ဆင်ထက် ဂီးလ်ဒေးကို ပိုပြီး လေးစားကြ၏။ ကိုရီမေကို လော်ရာထက် ပို သဘောကျကြ၏။

ဂီးလ်ဒေးက ဩဂုတ်လထဲတွင် ရောမ ညစာစားပွဲကြီး လုပ်ချင်သည် ပြောတော့ ကိုရီမေက ဝမ်းသာအားရ ပြင်ဆင်သည်။ အရက်နှင့် စားစရာတွေ စုသည်။ ပြီးတော့ သူကိုယ်တိုင် အတွက်လည်း ဝတ်စုံကောင်းကောင်းတစုံ ချုပ်သည်။

၁၈၆၇ ခုနှစ်သည် စစ်ဒဏ်ကြောင့် ဆင်းရဲမွဲတေ ရှားပါးမှုမှ ကင်းလွတ်သည့်နှစ် ဖြစ် သည်။ အဝတ်အစားတွေ ပြန်ပေါလာပြီ။ ခြောက်နှစ်လုံးလုံး

ပစ္စည်းပြုတ်သဖြင့် ဖိနပ်ကို ဖနောင့်နှင့် မြေကြီး ထိသည်အထိ ပါးအောင် စီးခဲ့ရသည့် အမျိုးသမီးများက အတိုးချပြီး လေးလက်မမြင့် သည့် ဒေါက်မြင့်ဖိနပ်များ စီးနေကြ၏။ အမျိုးသမီးများ ဝတ်သည့် လက်ကောက်တွေက ထောင်သားများ၏ လက်ထိတ်များနှင့်အပြိုင် ဖြစ်လာ၏။ စစ်ကြီး ပြီးသွားသဖြင့် ပဒေသာပင် ပေါက်သလို ပျော်ပါး သုံးဖြုန်းနေကြ၏။ သန်းပေါင်းများစွာသော အလောင်းများ မြှုပ်ထားသည့် မြေပုံများပေါ်တွင် သူတို့ ကခုန်နေကြမှန်း သူတို့ မသိကြ။

ရင်ဘတ်တွင် ဒေါင်းတောင်တွေ စိုက်ကြ၏။ စကတ်ကို အထပ်ထပ်တွန့်ပြီး ချုပ်ကြ၏။ ထီးတွင် ဒေါင်းတောင်တွေ ထိုးကြ၏။ ဦးထုပ်တွင်လည်း စိုက်ကြ၏။ ဒေါင်းတောင်များသည် ဦးခေါင်းတွင်ရော ဖိနပ်တွင်ပါ အသုံးဝင်နေ၏။ ရင်ထိုးများတွင်ပင် ဒေါင်းတောင်ပါမှ။ အိပ်ရာ ခင်းများ၊ ခန်းဆီးများတွင်လည်း ဒေါင်းမြီး ဒီဇိုင်းများ ခေတ်စားနေ၏။

ဒေါင်းတောင်၊ ဒေါင်းမြီး တာစားသည့် နွေတွင် ရေခဲကိုပင် ဒေါင်းရုပ်ပုံ ဖော်ကြ၏။ မြောက်ပိုင်းမှ လှေကြီးများနှင့် သယ်လာသည့် ရေခဲများကို ထုခွဲခြေမွကာ အရောင်ဆိုး၍ ပြန်လည် ခဲစေပြီး ဒေါင်းပုံများ ဖော်လျက် ညှော်ခံပွဲများတွင် တည်ခင်း၏။

သည်ဖက်ရှင်ကို ကိုရီမေ သဘောကျသည်။ ထို့ကြောင့် ညှော်ခံပွဲမတိုင်မီ လေးရက်အလို တွင် ရေခဲဒိုင်ကို သွားပြီး မှာသည်။ ဒေါင်းရုပ်ပုံတွေ လုပ်ပေးနိုင်မလား မေးတော့ ရေခဲဒိုင်က တန်ရာတန်ကြေး ပေးလျှင် လုပ်ပေးနိုင်ကြောင်း ပြော၏။

"ငွေရေးကြေးရေး ထည့်မပြောပါနဲ့၊ ညှော်သည် ငါးဆယ့်လေးယောက် ဖိတ် ထားတယ်၊ နှစ်ယောက်ကို တကောင် လုပ်ပေးပါ၊ ဒါ့အပြင် ယမကာ အတွက်လည်း လိုဦးမယ်"

ရေခဲဒိုင် မျက်လုံးပြူးသွားသည်။ သုံးရမည့် ပေါင်ချိန်က မနည်းမနောပါလား။ ဒေါင်းရုပ် တွေ မပျော်အောင် ပုံးထဲ ထည့်သွားဖို့လည်း ရေခဲတွေ အများကြီး လိုဦးမည်။ တပုံးလျှင် ဒေါင်းရုပ် ရှစ်ရုပ်သာ ဆံ့မည်။

ကိုရီမေက ပိုက်ဆံအိတ်ကို ဖွင့်ပြီး ငွေစက္ကူတထပ် ထုတ်လိုက်သည်။ ရေခဲဒိုင်၏ မျက်လုံးများ ဒေါ်လာစက္ကူများဆီ ရောက်သွား၏။

"အင်း . . . အချိန်က ကပ်နေပြီနော်၊ ရေခဲလှေတွေက သိပ်များများ မဆိုက်ဘူး ခင်ဗျ"

"ရှင် ဖြစ်အောင် မလုပ်နိုင်ဘူးလား"

"ဟုတ်ကဲ့၊ ကျွန်တော် ဖြစ်အောင် လုပ်ပေးပါ့မယ်၊ လာမယ့် အင်္ဂါနေ့အထိ ဘယ်သူ့မှ မရောင်းဘဲ ကျွန်တော် လှောင်ရမှာ၊ ပေါင်တရာလောက် အပိုဆောင်းထားမှ ဖြစ်လိမ့်မယ်"

"လုပ်လေ၊ အဲဒါ ရှင့်ကိစ္စပဲ"

"ဟုတ်ကဲ့ ခင်ဗျ၊ ကြိုမှာရင် ကြိုတင်ငွေ ပေးရတဲ့ အကြောင်းတော့ ကျွန်တော် ကြိုပြောပါရစေ"

"ဩော်.... ရတယ်လေ၊ ရော့- ရှင်ပဲ ရေယူပါ၊ ကျွန်မက လက်အိတ်စွပ်ထားလို့၊ လိုသလောက် ယူလိုက်"

"ဟုတ်ကဲ့ မဒမ်၊ ရပါတယ် မဒမ်၊ တခြား ကျွန်တော် ဘာလုပ်ပေးရဦးမလဲ မဒမ်၊ ခုအချိန်မှာ လက်ငင်း ဝယ်တဲ့ ဈေးဝယ်သူ သိပ်နည်းပါတယ်၊ ကျွန်တော် အများကြီး လေးစား ပါတယ် မဒမ်"

မဒမ်ချင်း မိုးမွှန်နေသာ ရေခဲဒိုင်ကို ကိုရီမေ စိတ်ပျက်လက်ပျက် ကြည့်နေသည်။ သူ့လက်ချောင်းတွေက ငွေစက္ကူကို လောဘတကြီး ရေတွက်နေသဖြင့် အမှားမှား အယွင်း ယွင်း ဖြစ်နေ၏။ ဝက်သစ်ချမြိုင်တွင် မိမိလုပ်ခရသည့် နေ့တွေကို ပြေးသတိရမိ၏။

"ရှင် တပ်ထဲ ဝင်ဖူးသလား"

ကိုရီမေ စပ်စုလိုက်သည်။

"ဟုတ်ကဲ့ မဒမ်၊ ဒါပေမဲ့ ကျွန်တော့်မှာ တောင်ပိုင်းစိတ်ဓာတ် သိပ်မရှိတော့ပါဘူး၊ ကျွန်တော့်ကိုယ် ကျွန်တော် ပြုပြင်ပြောင်းလဲ ပစ်လိုက်ပါပြီ၊ တပ်ထဲ ဝင်ရတာလည်း စစ်မှု မထမ်းမနေရ ဥပဒေကြောင့်ပါ၊ တကယ်က ကျွန်တော်ဟာ ပြည်ထောင်စုကို..."

ကိုရီမေ ရယ်သည်။

"ဆက်ပြောပါလေ၊ ရှင်တို့ဟာ မြောက်ပိုင်းပိုက်ဆံ မြင်ရင် တခါတည်း တောင်ပိုင်း စစ်တပ်ကို ပုန်ကန်တော့တာပဲ၊ အားလုံး ဥပဒေကြောင့် လူတိုင်း တပ်ထဲ ဝင်ကြရသလိုပဲ၊ ကိုယ့်သဘောနဲ့ကိုယ် ဝင်တဲ့လူ မရှိတော့ဘူးလား"

"ရှိပါတယ် မဒမ်၊ ရှိပါတယ်"

သူက မျက်နှာပျက်ပျက်နှင့် ပြောသည်။ ရေတွက်ပြီးတော့ ပိုသည့် ပိုက်ဆံတွေကို ပြန်ပေးရင်း-

"မဒမ်က မြောက်ပိုင်းက လာခဲ့တယ် မှတ်တယ်"

ကိုရီမေ ရယ်ချင်ပက်ကျိ ဖြစ်သွားသည်။ ပိုက်ဆံအထပ်ကို လက်ပွေ့အိတ်ထဲ ပြန်ထည့်ပြီး ကိုယ့်ကိုယ်ကိုယ် ပြန်ကြည့်လိုက်၏။ အင်္ကျီက အဖြူရောင်ချည်ထည်၊ စကတ်အတွင်းခံက ပန်းနုရောင်ပိုးထည်၊ အပေါ်စကတ်က လျှိုင်းတွန့်၊ လက်အိတ်ကို ဒေါင်းမြီးပုံဖော်ပြီး ဇာထပ် ထိုးထားသေး၏။ အရောင်က ခရမ်းနှင့် ရွှေရောင်၊ ခါးပတ်က ကတ္တီပါ၊ ဦးထုပ်တွင် နှင်းဆီပွင့် တွေနှင့်၊ မေးသိုင်းကြိုးကလည်း အပြာရောင်ကတ္တီပါ။

"ဟင့်အင်း မဟုတ်ပါဘူး၊ ကျွန်မ မြောက်ပိုင်းကို ရောက်တောင် မရောက်ဖူးဘူး၊ အဲဒီမှာ ဆောင်းတွင်းဆို နှင်းဝဲ စွဲလို့ ကျွန်မ မသွားချင်ပါဘူး၊ ကျွန်မ တောင်ပိုင်းသူ စစ်စစ်ပါ"

"ကျွန်တော့်ကို ခွင့်လွှတ်ပါ မဒမ်၊ ကျွန်တော်က မဒမ်ရဲ့ အဝတ်အစားကို ကြည့်ပြီး . . . ကျွန်တော့်ကို ခွင့်လွှတ်ပါနော်၊ ကျွန်တော် လက်လွတ်စပယ် ပြောမိတာပါ၊ ကျွန်တော်တို့ တောင်ပိုင်းမှာ ငွေကိုင်ပြီး သုံးနိုင်တဲ့ လူက မရှိသလောက် ဖြစ်နေလို့ပါ၊ မဒမ် ကြားမှာပါ ၊ အပေါင်ဆိုင်တွေမှာ ဖွန်းတောင် သွားပေါင်ကြတယ်၊ ခုတော့ အပေါင်ဆိုင်ကလည်း ပေးစရာ ပိုက်ဆံ မရှိတော့ဘူး"

ကိုရီမေ ထရပ်သည်။

"ကျွန်မ ကြားပါတယ်၊ ဒါပေမဲ့ ကိုရေခဲ၊ ကျွန်မသာ ရှင်ဆိုရင် ဘာမှ ပူမှာ မဟုတ်ဘူး၊ မကြာခင် ခေတ်ပြောင်း လာတော့မှာပဲ၊ ရှင် ရေခဲတွေ စုပြီး လှောင်ထားဖို့ မမေ့နဲ့နော်"

သူက မျက်နှာပြည့် ပြုံးပြီး-

"စိတ်ချပါ မဒမ်၊ ကျွန်တော် ကြိုတင်ငွေ လက်ခံပြီးရင် မေ့ရိုးထုံးစံ မရှိပါဘူး၊ ရသမျှ ကျွန်တော် စုထားပါ့မယ်"

ကိုရီမေ ရထားပေါ်တက်ပြီး တရားရုံးကို မောင်းခိုင်းသည်။ လုပ်စရာတွေက အပုံအပင်။ ငွေ ထပ်လိုပြန်ပြီ။ ချုပ်ထားသည့် ဝတ်စုံက သည်ညနေ ရမည်ဟု ချိန်းထားသည်။ တရားရုံး ရောက်တော့ ရထားပေါ်မှ ဆင်းလိုက်၏။

ဂီးလ်ဒေး ရုံးခန်းထဲတွင် ရှိနေ၏။ ညော့်သည် လေးငါးယောက်လည်း ရှိနေသည်။

"အလို.... ကိုရီမေပါလား၊ ဝတ်စားထားတာကလည်း ခရစ္စမတ်သစ်ပင်လို ဝေဝေ ဆာဆာ ရှိပါပေ့ဗျာ၊ ဘယ်သွား မလို့လဲ ဟင်"

ဒေါ်ဆင် ရယ်ကျဲကျဲနှင့် ပဋိသန္ဓာရပြုခြင်း ဖြစ်၏။

"ဘယ်မှ မဟုတ်ပါဘူး၊ ဒီကို လာတာလေ၊ မိတ်ဆွေတွေဆီ လာတာ မီးဖိုချောင် အဝတ်အစားနဲ့ လာလို့ ဘယ်သင့်တော်ပါ့မလဲရှင့်"

ကိုရီမေ ပြန်ပက်လိုက်၏။

ဂီးလ်ဒေးက ကိုရီမေကို ကုလားထိုင် လက်တန်းပေါ် ဆွဲပြီး ထိုင်ခိုင်းလိုက်သည်။

"ကဲ... ဆို၊ ကိုယ် ဘာလုပ်ပေးရမလဲ မိန်းကလေး"

"ပိုက်ဆံ ကုန်သွားပြန်ပြီ"

ဂီးလ်ဒေးက ဂုဏ်ယူသည့် လေသံဖြင့်-

"ဘုရားရေ.... ငါ့အမျိုးသမီးကတော့ မြင်းနှစ်ကောင် ကတဲ့ ရထားတစီးထက် တန်ဖိုးကြီးနေပါလား ဟေ့"

"မင်း ငွေလိုရင် ကေသုံးလုံး အဖွဲ့ဝင်တယောက်ရဲ့ခေါင်း ဖြတ်ပေါ့ကွာ၊ ဆုငွေတွေ အများကြီး ရမှာ" ဟု ဒေါ်ဆင်က ဝင်နောက်သည်။

သူတို့ ဝိုင်းရယ်ကြပြန်သည်။ ကိုရီမေက ပခုံးတွန့်ပြီး-

"ကျွန်မ အမြဲတမ်းပြောပါတယ်၊ နီဂရိုးတွေက ဒီဝတ်ရုံဖြူနဲ့ လူတွေကို သေမလောက် ကြောက်နေရင် သေပစေပေါ့၊ အဲဒါ သူတို့ ကိစ္စပါ၊ ဘယ်သူမှ သနားမှာ မဟုတ်ပါဘူး။ ကဲ... ဂီးလ်ဒေး၊ ဒေါ်လာခြောက်ဆယ် ပေးပါ၊ မပေးရင် ပါတီပွဲနေ့မှာ ကျွန်မ ဝတ်စရာ မရှိဘူး၊ ကျွန်မ ဝတ်စုံ မရွေးနိုင်ရင် ပွဲဖြစ်မှာ မဟုတ်ဘူး၊ ဒါပဲ"

ဂီးလ်ဒေးက သူ့လူတွေကို ပြောသည်။

"ကိုရီမေကို မြင်တိုင်း အဝတ်အစား အသစ်ကျပ်ချွတ်နဲ့ချည်းပဲ၊ ဒါတောင်

ဟိုနေ့ကျရင် ဝတ်စရာ မရှိဘူးတဲ့၊ အင်း. . . ဝတ်စရာ မရှိလို့တော့ မဖြစ်ဘူးဟေ့”

အားလုံး ဝိုင်းရယ်ကြပြန်သည်။ ကိုရီမေ တွေးပြီး ကျေနပ်နေ၏။ သူတို့ ရယ်သံတွေက သိသာနေ၏။ သဘောကျ၍ ရယ်ခြင်း မဟုတ်၊ မနာလိုစိတ်ကို ဖုံးကွယ်ထားသည့် ရယ်သံတွေ။ ကော်ဖေ့အိတ်သမား လူကြီးလူကောင်းများသည် တောင်ပိုင်းသူများကို ငွေတံတားခင်းပြီး ရှာနေကြ၏။ မိကောင်းဖခင် သားသမီးများက သူတို့ကို ရှောင်ကြသည်။ သူတို့ အထဲတွင် ဂီးလ်ဒေးလို ကံကောင်းသူ တယောက်မျှ မရှိပေ။

“ကဲ . . .ဘယ်လိုလဲ၊ ကျွန်မ သိပ်အချိန်မရှိဘူး၊ လေးနာရီ ထိုးနေပြီ”

ဂီးလ်ဒေးက အံဆွဲကို လိုလိုချင်ချင် ဆွဲဖွင့်လိုက်သည်။ ပိုက်ဆံတွေ အံဆွဲနှင့် အပြည့်။ ကောက်ခံထားသည့် အခွန်ငွေတွေ။ စာရင်းလိမ်ပြခြင်းကြောင့် ကိုယ်တွက် အများကြီး ကျန်သည်။ ပိုက်ဆံတထပ် ယူပြီး ပေးလိုက်၏။

“တရာ့ဆယ်ဒေါ်လာ ထင်တယ်၊ မင်း အဲဒါလောက် လိုလို့လား ကိုရီမေ”

“သိပ်လိုတာပေါ့”

ကိုရီမေ ပိုက်ဆံကို အိတ်ထဲထည့်နေစဉ် တံခါးပွင့်လာသည်။ မျက်လွှာ ပင့်ကြည့်လိုက်၏။ အန်းရှာရမီ အခန်းထဲ ဝင်လာသည်။

အန်းရှာရမီ ခဏတွေ ရပ်နေသည်။ ဂီးလ်ဒေး၏ စားပွဲဆီကို မသွားမီ ချီတုံချတုံ ဖြစ်နေပုံ။ ကိုရီမေ သူ့ကို သေသေချာချာ ကြည့်လိုက်သည်။ မတွေ့ရသည်မှာ ငါးနှစ်နီးပါး ရှိပြီ။ သူ အများကြီး ပြောင်းလဲသွားပြီပဲ။ အတော်ကြီး ပိန်ကျသွားသည်။ မျက်နှာက ကျောက်ဆစ်ရုပ်လို ဖြစ်နေ၏။ အဝတ်အစားကို ရိုးရိုးကလေး ဝတ်လာ၏။ မီးခိုးရောင် လက်အိတ် စွပ်လာ၏။ ပိုက်ဆံအိတ်ကို ကိုင်ထားသည်။ ဆံပင်ကို ဦးထုပ်အောက်တွင် ရိုးရိုးထုံးလာ၏။ မလှချင်လို့တော့ မဟုတ်တန်ရာ၊ မတတ်နိုင်တော့ဘူး ထင်ပါရဲ့။

အန်းက သူ့ကိစ္စနှင့်သူ စိတ်ညစ်နေ၍ အခန်းထဲတွင် ဘယ်သူဘယ်ဝါတွေ ရှိနေသည်ကို သတိမထားမိ။ စားပွဲဆီကို လျှောက်သွားပြီး လိုရင်းကို ပြောသည်။

“ကျွန်မ ဝက်သစ်ချမြိုင်ရဲ့ နောက်ဆုံးလပတ် အခွန်ဆောင်မလို့”

ကိုရီမေကို သိုင်းဖက်ထားရာမှ လက်ကို ဖြုတ်လိုက်ပြီး ဂီးလ်ဒေးက စားပွဲပေါ် တံတောင် ဆစ်ဖြင့် ထောက်လိုက်သည်။ ပြီးမှ ခပ်ဖြည်းဖြည်း ပြုံးသည်။ သူပြုံးပုံက သရော်ပြုံး ဖြစ်၏။

“အင်း . . . မိတ်ဟောင်း ဆွေဟောင်းနဲ့ ပြန်တွေ့ရတာပါကလား၊ ကျွန်တော် အသက် ရှင်နေသမျှ ခင်ဗျားကို မမေ့ပါဘူး မစ္စအန်းရှာရမီ”

သည်တော့မှ အန်း မှတ်မိသွားသည်။ အေးစက်စက် လေသံဖြင့် ပြန်ပြောသည်။

“ကျွန်မနာမည် မစ္စက်လန်း”

“သြော်...ဟုတ်ပေသားပဲ၊ ကျွန်တော် မှားသွားတယ်၊ မိန်းကလေးတယောက် လက်ထပ်လိုက်ရင် နာမည်ပြောင်းသွားတယ် ဆိုတာ ကျွန်တော် မေ့လို့ဗျ၊ ခင်ဗျား ကျွန်တော့်ကို မှတ်မိပါတယ်နော်”

“ရှင် ဂီးလ်ဒေး မဟုတ်လား”

နှုတ်ခမ်းကို ခပ်စေ့စေ့ထားပြီး ပြောလိုက်ခြင်း ဖြစ်၏။ ပိုက်ဆံအိတ်ကို တင်းတင်းဆုပ် ထားသည့် သူ့လက်တွေကို ကိုရီမေ သတိထားလိုက်မိ၏။

“သိပ်ဟုတ်တာပေါ့ဗျာ၊ ခုနစ်နှစ်တောင် ရှိခဲ့ပြီနော်၊ ပြန်တွေ့ရတာ ဝမ်းသာသဗျာ” ဟု ပြောပြီး ဂီးလ်ဒေးက လက်ကမ်းပေးသည်။

အန်းရှာရမီ အသက်ရှူမြန်သွားသည်။ ကိုရီမေ အသံထွက် မရယ်မိအောင် မနည်းထိန်း လိုက်ရ၏။ ဒေါသအမျက် ခြောင်းခြောင်းထွက်နေသည့် ဝက်သစ်ချမြိုင်သခင်မနှင့် ကော်ဇော အိတ်သမားတယောက် လက်ဆွဲနှုတ်ဆက်ခန်းမှာ ကြည့်လို့ ကောင်းလှသည်။

အန်းရှာရမီသည် ဘာမျှ မတတ်နိုင်တော့သဖြင့် စိတ်ကို ထိန်းကာ လက်ကမ်းပေး လိုက်၏။ ပေါက်ပြဲနေသည့် လက်အိတ်ကို ကိုရီမေ လှမ်းမြင်လိုက်သည်။

“သိဟောင်း ကျွမ်းဟောင်းနဲ့ ပြန်တွေ့ရတာ မင်္ဂလာရှိပါ တယ်ဗျာ၊ ကျွန်တော် မိတ်ဆက် ပေးပါရစေ။ ရဲဘော်တို့၊ ဒါက မစ္စက်လန်းပါ၊ သူက မစ္စတာဒေါ်ဆင်၊ စွံသွားတဲ့ လူပျိုကြီးပေါ့။ သူက မစ္စတာကော့ခရဲလ်၊ သူက မစ္စတာရိဒ်၊ နောက်တယောက်က မစ္စတာဖရန်စစ်ဝဲ့သ်၊ သူက မစ္စတာဟက်ဂင်စ်”

“အားလုံး တွေ့ရတာ ဝမ်းသာပါတယ်”

အန်း ဝတ်ကျေဝတ်ကုံ ပြောသည်။ အသံက အေးစက်စက်။ သည်တော့မှ ကိုရီမေကို သူ လှမ်းမြင်သည်။

ကိုရီမေ စ နှုတ်ဆက်လိုက်၏။

"ဟဲလို"

ဂီးလ်ဒေးက ပိုင်စိုးပိုင်နင်း ကိုရီမေကို လှမ်းဖက်လိုက်ပြန်သည်။ ကိုရီမေက ပြုံးလျက်။ ကိုရီမေ့ အဝတ်များကို တချက်ငေ့ကြည့်ပြီး အန်း၏ မျက်လုံးတွေ မေးစင်းသွားသည်။

ဂီးလ်ဒေးကို ပြန်ကြည့်ပြီး-

"ကဲ .. ကျွန်မ ယူလာတဲ့ ပိုက်ဆံကို လက်ခံပါ"

"ဟုတ်ကဲ့၊ ဟုတ်ကဲ့"

ဂီးလ်ဒေးက မှတ်တမ်းစာအုပ် လှန်ရင်း-

"ထိုင်လေ၊ ဖြည်းဖြည်းပေါ့ဗျာ၊ ရင်းရင်းနှီးနှီးပေါ့"

"ကိစ္စ မရှိပါဘူး"

အန်းရှာရမီသည် ကျောက်ရုပ်တရုပ်လို အတောင့်သား ဆက်ရပ်နေ၏။ ကိုရီမေက သူ့ကို အကဲခတ်နေသည်။ စိတ်မကောင်း ဖြစ်သွား၏။ သို့သော် အတိတ်၏ အရိပ်များ ပြန်ပေါ်လာတော့ ဗိုလ်တလှည့် ငါးပျံတလှည့် ဟူသည့် စကားပုံကို ပြေးသတိရလိုက်သည်။ သူလာသည့် ကိစ္စမှာ အခွန်ဆပ်ဖို့ ဖြစ်၏။ သို့သော် သည်ထက်မက သူ ပေးဆပ်ရလိမ့်မည်။

ရှာသည့် စာမျက်နှာကို တွေ့သွားတော့ ဂီးလ်ဒေးက ခပ်ရွှင်ရွှင် လေသံဖြင့်-

"ဟောဒီမှာ တွေ့ပါပြီဗျား" ဟုပြောပြီး မြင်ကွင်းကို အရသာရှိရှိ အချိန်ဆွဲထားလို ဟန်ဖြင့် တလုံးချင်း ဆက်ဖတ်သည်။

"ဝက်သစ်ချမြိုင်၊ ပိုင်ဆိုင်သူ ဒင်းနစ်လန်း (အငယ်)၊ အသက်မပြည့်မီ မစ္စက်ဒင်းနစ် လန်း၊ ကလေး၏ အမေက အုပ်ထိန်းသူအဖြစ် တာဝန်ယူသည်။ ဟုတ်ကဲ့ . . . ကျွန်တော်တို့ အလုပ်စလို့ ရပါပြီ"

"ဟုတ်ကဲ့၊ ဒီရုံးက ပို့လာတဲ့ စာရင်းစာရွက် ကျွန်မ ယူလာပါတယ်၊ စာရင်းမှာပါတဲ့ အတိုင်းဆိုရင် ဝက်သစ်ချမြိုင်က တရာကိုးဆယ့်ရှစ်ဒေါ်လာ ပေးဖို့ ရှိပါတယ်"

"မှန်ပါတယ်၊ ဒီနေ့ နောက်ဆုံးထားပြီး ပေးသွင်းရမှာပါ၊ ဒီနေ့ မသွင်းရင်တော့ ကြံစိုက်တဲ့ မြေတွေကို ကျွန်တော်တို့ လေလံပစ်ရမှာပါ၊ အဲဒီလို လုပ်ရမယ် ဆိုရင်တော့ စိတ်မကောင်းစရာပဲပေါ့"

"ကျွန်မမှာ ပိုက်ဆံအလုံအလောက် ပါပါတယ်"

"ဟုတ်ကဲ့ . . . ကြည့်ရအောင်"

အန်းက ပိုက်ဆံတထပ်ထုပ်ပြီး စားပွဲပေါ် တင်ပေးလိုက်သည်။ ဂီးလ်ဒေး စတင် ရေတွက်သည်။ အန်းက စာရွက် တရွက်ထုတ်ပြီး-

"ရှင် ဒီမှာ တဆိတ် လက်မှတ်ထိုးပေးပါ"

အန်းက စာရွက်ကို သူ့ရှေ့ ထိုးပေးသည်။ ဂီးလ်ဒေးက ပိုက်ဆံရေနေတုန်း။ သူက ရေတွက်ပြီးတော့ အန်းကို မော့ကြည့်သည်။

"ကျွန်တော် လက်မှတ်ထိုးပေးချင်ပါတယ် မစ္စက်လန်း၊ ဒါပေမဲ့ ကျွန်တော်က အစိုးရ ဝန်ထမ်းပါ ၊ အခွန် အပြေအလည်ဆပ်မှ ထိုးပေးနိုင်ပါလိမ့်မယ်၊ ပိုက်ဆံက မပြည့်ဘူး ခင်ဗျ"

အန်း၏ ပခုံးနှစ်ဖက် မသိမသာ တွန့်သွားသည်။

"ရှင် မှားနေပြီ မစ္စတာဂီးလ်ဒေး၊ ကျွန်မ တရာကိုးဆယ့်ရှစ်ဒေါ်လာ ပေးလိုက်တာပဲ"

"ကျွန်တော် အရာရှိတယောက်ပါ မစ္စက်လန်း၊ နီဂရိုးတယောက် မဟုတ်ပါဘူး၊ ပိုက်ဆံ ရေတတ်ပါတယ်၊ ဆယ်ဒေါ်လာ လိုနေတယ် ခင်ဗျ"

"တခါ ထပ်ရေကြည့်ပါဦးရှင်"

ဂီးလ်ဒေး ရယ်သည်။ မြင်ကွင်းကို ကြည့်ပြီး ကိုရီမေ ကျေနပ်နေ၏။

"ခင်ဗျားဘာသာ ရေတာ ပိုကောင်းပါလိမ့်မယ်"

ပါးစပ်က တိုးတိုးရွတ်ပြီး ဖြည်းဖြည်းချင်း အန်း ပြန်ရေသည်။ ပြီးတော့ သူ့ပိုက်ဆံအိတ် ထဲ ပြန်ရှာသည်။ သော့တွဲနှင့် လက်ကိုင်ပဝါ တထည်မှ လွဲပြီး ဘာမျှ မရှိ။

"ဒုက္ခပါပဲ၊ လမ်းမှာ တရွက် ထွက်ကျခဲ့တယ် ထင်တယ်"

ဂီးလ်ဒေးက ခပ်တိုးတိုး ပြန်ပြောသည်။

"ဒါဆိုရင်တော့ မလွယ်ဘူး ထင်တယ်"

အန်းက အသက်မရှူနိုင်ဘဲ -

"ကျွန်မ မနက်ဖြန် လာပေးမယ်လေ"

ဂီးလ်ဒေးက အရသာရှိရှိ ခေါင်းယမ်းလိုက်သည်။

"မဖြစ်နိုင်ဘူး မစ္စက်လန်း၊ ဒီနေ့ နောက်ဆုံးနေ့ ဆိုတာ ခင်ဗျားလည်း သိပါတယ်၊ အဲဒီ စာရွက်ထဲမှာလည်း ရေးထားပါတယ်၊ ဒီနေ့ ခြောက်နာရီဟာ နောက်ဆုံး အချိန်ပါလို့ အင်္ဂလိပ်ဘာသာနဲ့ ရှင်းရှင်းကြီး ရေးထားပါတယ်"

နံရံပေါ်မှ နာရီဆီကို အန်း လှမ်းကြည့်လိုက်သည်။

"မစ္စတာဂီးလ်ဒေး၊ ခု လေးနာရီခွဲနေပြီ၊ ဝက်သစ်ချမြိုင်ကို အနည်းဆုံး နှစ်နာရီ မောင်းရ တယ်၊ အသွားအပြန် လေးနာရီ ကြာမယ်၊ ဒီဆယ်ဒေါ်လာကို ကျွန်မ ဘယ်နည်းနဲ့မှ ခြောက် နာရီ အမီ လာမပို့နိုင်ဘူး"

မစ္စတာဂီးလ်ဒေးက ကုလားထိုင်နောက်ကို မှီလိုက်သည်။ လက်မှ ရွှေကြိုးလက်ပတ် နာရီကို ပွတ်သည်။

"ခြောက်နာရီထက် နောက်ကျလို့တော့ မဖြစ်ဘူး ခင်ဗျ"

အန်း၏မျက်နှာ သွေးဆုတ်သွားသည်ကို ကိုရီမေ သေသေချာချာ မြင်လိုက်၏။ ဂီးလ်ဒေး က ရွှေနာရီကို ဆက်ပွတ်နေသည်။

အန်းက စားပွဲစွန်းကို လက်နှင့် ဆုပ်လိုက်ပြီး-

"အဲဒါဆို ရှင် ဘာလုပ်မလဲ"

"ဥပဒေအရ အခွန်မကျေတဲ့ ပစ္စည်းဆိုရင် လေလံတင်ရမှာပဲ"

"သကြားထွက်နေတဲ့ ဝက်သစ်ချမြိုင် ကြံခင်းတွေကို ဆယ်ဒေါ်လာ မသွင်းနိုင်တာနဲ့ လေလံတင်မယ်လို့ ရှင် ပြောတယ် ဟုတ်လား"

"အဲဒါကျွန်တော် ပြောတာ မဟုတ်ဘူး ခင်ဗျ၊ အစိုးရ ပြောတာ"

ပြောရင်း ကုလားထိုင်ပေါ်တွင် ရှေ့တိုး နောက်ငင် ယိမ်းကာ ဖိမ်ယူနေသည်။

အန်းက လက်အိတ်ကို ဆွဲချွတ်ပြီး မင်္ဂလာလက်စွပ်ကို ချွတ်၍ စားပွဲပေါ် ပစ်တင်လိုက် သည်။

“ဒီလက်စွပ် ဆယ်ဒေါ်လာတော့ တန်မယ် ထင်ပါတယ်”

ဂီးလ်ဒေးက လက်စွပ်ကို ယူကြည့်ပြီး-

“အလို့. . .စာတန်းကလေးနဲ့ပါလား၊ “၁၈၅၉ ခုနှစ်၊ ဒီဇင်ဘာလ ၆ ရက်၊ ဒင်းနစ်လန်းမှ အန်းသို့”တဲ့၊ ဒါ ရွှေ အစစ်လား ဟင်”

“အစစ်ပေါ့ ရှင့်”

ဂီးလ်ဒေးက လက်စွပ်ကို စားပွဲပေါ် ပြန်ပစ်ချလိုက်ပြီး-

“ကျွန်တော်တို့ဆီမှာ ဒီလိုပစ္စည်းမျိုးတွေ ထားစရာနေရာ မရှိတော့ဘူးဗျ၊ အခွန်မပေး နိုင်တဲ့လူတိုင်း လက်စွပ် ချွတ်ပေး၊ ရင်ထိုး ဖြုတ်ပေးနဲ့။ နောက်တခုက အတုလား၊ အစစ်လားခွဲဖို့ အက်စစ်လည်း မရှိဘူး၊ အချိန်လည်း မရှိဘူး။ အဲဒီလို မသေချာတဲ့ ပစ္စည်းကို ကျွန်တော် ငါးဒေါ်လာထက် ပိုပြီး မသတ်မှတ်နိုင်ပါဘူး”

“ရှင်…ရှင်”

အန်း ဆက်မပြောနိုင်လောက်အောင် ဒေါသထွက်နေ၏။

“ကျွန်တော် မဟုတ်ဘူးနော်၊ ပြည်ထောင်စုအစိုးရ”

ဂီးလ်ဒေးက လက်ကာပြီး ပြန်ပြောသည်။

“ကျွန်မ သိတယ်၊ ပြည်ထောင်စုအစိုးရ၊ ပြည်ထောင်စုအစိုးရ…”

ဂီးလ်ဒေးက နာရီကို ဆက်ပွတ်နေ၏။ ဒေါ်ဆင်က အနားမှ တယောက်ကို လက်တို့ ပြီး ပြုံးနေ၏။ ကော့ခရဲလ်က ပုလင်းကို ယူပြီး မော့နေသည်။

ကိုရီမေ၏ ခေါင်းထဲတွင် လျှပ်စီးတချက် ဝင်းလက်သွား၏။ သည်အကြံရသည့်အတွက် အရမ်းပျော်သွားသည်။ ပိုက်ဆံအိတ်ကို ဖွင့်ပြီး ဆယ်ဒေါ်လာတန်တရွက်ကို ခပ်ဖြည်းဖြည်း ဟန်ပါပါ ဆွဲထုတ်ပြီး စားပွဲပေါ် ပစ်ချလိုက်သည်။

“လက်စွပ် ပြန်ဝတ်လိုက်ပါ”

အန်းက ကိုရီမေကို လှမ်းကြည့်သည်။ သည်တခါ အကြည့်က လေးလေးနက်နက် ရှိ၏။ ကိုရီမေက ဂီးလ်ဒေး၏ ပခုံးကို သိုင်းဖက်လိုက်သည်။ လက်တဖက်က သူ၏ ဆီရွှဲနေသော ဆံပင်တွေကို ပွတ်ပေးနေ၏။

ဂီးလ်ဒေးက မေးသည်။

“မင်း ဘာသဘောလဲ ကိုရီမေ”

ကိုရီမေက သူ့ကို ဂရုမစိုက်ဘဲ အန်းကို ကြည့်ပြီး ပြောသည်။

“ယူလိုက်ပါ၊ ကျွန်မ ပေးနိုင်ပါတယ်၊ အများကြီးလည်း ပေးနိုင်ပါတယ်”

အန်း ပိုက်ဆံကို မယူသေး၊ တွေနေ၏။ ပြီးမှ လက်စွပ်ကို ကောက်ယူပြီး ပြန်စွပ်သည်။ သိက္ခာနှင့် ဆယ်ဒေါ်လာ လဲလိုက်ရခြင်းပါလား။ ကိုရီမေကို မော်မကြည့်ဘဲ ဆယ်ဒေါ်လာတန် ငွေစက္ကူကို လှမ်းယူလိုက်သည်။

“ကျေးဇူးပဲ၊ မင်းဆီကို ပြန်ပို့ပေးလိုက်မယ်”

“ရပါတယ်၊ မလိုပါဘူး၊ ရှင်က ကျွန်မထက် ပိုပြီး ငွေလိုမှာပါ”

ဂီးလ်ဒေးက ပြောသည်။

“မင်း ဘာလုပ်တာလဲ ကိုရီမေ၊ အဲဒါ ငါ့ပိုက်ဆံပဲ”

“ရှင် စကားမရှည်ပါနဲ့၊ စာရွက်ကို လက်မှတ်ထိုး ပေးလိုက်ပါ”

ဂီးလ်ဒေး အူကြောင်ကြောင် ဖြစ်သွားသည်။ ပြီးမှ တခြမ်းပြုံးပြီး စာရွက်ပေါ်တွင် လက်မှတ်ထိုးပေးလိုက်သည်။ အန်းက စာရွက်ကို ယူပြီး ပိုက်ဆံအိတ်ထဲ ထည့်သည်။ ကိုရီမေ ကို လှမ်းကြည့်ပြီး-

“မင်း ကူညီတာ ကျေးဇူးတင်ပါတယ်”

“ရပါတယ်၊ ကိစ္စ မရှိပါဘူး”

အခန်းထဲမှ အန်း ထွက်သွားသည်။ တံခါးပိတ်လိုက်သည်နှင့် ဂီးလ်ဒေး ရယ်ချလိုက် သည်။ ကိုရီမေကို ကြည့်ပြီး-

“ပိုင်တယ်ကွာ၊ ပထမတော့ ကိုယ် သဘောမပေါက်ဘူး၊ အမျိုးသမီး ပါးပျဉ်းကျသွား ပြီပေါ့ ကိုရီမေက ဘာမျှ ပြန်မပြောဘဲ တံခါးရွက်ကို

စိုက်ကြည့်နေသည်။

ဂီးလ်ဒေးက ရယ်ပြီး-

“သူ့ခမျာ မသိရှာဘူး၊ သူ ဆယ်ဒေါ်လာ မပေးလို့ ကိုယ် ရောင်းနိုင်ရင် မြေကလေး မဆိုစလောက်ပဲ”

“ကဲ… ကျွန်မ သွားမယ်၊ အပ်ချုပ်ဆိုင် ပြေးရဦးမယ်”

ဂီးလ်ဒေးက သူ့လူတွေဘက် လှည့်ပြီး-

“ကဲ… ကိုယ့်လူတို့ အင်္ဂါနေ့ညနေ၁၊ ပွဲကြီးပွဲကောင်းကွ”

ကိုရီမေ တရားရုံးအပြင်ဘက် ရောက်တော့ နပိုလီယံ မောင်းထွက်သွားသော ဝက်သစ်ချ မြိုင် ရထားကြီးကို လှမ်းမြင်လိုက်ရသည်။ စိတ်ထဲတွင် ထင်သလို ဖြစ်မလာခဲ့။ အန်းဆီကို ဆယ်ဒေါ်လာတန် ပစ်ပေးလိုက်စဉ်က အောင်မြင်မှုရပြီး ပျော်မည်ဟု ထင်ခဲ့၏။ သို့သော် မပျော် ခဲ့။ ကိုယ့်ကိုယ်ကိုယ် အောက်တန်းကျသည်ဟု ထင်၏။ ဂီးလ်ဒေးနှင့် ပေါင်းပြီး သူလုပ်သလို မလုပ်နိုင်ကြောင်း သဘောပေါက်လာ၏။

လှေကားထစ်တွင် ရပ်ပြီး အကြာကြီး ငိုင်နေမိ၏။ နောက်မှ အပ်ချုပ်ဆိုင်ကို သတိရပြီး ထွက်ခဲ့၏။ စောစောက ပျော်ရွှင်မှုမျိုး ရအောင် ပြန်ပြီး အာရုံစိုက်ရ၏။ သို့သော် ရောမ ပါတီပွဲကြီး လုပ်မည့် ကိစ္စကို ပျော်စရာ ဟုတ်၊ မဟုတ် ဇဝေဇဝါ ဖြစ်လာ၏။

ပြီးတာတွေ ပြီးသွားပြီ။ ခေါင်းထဲ မထည့်နဲ့ဟု ကိုယ့်ကိုယ်ကိုယ် ဆုံးမကာ ရထားဆီသို့ လျှောက်လာခဲ့ပြီး အပ်ချုပ်ဆိုင်သို့ မောင်းခိုင်းသည်။

ပထမဆုံးအကြိမ်အဖြစ် ဂုဏ်သရေရှိ အမျိုးကောင်းသမီးတယောက်၏ နေရာမျိုးကို ရခြင်း ဖြစ်၏။ သည်လို နေရာမျိုးတွင် သရုပ်ဆောင်နိုင်အောင်လည်း မိမိတွင် အရည်အချင်း အပြည့် ရှိသည်ဟု ယုံကြည်ထား၏။

※※※

# အခန်း(၁၁)

## (၁)

အပြန် ရထားပေါ်တွင် ထိုင်ရင်း မျက်နှာကို လက်နှင့်အုပ်ကာ ငိုချင်စိတ်ကို ချုပ်တည်း ထားသည်။

"မငိုဘူး၊ ငါ မငိုဘူး၊ ငါငိုမှန်း သူတို့ သိရင် သူတို့ ဝမ်းသာကြမှာပေါ့"

အန်း ကိုယ့်ကိုယ်ကိုယ် ကြိုးစားပြီး ထိန်းသည်။ ဒေါသကို မျိုချသည်။ သို့သော် သည်လို ထိန်းရသည်မှာ ပင်ပန်းလှ၏။ ပြီးတော့ အလွန် မလွယ်သော အလုပ် ဖြစ်၏။ မျက်ရည်တွေ စီးကျလာသည်။ မျက်ရည်ကျရပေါင်း များခဲ့ပါပြီ။ သည်လို နာနာကြည်းကြည်း မျက်ရည်မျိုး မဟုတ်။

ပင်ပန်းလှပြီ။ အန်းသည် အိမ်တွင် ကြမ်းတိုက်ရသည်။ မီးဖိုချောင် ဝင်ရသည်။ လျှော်ရ ဖွပ်ရသည်။ ဟင်းသီး ဟင်းရွက်ခင်းထဲ ဆင်းရသည်။ အဝတ်ဟောင်းတွေ ဖျက်ပြီး ကလေးတွေ အတွက် အဝတ်ချုပ်ရသည်။ ကိုယ့်အတွက်လည်း ကြည့်ပျော် ရှုပျော်ဖြစ်အောင် ဖာရထေး ရသည်။

အခွန်ဆောင်နိုင်ဖို့လည်း ကြံရဖန်ရ၏။ လမ်းပေါ်တွင် နီဂရိုးများ၏ အတွန်းအတိုက် ခံရ၏။ အခွန်လာကောက်သူများ၏ မလေးမစား ဆက်ဆံခြင်းကို ခံရ၏။

လူရှိသေ ရှင်ရှိသေ ဘဝသည် ဟိုအဝေးကြီးတွင် ကျန်ရစ်ခဲ့လေပြီ။ ကြာတော့ အတိတ် ၏ အရိပ်များသည် မှုန်ရီဝေဝါး လာသည်။

ပိုက်ဆံရလျှင် ရချင်း ဟိုမိန်းကလေးထံသို့ ဆယ်ဒေါ်လာ ပြန်ပို့ရမည်။ ကိုရီမေသည် ရိုးရိုးအေးအေး မိန်းကလေးတယောက် ဖြစ်၏။ သည်ခေတ်ပျက်သူဌေး ဂီးလ်ဒေးနှင့် တွေ့ပြီး ပြောင်းလဲသွားခြင်း ဖြစ်သည်။ ပိုက်ဆံကို စားပွဲပေါ် ပစ်ချလိုက်ပုံကို မြင်ယောင်လာ၏။ ကျေးဇူးတရား သိတတ်သဖြင့် ကူညီပုံမျိုး လုံးဝ မဟုတ်။

အန်းသည် ပိုက်ဆံကို ယူပြီး လွှင့်ပစ်လိုက်ဖို့ စိတ်ကူးသေးသည်။

အခြေအနေက ကျဉ်းထဲ ကျပ်ထဲ ရောက်နေသောကြောင့်သာ မာန်လျှော့ခဲ့ရခြင်း ဖြစ်သည်။ "ကျေးဇူးတင်ပါတယ်" ဟု ပြောလိုက်ချိန်တွင် "တကွေ့တော့ တွေ့ကြဦးမှာပေါ့" ဟု စိတ်ထဲက ကြုံးဝါးနေမိသည်။

ဆယ်ဒေါ်လာ ဘယ်မှာ သွားရှာရမှန်း မသိ။ အိတ်သွန်ဖာမှောက် ထုတ်ပြီး အခွန်ဆောင် လိုက်ရခြင်း ဖြစ်သည်။ သည်နှစ် ဝါမရောင်းရမချင်း ပိုက်ဆံရစရာ လမ်းမရှိ။ ဝါကြိတ်စက်ကို ယူသွားပြီး အစေ့ထုတ်လျှင် အခွန်တန်းပေးရ၏။ ကေသုံးလုံးအဖွဲ့တွေ တောထဲတွင် ခိုးလုပ်နေ သည့် မှောင်ခိုဝါကြိတ်စက် ရှိသည်။ ဂျယ်ရီကို သွားပြီး ကြိတ်ခိုင်းရမည်။

အပေါင်ဆိုင်တိုင်းတွင်လည်း ပေးစရာပိုက်ဆံ မရှိကြတော့။ ဟူးချ်ပါစယ်က သူ့အဖေ မြှုပ်ထားသည့် ငွေထည် ပစ္စည်းတွေ တူးပြီး ငွေဇွန်းတချောင်း သွားပေါင်ရာ ဆယ့်ငါးဆင့်သာ ရသည်။ ဝက်သစ်ချမြိုင် အတွင်းပစ္စည်းများတော့ ရှိသေးသည်။ လုံးဝ မတူးရသေး။

ဝက်သစ်ချမြိုင် ရောက်တော့ နပိုလီယံကို သော့ပေးပြီး ဝင်းတံခါး ဖွင့်ခိုင်းလိုက်သည်။

တနှစ်ပတ်လုံး ဖွင့်ထားသည့် ဝင်းတံခါးကြီးကို ပြည်တွင်းစစ်ကာလကတည်းက ပိတ်ခဲ့ရခြင်းဖြစ်၏။ ပေါင်းမြက်တွေ ထနေသော အဝင်လမ်းတလျှောက်ကို မျှော်ကြည့်လိုက်မိ၏။ နပိုလီယံ၏ သားကလေး ဂျင်မီနှင့် ကစားနေသော ဒင်းနစ်ကလေးကို လှမ်းမြင်ရသည်။ ဒင်းနစ် အရမ်းထွားလာသည်။ ဖြစ်သလို အမေ ချုပ်ပေးထားသည့် အဝတ်အထည်များကို ဝတ်နေရသည့်တိုင် ဒင်းနစ်က ချောမောလှပနေ၏။ ဗာဂျီးနီးယား ကလေးကတော့ သိပ်မဖွံ့ရှာ။ သေးသေးညှက်ညှက်ကလေး ဖြစ်၏။ ချူလည်း ချူချာသည်။ ဒင်းနစ်က စာလည်း တော်သည်။ အမေ ပေးသမျှ သင်ခန်းစာတွေကို အမီလိုက်နိုင်သည်။

ခန်းမဆောင်ထဲတွင် ဘယ်သူ့မျှ မတွေ့။ ဘာသာ၊ နပိုလီယံနှင့် မမ်မီတို့သည် ယားလို့မှ မကုတ်နိုင်အောင် အလုပ်ရှုပ်နေကြသည်။ စင်သီယာက ဗာဂျီးနီးယားကလေးကို ကူထိန်းဖော် ရသည်။

အိမ်ကြီးမှာ တိတ်ဆိတ်ငြိမ်သက်နေ၏။ အပေါ်ထပ်သို့ တက်ခဲ့ပြီး အိပ်ခန်းထဲရောက် တော့ တံခါးချက် ထိုးလိုက်သည်။ ခုတင်တိုင်ကို ကိုင်ပြီး ခဏငိုင်နေ၏။ အဝတ်ဟောင်းတွေ စုပုံနေ၏။ ပြင်ချုပ်စရာတွေ၊ ဖာစရာ ထေးစရာတွေ ဖြစ်သည်။

အပြင်ထွက်လျှင် ဝတ်ဖို့ ကိုယ်ပေါ်မှ ဝတ်စုံတစုံသာ ရှိ၏။ အဝတ်ဗီရိုထဲတွင်

ဗလာကျင်း နေပြီ။ အဝတ်ဗီရို အပေါ်ဆုံးထပ်မှ ဝီစကီပုလင်းကို ဆွဲယူလိုက်သည်။ အိပ်ခန်းထဲတွင် အရက် ပုလင်း မထားဖို့ အကြိမ်တဒါဇင်မက ကြိုးစား၏။ အရက်သောက်ချင်စိတ်ကြောင့် တံခါးကို ချက်ချခဲ့ခြင်း ဖြစ်သည်။

စိတ်ရောလူပါ ပင်ပန်း နွမ်းနယ်လာသည့်အခါ အရက်သည် အားကိုးရ၏။ အားရှိသည်၊ စိတ်ခတ်တက်ကြွသည်ဟု အန်း ထင်၏။ အရက်ဆန့်ကျင်ရေး ဆရာတို့သည် မိမိဘဝမျိုးကို မကြုံဖူး၍ တရားဟောနေကြခြင်း ဖြစ်မည်။ ရေတိုင်နားတွင် ရပ်ပြီး ဖန်ခွက်ထဲ ဖြည့်လိုက်၏။ ဝီစကီ ဝင်သွားတော့ ဖိစီးမှုတွေ သက်သာသွားသလို ရှိ၏။ စိတ်လည်း ငြိမ်လာသည်။

ထိုစဉ် တံခါးခေါက်သံ ကြားရ၏။

“မမအန်း... စင်သီယာပါ”

“ဘာလဲ စင်သီယာ”

“တံခါးဖွင့်ပါ မမအန်း”

အရက်ပုလင်းကို အဝတ်ဗီရိုထဲ ပြန်ထည့်လိုက်၏။ စင်သီယာက အန်း အရက်သောက် နေမှန်း သိသည်။ သို့သော် ဘာမျှ မပြော။ တံခါး ဖွင့်ပေးလိုက်သည်။

“ဗာဂျီးနီးယားကလေး ဖျားပြန်ပြီ မမအန်း”

“ဟုတ်လား၊ ဒုက္ခပါပဲ၊ ဘယ်လို ဖြစ်တာလဲ စင်သီယာ”

စင်သီယာ မျက်နှာပျက်နေသည်။

“ဒီတခါ တော်တော်ဆိုးတယ် မမအန်း၊ မမအန်း ပြန်ရောက်ပြီလို့ ဒင်းနစ် ပြောပြော ချင်း စင်သီယာ ပြေးလာတာ”

ကလေးခန်းဆီသို့ စင်သီယာ့ နောက်မှ အန်း ပြေးလိုက်သွားသည်။ ကလေးခုတင်နား တွင် မမ်မီ ရှိနေ၏။ မမ်မီက ဆီးပြောသည်။

“မမလေး ရောက်လာလို့ တော်သေးတာပေါ့၊ ကလေးက သိပ်ဖျားနေတယ် မမလေး”

အောက်တိုဘာဆိုလျှင် ဗာဂျီးနီးယားကလေး လေးနှစ် ပြည့်တော့မည်။ မျက်နှာကလေး နီရဲနေ၏။ နဖူးကို စမ်းကြည့်တော့ ချစ်ချစ်တောက် ပူနေသည်။

“သမီးလေး၊ မေမေ ပြန်လာပြီနော်၊ ဘယ်တုန်းက စဖြစ်တာလဲ စင်သီယာ”

“မမအန်း ထွက်သွားပြီး မကြာခင်ပဲ ဗိုက်ကို နှိပ်ပြီး အော်ငိုတယ်၊ အစားမှားတယ် ထင်တာပဲ”

“ဒါဆို နွားနို့ ဖြစ်မယ်”

ကလေးကို ရေခဲအုပ်ပေးဖို့ လိုသည်။ သို့သော် ဝက်သစ်ချမြိုင်တွင် ရေခဲ မရှိသည်မှာ မေ့သလောက်တောင် ကြာခဲ့ပြီ။ စင်သီယာက ဆက်ရှင်းပြသည်။

“ဘာမှ ကျွေးလို့ မရဘူး၊ ရေတောင် လက်မခံဘူး၊ ကျွန်မ မကြည့်ရက်ဘူး၊ မမအန်း မြန်မြန်ပြန်ရောက်လာလို့ တော်သေးတာပေါ့”

“နို့အဆိပ် ဖြစ်တာ၊ ဘာမှ မကျွေးနဲ့၊ ဘာမှ မတိုက်နဲ့၊ နဖူးပေါ်ကို ရေဖတ်အုပ်ပေးရင် အဖျားမြန်မြန်ကျမယ်”

“ပုံးထဲက ရေတွေက ရေနွေးကျနေတာပဲ မမလေး”

မမ်မီက စိတ်ပျက်လက်ပျက် ဝင်ပြောသည်။

“နပိုလီယံကို ရေတွင်းထဲက ရေတပုံးလောက် ဆွဲခိုင်းစမ်း၊ တွင်းရေက အေးမှာပါ ၊ သမီးလေး လိမ္မာတယ်နော်၊ မေမေ ပြန်လာပြီ သိလား၊ သမီး နေကောင်းသွားတော့မှာ”

စင်သီယာဘက် လှည့်ပြီး မေးကြည့်သည်။

“မြို့ထဲမှာများ ရေခဲ ရနိုင်မလား မသိဘူး”

“ရေခဲ ဟုတ်လား၊ စစ်ပြီးကတည်းက ရေခဲလှေတွေ ပြန်ဝင်နေတယ် ကြားတယ်။ မမအန်းမှာ ပိုက်ဆံရှိသေးလို့လား”

အန်း ခေါင်းယမ်းသည်။ ရေခဲဈေးက တပေါင် နှစ်ဆယ့်ငါးဆင့်။

“မရှိတော့ဘူး စင်သီယာ၊ ရှိသမျှအားလုံး အခွန်ပေးရတာနဲ့ ကုန်ပြီ၊ ဒါပေမဲ့ ရေခဲ တော့ ရတဲ့နည်းနဲ့ ရှာရမယ်၊ ကလေးက အစာအဆိပ်ဖြစ်ပြီး အပြင်းဖျားနေတာ”

“ဒင်းနစ်ကလေးကိုလည်း အသီးအနှံက လွှဲပြီး ဘာမှ မကျွေးနဲ့၊ နပိုလီယံကို ချက်ချင်း သွားခေါ်ပေးစမ်းပါ”

အပေါ်ထပ် တက်ပြီး သော့ယူသည်။ ပြန်ဆင်းလာပြီး အရက်ပုလင်းတွေ ထားသည့် ဗီရိုကို ဖွင့်သည်။ ထုတ်ထုတ်ပြီး ရောင်းရ၊ ပေါင်ရလွန်းလို့ သိပ်မကျန်တော့။ ပစ္စည်းတွေ ပေါင်ရ လွန်းလို့ အပေါင်ဆိုင်ကလည်း ပိုက်ဆံ မပေးချင်တော့။ ဒင်းနစ်ကလေး၏ပုံ ထည့်ထားသည့် လော့ကက်သီးကလေး ရှိသေးသည်။ ဒါကလေး ကို အရင်းပြုပြီး ရေခဲရအောင် ရှာရမည်။

နပိုလီယံ ရပ်စောင့်နေသည်။ လော့ကက်သီးကလေးကို ကမ်းပေးပြီး ရေခဲရအောင် ရှာခဲ့ဖို့ ပြောလိုက်၏။ နပိုလီယံက လော့ကက်သီးကလေးကို လှမ်းယူပြီး ခေါင်းယမ်းကာ ထွက်သွား၏။

ကလေး၏ အဖျားက ကြာလေ တက်လေ ဖြစ်နေ၏။ အန်းက နဖူးပေါ် ရေဖတ်တင်ပြီး အဖျားကျအောင် ကြိုးစား၏။ သို့သော် အကြောင်းမထူး။ ဆရာဝန်ခေါ်ဖို့ကလည်း ခိုင်းရမည့်သူ တယောက်မျှ မရှိ။ သည်ရာသီတွင် အစားအသောက် အားလုံး ရေခဲရိုက်ထားသင့်သည်ဟု အန်း တွေးနေ၏။ ပူလွန်းအားကြီးသဖြင့် နာမကျန်းဖြစ်သော ကလေးများအတွက် အလွန် အန္တရာယ်ကြီးသော ရာသီ ဖြစ်၏။

အခန်းထဲတွင် ခေါက်တုံ့ခေါက်ပြန်လျှောက်လိုက်၊ ကလေးအိပ်ရာနံဘေးတွင် ဝင်ထိုင် လိုက်နှင့် အန်း ဆောက်တည်ရာမရ ဖြစ်နေ၏။ သူ့တကိုယ်လုံးလည်း ချွေးတွေ ရွှဲနေပြီ။ နပိုလီယံ ပြန်ရောက်လာတော့ သန်းခေါင်ကျော်နေပြီ။ အောက်ထပ်သို့ အန်း ပြေးဆင်း ခဲ့၏။ သို့သော် နပိုလီယံ၏ ကြိုးစားမှု အရာမရောက်ခဲ့ပေ။ လော့ကက်သီးကလေးကို ပြန်ပေး ရင်း ရှင်းပြသည်။

"ကျွန်တော် အပေါင်ဆိုင်ကို နှိုးပြီး ပေါင်ဖို့ ကြိုးစားပါသေးတယ်၊ အချိန် အကန့် အသတ်မရှိ ပိတ်ထားလိုက်ပြီ တဲ့၊ ဒါနဲ့ ကျွန်တော် ရေခဲဒိုင်ကို ရှာပြီး သွားပါတယ်၊ လော့ကက် သီးကလေးကို သူ သဘောကျပါတယ်၊ ဒါပေမဲ့ မိန်းမတယောက်ကို နောက်တပတ်စာ ကြိုရောင်းပြီးသား ဖြစ်နေလို့ သူ ဘာမှ မတတ်နိုင်ဘူး တဲ့"

ကုလားထိုင်တလုံးပေါ်တွင် အန်း ထိုင်ချလိုက်သည်။ လုံးဝ အားပြတ်သွားသလို ခံစားလိုက်ရ၏။

"နပိုလီယံ၊ နင် ပင်ပန်းနေပြီ ဆိုတာ သိပါတယ်ဟယ်၊ သစ်ဖြူတောကို သွားပြီး ငါ့အစ်ကိုကို ခေါ်ပေးစမ်းပါ၊ သူ တခုခု လုပ်ပေးနိုင်မှာပါ"

လင်းအားကြီး အချိန်လောက်တွင် အန်း အိပ်ပျော်သွားသည်။ နေထွက်ချိန်လောက်တွင် နပိုလီယံ ပြန်ရောက်လာ၏။ ဂျယ်ရီ ပါလာသည်။

အန်း ရောက်မဆိုက် မေးသည်။

"ဂျယ်ရီမှာ ပိုက်ဆံ ဘယ်လောက် ရှိသလဲ ဟင်"

ဂျယ်ရီက အိတ်ထဲ စမ်းပြီး-

"သုံးဒေါ်လာ"

"သမီးကလေးကို ကြည့်ပါဦး ဂျယ်ရီ"

ဂျယ်ရီသည် သုံးဆယ့်တနှစ်သာ ရှိသေး၏။ သို့သော် ဝဲတွေ ခုထိ မပျောက်သေး။ လူက အဘိုးကြီးအိုပေါက်စရုပ် ပေါက်နေ၏။ အဝတ်အစားတွေက ကြည့်မကောင်းလောက်အောင် နွမ်းပါးနေသည်။

"ဟုတ်တယ် အန်း၊ ကလေး အရမ်းဖျားနေတယ်"

"သမီးလေးကို ကယ်ပါဦး ဂျယ်ရီ"

ဂျယ်ရီသည် အပိုတွေ ပြောတတ်သူ မဟုတ်ပေ။

"ငါလည်း ဘာလုပ်ရမှန်း မသိဘူး အန်း၊ ငါ့မှာ ပိုက်ဆံများများရှိရင် ရေခဲဒိုင်ကို လာဘ်ထိုးပြီး ရအောင် လုပ်တယ်၊ နပိုလီယံ ပြောတော့ အပ္ပဂျွန်းဆိုတဲ့ မိန်းမက အားလုံး အုပ်ပြီး ဝယ်ထားတာ တဲ့"

"အပ္ပဂျွန်း ဟုတ်လား၊ အဲဒီ မိန်းမပျက်က ပါတီပွဲအတွက် ရေခဲတွေ စုနေတာကြောင့် အန်းက သမီးကလေး အသက်အဆုံး ခံရမှာလား"

"ငါကိုယ်တိုင် လိုက်သွားပြီး တွေ့မယ်၊ နင် သူ့ကို သိလို့လား အန်း"

"ဒီမှာ အလုပ်လုပ်သွားဖူးတယ်၊ မြင်ရင် ဂျယ်ရီ မှတ်မိမှာပါ၊ တွေ့ရင် တပတ်စာ လောက် မျှပါလို့ ပြောနော်"

ဂျယ်ရီ ခေါင်းညိတ်ပြီး ထွက်သွားသည်။ နေက ချစ်ချစ်တောက် ပူနေ၏။ အန်းက သမီးကလေး၏ ခုတင်ဘေးတွင် ဆက်ထိုင်နေသည်။

## (၂)

ဂျယ်ရီရော သူ့မြင်းပါ ပင်ပန်းလှပြီ။ နပိုလီယံ ရောက်လာတော့ သူ အိမ်ပြန်ရောက်စ ဖြစ်၏။ ပေါင်မုန့်တချပ်နှင့် ကော်ဖီတခွက်သာ သောက်ရသေးသည်။

နေရာပေါင်းများစွာ စုံစမ်းပြီး ဂျူဟာန်အိမ်ကြီးတွင် အပ္ပဂျွန်း ဆိုသည့် မိန်းကလေး နေကြောင်း သိရ၏။ အိမ်ရောက်တော့ ဘယ်သူမျှ မတွေ့။ အိမ်ဖော်မကလေးက မစ္စအပ္ပဂျွန်း ပါတီပွဲအတွက် အလုပ်များနေကြောင်း၊ မစ္စတာဂီးလ်ဒေးတော့ တရားရုံးတွင် ရှိမည် ထင်ကြောင်း ပြောပြသည်။

ရေခဲဒိုင်ဆီ ဂျယ်ရီ ရောက်သွားသည်။ ရည်ရည်မွန်မွန် ဆက်ဆံသော်လည်း မစ္စအပ္ပဂျွန်း ဆီက ငွေလက်ခံထားပြီး ဖြစ်၍ မည်သို့မျှ မတတ်နိုင်ကြောင်း ပြော၏။

ဂျယ်ရီ တရားရုံးသို့ လိုက်သွားပြန်သည်။ ဂီးလ်ဒေးကို အသင့် တွေ့ရ၏။

"မနေ့က ညီမ၊ ဒီနေ့ အစ်ကိုပါလား၊ ကဲ.. ဘာကိစ္စလဲ ဆို"

ဂီးလ်ဒေးက ဆီးပြောသည်။ ဂျယ်ရီ မေးရိုးတွေ တင်းသွား၏။

"တခု မေးစရာရှိလို့၊ ခင်ဗျား ကောင်မကလေး အပ္ပဂျွန်း ဘယ်မှာ ရှိမလဲ"

"ဘယ်သိမလဲ၊ သူ့အဝင် အထွက်ကို ကျုပ်က စောင့်ကြည့်နေတာမှ မဟုတ်ဘဲ၊ ဘာကိစ္စ လဲ . . . မြန်မြန်ပြော၊ ဒီနေ့ စနေနေ့၊ ကျုပ် သိပ်အလုပ်များတယ်"

"ကျုပ်ညီမရဲ့ကလေး အသည်းအသန် ဖြစ်နေတယ်၊ ရေခဲ လိုချင်လို့"

"ဘာသောက်အဓိပ္ပာယ်လဲ၊ ကျုပ်မှာ ဘယ်က ရေခဲ လာရှိမှာလဲ၊ ခင်ဗျားဟာ လွှတ်မြောက် လာတဲ့ နီဂရိုးတွေလိုပဲ၊ ကျုပ်တို့ဆီမှာ အားလုံး ရနိုင်တယ် ထင်နေလား"

"မြို့ထဲက ရေခဲဒိုင်မှာ မစ္စအပ္ပဂျွန်း ချုပ်ပြီး ဝယ်ထားတယ်၊ ရေခဲ မရရင် ကလေးသေဖို့ များတယ်"

ဂီးလ်ဒေးက ကုလားထိုင်ကို နောက်ဆုတ်ပြီး ခြေထောက်ကို စားပွဲပေါ်

ပစ်တင်လိုက်သည်။

“ဩော် … ဒီလိုလား၊ ကလေးတွေ သေကြတာ မဆန်းပါဘူး၊ ကျုပ်အမေ ဆိုရင် မွေးတိုင်း လိုလို သေလို့ အမြဲ ငိုနေရတာပဲ၊ ခင်ဗျားညီမ ကလေးတွေ အများကြီး ထပ်ရနိုင်ပါသေးတယ်”

စားပွဲပေါ်ကိုင်းပြီး ဘယ်လက်သီးဖြင့် ဂီးလ်ဒေး၏ မျက်နှာတည့်တည့်ကို စွတ်ထိုးထည့် လိုက်သည်။ ဂီးလ်ဒေးရော သူ့ကုလားထိုင်ပါ လဲကျသွား၏။ သို့သော် သူ ချက်ချင်း ခုန်ထလာ သည်။ သူ့လက်သီးက ဂျယ်ရီနားထင်ပေါ်ကို စက္ကန့်ပိုင်းအတွင်း ပြန်ရောက်လာ၏။ ကြမ်းပြင် ပေါ်သို့ ဂျယ်ရီ ကားခနဲ ကျသွားသည်။ ဂျယ်ရီသည် နာလန်ထစ ဖြစ်၏။

ထိုစဉ် နီဂရိုး ရဲနှစ်ယောက် ပြေးဝင်လာသည်။

“ဘယ်လို ဖြစ်ကြတာလဲ မစ္စတာဂီးလ်ဒေး၊ ကျွန်တော်တို့ ဘာလုပ်ပေးရမလဲ ခင်ဗျာ”

ဂီးလ်ဒေးက ဖုန်ခါပြီး-

“ဒီကောင့်ကို ဖမ်းပြီး ထောင်ထဲမှာ တည့်ထည့်ထားလိုက်၊ အရာရှိတယောက်ကို ဝတ္တရားနှောင့်ယှက်မှု၊ မြန်မြန် လုပ်ကြ”။

# (၃)

ဂျယ်ရီကို ပြန်လာနိုး လာနိုးနှင့် အန်း စောင့်နေသည်။ ဂျယ်ရီ ပေါ်မလာ။ အရမ်းပူလာ ပြီး မိုးတွေ ရွာချသည်။ မိုးရွာပြီးတော့ ပိုပူလာသည်။ မိုးစုံးစုံး ချုပ်သွားသည်။ ဂျယ်ရီ ပြန် မရောက်။ ဂျယ်ရီ ဘာများ ဖြစ်လို့ပါလိမ့်။

ကလေးက ကယောင်ကတမ်း ဖြစ်ပြီး တအားအော်ငိုနေရာမှ တဖြည်းဖြည်း တိတ်သွား သည်။ တညလုံး အန်း ထိုင်စောင့်သည်။ လင်းအားကြီးမှ အိပ်ပျော်သွား၏။ ကလေးငိုသံကြောင့် နိုးလာတော့ မိုးစင်စင်လင်းနေပြီ။ နပိုလီယံကို ဂျယ်ရီအကြောင်း စုံစမ်းဖို့ မြို့ထဲ လွှတ်လိုက်၏။ ကလေးကို အန်း ဘာမျှ မကျွေးရဲ။ ဒင်းနစ်ကလေးကို စင်သီယာနှင့် မမ်မီလက်ထဲ အပ်ထားပြီး အန်းက သမီးကလေးအနားမှ မခွာဘဲ ဂျယ်ရီ ယူလာမည့် ရေခဲကို လည်တဆန့်ဆန့် မျှော်နေ၏။

နပိုလီယံ ပြန်ရောက်လာတော့ ဂီးလ်ဒေးအား ထိုးကြိတ်မှုဖြင့် ဂျယ်ရီ အချုပ်ခံရကြောင်း သိရသည်။ နပိုလီယံနှင့် မရှေးမနှောင်း ဂျယ်ရီ ပြန်ရောက်လာသည်။ ဂျယ်ရီဆီက ကြားရသည့် သတင်းကြောင့် အန်းတယောက် အရုပ်ကြိုးပြတ် ဖြစ်သွားသည်။

"ဘုရား၊ သိကြားမလို့ သမီးကလေး အသက်ရှင်ပါစေ"

ဟု မျက်နှာကို လက်ဝါးဖြင့် အုပ်ရင်း ဆုတောင်း၏။ ဂီးလ်ဒေးနှင့် ကိုရီမေကို စိတ် ထဲမှ ကျိတ်ပြီး ကြုံးဝါးလိုက်၏။

အန်း၏ ဆုတောင်းသံကို ဘုရားသခင်နှင့် နတ်ဒေဝတာများ ကြားတော် မမူခဲ့ပေ။ ဗာဂျီးနီးယားကလေး ဆုံးသွားသည်။ သမီးကလေး နံဘေးမှ ခေါင်းအုံးပေါ်တွင် အန်း မျက်နှာ မှောက်ချလိုက်၏။ သည်အဖြစ်မျိုးနှင့် ကြုံလျှင် ဘယ်လို ခံစားရမည့် အကြောင်း ဘယ်သူမျှ အန်းကို ပြောမထားဖူးပေ။

သည်အဖြစ်မျိုးနှင့် ကြုံရလိမ့်မည်ဟု အိပ်မက်ပင် မမက်ခဲ့ဖူး။ သည်းအူပြတ်မျှ ငိုနေရင်း ကိုရီမေအပွဲဂျွန်း၏ ညှော့ခံပွဲကြီးအကြောင်း စဉ်းစားလိုက်မိ၏။ ဖယောင်းတိုင်မီးရောင်တွင် စိန်တုံးများလို အရောင်တဖျပ်ဖျပ်တောက်နေသည့် ရေခဲတုံးများကို မျက်စိထဲ မြင်လာ၏။ သမီး ကလေး ဆုံးပြီးနောက် ရက်သတ္တပေါင်းများစွာ အရှုံးသမား ဘဝကို ခါးခါးသီးသီး ခံစားနေ ရ၏။

အရက်ဗီရိုထဲတွင် ပုလင်းတွေ ကျန်နေသေးခြင်းအတွက် အန်း ကျေးဇူးတင်နေသည်။

ဂျယ်ရီက တောထဲမှ ကေသုံးလုံး ဝါကြိတ်စက်ရုံသို့ ပို့ပေးသည့်အတွက် အပုံကြီး အသက် ရှူ ချောင်သွားသည်။ မဟုတ်လျှင် ဝက်သစ်ချမြိုင်ကို အန်း လက်လွှတ်ရမည့် အဖြစ်မျိုးနှင့် ရင်ဆိုင်ရဖွယ် ရှိသည်။

ဂျယ်ရီက အားမလျှော့ဖို့ ပြောသည့်အခါ စိတ်သက်သာရာ ရသလိုရှိပြီး ရက်အနည်းငယ် အတွင်း အားမာန်တွေ လျော့ကျကာ ဆုံးဖြတ်ချက်တွေ အရည်ပျော်သွားပြန်သည်။

သည်သံသရာတွင် အန်း လည်နေ၏။ အဆုံးမရှိသည့် လမ်းကို လျှောက်လှမ်းနေရသည့် နှယ်။ ရှေ့မှာ ဘာမျှော်လင့်ချက်မျှ မရှိလျှင် ဘာအတွက် ရုန်းကန်နေမည်လဲ၊ ဒင်းနစ်အမေ သေဆုံးသည့် နေ့ကို အမှတ်ရနေ၏။ များစွာသော အသိအကျွမ်းတွေ ရောဂါမျိုးစုံဖြင့် သေကြ ကျေကြသည်ကို အန်း တွေးနေ၏။ လောကကြီးထဲတွင် မခံနိုင်လောက်အောင် ဖိစီးမှုများ ရှိလာလျှင် သေခြင်းတရားသည် နားခိုရာဟု စိတ်ထဲ ထင်လာ၏။

※※※

# အခန်း(၁၂)

## (၁)

ဝတ်ရုံဖြူများနှင့် ညအခါ မြင်းကို ကဆုန်စိုင်းလျက် မြောက်ပိုင်းဆန့်ကျင်ရေး လှုပ်ရှားနေ သည့် ကေသုံးလုံးဂိုဏ်းသားများအကြောင်း ကြားပြီး ကိုရီမေ ရယ်စရာဟု သဘောထား၏။ အလုပ်မရှိ အလုပ်ရှာပြီး စွန့်စားနေကြသည့် အထက်တန်းလွှာမှ လူပျင်းများဟု ထင်၏။

ဝါကြိတ်စက်ကို ရောက်လာသမျှ ဝါဂွမ်းတွေပေါ်တွင် အခွန်စည်းကြပ်ခြင်းကို ကိုရီမေ သဘောကျ၏။ စစ်ကို စခဲ့သည့် ကျွန်ပိုင်ရှင်တွေ ခံပစေပေါ့။

ကေသုံးလုံးအဖွဲ့ဝင်တွေက အခွန်ကို ရှောင်ဖို့ တောထဲတွင် ဝါကြိတ်စက် ထောင်ထား သည့် သတင်းကြားသဖြင့် ဂီးလ်ဒေးတို့လူစု သည်နေရာကို တောနင်းရှာပြီး ကေသုံးလုံးတွေကို အပြတ် ရှင်းမည် ကြားသောအခါ တရားသည်ဟု ကိုရီမေ ထင်၏။ စက်ရုံနေရာကို ရှာတွေ့ပြီး ဂီးလ်ဒေး တို့အဖွဲ့က ကင်းပုန်းဝပ်ကာ ဝတ်ရုံဖြူနှင့် ညလူတွေကို ဖမ်းဖို့ ကြိုးစားကြသည်။

ညရောက်တော့ ဝါဂွမ်းလှည်းတွေ တန်းစီပြီး တောထဲသို့ ကေသုံးလုံးဂိုဏ်းသားတွေ ဝင်လာ၏။ ဂီးလ်ဒေးတို့ဘက်မှ စပစ်သည်။ တိုက်ပွဲဖြစ်တော့ ဦးနှောက်ရှိသည့် ဂီးလ်ဒေးက အကာအကွယ်ကောင်းသည့် နေရာတွင် ဇက်ပုနေသည်။ တက်ကြွသည့် ဒေါ်ဆင်က ရှုပ်ရှုပ် ချွံချွံ တိုက်သည်။ ဒေါ်ဆင် ကျသွား၏။

ကိုရီမေ စိတ်မကောင်း ဖြစ်ရသည်။ ဒေါ်ဆင်သည် ခင်ချင်စရာကောင်းသည့် ပုဂ္ဂိုလ် ဖြစ်၏။ အနက်ရောင်ဝတ်စုံကို ဆင်မြန်းပြီး ကိုရီမေ အသုဘ လိုက်ပို့သည်။ လော်ရာက အသုဘရှင်အဖြစ် ဗျာပါရုပ်ဆင်သော်လည်း သိပ်ပီပီပြင်ပြင် မရှိ။ “ခရစ်တော်၌ အိပ်ပျော်ခြင်း” ဓမ္မသီချင်း ဆိုတော့ မျက်နှာဖုံးအဝတ်နက်ကို ဒူးအထိချထားသည့် လော်ရာအား ကြည့်ပြီး ကိုရီမေ ရယ်ချင်နေသည်။

သို့သော် လော်ရာ မုဆိုးမဘဝ ရောက်သွားခြင်းမှာ ရယ်စရာ မဟုတ်ကြောင်း ရက်သတ္တ ပတ်များ မကြာခင် ကိုရီမေ သိရတော့သည်။

ခုတလော ဂီးလ်ဒေးတယောက် အိမ်ကို မှန်မှန်မပြန်။ ဟိုအကြောင်းပြ၊ သည်အကြောင်းပြနှင့် မပြန်သည့်ရက်တွေ များများလာ၏။ မိုးစင်စင်လင်းမှ ပြန်လာလို့ ကိုရီမေ ပူညံပူညံလုပ်လျှင် ခါတိုင်းလို သည်းမခံ။ ဒေါသကိုမျိုချပြီး ကိုရီမေ အခြေအနေ စောင့်ကြည့် သည်။ မိမိဘက်မှ သိပ်တင်း၍ မရမှန်း ကိုရီမေ သိသည်။

တနေ့ နေ့လယ်ပိုင်းတွင် သူ့ရုံးခန်းသို့ ကိုရီမေ ဝင်သွားသည်။ လော်ရာ ရောက်နှင့်နေသည်ကို တွေ့ရ၏။ သူတို့ နှစ်ယောက် ကိုရီမေကို မမြင်။ လော်ရာက စားပွဲပေါ် ခါးကိုင်းပြီး တံတောင်နှင့် ထောက်လျက် တဖက်မှ ဂီးလ်ဒေးအား စာရွက်စာတမ်းအချို့ ပြနေ၏။ ကိုရီမေ အသာကလေး လှည့်ပြန်လာခဲ့၏။ အိမ်ပြန်ပြီး စဉ်းစားရမည်။ သည်မိန်းမ ဘာလာလုပ်နေတာပါလိမ့်။ ကောင်းဖို့တော့ မဖြစ်နိုင်။ ဘာစာရွက်တွေပါလိမ့်။ လော်ရာက စာတတ်သည်။ ထို့ကြောင့် သည်စာရွက်စာတမ်းတွေအကြောင်း သူတို့နှစ်ယောက်သာ သိလိမ့် မည်။ မိမိ သိနိုင်စွမ်း မရှိ။

ထိုညနေတွင်လည်း ဂီးလ်ဒေး အိမ်ပြန်မလာ။ အမှောင်ထဲ ထိုင်ပြီး ကိုရီမေ စဉ်းစား သည်။ လော်ရာက စာတတ်သဖြင့် မိမိထက် ပိုတော်လိမ့်မည်။ သို့သော် သူက ရုပ်လည်း မိမိလောက်မလှ၊ အရွယ်လည်း မိမိထက် ကြီးနေပြီ။ ဂီးလ်ဒေးနှင့် ဘာပတ်သက်စရာ ရှိမည်နည်း။ သို့သော် ပြောလို့တော့ မရ။ ဂီးလ်ဒေးသည် လောကနီတိကို နားလည်သူ မဟုတ်။ ကိုယ့်တွက် ကျန်မည် ဆိုလျှင် ဘာမဆို လုပ်မည့် လူစား။ ဒါဆိုလျှင် သူတို့နှစ်ယောက် ဘာတွေ ကျိတ်လုပ် နေကြတာပါလိမ့်။ ကိုရီမေ မစဉ်းစားတတ်။

ကိုရီမေ ဘုရားတမိသည်။ ဘတ်ချ် ပစ်သတ်ခံရကြောင်း ကြားရသည့်နေ့နောက်ပိုင်း တခါမျှ ဘုရား မတမိ။

ခုတော့ သည်မိန်းမကို နောက်ထပ် မမြင်လိုကြောင်း၊ ဂီးလ်ဒေး မိမိထံ ပြန်လာစေကြောင်း တွေ တောင်းဆုခြွေနေမိ၏။ နောက်တနေ့ မိုးလင်းတော့ ကိုယ့်ကိုယ်ကိုယ် အားတင်းသည်။ မိမိက ရုပ်ဆင်းရူပကာလှသူပဲ၊ ဆံပင်ကို သေသေချာချာ ပြုပြင်သည်။ ပြီးတော့ အလှဆုံး ဝတ်စားပြီး စောင့်နေသည်။ သို့သော် ဂီးလ်ဒေး ပြန်မလာ။ ထိုနေ့မှာ စနေနေ့ ဖြစ်၏။ နောက်နေ့ မနက်ပိုင်းတွင်လည်း သူ ပြန်မလာ။ နောက်ထပ် အဝတ်တမျိုးလဲပြီး စောင့်ပြန်သည်။ သို့သော် နေ့လယ်ပိုင်းအထိ သူ ပေါ်မလာ။

တနင်္လာနေ့ ညနေပိုင်းတွင် သူ ပြန်လာသည်။ ခန်းမဆောင်ထဲသို့ အချိုသာဆုံး ပြုံးလျက် ပြေးသွားပြီး ကြိုသည်။

“ဟဲလို...ဆမ်၊ ညစာ စားမှာလား၊ ဘာသောက်ဦးမလဲ”

ဂီးလ်ဒေးက သူ့ကို ဘာမျှ ပြန်မပြောဘဲ ပခုံးကို ဆွဲကာ ကုလားထိုင်တလုံးတွင် ထိုင်ခိုင်း သည်။ သူ မူးများ မူးလာတာလား၊ မဟုတ်သေးဘူး၊ သူက တခွက် နှစ်ခွက်ထက် ပိုသောက် တတ်သူ မဟုတ်။

နှစ်ယောက်သား စကားမပြောဘဲ အကြာကြီး တိတ်ဆိတ်နေကြ၏။ ကိုရီမေ ကျိတ်ပြီး ဘုရားတနေသည်။ နောက်ဆုံးမှ ဂီးလ်ဒေးက စကားစသည်။

“မင်း ငါ့ကို စောင့်နေတယ် ဟုတ်လား”

ကိုရီမေ ခပ်ရွှင်ရွှင် ပြန်ပြောသည်။ သူ့အနား ထသွားပြီး-

“အို.... လည်ပင်းတောင် ရှည်ထွက်တော့မယ်ကွယ်၊ ဘာသောက်မလဲဟင်၊ ကျွန်မ သွားယူပေးမယ်လေ”

“အသာနေစမ်းပါ၊ သိပ်ချိုသာ မနေစမ်းပါနဲ့၊ မင်း ငါ့အနားက ထွက်သွားစမ်း”

သူ ဘာဖြစ်လာပါလိမ့်၊ ကိုရီမေ အသာထပြီး အခန်းထဲမှ ထွက်သွားမည် လုပ်တော့ သူ ပြန်ခေါ်သည်။

“လာ လာ ပြန်လာခဲ့၊ မင်းနဲ့ငါ ပြောစရာ ရှိတယ်၊ ဒီကိစ္စ ပြောဖို့ ဒါလောက် ခက်မယ် ငါ မထင်ဘူး”

ကိုရီမေ ပြန်ဝင်လာသည်။

“ရှင် ဘာဆိုလိုတာလဲ ဆမ်”

“စနေနေ့ မနက်မှာ ငါ လက်ထပ်လိုက်ပြီ ကိုရီမေ”

ကုလားထိုင်လက်တန်းကို တင်းတင်းဆုပ်လိုက်မိ၏။ ထရပ်လိုက်ပြီး-

“ရှင် ရူးနေပြီလား ဆမ်မြူရယ်ဂီးလ်ဒေး”

ဂီးလ်ဒေးက ရယ်ပြီး-

“ငါ မရူးဘူး၊ ဒါပေမဲ့ ငါ့စိတ်က သိပ်ဖြောင့်ဖြောင့်စင်းစင်းတော့ မဟုတ်ဘူး၊ ဒါကြောင့် ငါ မိန်းမယူလိုက်တာပေါ့”

သူက ခါးဆန့်လိုက်ပြီး မျက်နှာတင်းတင်းဖြင့်-

"ဒီမယ် နားထောင် ကိုရီမေ၊ မင်း ငါ့ကို ဘာမှ သိက္ခာကျအောင် လုပ်ဖို့ အခွင့်မရှိဘူး၊ ငါ့ဘဝ ဘယ်လို စခဲ့တယ်၊ ဘယ်က လာတယ် ဆိုတာ မင်း အစ အဆုံး သိတယ်၊ ငါ ဒီထက် ပိုပြီး ချမ်းသာချင်တယ်၊ ဒါလောက်နဲ့ တင်းတိမ် မနေနိုင်ဘူး၊ ဒါကို မင်း သိတယ်နော်၊ တချိန် လုံး သိခဲ့တယ် မဟုတ်လား"

"ရှင် လော်ရာနဲ့ လက်ထပ်လိုက်တာလား ဆမ်"

သူက ခြောက်ကပ်ကပ် ရယ်ပြီး-

"မင်း တကယ် တော်တာပဲ၊ ဟုတ်တယ်"

ကိုရီမေ ရင်ထဲတွင် ဗလောင်ဆူသွားသည်။

"ဒီမိန်းမကို ရှင် ယူတယ် ဟုတ်လား၊ သူ့ဘဝတဝက်လောက်က လမ်းပေါ်မှာပဲ"

"ငါနဲ့ ယူတဲ့ အချိန်ကစပြီး သူ မိန်းမကောင်း ဖြစ်သွားစေရမယ်လေ၊ မိန်းမတွေကို ဘယ်လို ကိုင်တွယ်ရမယ် ဆိုတာ ငါသိတယ် ကိုရီမေ၊ ဒီမယ် နားထောင် ကိုရီမေ၊ ငါ မင်းကို ဘာမှမပြောဘူးလို့ နေတာ၊ မင်း ပစ္စည်းတွေ သိမ်းပြီး သွားတော့လို့ပဲ ပြောမလို့၊ ဒါပေမဲ့ ရေလည် သွားအောင် ငါ ပြောပြမယ်၊ မင်းဟာ လိမ္မာပါးနပ်တဲ့ မိန်းကလေးပါ၊ ငါတွေ့ဖူး သမျှထဲမှာ မင်းဟာ တော်တော်ထက်တဲ့ မိန်းကလေးပဲ။ ငါ လက်ထပ်မယ် ဆိုရင် မင်းကလွဲပြီး ဘယ်သူမှ မရှိဘူး"

"ဒါဖြင့် ဘာဖြစ်လို့ လော်ရာနဲ့ ..."

"အဲဒါက ဒီလို၊ ငါတို့ ခပ်တိုးတိုးထင်တဲ့ ဒေါ်ဆင်ဟာ သိပ်မတိုးဘူး၊ မင်းနဲ့ ငါ့ထက် ဖျံကျတယ်၊ သူက နယူး အော်လီယန်းကို လစ်တော့မလို့ လုပ်နေတာ သိလား၊ နယူးအော်လီယန်း ဆိုတာ ရေမြို့ကြီး၊ သိပ်ချမ်းသာတဲ့ မြို့ကြီး၊ စစ်ဖြစ်တာတောင် မဖြုတ်တဲ့ မြို့ကြီး၊ ဒေါ်ဆင်က နယူးအော်လီယန်းမှာ ရေကာတာကြီးတခု ဆောက်ဖို့ ကန်ထရိုက် ရတယ်"

"အဲဒါနဲ့ ရှင်နဲ့ လော်ရာ ဘာဆိုင်လဲ"

"လော်ရာက တရားဝင်ဇနီးပဲ၊ ဒေါ်ဆင်ရဲ့ ကန်ထရိုက်ကို သူ ရတာပေါ့၊ ငါ သူ့ကို လက်ထပ်လိုက်တော့ ငါ ရမှာပေါ့"

"ဒါပေမဲ့ ရှင့်နာမည်က ဒေါ်ဆင်မှ မဟုတ်တာ"

“ဩော်... ခက်ပါဘိ၊ နယူးအော်လီယန်းမှာ တို့ကို ဘယ်သူ သိတာ မှတ်လို့”

“အင်း... ဒီလိုလား... ဟုတ်ပါပြီ၊ ဟုတ်ပါပြီ”

ဂီးလ်ဒေးက စိတ်လက်ပေါ့ပါးသွားဟန်ဖြင့် -

“ဒီကိစ္စကို ခေါင်းအေးအေးနဲ့ လက်ခံတာ ကိုယ် သဘောကျပါတယ်၊ မင်းအတွက် လည်း အများကြီး စဉ်းစားပါတယ် ကိုရီမေ”

ကိုရီမေ ဘာမျှ ပြန်မပြောနိုင်ဘဲ သူ့ကို ကြည့်ပြီး ခေါင်းညိတ်ပြလိုက်သည်။

“ငါ အခု မင်းကို လာပြီး နှုတ်ဆက်တာ၊ ဒီအိမ် ပြန်အပ်ရတော့မယ်၊ အဲဒီတော့ မင်း ပစ္စည်းတွေ သိမ်းဆည်းပြီး သွားတော့”

သူက အိတ်ထဲမှ ပိုက်ဆံတထပ် နှိုက်ပြီး-

“ရော့.. မင်းအတွက် ဒေါ်လာတရာ”

“ဒေါ်လာတရာ.. ဟုတ်လား”

ဂီးလ်ဒေးက ရယ်ပြီး-

“မင်း အဆင်ပြေမှာပါ၊ ကဲ.. ငါ သွားတော့မယ်”

ပြောပြောဆိုဆို သူ ထသွားသည်။ ပေါင်ပေါ်တွင် ဒေါ်လာတရာတင်ပြီး ကိုရီမေ ဆက်ထိုင်နေသည်။ ထိုတဒင်္ဂတွင် သူ ဘာမျှ မစဉ်းစားနိုင်။ ဒေါ်လာတရာနှင့် လောကကြီးကို ရင်ဆိုင်ရမည့် အဖြစ်။ သည်ငွေတရာသည် ဘာမျှ ပြောပလောက်သည့် ပမာဏ မဟုတ်ကြောင်း ကိုရီမေ ခုတော့ သိပြီ။

မရဘူး၊ သူ သည်လိုလုပ်လို့ ဘယ်ရမလဲ။ သူ့ကို ယူစဉ်က သွေးအေးအေးနှင့် ယူခဲ့ သလို ခု သွေးအေးအေးနှင့် ပစ်သွားခြင်းပဲ။ ကိုရီမေ အပြင်ရောက်တော့ ရထားကြီး ထွက်သွား နှင့်ပြီ။

# (၂)

မူလ နေခဲ့သည့် နေရာသို့ ကိုရီမေ ပြန်သွားသည်။ အမျိုးသမီးက သူ့ကို ခြေဆုံး ခေါင်းဆုံး ကြည့်ပြီး လိုလိုချင်ချင် ရှိပုံမရ။ ကြိုတင်ငွေ တင်နိုင်မှ ဖြစ်မည်ဟု ပြော၏။ ကိုရီမေက ထုတ်ပေး လိုက်သည်။

ရက်ပေါင်းများစွာ ကိုရီမေ အိပ်ရာထဲတွင် လှဲပြီး စဉ်းစားသည်။ လောကကြီးထဲကို ဘယ်ပုံ ဘယ်နည်းနှင့် ပြန်ဝင်ရမည်လဲ။ ကိုရီမေ စဉ်းစားရမည်။

ဂီးလ်ဒေးသည် အလွန့်အလွန် အောက်တန်းကျသူ ဖြစ်၏။ သူ့ကိုမှ ကိုရီမေ ရွေးခဲ့ခြင်း ဖြစ်၏။ သို့သော် ဒါတွေ ပြန်တွေးနေလို့ ဘာမျှ အကျိုးမရှိနိုင်ဟု ကိုယ့်ကိုယ်ကိုယ် ဆုံးမသည်။ အရေးကြီးသည့် ကိစ္စများကို လက်တွေ့ကျကျ သုံးသပ်ရမည်။ နေစရိတ်၊ စားစရိတ်နှင့် ဆိုလျှင် ဒေါ်လာတရာသည် သည်ခေတ်ကြီးတွင် ရေပွက်ပမာမျှသာ ခံပေလိမ့်မည်။ သည်တော့ အလုပ်တခုခု လုပ်ရလိမ့်မည်။ လုပ်ခဲ့ဖူးသည့် အလုပ်မျိုး ပြန်လုပ်ရုံပေါ့။ လိုချင်မှလည်း လိုမည်။ မိမိတွင် ရုပ်ရည်ရှိသည်။ အဝတ်အစားတွေ သေတ္တာအပြည့် ရှိသည်။ ဂီးလ်ဒေး မပါဘဲ တယောက် တည်းသွားလျှင် ယောကျ်ားတွေ မိမိကို အာသာငမ်းငမ်း ကြည့်ကြသည် မဟုတ်လား။

သည်စိတ်များဖြင့် ကိုရီမေ ချာလည်လည်နေစဉ် အားလုံး ပြိုကျပျက်စီးသွားသည့် အဖြစ်နှင့် ကြုံရတော့၏။ မိမိတွင် ကိုယ်ဝန်ရှိနေပြီ။

မိမိ ရယ်မောခဲ့သူများသည် မိမိအား တကျော့ပြန်ပြီး သရော်ပြုံး ပြုံးကြတော့မည်။ ဘုရားသခင်သည် မိမိလုပ်ခဲ့သည့် မကောင်းမှုများအတွက် ဒဏ်ခတ်ခဲ့လေပြီ။ ဟိုတုန်းက အဖေ တရားဟောစဉ် ဘုရားရိုက်သည့် အကြောင်း ပါလျှင် လုံးဝ မယုံကြည်ခဲ့။ ခုတော့ လက်တွေ့ခံရပြီ။

မိမိ၏ ညှော့ခံပွဲများကို လာရောက် စားသောက်ကြသည့် မိတ်ဆွေတွေ အများကြီး ရှိတာပဲဟု စဉ်းစားမိသေး၏။ ခုတော့ သူတို့သည် မိမိအား သေလား၊ ရှင်လားပင် သိကြမည် မဟုတ်တော့။ သတိရကြမည် မဟုတ်တော့။ ဆိပ်ကမ်းရပ်ကွက်ကို ပြန်သွားရင်ကော။ သူတို့ ကိုယ်တိုင် ငတ်ပြတ်နေသူများဆီကို သွားလျှင် ဆေးအတွက် ပိုလေးမည် မုချ။

အဝတ်အစားတွေအကြောင်း စဉ်းစားမိ၏။ သည်ခေတ်ကြီးတွင် ဝတ်ပြီးသား

အဝတ် ဟောင်း ဈေးကွက်ကလည်း မရှိ။ လက်ဝတ်ရတနာတွေကလည်း အားလုံး အတုတွေ။

လက်ရှိနေအိမ်က ဆင်းပေးလိုက်ရပြီ။ လမ်းဘေး တဲစုတ်ကလေး တခုသို့ ပြောင်းခဲ့ ရပြီ။ မိုးနှင့်ဆောင်းအခါတွင် အထူဆုံး ခြုံထည်သည်ပင် နွေးအောင် မလုပ်နိုင်။ ကျန်သည့်ပိုက်ဆံကလေး မဖြစ်စလောက်ကို မသုံးရဲ။ ဗိုက်အဆာခံပြီး ကြိတ်မှိတ်နေသည်။ မျက်တွင်းများ ချောင်ကျပြီး အဝတ်တွေက မတော်တော့။ အပြင်ထွက်လျှင် ခြုံထည်ကြီး ခြုံသွားရ၏။

အဖျား ဝင်လာသည်။ ဘာမျှ စားချင် သောက်ချင်စိတ် မရှိတော့။ စုတ်ပြတ်နေသည့် မွေ့ရာပေါ်တွင် ဗိုက်ထဲက ကလေးနှင့် မိမိနှစ်ယောက်တည်း ရှိသည်။ ရှေ့လျှောက် ဘာတွေ ဖြစ်ဦးမည် ဘယ်သူမျှ မပြောနိုင်။ ကလေး သေချင် သေမည်၊ ကလေးရော မိခင်ပါ နှစ်ယောက် စလုံး သေချင် သေမည်။ သို့သော် ကိုရီမေ မသေချင်သေး။

တနေ့တွင် အခန်းရှင် အမျိုးသမီးက လခ လာတောင်းသည်။

"ကျွန်မမှာ ပိုက်ဆံ မရှိဘူး" ပြောတော့ အမျိုးသမီးက-

"ငါ့မှာလည်း မရှိဘူးအေ့၊ ငါ ညည်းကို ကုသိုလ်ဖြစ် ထားတာ မဟုတ်ဘူး"

အမျိုးသမီးက ကိုရီမေ့ အဝတ်သေတ္တာကို သွားဖွင့်သည်။

"ငါ့ကြွေးတွေအတွက် ဒါတွေ ငါယူလိုက်မယ်၊ ညည်း ဆင်းသွားတော့"

ခါတိုင်းလိုဆိုလျှင် ကိုရီမေ ကက်ကက်လန် ပြန်အော်ပြီး ရန်တွေ့မည် ဖြစ်သည်။ ခုတော့ ဘာမျှ တုံ့ပြန်ချင်စိတ် မရှိ။ ဘာမျှ မပြောတော့ဘဲ ကိုယ့်ကိုယ်ကိုယ် အနိုင်နိုင်သယ်ကာ ထွက်လာခဲ့သည်။

လမ်းပေါ်တွင် လူတွေ သွားလာ လှုပ်ရှားနေကြ၏။ ကိုရီမေကို တယောက်မျှ မသိ၊ ဘယ်သူမျှ လှည့်မကြည့်။ အဖျားရှိနေသဖြင့် လမ်းလည်း မလျှောက်နိုင်။ လမ်းဘေးတွင် ခဏ ထိုင်လိုက်သည်။

ဗိုက်ထဲက ရစ်ပြီး နာလာသည်။ သည်နေ့ တနေ့လုံး ဘာမျှ မစားရသေး။ မနေ့ကတော့ နောက်ဖေးလမ်းကြားထဲမှာ ပစ်ထားသည့် စားကြွင်းစားကျန်တွေ ယူစားမိ၏။ သည်အတွက် ဗိုက်နာခြင်း ဖြစ်မည်။

နီဂရိုး ရဲတယောက်က သူ့ကို ဖိနပ်ဦးနှင့် ထိုးပြီး လမ်းပေါ်မှာ မထိုင်ဖို့

ပြောသည်။ သည်တော့ မထချင် ထချင်ဖြင့် ဆက်လျှောက်ရသည်။ စိတ်မှတ်မဲ့စွာဖြင့် လျှောက်ရင်း လျှောက်ရင်း ဆိပ်ကမ်းဘက်ကို ရောက်လာခဲ့သည်။ မစ္စစ်စပီကတော့ ဘယ်သူတွေ ဘာဖြစ်ဖြစ် မသိသလို တငြိမ့်ငြိမ့် စီးဆင်းနေဆဲပင်။ မိမိဘဝသည်လည်း ဆက်လက် စီးဆင်းနေရမည်။ အားလျှော့၍ မဖြစ်။

သို့သော် သည်ကလေးကို မည်သို့ မွေးရမည်လဲ၊ ကိုရီမေ မသိ။ ပထမတော့ ဂီးလ်ဒေး၏ သွေးမို့ မလိုချင်။ မိမိသွေးလည်း ပါကြောင်း နောက်မှ သတိရပြီး မွေးဖို့ ဆုံးဖြတ်ခြင်း ဖြစ်၏။ ကလေးကို အိမ်ကြီးတွေ၊ ယာခင်းကြီးတွေ အမွေမပေးနိုင်သော်လည်း လောကကြီးထဲတွင် ကြံ့ကြံ့ခံ ရပ်တည်နိုင်ဖို့ အရည်အချင်းတော့ ပေးနိုင်ရမည်။

သေတ္တာကြီးတလုံးကိုမှီပြီး ကိုရီမေ ရပ်နေသည်။ နီဂရိုးတယောက် သကြားစည်လွတ်တွေကို လှည်းပေါ်တင် နေ၏။ ဝက်သစ်ချမြိုင်ကို သတိရလာ၏။ စရောက်သွားသည့် နေ့က သည်လို လှည်းကြုံဖြင့် ပါသွားခြင်း မဟုတ်လား။

ထိုနေ့က ကိုရီမေသည် အန်းရှာရမီကို သဘောအကောင်းဆုံး အမျိုးသမီးဟု ထင်ခဲ့၏။ အန်းက မိမိအား ဆယ်ဒေါ်လာ ကြွေးဆပ်ပြီးပြီ။ လူကြုံဖြင့် ပို့ပေးခဲ့ခြင်း ဖြစ်၏။ “ကိုရီမေ အပ္ပဂျွန်းသို့၊ အန်းရှာရမီလန်းမှ ကြွေးဆပ်ခြင်း”ဟု စာအိတ်ပေါ်တွင် ရေးထားသည်။ ဂီးလ်ဒေး ဖတ်ပြ၍ သိရခြင်း ဖြစ်၏။ သည်တော့ ဝက်သစ်ချမြိုင်ကို ကြွေးတောင်းဖို့ ဟူသည့် အကြောင်း ပြချက်ဖြင့် လိုက်သွား၍ မဖြစ်တော့။ အန်းရှာရမီဆီ သွားဖို့ထက် မြစ်ထဲ ခုန်ချပြီး သေလိုက်ဖို့က ကိုရီမေအတွက် လွယ်လိမ့်မည် ဖြစ်သည်။

ဗိုက်ထဲက ဆာလောင်မှုဒဏ်က မခံမရပ်နိုင်လောက်အောင် ဖြစ်လာသည်။ သည်ကလေး ကို မွေးမည် ဆိုလျှင် မိမိ အသက်ရှင်ရမည်၊ ဗိုက်ပြည့်ရမည်။

နီဂရိုးက စည်လွတ်တွေ တင်ပြီးသဖြင့် သူ့မြည်းကို လှည်းမှာ ပြန်တပ်နေပြီ။ သူ မသိအောင် ကိုရီမေ လှည်းနောက်ပိုင်းမှ တက်လိုက်၏။ ဟိုရောက်တော့မှ လွန်မိသမျှ ဝန်ချတောင်းပန် တော့မည်။ ကမ်းနားလမ်းမှာ ချိုင့်ခွက်တွေနှင့် ဆိုးသည်ထက် ဆိုးနေ၏။ ဘယ်သူမျှ မပြင်ဘဲ အစိုးရဆီက ငွေကို ဂီးလ်ဒေးက အိတ်ထဲ ထည့်သွားပြီ။

ဝန်ချတောင်းပန်ပြီး ရရာအလုပ် လုပ်ရမည်။ နောက်ဆုံး ကွင်းထဲပို့ပို့ လုပ်ရတော့မည်။ ထမင်းတလုတ်အတွက် ဘယ်လောက် ပင်ပန်းပင်ပန်း လုပ်မည်။ ယခင်အလုပ်ကို ပြန်ရချင် လည်း ရမှာပါလေ။ သူ့မှာ ဖာစရာ ထေးစရာတွေ တောင်လို ပုံနေရောပေါ့။

ဂိုဒေါင်တလုံးရောက်တော့ လှည်းသမားက စည်တွေ ချသည်။ သည်တော့မှ ကိုရီမေ ကို တွေ့သွား၏။

"ဟဲ့ . . . အဖြူမ၊ နင် ဘာလုပ်နေတာလဲ"

သူက ပြုံးပြပြီး-

"လှည်းစီးချင်လို့ လိုက်လာတာပါ"

"ကဲ ... ဆင်း... ငါ့မှာ လုပ်စရာတွေ ရှိသေးတယ်"

"ရှေ့ဆက် မသွားတော့ဘူးလား"

"မသွားတော့ဘူး၊ ငါ အိမ်ပြန်တော့မှာ၊ ငါ ဗိုက်ဆာလှပြီ"

ကိုရီမေ့ ဗိုက်ထဲက ပိုဆာလာသည်။

ဝက်သစ်ချမြိုင် ရောက်ဖို့ အဝေးကြီး လိုသေးသည်။ ဘာမျှ မတတ်နိုင်၊ ဆက်လျှောက် ရတော့မည်။ ကွင်းထဲတွင် အလုပ်သမား အနည်းအကျဉ်း လှမ်းမြင်ရ၏။ စိုက်ကွင်းထဲတွင် ပေါင်းပင်၊ မြက်ပင်တွေက မင်းမူနေပြီ။ ခြေထောက်တွေ ကိုက်ခဲလာပြီး ဗုန်းဗုန်းလဲခါနီးတော့မှ ဝက်သစ်ချမြိုင်ဂိတ်ဝသို့ ရောက်၏။ ဟင် . . . တံခါးကြီး သော့ခတ်လို့ပါလား။ ကိုရီမေ အတွင်းဘက်သို့ လှမ်းကြည့်သည်။ ကလေးတယောက် ဘောလုံးကန်နေသည်ကို လှမ်းမြင်ရ၏။ ဒင်းနစ်လန်းကလေး ဖြစ်မည်။ ခုနစ်နှစ် ရှစ်နှစ်သားလောက် ရှိရော့မည်။ သို့သော် သူ ကစား နေသည့် နေရာက အတန်ဝေးသည်။ လှမ်းခေါ်လို့ ကြားနိုင်မည် မထင်။

ကိုရီမေအတွက် ကံကောင်းချင်တော့ ကလေး ကန်နေသည့် ဘောလုံးက ဝင်းတံခါးဘက် ရောက်လာသည်။ ဘောလုံး ကောက်ဖို့ ဒင်းနစ်ကလေး ပြေးလာ၏။

ကိုရီမေ လှမ်းခေါ်လိုက်သည်။

"ဒီမှာ ကလေး၊ ဒင်းနစ်"

ချာတိတ်က ဂိတ်ဝဆီကို ပြေးလာသည်။ ကိုရီမေကို မြင်တော့ တအံ့တသြကြည့်ပြီး -

"ဟုတ်ကဲ့ ခင်ဗျာ"

"မင်းက ဒင်းနစ်လန်း မဟုတ်လား ဟင်"

“ဟုတ်ကဲ့ပါ ခင်ဗျာ၊ ကျွန်တော် ဒင်းနစ်လန်းပါ”

ချာတိတ်က ယဉ်ကျေးစွာ ဖြေသည်။

“သားမေမေနဲ့ တွေ့စရာရှိလို့ တံခါး ခဏ ဖွင့်ပေးပါကွယ်”

“ကျွန်တော့်မှာ သော့မရှိပါဘူး ခင်ဗျာ၊ သော့ကို အမေကိုယ်တိုင် သိမ်းပါတယ်၊ ကျွန်တော့်မေမေ မီးဖိုဆောင်မှာ ရှိနေပါတယ်၊ ပတ်သွားပြီး နောက်ပေါက်က ဝင်ပါလား ခင်ဗျာ”

“အေးကွယ်၊ ကျေးဇူးပါပဲ"

ကိုရီမေ စိတ်ပျက်လက်ပျက် သက်ပြင်းချသည်။ တကွေ့တပတ်ကြီး သွားရဦးမည်။ သို့သော် ဘာမျှ မတတ်နိုင်။ ဆက်လျှောက်ရတော့၏။

နောက်ဘက်ကို ပတ်သွားစဉ် ဝါခင်းများကို လှမ်းကြည့်လိုက်၏။ စိုက်ခင်းတွေ ပစ်စလက်ခတ် ဖြစ်နေ၏။ ဝက်သစ်ချမြိုင်၏ စီးပွားရေးအခြေအနေ မကောင်းသည်မှာ ထင်ရှား နေ၏။ သည်တော့ မိမိအလုပ်ရဖို့ သေချာသလောက် ဖြစ်နေပြီ။ အိမ်နောက်ဘက် ဂိတ်ဝရောက် တော့ နောက်တံခါးလည်း ပိတ်ထား၏။

မိန်းကလေးတယောက်ကို လှမ်းမြင်သဖြင့် အော်ပြောလိုက်သည်။

“တံခါး ခဏ ဖွင့်ပေးပါ မလေးရယ်”

မိန်းကလေးက သူ့ပုံစံကို ကြည့်ပြီး-

“ရှင် ဘာလိုချင်လို့လဲ”

“မစ္စက်လန်းနဲ့ တွေ့ချင်လို့ပါကွယ်”

“ဘာကိစ္စရှိလို့လဲ”

“အလုပ်ကလေး ဘာကလေးများ ရမလားလို့ပါ မလေးရယ်”

“ဒီမှာ ဘာအလုပ်မှ ပေးစရာ ရှိမယ် မထင်ဘူး”

“ဒါပေမဲ့ မစ္စက်အန်းနဲ့ ခဏလေး တွေ့ပါရစေကွယ်၊ သိပ်အရေးကြီးနေလို့ပါ”

“ကောင်းပြီလေ”

မိန်းကလေးက အိတ်ထဲမှ သော့ယူပြီး နောက်ဖေးခြံတံခါးကို ဖွင့်ပေးသည်။ မစ္စစင်သီယာ လန်း ဖြစ်ရမည်ဟု ကိုရီမေ ခုမှ တွေးမိ၏။ "မင်္ဂလာပါ အန်ကယ်အလန်"ဟု စစ်ရေးပြပွဲနေ့က ဂျူဟန်အိမ်ကြီးအောက်တွင် နှုတ်ဆက်သည့် မိန်းကလေး။

မီးဖိုဆောင်ဘက်သို့ ကိုရီမေ လျှောက်သွားသည်။ အန်းက မီးဖိုနံရံဘေးတွင် ထိုင်ပြီး ကိုက်လန်တွေ လှီးနေ၏။ မီးအပူရှိန်ကြောင့် အန်း၏ မျက်နှာမှာ နီရဲနေ၏။

ကိုရီမေကို မြင်တော့ မမှတ်မိသလို ကြောင်နေသည်။

"မမအန်း၊ ကျွန်မ ကိုရီမေပါ၊ မမှတ်မိဘူး ထင်တယ်"

အန်းက ဓားကို စားပွဲပေါ် ပစ်ချပြီး-

"ကြည့်စမ်း... ကိုရီမေအပွဂျွန်း၊ မင်း ဘာလာလုပ်တာလဲ၊ မင်းကို ဘယ်သူ တံခါး ဖွင့်ပေးသလဲ"

"မစ္စစင်သီယာ ဖွင့်ပေးတာပါ၊ မမအန်းနဲ့ ကျွန်မ တွေ့ချင်လို့ပါရှင်"

အလုပ်အကြောင်း ပြောမည့်ဆဲဆဲတွင် ဟင်းနံ့တွေ မွှေးနေသဖြင့် ဘာမျှ သတိမရတော့ဘဲ-

"ကျွန်မကို တခုခုကျွေးပါ မမအန်းရယ်"

အန်းက ပါးစပ် အဟောင်းသားနှင့် -

"ဘာ.... မင်း ဆာလာတယ် ဟုတ်လား"

ကိုရီမေ ခေါင်းညိတ်ပြီး-

"ကျွန်မ ဘာမှ မစားရတာ မနေ့ကတည်းကပါ မမအန်းရယ်"

အန်းက ဘာမျှ မပြောဘဲ သူ့ကို တွေပြီး ရပ်ကြည့်နေဆဲ။

"ရေတခွက်လောက် အရင် သောက်ပါရစေနော်"

အန်း ဘာမျှ မပြော။ ကိုရီမေ မနေနိုင်တော့။ သူ့ဘာသာသူ ရေခပ်သောက်သည်။

"မမအန်း သိပ်အံ့သြနေမှာပဲ၊ ကျွန်မ အလုပ် လုပ်ချင်လို့ ပြန်လာခဲ့တာပါ ၊

မမမှာ ပိုက်ဆံ မရှိရင်လည်း မပေးပါနဲ့၊ ကျွန်မ စားဖို့နဲ့ နေဖို့ ရရင် ဖြစ်ပါတယ်”

ခုချိန်အထိ အန်း တချက်မျှ မလှုပ်သေး။ ကိုရီမေ ဟန်မဆောင်နိုင်တော့။ ဘီစကွတ် ပန်းကန်ထဲမှ မုန့်တွေကို ယူပြီး စားတော့၏။

အန်းက သူ့ကို ကြည့်ပြီး-

“မင်း ကလေးမွေးတော့မယ် ပေါ့လေ ဟုတ်လား”

“ဟုတ်ကဲ့ မမအန်း”

မုန့်တွေ နင်မလို ဖြစ်နေသဖြင့် ကိုရီမေ ရေတကျိုက် မော့လိုက်ပြန်သည်။

“ဂီးလ်ဒေးက နင့်ကို ကန်ထုတ်လိုက်ပြီ မဟုတ်လား၊ အစကတည်းက နင် အဲဒီလိုဖြစ် မယ် ဆိုတာ မသိဘူးလား”

“မမအန်း ပြောတာ ဟုတ်ပါတယ်၊ ကျွန်မ သူ့ကို ယုံလိုက်မိတယ်”

အန်း သရော်ပြုံး ပြုံးသည်။

“ခုတော့ နင် ကိုယ်ချင်းစာတတ်လောက်ရောပေါ့၊ ကလေးတယောက် နို့အဆိပ်သင့် လို့ အပြင်းဖျားပြီး ရေခဲလို နေချိန်မှာ...”

ပြောရင်း အသံတွေ တုန်လာသည်။

“ကလေးရဲ့အသက်ကို ကယ်ဖို့ ရေခဲကလေး နည်းနည်းမှ မရဘူး၊ တစုံတယောက်က အရက်ပုလင်းစိမ်ဖို့ ရှိသမျှ ရေခဲတွေကို ချုပ်ပြီး ဝယ်ထားတယ် . . .”

“မမအန်း ဘာတွေ ပြောနေတာလဲ ဟင်”

“နွေတုန်းက ဆုံးသွားတဲ့ ငါ့သမီးကလေး အကြောင်း ပြောနေတာ၊ ဒီကလေးကို နင် သတ်ရတာ... နင် ပျော်သလား”

ကိုရီမေ ခေါင်းကို ဖြည်းဖြည်းယမ်းပြီး-

“မမအန်း ဘာတွေ ပြောနေတာပါလိမ့်၊ ကျွန်မ ဘယ်ကလေးမှလည်း မသတ်ရပါလား၊ မမအန်းရဲ့ သမီးကလေး သေတာလည်း ကျွန်မ မသိဘူး၊ မမအန်း သမီးကလေး ထပ်ရတယ် ဆိုတာတောင် ကျွန်မ မသိပါဘူးရှင်”

“နင် ရေခဲဒိုင်က ရှိသမျှ ရေခဲတွေ ချုပ်ဝယ်လိုက်တဲ့ အချိန်မှာ ကလေးတွေ ဖျားရင် နာရင် ရေခဲလိုမယ် ဆိုတာ နင် မစဉ်းစားမိဘူးလား၊ ဒါလောက်ပူတဲ့ ရာသီမှာ တခြားလူတွေ လည်း ရေခဲလိုမယ် ဆိုတာ နင် မစဉ်းစားမိဘူးလား၊ ငါ့သမီးလေး သေကောင်ပေါင်းလဲ ဖြစ်နေချိန်မှာ နင်က ဒေါင်းရုပ်တွေနဲ့၊ ရှန်ပိန်နဲ့၊ ကပွဲကြီးနဲ့။ ဟင်း . . . ခုတော့ ငါ့ဆီမှာ လာပြီး စားစရာ တောင်းနေတယ်”

အန်း နာနာကြည်းကြည်း ရယ်သည်။ သည်ရယ်သံကြောင့် ကိုရီမေ့ ကျောထဲ စိမ့်သွား၏။

အန်းသည် ကိုရီမေရှေ့မှ မုန့်ပန်းကန်ယူပြီး ပြတင်းပေါက်မှ အပြင်သို့ လွှင့်ပစ်လိုက်၏။ မြေကြီးပေါ်တွင် ပန်းကန် ကျကွဲသွားသည်။

“ထွက်သွား၊ နင် ... ခု ထွက်သွား၊ လမ်းပေါ်မှာ ငတ်သေ”

မိန်းမသားနှစ်ယောက် တယောက်နှင့် တယောက် စိန်းစိန်းကြည့်လိုက်ကြသည်။ ကိုရီမေသည် ကြိုတင် စီစဉ်ထားခြင်း မရှိဘဲ ကရားရေလွှတ် စကားတွေ ပြောနေ၏။

“ကျွန်မကို လမ်းပေါ်မှာ ငတ်ပြီး သေစေချင်တယ်ပေါ့ ဟုတ်လား၊ အဲဒီအတွက် ကျွန်မ ဖြုံမယ်ထင်လား၊ ကျွန်မအတွက် ဘာမှ အကြောင်း မထူးဘူး။ ကျွန်မ ငတ်ပြီး သေသင့်တာ၊ သေမလိုဖြစ်တာ ကြာပြီ။ မမ သမီးကလေး ဖျားနေတာ ကျွန်မ မသိဘူး၊ ခုလို သေသွားရတာ ကျွန်မ စိတ်မကောင်းပါဘူး၊ ဒါပေမဲ့ အဲဒါ ကျွန်မနဲ့ မဆိုင်ဘူး၊ ကျွန်မ မသိဘူး။ အဲဒီလို လိုရာ ဆွဲပြောကြေးဆိုရင် ဘတ်ချ်ဖို့စတာ ပစ်သတ်ခံရတာလည်း မမတို့အပြစ် မကင်းဘူး၊ တောင်ပိုင်း အတွက် စစ်တိုက် မပေးချင်လို့ ပစ်သတ်ခံလိုက်ရတာလေ”

ဒေါသဖြစ်နေရာမှ အံ့ဩသည့် အမူအရာများ အန်း၏ မျက်နှာတွင် ပေါ်လာသည်။

“ဖို့စတာ၊ ငါ တခါမှ မကြားဖူးဘူး”

သည်တခါ ကိုရီမေ ရယ်သည်။

“ဘယ်ကြားဖူးမလဲ၊ ကျွန်မတို့ မသိလိုက် မကြားလိုက်ဘဲ ဖြစ်သွားတဲ့ အဖြစ်အပျက်တွေ အများကြီးပဲ။ ရှင် ကျွန်မကို ငတ်သေပါစေ ဆုတောင်းတယ်၊ ကြည့်ပါ၊ ရှင့်ဆုတောင်း မပြည့် စေရဘူး”

ကုလားထိုင်ပေါ်သို့ အန်း ထိုင်ချမိလျက်သား ဖြစ်သွားပြီးတော့မှ

လည်ချောင်းထဲက ထွက်လာသည့် အသံဖြင့် အော်သည်။

“ထွက်သွား၊ ခု ထွက်သွား”

“ ဟုတ်ကဲ့ . . . သွားမှာပါ”

တံခါးဝ ရောက်မှ ကိုရီမေ ပြန်လှည့်ကြည့်သည်။

“ကျွန်မ တကယ်ပြောတာပါ၊ ကလေးအတွက် စိတ်မကောင်းပါဘူး၊ လိုအပ်တဲ့အချိန် မှာ လိုအပ်တဲ့ပစ္စည်း မရတတ်တာဟာ ဖြစ်တတ်တဲ့ သဘောတော့ ရှိပါတယ်၊ အဲဒီအခါမျိုးမှာ မရှိ ရှိတာနဲ့ ဖြစ်အောင် လုပ်တတ်ဖို့ လိုပါတယ်၊ နောင်မှာလည်း ကြောက်စရာကောင်းတဲ့ နွေကန္တာတွေ ရှိနေဦးမှာပဲ၊ မမအန်းမှာ သားကလေးတယောက် ရှိသေးတယ်၊ အဲဒီလိုအခါ မျိုးမှာ နို့ပုံးကို အလုံပိတ်ပြီး ရေတွင်းထဲ ချထားပါ၊ အနက်ဆုံးနေရာအထိ ချထားပါ၊ ရေခဲစိမ် ထားသလောက် စိတ်ချရပါတယ်”

※※※

# အခန်း(၁၃)

## (၁)

ဝက်သစ်ချမြိုင်မှ ထွက်လာပြီး ကိုရီမေ လမ်းလျှောက်ပြန်ခဲ့သည်။ ကွင်းထဲ ဖြတ်ပြီး အကွေ့အပတ်တွေအတိုင်း လိုက်လျှောက်သည်။ ကြာတော့ ဘယ်ရောက်လို့ ဘယ်ပေါက်နေမှန်း မသိတော့။ ဝက်သစ်ချမြိုင်မှ ထွက်လာကတည်းက ခေါင်းထဲတွင် ဘာမျှ မကျန်တော့။ သို့သော် ဆက်လျှောက်နေရမည် ဆိုတာတော့ သိသည်။

ခြေထောက်နှစ်ဖက်က မနိုင်ဝန်ကို သယ်နေရ၏။ လမ်းပေါ် ပြန်ရောက်လာတော့ ခေါင်းပေါ်တွင် တွဲလောင်းကျ နေသည့် ရေညှိတွေ လေအဝေ့တွင် ယိမ်းနွဲ့လှုပ်ရှားနေကြ၏။ ကိုရီမေသည်လည်း ခေါင်းပေါ်က ရေညှိမှော်များလို ယိမ်းထိုးကာ လျှောက်လှမ်းလျက် ရှိ၏။ ရှေ့က လမ်းမကြီး မျက်စိထဲတွင် ယိမ်းထိုးလာသည်။ သို့သော် ကိုရီမေ ဆက်လျှောက် လျက်ပင်။ လမ်းဟိုဘက်ခြမ်း ရောက်သွားလိုက်၊ သည်ဘက်ခြမ်း ပြန်ရောက်လာလိုက်နှင့်။

ရပ်လိုက်သည့် အချိန်တွင် ရှေ့က လမ်းမကြီး ရွေ့လျားနေ၏။ အရာတိုင်း ဘယ်ညာ ယိမ်းနေ၏။ ရပ်နေသည့် ခြေထောက်ပေါ်တွင် မိမိကိုယ်တိုင် ယိမ်းထိုးနေ၏။ ပြီး ဒူးခွေညွတ်ကျ ကာ မြေကြီးပေါ်သို့ ပုံလျက်သား လဲကျသွားတော့၏။ မျက်စိမှိတ်ထားသော်လည်း စိတ်တွင် ယိမ်းထိုးနေတုန်းဟု ထင်၏။

ရီဝေဝေဖြင့် နီဂရိုးသံတသံ ကြားလိုက်၏။

"ဘုရား ဘုရား၊ ဟေ့ ... လီဆာ၊ လာကြည့်စမ်း၊ ဒီမှာ အဖြူမကလေးတယောက်"

ခြေသံနှင့်အတူ မိန်းမသံတသံ ထွက်လာသည်။

"အရက်မူးလဲနေတာ ထင်တယ် ဖရက်"

"ဟာ.... မင်းကလည်းကွာ၊ ဒါ အရက်သောက်ရမယ့် အချိန်လားကွ"

“တချို့ နေ့ခင်းကြောင်တောင်လည်း သောက်ကြတာပဲ”

သူ့ကို ဆွဲလှန်လိုက်ကြတော့ ကိုရီမေ ယဲ့ယဲ့ပြောနိုင်သည်။

“ကျွန်မ အရက် မသောက်ပါဘူး”

“ဘုရားသခင်၊ ဖရက် . သူ့မှာ ကိုယ်ဝန်ကြီးနဲ့တော့”

ကိုရီမေ မျက်စိဖွင့်ကြည့်လိုက်သည်။

အမျိုးသမီး၏မျက်နှာ ချက်ချင်း ပျော့ပျောင်းသွား၏။ သူ့ကို မျက်နှာမည်းမည်း နှစ်ခု ငုံ့ကြည့်နေကြောင်း ကိုရီမေ တွေ့ရ၏။ နှစ်ယောက်စလုံး နှစ်လိုဖွယ်ရာ ပြုံးလျက်။

“မလေး လမ်းလျှောက်နိုင်လား ဟင်”

လီဆာက ပွေ့ထူရင်း မေးသည်။

“ကျွန်မ နောက်ထပ် မလျှောက်နိုင်တော့ဘူး”

“ဘယ်ကို သွားမှာလဲ ဟင်”

“ကျွန်မမှာ သွားစရာနေရာ မရှိပါဘူး”

ကိုရီမေ ထိုင်လိုက်သည်။

“တခုခုများ စားရရင် ကျွန်မ လျှောက်နိုင်မလား မသိဘူး”

“သနားစရာကွယ်”

လီဆာက ကရုဏာသံဖြင့် ပြောသည်။

ကိုရီမေက ဖရက်ကို မော်ကြည့်ပြီး-

“ရှင်တို့မှာ အိမ်မရှိဘူးလား ဟင်”

ဖရက် ဇဝေဇဝါ ပြန်ဖြေသည်။

“အိမ်ကလေး ရှိပါတယ်၊ ဒါပေမဲ့ မလေးတို့ လူဖြူတွေအတွက် မသင့်လျော်ဘူး ထင်ပါတယ်”

လှုပ်ရှား ယိမ်းထိုးနေသည့် ကမ္ဘာကြီး ငြိမ်သွားပြီ။ တော်ပါသေးရဲ့။

"ကျွန်မကို ကူညီပါ၊ အိမ်ကို တဆိတ် ခေါ်သွားနိုင်မယ် ဆိုရင် ကျွန်မ အသားရောင် ကို မေ့ထားလိုက်ပါ"

လင်မယားနှစ်ယောက် တယောက်မျက်နှာ တယောက် ကြည့်လိုက်ကြသည်။

"သနားပါတယ်တော်"

လီဆာ ထပ်ပြောသည်။ လင်မယားနှစ်ယောက် တတွတ်တွတ် ပြောနေကြသည်။ ကိုရီမေ ကြားတချက် မကြားတချက်။ ခွေကျသွားပြန်၏။ သူ့ကို ဖရက် ပွေ့ယူသွားပြီး လှည်းပေါ် တင်လိုက်သည်ကို သိနေ၏။ ဦးခေါင်းကို လီဆာက သူ့ပေါင်ပေါ် တင်ထားပေး၏။ နောက်ဆုံး တွင် သစ်လုံးအိမ်ကလေး တလုံးထဲကို မိမိအား သူတို့လင်မယား သယ်ယူသွားကြ၏။

ဖရက်က အော်ဟစ်ဆူညံနေသည့် ကလေးတသိုက်ကို အော်ထုတ်လိုက်သည်။ အိပ်ရာ တခုပေါ်သို့ ကိုရီမေ ရောက်သွားပြီ။ နံဘေးနံရံက ရွှံ့နံရံ။ လီဆာက သူ့ခေါင်းပိုင်း မပြီး ဝက်သားကင်တမြှောင်း ပေးသည်။

"ရော့.. မလေး၊ အားရှိသွားလိမ့်မယ်"

ကိုရီမေသည် အဆီရော၊ အသားရော အခေါက်ပါ ဝါးစားသည်။ ပြီးတော့ လီဆာက ကော်ဖီခွက်ကြီးတခွက် ယူလာပေးသေးသည်။

"မလေး သောက်လိုက်၊ သိပ်ကောင်းတဲ့ ကော်ဖီပါ"

ကိုရီမေ မော့ချလိုက်သည်။

"ဟုတ်တယ် လီဆာ၊ သိပ်ကောင်းတဲ့ ကော်ဖီပဲ"

လီဆာက ပြုံးပြီး မေးသည်။

"သက်သာရဲ့လား ဟင်"

ကိုရီမေက ခေါင်းညိတ်ပြီး ဝက်သားကင်ကို ဆက်စားသည်။ သူ့ကို နီဂရိုးပေါက်စ ကလေးတွေ ဝိုင်းကြည့်နေကြ၏။ လီဆာက ကြိမ်ဆော့ကုလားထိုင်ပေါ်တွင် ရှေ့နောက် လှုပ်ရင်း-

"မြင်တဲ့ အတိုင်းပဲ မလေးရေ၊ ကျွန်မ ပြောမယ် သိလား၊ မလေး ဘာမှ

ဖြစ်တာ မဟုတ်ဘူး၊ အဆာလွန်နေတာ၊ စား… များများ စား”

ကိုရီမေက လီဆာ့လက်ကို လှမ်းကိုင်ပြီး-

“လီဆာ ရှင်ဟာ တကယ့် ခရစ်ယာန်အမျိုးသမီးပဲ၊ သေရင် ကောင်းကင်ဘုံရောက် မှာ သေချာတယ်”

“ကျွန်မ အမြဲ ဆုတောင်းပါတယ် မလေး”

“ကျွန်မလည်း ဝိုင်းပြီး ဆုတောင်းပေးပါ့မယ်”

ကိုရီမေက ကြမ်းပြင်ပေါ်တွင် ဆင်းထိုင်ကာ လီဆာ့ပေါင်ပေါ်မှီရင်း-

“ကျွန်မ ဒီမှာ နေပါရစေနော် လီဆာ၊ ကျွန်မ ဘယ်သူ့ကိုမှ ဒုက္ခမပေးပါဘူး၊ ကျွန်မ ခုလို စားပြီး နားလိုက်ရင် လူကောင်း ဖြစ်သွားမှာပါ။ ကျွန်မ အလုပ်တွေ ဝိုင်းလုပ်ပါ့မယ်၊ ကွင်းထဲဆင်း ဆိုလည်း ဆင်းပါ့မယ်၊ ကလေးထိန်း ဆိုလည်း ထိန်းပါ့မယ်၊ နေပါရစေနော်”

“ဖြစ်ပါ့မလားကွယ်၊ မလေးက လူဖြူ၊ ကလေးမွေးတော့လည်း လူဖြူကလေး မွေးမှာ

“လီဆာတို့က တခြား လူဖြူခရစ်ယာန်တွေထက် စိတ်ကောင်း ရှိပါတယ်ကွယ်၊ ကလေးဟာ လီဆာတို့လို ခရစ်ယာန် ကလေးဖြစ်လာရင် ကျွန်မ မြေကြီးမှာ ဒူးထောက်ပြီး ဘုရားသခင်ကို ကန်တော့ပါ့မယ်”

“ကဲ… ကဲ၊ လှဲနေပါ မလေးရယ်”

ကိုရီမေ နိုးလာတော့ မနက် မိုးလင်းနေပြီ။ သက်သောင့်သက်သာ အညောင်းဆန့်လိုက်၏။ ဖိနပ်ကလွဲပြီး အဝတ်အစားအားလုံး ရှိနေသေးသည်။ စိတ်ထဲတွင် ပေါ့ပါးနေ၏။ တဖက်ကို လှည့်လိုက်တော့ ကလေးနှစ်ယောက် သူ့နံဘေး ကွပ်ပျစ်ပေါ်တွင် အိပ်ပျော်နေသည်ကို တွေ့ရ၏။

ခဏနေတော့ လီဆာ ရောက်လာသည်။ ကလေးနှစ်ယောက် အနားမှာ ထိုင်ချလိုက်ပြီး-

“မလေး နေကောင်းရဲ့လား”

“ကောင်းပါတယ်”"

ကိုရီမေက သူ့နံဘေးတွင် ဆင်းလိုက်သည်။ ကွပ်ပျစ်နံဘေးတွင် သူ့ဖိနပ်နှစ်ဖက် ထောင်ထားသည်ကို တွေ့ရ၏။

"ကျွန်မ မနက်စာ ကူချက်ပေးမယ် လီဆာ"

လီဆာက ပြုံးပြီး "ဒီတယောက်က မနက်စာထက် အရေးကြီးတယ်"ဟု ပြောရင်း အငယ်ကောင်လေး ပွေ့ယူပြီး နို့တိုက်သည်။

"မနက်စာ ဘယ်နားမှာ ချက်လဲ"

"ဟိုဘက်မှာ မီးဖို၊ စင်ပေါ်မှာ ကော်ဖီအိုး ရှိတယ်၊ မီးဖိုထဲမှာ မီးမွှေးပြီးသား မလေး"

ရေနွေးအိုးကို မီးဖိုပေါ်တင်ရင်း ဘုရားသခင်၏ ဂုဏ်ကျေးဇူးတော်ကို အောက်မေ့ကာ တိုးတိုးကလေး ဆုတောင်းနေမိ၏။

# (၂)

ဖရက်သည် အခွန်မဆောင်နိုင်၍ ပြန်ရောင်းသည့် မြေကလေးတကွက်ကို ဝယ် လိုက်ပြီး ဝါဂွမ်းစိုက်နေသူ ဖြစ်၏။ တတုံးထွန် ဝါခင်းကလေးသည် လင်မယားနှစ်ယောက် တက်ညီလက်ညီ အလုပ်လုပ်သဖြင့် အထွက်ကောင်းသည်။ တချိန်တုန်းက ဇစ်ဘတ်တွင် ကျွန်ဘဝဖြင့် နေခဲ့ရ၍ သည်လောက် အလုပ်ကို သူတို့ မဖြုံကြ။

ဇစ်ဘတ်တွင် ယန်းကီးတွေ မြင်မြင်သမျှ မီးရှို့သဖြင့် ကလေးခုနစ်ယောက်နှင့် ဒယ်လ်ရှိုင်း သို့ ပြေးလာခဲ့ကြခြင်း ဖြစ်သည်။ အကြီးလေးယောက်က အလုပ်လုပ်နိုင်နေပြီ။ ကိုရီမေက သူ့မိသားစုကို တတ်နိုင်သလောက် ကူသည်။ ကွင်းထဲ မဆင်းနိုင်သဖြင့် အိမ်မှုကိစ္စကို သူတို့ လှည့်မကြည့်ရအောင် လုပ်ပေးသည်။ ကလေး ထိန်းပေးသည်။

ဖရက်နှင့် လီဆာသည် အလွန်သိတတ်သည့် လင်မယား ဖြစ်သည်။ ကိုရီမေကို ဘာ မေးခွန်းမျှ မမေး။ စိတ်အနှောင့်အယှက် မဖြစ်ရအောင် သိပ်သတိထားသည်။

ကိုရီမေသည် နီဂရိုးတွေကို လူသော့လူသွမ်းတွေဟု တလျှောက်လုံး ထင်ခဲ့၏။ မှားလေစွ။ နောင်တကြီးစွာ ရနေသည်။ သည်လို ကောင်းသည့် လူမျိုးတွေကို ဘယ်မှာမျှ မတွေ့ဖူးခဲ့။

ကိုရီမေ ကလေးမွေးသည့် နေ့တွင် လီဆာ ကွင်းထဲ မဆင်းဘဲ နေသည်။ တနေ့လုံး လုပ်စရာရှိသမျှ အောက်ခြေသိမ်း လုပ်ပေးနေသည်။ ကလေးပေါက်စကလေးကို အနှီးထုပ် ကလေးနှင့် လီဆာ ယူလာပေးတော့ ကိုရီမေ တိုးတိုးပြောလိုက်သည်။

"လီဆာ့ကို ဘုရားသခင်ဆီမှာ အမြဲ ဆုတောင်းပေးပါ့မယ်နော်"

"မလေးမှာ ကလေးရပြီပဲ၊ သူ့အတွက် ဆုတောင်းပါ"

ကိုရီမေ မျက်လွှာချပြီး ဆုတောင်းသည်။

"ဘုရားသခင်၊ တပည့်တော်မ၏ သားကလေးရဲ့ နှလုံးသားကို ဖရက်တို့၊ လီဆာတို့လို ဖြူစင်အောင် ဖန်ဆင်းပေးတော်မူပါ ဘုရား"

လီဆာ့ဘက် လှည့်ပြီး -

“သူ့နာမည်ကို ဖရက်လို့ မှည့်မယ်”

လီဆာက မျက်လုံးပြူးပြီး-

“ကျွန်မယောက်ျား ဖရက်ရဲ့ နာမည်ပေါ့၊ ဟုတ်လား မလေး”

“ဟုတ်တယ်၊ လီဆာ့ယောက်ျား ဖရက်ရဲ့ နာမည်”

“သူ့နာမည် “ဖရက်အပွဂျွန်း” ဖြစ်မယ်၊ ကျွန်မနာမည်လည်း ပါသွားအောင်လေ”

လီဆာ ဝမ်းပန်းတသာ ရယ်သည်။ အပြင်တွင် ထိုင်နေသည့် သူ့ယောက်ျားဆီ သွားပြီး-

“မလေးက သူ့ကလေးကို ရှင့်နာမည်ယူပြီး မှည့်သတဲ့တော်”

ဖရက် စိတ်လှုပ်ရှားစွာဖြင့် ရှက်ကိုးရှက်ကန်း ရယ်နေသည်။ ပြီးမှ ကော်ဖီခွက်ကို ကိုင်ပြီး ကိုရီမေဆီ ဝင်လာသည်။

## (၃)

သူတို့မိသားစုအတွက် ကြာရှည် ဝန်ထုပ်ဝန်ပိုး ဖြစ်မနေစေလို၍ ကိုရီမေ မြို့ထဲသို့ ပြန်ပြောင်းလာခဲ့သည်။ လူတိုင်း ငွေလိုနေချိန်ဖြစ်၍ ကလေးအမေကို ဆိပ်ကမ်းအနီးမှ အိမ် တအိမ်က အခန်းတခန်း ငှားလိုက်ခြင်း ဖြစ်သည်။

အိမ်နောက်ဘက်တွင် အဝတ်လှန်းစရာ ကွက်လပ်ရှိသည်။ ကိုရီမေသည် ကလေးကို ပွေ့ကာ တအိမ်တက် တအိမ်ဆင်း နောက်ဖေးပေါက်မှ အဝတ်တွေ လိုက်စုသည်။

ဒိုဘီအလုပ်ကလေး မှန်မှန်ရလာသဖြင့် နေရေး၊ စားရေး အဆင်ပြေလာသည်။ ဖရက် ကလေးက ထွားသည်။ သူက အကြီး မြန်လေ၊ ကိုရီမေ ဒုက္ခ ရောက်လေလေ ဖြစ်လာ၏။ သူ့ကို ချီရသည်က တဖက်၊ ခေါင်းပေါ်မှ အဝတ်ထုပ်ကြီးက တဖက်။

ပထမတော့ သည်လိုဘဝမျိုးကို စိတ်ညစ်စရာ ဖြစ်လိမ့်မည်ဟု ကိုရီမေ ထင်၏။ သို့သော် ထွားကျိုင်းကာ ချစ်စရာကောင်းသည့် သားကလေးကို ကြည့်ပြီး ကိုရီမေ ပျော်နေသည်။ သားကလေးကို ထွန်းထွန်းပေါက်ပေါက် ဖြစ်အောင် လုပ်မည်၊ လူကြီးလူကောင်းတယောက် ဖြစ်အောင် လုပ်မည်။

စစ်ဖြစ်ပြီး မတည်မငြိမ် ကြားကာလ ကုန်ဆုံးသွားပြီ။ လူတွေ အလုပ်အကိုင် ပြန်ကောင်း လာကြ၏။ စိုက်ပျိုးရေး လုပ်ငန်းရှင်ကြီးများလည်း ပြန်လည် ခေါင်းမော်လာကြ၏။

ဝက်သစ်ချမြိုင် မြင်းလှည်းကြီးပေါ်တွင် အန်းတို့သားအမိကို ကိုရီမေ လှမ်းမြင်လိုက် သည်။ ဒီတသက် ပြန်ဆုံကြတော့မည် မထင်။ သူ ဆုတောင်း မပြည့်ကြောင်းတော့ ကိုရီမေ ပြချင်သေး၏။ လမ်းဘေးတွင် ငတ်မသေဘဲ သားကလေးနှင့် ဘဝသစ်တခုကို ပြန်စနေပြီလေ။

"သူတို့တွေက ဒီလို ရထားကြီးတွေ စီးနိုင်တယ်နော် မေမေ၊ ဟုတ်လား"

ဖရက်က မအေကို မေးသည်။

"ဟုတ်တယ် သား"

ကိုရီမေ တိုတိုပင် ဖြေလိုက်သည်။ ဖရက်က သူ့အရပ်ကို မီးလင်းဖို့နှင့်

သွားသွား တိုင်းလေ့ရှိ၏။ မီးလင်းဖို အမိုးနှင့် သူ့ခေါင်း ထိလျှင် သူ အလုပ်လုပ်မည်ဟု ပြော၏။ သူ အလုပ်လုပ်ပြီး ကြီးပွားလာလျှင် သည်လိုရထားကြီးတွေ ဝယ်စီးမည် ဆို၏။

လောလောဆယ်တွင်တော့ ဖရက်က မအေကို ကူနိုင်နေပြီ။ အဝတ်ထုပ်တွေ ထမ်းပိုးပြီး ပို့နိုင်နေပြီ။

ကိုရီမေက ဖရက်ကို ကျောင်းတက်ချိန်တန်ပြီဟု ပြောပြီး ကျောင်းအပ်လိုက်သည်။ ဆိပ်ကမ်းနားက အိမ်တအိမ်တွင် ကျောင်းဖွင့်ထားသည်။ စာအုပ်ဖိုးမှ လွဲပြီး ဘာမျှ မကုန်။

ဖရက်က ကျောင်းမတက်ချင်။

"ဟာ... မေမေကလည်း၊ တနေကုန် မပြန်ရဘူး မဟုတ်လား"

"ကျောင်းဆိုတာ ပျော်စရာကောင်းတယ် သားရဲ့၊ သား စာတတ်မှ ဖြစ်မှာ၊ စာမတတ်ဘဲ သား ရထားကြီးတွေ စီးရမှာ မဟုတ်ဘူး"

"မေမေကျတော့ စာမတတ်ဘူး ဆို"

"ဒါကြောင့် မေမေ ဒီဘဝကို ရောက်နေတာပေါ့ သားရဲ့၊ လူဖြူဖြစ်ပြီး နီဂရိုးမတွေ လုပ်တဲ့ အလုပ်ကို လုပ်နေရတယ် လေ"

"မေ့မေ့မှာ စာအုပ်ဝယ်ဖို့ ပိုက်ဆံရှိလို့လား"

စနေနေ့မှာ တဒေါ်လာနဲ့ ဆယ့်သုံးဆင့် ရဖို့ ရှိတယ်၊ သားအတွက် စာအုပ်နဲ့ ကျောက်သင်ပုန်း ဝယ်နိုင်မှာပါ"

နွေလယ်ပိုင်းတွင် ဖရက် ကျောင်းစတက်သည်။ မကြာခင်အတွင်း "ဖရက်အပ္ပဂျွန်း" ဟူသည့် သူ့နာမည်ကို ကျောက်သင်ပုန်းပေါ်တွင် ရေးတတ်လာသည်။ ကိုရီမေ ဂုဏ်ယူလို့ မဆုံးတော့။

သို့သော် ဆောင်းတွင်းနေ့ တညနေတွင် ကိုရီမေ အထုပ်ကြီးရွက်ပြီး အိမ်ပြန်လာတော့ အခန်းထောင့်တွင် ခွေခွေကလေး ထိုင်ပြီး ငိုနေသော ဖရက်ကို တွေ့ရသည်။

နေမကောင်းဘူးလား မေးတော့ ဘာမှ မဖြစ်ပါဘူးဟု ပြော၏။ သို့သော် ငိုရသည့် အကြောင်း မေးလို့ မရ။ အတင်းမေးမှ အဖြေရတော့၏။

ဖရက်အတွက် ကိုရီမေက ဂျုံအိတ်ကို ဖျက်ပြီး အင်္ကျီချုပ်ပေးထားသည်။ သေသေ ချာချာ လျှော်ဖွပ်ပေးလိုက်သော်လည်း တံဆိပ်က မပျက်။ ဒါကို ကောင်လေးတွေ ဝိုင်း စကြ သည် တဲ့။ နောက်နေ့ ကျောင်းမသွားတော့ဘူး ဟုလည်း ဆို၏။

ဖရက်ကို ကိုရီမေ ပွေ့ဖက် ချော့မော့သည်။ သို့သော် ဖရက်ကိုယ်က မအေ့ရင်ခွင်နှင့် မဆံ့တော့။ ဘယ်လို ချော့ပြောပြော သည်အင်္ကျီနှင့်ဆိုလျှင် ကျောင်းမတက်တော့ဟု ဖရက်က တင်းခံနေ၏။

သည်တော့မှ နှစ်ပတ်စာ ပိုက်ဆံမရသေးသည့် အိမ်တအိမ်ကို သွားသတိရသည်။ သည်အိမ်က လက်ခက်သည်။ သွားတောင်းတော့ တပတ်စာ ရခဲ့၏။ ပိုက်ဆံတဒေါ်လာ ပေးပြီး ဖရက်ကို ချော့ရ၏။

"သား မနက်ဖြန် ကျောင်းသွားနော်၊ တဒေါ်လာနဲ့ဆို အင်္ကျီအကောင်းစား နှစ်ထည် ရမယ်၊ တလှည့်စီ ဝတ်ပေါ့နော်"

ဖရက် ပျော်သွားသည်။ တဒေါ်လာတန်ကို သူ တခါမျှ မကိုင်ဖူးသေး။ နောက်တနေ့ တွင် ကိုရီမေသည် ဖရက်ကို အကောင်းဆုံးဖြစ်အောင် ပြင်ဆင်ချက်ပြုတ်ပြီး ကျွေးသည်။ အိမ်တွင် ရိက္ခာပြတ်နေပြီ။ သားကလေးကို အိတ်သွန် ဖာမှောက် ကျွေးလိုက်၏။ ကိုရီမေ အဆာခံနေ လိုက်သည်။ ထိုနေ့တွင် အလုပ် သိပ်မတွင်။

ညနေကျတော့ ဖရက်ကို ဝမ်းသာအားရ ထွက်ကြိုသည်။ အမေ့ကို မြင်မြင်ချင်း ဖရက် အားရပါးရ ငိုပြန်သည်။

"သားလေး ဘာဖြစ်လာပြန်တာတုံးဟင်"

တော်တော်နှင့် အဖြေမရ။ မနည်းချော့မေးမှ ပြောသည်။ "ပြော... သား ကလေး မဟုတ်တော့ဘူး၊ ကိုးနှစ်သား ရှိနေပြီ" ဆိုတော့မှ ပြောပြသည်။ ကျောင်းတွင် ကျောင်းသားတွေ အမြဲတမ်း စက်ဝိုင်းထဲကို မြားပစ်တမ်း ကစားသည် ဆို၏။ ဖရက်က အိတ်ထဲ ပိုက်ဆံထည့်နိုင် သူ မဟုတ်၍ တခါမျှ ဝင်မကစားဖူး။ သည်နေ့တော့ တဒေါ်လာကြီးများတောင် အိတ်ထဲ ပါနေသဖြင့် ဝင်ကစားမိတော့သည်။ အားလုံး ရှုံးခဲ့ပြီ ဆို၏။

ကိုရီမေ ငိုချင်စိတ် ပေါက်သွားသည်။ သားကလေးကိုလည်း အရမ်း သနားသွား၏။ သို့သော် သည်ကိစ္စတွင် အလျှော့ပေး၍ မဖြစ်။ သူ့ကို ဆွဲခါပြီး-

"အလောင်းအစား လုပ်ခဲ့တယ်ပေါ့ ဟုတ်လား၊ နင် ငါ့သားလို့ မပြောနဲ့၊ ငါ

ရှက်တယ်။ ဝမ်းသာတယ်၊ ကုန်တာ ကောင်းတယ်၊ နောက်တခါ ကစားတယ် ကြားရင် နင့်တင်ပါး ငါ့လက်ဝါးစာ ဖြစ်ပြီမှတ်၊ နင့်အဖြစ်နဲ့ နင် အဲဒီဂျုံအိတ်ဝတ်။ တော်တော့၊ တိတ်တော့”

ဖရက် အငိုတိတ်လိုက်သည်။

နောက်တနေ့ရောက်တော့ ဖရက်ကို ကျောင်းအရောက် ကိုရီမေ လိုက်ပို့သည်။

“ဒီနေ့သင်တာတွေ အားလုံးရအောင် လုပ်၊ နင့်ခေါင်းထဲကို စာများများဝင်မှ နင် ဘာလုပ် ရမယ် ဆိုတာ သိမှာ”

ညနေတွင် ကြွေးရစရာရှိသည့် အိမ်ကို သွားတောင်းသည်။ တချို့တဝက် ရခဲ့၏။ စားစရာ အနည်းအကျဉ်းနှင့် ပိတ်စတစဝယ်ပြီး ပြန်လာခဲ့သည်။ အဝတ်ပုံကြီးတပုံကို မီးပူထိုးပြီး မစ္စက်ဟဲရစ်အိမ်သို့ သွားပို့သည်။ သူကလည်း ငွေမလည်သေး၍ လက်ငင်း မရှင်းနိုင်ကြောင်း ပြော၏။

ကိုရီမေက ပေါင်းတွေ ထနေသည့် ပန်းခြံကို ကြည့်ပြီး ပေါင်းသင်ဖို့ ကောင်းကြောင်း အဘွားကြီးကို အကြံပေး၏။ သူ့သားကလေး ကျောင်းဆင်းလျှင် အားနေကြောင်းလည်း ပြောလိုက်၏။ အဘွားကြီး သဘောတူသည်။ စနေနေ့လောက် လာခဲ့ဖို့ မှာ၏။

ဖရက် ပြန်လာတော့ သူ့အတွက် ကိုရီမေ အင်္ကျီချုပ်နေသည်။ သို့သော် သူ မမြင်အောင် မွေ့ရာအောက်သို့ ထိုးသွင်းလိုက်၏။ အိမ်ထဲ ဝင်လာသည့် ဖရက်ကလေး မျက်နှာမကောင်းလှ။ ကောင်လေးတွေက ဂျုံအိတ်အင်္ကျီကို စကြ နောက်ကြဆဲ ဖြစ်ကြောင်း ပြော၏။

“သားက လူချောပဲ၊ သူတို့ မနာလိုလို့၊ ယဉ်ကျေးမှုမရှိလို့ စတာ၊ ဘာမှ ဂရုမစိုက်နဲ့၊ မေမေ ညစာကောင်းကောင်း ချက်ထားတယ်နော်”

ပြီးတော့ မစ္စက်ဟဲရစ်အိမ်မှာ ပေါင်းသင်ရမည့် အကြောင်း၊ ပိုက်ဆံရမည့် အကြောင်း၊ အင်္ကျီကောင်းကောင်း ဝယ်ဝတ်နိုင်မည့် အကြောင်းလည်း ပြောပြလိုက်၏။

“ကဲ… လာ… ညစာ စားတော့”

ပေါင်းသင်၍ ဒေါ်လာတမတ်ရလို့ အင်္ကျီတထည်ဝယ်နိုင်ပြီ၊ မအေကလည်း တထည်ချုပ်ပေးသဖြင့် ဖရက် အရမ်းပျော်သွားသည်။

"သား လိမ္မာတော့နော်၊ စာကြိုးစားတော့နော်"

ဖရက်က စာထက် သင်္ချာတွင် ပိုတော်သည်။ ဂဏန်းတွက်လျှင် သူများတွေထက် အလျင် ပြီးကြောင်း မအေ့ကို ပြန်ပြောသည်။ ကိုရီမေက သင်္ချာဆိုတာ ဘာမှန်း မသိ။ နောက်ပိုင်းတွင် ဖရက်သည် အိမ်ပြန်လာလျှင် သင်ခန်းစာတွေ ခေါင်းနှင့် အပြည့် ပါလာတတ်၏။ လူတော်များများ အမေရိကန်အကြောင်းကို မသိကြကြောင်း၊ ကိုလံဘတ်စ် ဆိုသူတယောက်က သမုဒ္ဒရာကို ဖြတ်ပြီး လာတွေ့ခြင်း ဖြစ်ကြောင်း ပြောပြ၏။

တိုင်းပြည်တပြည်ကို လူတယောက်က ရှာတွေ့သည်တဲ့။ သည်လူ မတွေ့လျှင်ကော သည်တိုင်းပြည် ဖြစ်မလာနိုင်ဘူးလားဟု ကိုရီမေ တွေး၏။

"သူ တကယ် တွေ့တာတဲ့ မေမေ"

"ဒါလောက် ကြီးတာကြီးကို ဘာမတွေ့စရာ ရှိလဲကွယ်"

နောက်ပြီး တိုင်းပြည် လွတ်လပ်ရေးရအောင် လုပ်သွားသည့် ဂျော့ဝါရှင်တန်အကြောင်း လည်း သူ ပြောပြသေးသည်။

"ဘယ်သူ့ဆီက လွတ်လပ်ရေး ရတာလဲ"

"အင်္ဂလိပ်တွေဆီကပေါ့"

"သူတို့က ဘယ်သူတွေလဲ သားရဲ့"

"သမုဒ္ဒရာရဲ့ ဟိုဘက်ကမ်းက လူတွေ"

ကိုရီမေ သက်ပြင်းချသည်။

"မေမေတော့ နားမလည်ပါဘူး သားရယ်၊ အမေရိကန် ဆိုတာ အကြီးကြီး၊ ဒါကြီးကို သူတို့ ရှာတွေ့တယ်၊ ပြီးတော့ အဲဒီလူတွေဆီက လွတ်လပ်ရေး ရအောင် လုပ်ယူကြတယ် ဟုတ်လား"

ဖရက်က အမေကို ကြည့်ပြီး ရယ်သည်။ သားအမိနှစ်ယောက် သည်လို ဆွေးနွေးနေချိန် တွင် ဖရက်ကလေး ဆယ့်နှစ်နှစ်သား ရှိပြီ။ ဝေဖန်ဆန်းစစ်ရမှန်း သိနေပြီ။ အားသည့်အချိန် တိုင်း အမေ့ကို ကူသည်။ သို့သော် သူ အားမရ။

"ပေါင်းနုတ်ရုံ၊ မြှောက်ရှင်းရုံလောက်နဲ့ သား အားမရဘူး မေမေ၊ သား ကြီးလာပြီ။ အလုပ် လုပ်ချင်တယ်၊ ကျောင်းမှာ အလကားဖြစ်နေတဲ့ အချိန်တွေ

ရှိတယ် မေမေ”

ဖရက် ပြောချင်နေသည်မှာ ကြာပြီ။ အမေ့ကို ကြည့်ပြီး သူ သနားလာပြီ။

“သား ပညာတတ်အောင် လုပ်ရဦးမယ်လေ”

“သား ရေးတတ် ဖတ်တတ်ပြီ၊ ဂဏန်းလည်း ကောင်းကောင်းတွက်တတ်ပြီ၊ တော်ရော ပေါ့ မေမေရာ၊ သောက်အလကားဟာတွေတော့ သား စိတ်မဝင်စားဘူး”

“ဟဲ့ ... သား၊ အဲဒီလို မိုက်မိုက်ရိုင်းရိုင်း စကားတွေ ဘယ်က တတ်လာတာလဲဟင်၊ ဆိပ်ကမ်းတဝိုက်ကလား၊ မပြောရဘူး သားရဲ့”

“ထားပါ မေမေရာ၊ ကျောင်းမှာ တချို့ဘာသာတွေက တကယ်သောက်သုံးမကျတာ။ ကဗျာတွေ၊ စကားပြေတွေ၊ အဲဒါတွေ လာရင် သား စိတ်မဝင်စားတော့ဘူး၊ စာလုံးပေါင်းတွေ လည်း မှားကုန်ရော။ သား မေမေ့ကို ချစ်လွန်းလို့ ကျောင်းတက် နေရတာ၊ မသွားချင်တော့ဘူး မေမေ”

ဖရက်က မအေ့ဆီ ထလာသည်။

“အခိပ္ပာယ် ရှိတာတွေ သင်ရင် သား စိတ်မညစ်ပါဘူး မေမေရာ၊ ခုတော့ အတန်းထဲမှာ ထိုင်ပြီး ခေါင်းထဲကို တူနဲ့ ထုသွင်းနေသလိုပဲ”

“သား ဆက်ပြောလေ”

ဖရက်က အပြင်သို့ ငေးကြည့်နေပြီး ပြုံးသည်။ တခုခုကို ဆုံးဖြတ်ချက်ချပြီးသား အပြုံးမျိုး။ သည်အပြုံးကို ဂီးလ်ဒေး၏ အပြုံးနှင့် တူကြောင်း ပထမဆုံးအကြိမ်အဖြစ် သတိထားလိုက်မိ၏။ ဂီးလ်ဒေး ပြောဖူးသည်ကိုလည်း ပြန်လည် ကြားယောင်လာ၏။

“ကမ္ဘာကြီးထဲမှာ ကိုယ့်အတွက် တနေရာရာတော့ ရအောင် လုပ်မယ် ကိုရီမေ”တဲ့။ ဖရက် တခုခုကို ဆုံးဖြတ်ပြီးပြီ ဆိုရင် မည်သူမျှ တားလို့ ရတော့မည် မဟုတ်ကြောင်း ကိုရီမေ သိနေ၏။

ဖရက် စကားဆက်သည်။

“မေမေ ကြမ်းတိုက်လိုက်၊ အဝတ်လျှော်လိုက် လုပ်နေတာ သား မကြည့်ချင်တော့ဘူး၊ သား အလုပ်တခုခု ရှာလုပ်တော့မယ်”

ဘောင်းဘီအိတ်ထဲထည့်ထားသည့် သူ့လက်သီးဆုပ်တွေ တင်းတင်းရင်းရင်း

ဖောင်းကြွနေကြောင်း ကိုရီမေ သတိထားလိုက်မိ၏။

နောက်နေ့မှစ၍ ဖရက် ကျောင်းပြေးပြီး ဆိပ်ကမ်းတွင် ဗာဟီရအလုပ်တွေ လျှောက်လုပ် နေတော့သည်။

※※※

# အခန်း(၁၄)

## (၁)

ဒင်းနစ်ကလေး ရှစ်နှစ်ပြည့်သည့် နေ့ဦးပေါက်တွင် အန်းက မိသားစု ပန်းချီကားကြီး တွေကို ထပ်ခိုးပေါ်မှ ချပြီး ပြန်ချိတ်ဖို့ အမိန့်ပေးလိုက်သည်။ ဒင်းနစ်ကလေးကို လက်ဆွဲပြီး သူ့အဖေပုံကို ပြသည်။

"သားဖေဖေဟာ သာမန်လူတယောက် မဟုတ်ဘူး၊ သိပ်ပြီး မြင့်မြတ်တဲ့ လူကြီး လူကောင်းတယောက်ပဲ၊ သား ကြီးလာရင် သားဖေဖေနဲ့ တူရမယ် သိလား"

ဒင်းနစ်ကလေးက ရင်ကိုချီပြီး အခံ့အညား ခေါင်းညိတ်သည်။ အဖေ့အကြောင်းတွေ ကို အမေ့ဆီမှ ပုံပြင်သဖွယ် နားထောင်ခဲ့ရသည်မှာ အပ်ကြောင်းထပ်နေပြီ။ အဖေ့ပုံကြီးကို မော်ကြည့်လိုက်သည်။ ဘုရားပုံတော်ကားတချပ်ကို ကြည့်မိသလို ရှိသေသဒ္ဒါပွားမိ၏။ တဖက်မှ အမျိုးသမီးပုံကို ကြည့်ပြီး ဒင်းနစ် မေးသည်။

"အဲဒီ အပြာရောင်ဝတ်စုံနဲ့ အမျိုးသမီးက ဘယ်သူလဲ မေမေ"

အန်း သူ့ကို ဖျတ်ခနဲ ငုံ့ကြည့်လိုက်သည်။

"အဲဒါ မေမေလေ သားရဲ့"

ဒင်းနစ် မျက်လုံးပြူးသွားသည်။

"အဲဒါ မေမေ ဟုတ်လား"

"ဟုတ်တယ် သား၊ ခြောက်ဆယ့်တခုနှစ်တုန်းက မေမေဟာ အဲဒီအတိုင်းပဲ"

သားကလေးကို ဘာမျှ ဆက်မပြောတော့ဘဲ ဒင်းနစ်၏ အလုပ်ခန်းထဲသို့ လာခဲ့သည်။ သူ့အလုပ်စားပွဲကြီးတွင် ထိုင်ချလိုက်၏။ မျက်နှာကို လက်ဝါးဖြင့် အုပ်လိုက်၏။ ဘာမျှ မကြာလိုက်ပါလား။ သည်နှစ်က ၁၈၆၉ ခုနှစ် ဆိုတော့ သည်ပုံကြီး ရေးခဲ့သည်မှာ ရှစ်နှစ်သာ ရှိသေးသည်ပဲ။ ဟိုတုန်းက အလှပဂေး အန်းကလေး ဘယ်ရောက်သွားပါလိမ့်။ ဩဂုတ်လ ရောက်လျှင် အန်း သုံးဆယ်

ပြည့်တော့မည်။

ထိုညနေတွင် သစ်ဖြူတောသွားဖို့ နပိုလီယံကို ပြောထားလိုက်သည်။

ဂျယ်ရီကို တယောက်တည်း တွေ့ရသည်။ ဝက်သစ်ချမြိုင် အရက်ဗီရိုသော့ ကမ်းပေး လိုက်၏။

"အန်းကို ဘယ်တော့မှ ပြန်မပေးနဲ့၊ အန်း တောင်းလည်း မပေးနဲ့၊ အဲ. . .အန်းမှာ နှလုံး ရောဂါ ရှိလို့ ဆိုပြီး ဘရန်ဒီလေး ဘာလေး တောင်းရင်တော့ ..."

အန်းက ရယ်ပြီး ရပ်ပစ်လိုက်သည်။

"အေးပါ၊ ငါ နင့်ကို မလိုအပ်မချင်း မပေးပါဘူး"

ဂျယ်ရီက ရိုးရိုးသားသား ပြန်ပြောသည်။ ဂျယ်ရီ၏ အရုပ်ဆိုးဆိုး မျက်နှာကို အန်း မော်ကြည့်လိုက်သည်။ ဂျယ်ရီ သည် ဆင်ခြင်တုံတရားရှိသူ ဖြစ်၏။ ညီမလုပ်သူကို တရား မဟော၊ ဆုံးမစကား မဆို။ အန်း၏ ဆုံးဖြတ်ချက်ကို ထောက်ခံသည့် အနေဖြင့် ထရပ်ပြီး နဖူးကို နမ်းသည်။ အန်း မှတ်မိသလောက် အစ်ကိုလုပ်သူ၏ အနမ်းကို ပထမဆုံး ခံရဖူးခြင်း ဖြစ်သည်။ ဝက်သစ်ချမြိုင် အပြန်လမ်းတွင် အန်းသည် အောင်မြင်သူတဦးလို ကိုယ့်ကိုယ်ကိုယ် ထင်လာ၏။ လင်တော်မောင် ဒင်းနစ်အကြောင်း စဉ်းစားလိုက်လာသည်။ သူသာ မိမိနေရာမှာ ဆိုလျှင် သည်ခေတ်ဆိုး ခေတ်ကျပ်ကြီးကို ဘယ်လို ဖြတ်ကျော်မည်လဲ။ သူက ပုံကြီးထဲတွင် ချောမောခံ့ညားနေဆဲ။ စင်စစ် သူက အနိုင်နှင့် ပိုင်းသွားခြင်း ဖြစ်၏။ သည်နွှေကန္တာ အထပ်ထပ် ကို ဖြတ်ကျော်ရသူက မိမိ ဖြစ်၏။ မည်သို့ဖြစ်စေ သားကလေးကို ဖအေတူကလေး ဖြစ်အောင် လုပ်ရမည်။

ပိုက်ဆံကလေး လက်ထဲ ပြန်စုမိသည်နှင့် ဘုရားရှိခိုးကျောင်းဝင်းထဲမှ လန်းမိသားစု ပိုင် မြေပေါ်တွင် ဒင်းနစ်၏ ကျောက်ဆစ်ရုပ် ထုလိုက်ပြီး စိုက်ထူလိုက်သည်။ ကျောက်ရုပ် အောက်တွင် ကမ္ပည်းထိုးထား၏။

၁၈၆၃ ခုနှစ်တွင် ဗစ်ဘတ် ခံတပ်ကို ကာကွယ်ရင်း တိုင်းပြည်အတွက် အသက်ပေးလှူသွားသည်။"

စနေနေ့တိုင်း သားအမိနှစ်ယောက် လာပြီး ကျောက်ရုပ်ခြေရင်းတွင် ပန်းကုံးချသည်။ ဖအေကို လုံးဝ မမှတ်မိသော ဒင်းနစ်ကလေးကို ကြည့်ပြီး အပေါင်းအသင်းများက ကရုဏာ သက်ကြသည်။

ဒင်းနစ်ကလေးက ဖအေနှင့် တပုံစံတည်း ဖြစ်လာသည်။ ဉာဏ်ထက်သည်။

ပျော်ပျော် ရွှင်ရွှင် နေတတ်သည်။ တပတ်လျှင် နှစ်ရက် ကျူရှင် သင်ရသည်။ အခြား ဝမ်းကွဲများနှင့် အတူ သစ်ဖြူတောတွင် သွားတက်ခြင်း ဖြစ်၏။ ကျန်ရက်များတွင် အိမ်မှာ အမေက သင်ပေး သည်။

သည်အရွယ်အထိ အမေ့ပေါင်ပေါ်တွင် အိပ်ပြီး အမေ့ကို ပုံပြင်စာအုပ်တွေ ဖတ်ခိုင်းတုန်း ဖြစ်၏။

စင်သီယာနှင့် အန်းသည် ဒင်းနစ်နှင့် ပတ်သက်၍ သဘောထားချင်း မတူကြပေ။

"သူ စာတတ်နေပြီပဲ၊ သူ့ဘာသာသူ ဖတ်ခိုင်းပါလား"

ဟု စင်သီယာက ပြောတော့-

"ကိုယ့်မှာ ဒါလေးပဲ ရှိတော့တာပါကွယ်၊ ဝိုင်းကူလုပ်ပေးပါရစေ" ဟု အန်းက ပြန်ပြော၏။

ဒင်းနစ်ကလေး စီးပွားရေးကိစ္စများ၊ နိုင်ငံရေးအကြောင်းများ စိတ်ဝင်စားလာချိန်တွင် ဝက်သစ်ချမြိုင်၏ အခြေအနေ ပြန်ကောင်းလာပြီ။

"သကြားလုပ်ငန်းနဲ့ ဝါဂွမ်းအကြောင်းတော့ မေမေ တော်တော်လေး သိနေပြီ"

"မေမေ ဘယ်လိုလုပ် သိတာလဲ"

"လိုအပ်တော့လည်း လေ့လာရတာပေါ့ သားရယ်၊ မေမေ ဘယ်လောက် ရုန်းကန်ခဲ့ ရလဲ သိလား၊ ဝက်သစ်ချမြိုင်ကို သူတို့ အခွန်နဲ့ နှိပ်စက်လိုက်တော့ သားကို မေမေ အိပ်ရာခင်း တွေ ဖျက်ပြီး အင်္ကျီ၊ ဘောင်းဘီ ချုပ်ပေးရတဲ့ ဘဝကို မေမေ ရောက်ခဲ့ရတယ်"

"ဒါဆို မေမေ တော်တော့ကို ရုန်းကန်ခဲ့ရမှာပေါ့နော်"

"ဒါပေမဲ့ သားအတွက် ဝက်သစ်ချမြိုင် မယိုင်မလဲရအောင် မေမေ ဆက်ထိန်းထားနိုင် ခဲ့တယ်၊ သားက လက်ဆင့်ကမ်း ဆက်ပြီး သယ်ယူသွားရမှာ၊ မေမေ နားတော့မယ်"

ဒင်းနစ်သည် မအေကို မြတ်နိုးကြည်ညိုစွာဖြင့် ကြည့်နေမိလေသည်။

(၂)

ဒင်းနစ်သည် ဖအေ့ပုံကြီးကို တွေ့ရသည့် အချိန်မှစ၍ ချောမောခံ့ညားလှသည့် ဖအေနှင့် တူအောင် လုပ်မည်ဟု စိတ်ထဲ တေးထား၏။ မီးခိုးရောင်ဝတ်စုံနှင့် ဘယ်လောက် ကြည့် ကောင်းသည့် ဖေဖေပါလဲ။

မေမေကတော့ အားလုံး လေးစားကြသည့် အမျိုးသမီး ဖြစ်သည်။ မေမေ့ အရည် အချင်းကို အားလုံး အသိအမှတ်ပြုကြရသည်။ ဝက်သစ်ချမြိုင်ကို ကာလပျက်စဉ်တလျှောက် မြေတလက်မမျှ မဆုံးရှုံးရအောင် ထိန်းထားနိုင်သည့်အတွက်လည်း မေမေ့ဖွဲ့လုံ့လကို အားလုံး ရင်သပ်ရှုမော ဖြစ်ကြရ၏။ သည်ဘက်ခေတ်တွင် နေ့စားအလုပ်သမား အနည်းငယ်ဖြင့် ဝက်သစ်ချမြိုင်ကို ထိန်းထားနိုင်ခြင်း ဖြစ်သည်။

ဘယ်ကလေးများမှ မသင်ရသည့် လူကြီးလူကောင်းတယောက်၏ အပြောအဆို၊ အနေအထိုင် နည်းစနစ်များကို မေမေက သင်ပေးသည်။ ဒေါ်လေးစင်သီယာက စကားနည်း သည်။ တနေ့တွင် ကျူရှင်က ပေးလိုက်သည့် အက္ခရာသင်္ချာပုစ္ဆာတွေ ထိုင်တွက်နေစဉ် စင်သီယာ ရောက်လာသည်။ လက်ထဲတွင် ထိုးလက်စ သိုးမွေးထည်နှင့်။

ဒင်းနစ်က ဖျတ်ခနဲ ထပြီး ကုလားထိုင်တလုံး ဆွဲကာ မီးလင်းဖိုနားတွင် ချပေးသည်။ နေရောင်ထိုးနေသဖြင့် ခန်းဆီးကို အနည်းငယ် ဆွဲစေ့ပေးသည်။

"ကျေးဇူးတင်ပါတယ် ဒင်းနစ်ရယ်"

"ရပါတယ် ဒေါ်လေး"

ဒင်းနစ်က သူ့စားပွဲဆီသို့ ပြန်အလာတွင် စင်သီယာက သူ့လက်မောင်းကို ဖမ်းဆွဲထား လိုက်သည်။

"သားမေမေကို ဒေါ်လေးတော့ တနေ့တခြား ပိုပိုပြီး သဘောကျလာတယ်၊ သားကို လူတော်လူကောင်းတယောက် ဖြစ်လာအောင် သူ တကယ် ပုံသွန်းနိုင်တာပဲ"

"ကျွန်တော် ... ဪ ... ဒေါ်လေးစင်သီယာ ဘာကို ပြောတာလဲ"

“သားဟာ လူကြီးလူကောင်းတယောက် ဖြစ်လာမယ် ဆိုတာ ဒေါ်လေး သိနေလို့ပေါ့ ၊ ဒေါ်လေးက ဗေဒင်ဆရာမတော့ မဟုတ်ဘူး၊ ဒါပေမဲ့ သိနေတယ်”

ဒင်းနစ် စိတ်ဝင်တစား ဆက်နားထောင်နေသည်။

“သား လက်တင်ကဗျာတွေ ဖတ်ရတော့မယ်၊ အထူးသဖြင့် ကက်ကူးလတ်စ်ကိုလည်း ဖတ်၊ ဘိုင်ရွန်ကိုလည်း သား ကြိုက်မှာပါ၊ အမျိုးသမီးတွေနဲ့ ဆက်ဆံရာမှာ သူတို့ကို အန္တရာယ်တမျိုးမျိုး ကျရောက်တော့မလား ဆိုတဲ့ သဘောနဲ့ ဂရုစိုက်ရမယ် သိလား။ ပြီးတော့ ဗာဂျီးနီးယား တောင်ပိုင်း တပ်မတော်ဟာ ကမ္ဘာပေါ်မှာ သတ္တိအပြောင်ဆုံး တပ်မတော် ဆိုတာလည်း မှတ်ထားရမယ်”

“သားမှ မမြင်ဖူးတာပဲ ဒေါ်လေးရဲ့”

“မြင်ဖူးဖို့ မလိုဘူး သား၊ သား မမြင်ဖူးလိုက်တဲ့ ဒဏ္ဍာရီတွေ အများကြီးလေ”

ထိုစဉ် အန်း ရောက်လာပြီး တူဝရီးနှစ်ယောက်ကို တအံ့တသြ ကြည့်နေသည်။

“စင်သီယာ၊ ကလေးကို ဘာတွေ လျှောက်ပြောနေတာလဲ၊ ဒင်းနစ်၊ စာကြည့်ခန်း ထဲမှာ မီးဖိုပြီးပြီ၊ သွား. . . အဲဒီမှာ ဆက်လုပ်”

စာအုပ်တွေကို စုသိမ်းပြီး ဒင်းနစ် ထွက်သွားသည်။

“ဒီမယ် စင်သီယာ၊ ကလေးခေါင်းထဲကို မဆိုင်တာတွေ မရောက်ပါစေနဲ့”

“အင်း. . . မမအန်း သူ့အတွက် သိပ်ဂုဏ်ယူနေတာ မဟုတ်လား”

“ဟုတ်တယ်လေ”

“အင်းလေ . . နောက် မပြောတော့ပါဘူး၊ စင်သီယာကလည်း အလုပ်မရှိ အကိုင်မရှိအိမ်ဖော်မကြီး ဖြစ်နေတော့ လူတွေကို ဘေးကနေ ထိုင်ကြည့်ပြီး လိုအပ်တာတွေကို မြင်နေ တယ်"

အန်း စိတ်မကောင်း ဖြစ်သွားသည်။

“စင်သီယာကလည်းကွာ အဓိပ္ပာယ်မရှိ၊ အသက် နှစ်ဆယ့်သုံးနှစ်ပဲ ရှိသေးတယ်”

“အခိပ္ပာယ်မရှိဘူး ဟုတ်လား၊ စင်သီယာ ဒီအရွယ်ရောက်လာပြီ၊ တခါမှ မကဖူး သေးဘူး၊ ယောကျ်ားတယောက်ရဲ့ အနမ်း မခံဖူးသေးဘူး၊ စင်သီယာလို မိန်းကလေး ထောင်နဲ့ချီပြီး တောင်ပိုင်းမှာရော မြောက်ပိုင်းမှာပါ ရှိလိမ့်မယ်လို့ မမအန်း မထင်ဘူးလား၊ စစ်ရဲ့ ဒဏ်ကို ခံရတာ မမအန်းတို့ချည်း မဟုတ်ပါဘူး”

စင်သီယာ အပြင်သို့ ငေးနေလျက်က ဆက်ပြောသည်။

“မမအန်းကမှ မိသားစု ဒဏ္ဍာရီတခုကို ဖန်ဆင်းနိုင်လို့ လူအများရဲ့ လေးစားကြည်ညို မှုကို ခံရပါသေးတယ်”

“မင်း ဘာဆိုလိုတာလဲ စင်သီယာ”

“တတိုင်းမွေး ပွင့်ဖတ်ကလေးတွေထဲမှာ သံမဏိနန်းကြိုးကလေးတွေ ထိုးထည့်ထား သလိုပေါ့၊ တကယ်တော့ အစ်ကို ဒင်းနစ်ဟာ ဘာမှ မဟုတ်ဘူး၊ သဘောကောင်းတဲ့ သူလို ကိုယ်လို လူတယောက်ပဲ၊ ဒါကို မမအန်းက သမိုင်း စာမျက်နှာပေါ် ရောက်အောင် တင်နေတယ်၊ ကလေးကိုလည်း အတင်းပုံသွင်းနေတယ်”

စင်သီယာ ရယ်သည်။ အန်း မျက်နှာတွင် အထိတ်တလန့် အမူအရာကို တွေ့ရ၏။

“ကိုယ် ဒဏ္ဍာရီတခု ဖန်တီးနေတာ မဟုတ်ဘူး စင်သီယာ၊ ကိုယ့်သားကို ကိုယ် ဝက်သစ်ချမြိုင်ရဲ့ အရှင်သခင် ဖြစ်အောင် လုပ်နေတာ”

လက်ထဲမှ ထိုးလက်စ အပ်များကို ရပ်ထားပြီး စင်သီယာ ခြောက်ကပ်ကပ် ပြောသည်။

“အကောင်းနဲ့ အဆိုးကို ခွဲခြားနိုင်လောက်အောင် စင်သီယာ မသိပါဘူး၊ ဒါပေမဲ့ သနပ်ခါးလိမ်းတာတွေ များနေသလားလို့ပါ မမအန်း၊ တောင်ပိုင်းရဲ့သမိုင်းကို အမွှမ်းတင်နေကြ တာတွေ ကြားရတိုင်း ဒင်းနစ်ကလေးရဲ့ ခေါင်းထဲ ဝင်သွားပြီး အဟုတ်မှတ်နေမှာတော့ စိုးတယ်၊ တနေ့မှာ “**အပိုမက်တော့စ်**[1]”အကြောင်း သူ မသိဘဲ နေမှာ မဟုတ်ဘူး”

“အတွေး မခေါင်စမ်းပါနဲ့ စင်သီယာရယ်”

ဤသို့ဖြင့် အချိန်တွေ တဖြည်းဖြည်း ကုန်လာသည်။ အလွန်မွန်ရည်သည့် ဒင်းနစ် ကလေးကို ချစ်ကြ၏။ ဒင်းနစ်သည် ကျန်းမာသန်စွမ်းသော လူချောကလေးတယောက် ဖြစ်လာ သည်။ ရှန့်ရှင်းကြမ်းတမ်းသော စကားလုံး

သူ့နှုတ်မှ ထွက်သည် ဟူ၍ မရှိ။ အမြဲ တည်တည် ငြိမ်ငြိမ်ပင်။ သူ တဖြည်းဖြည်း လူကြီးဖြစ်လာနေသည်ကို ကြည့်ပြီး ထုလုပ်လိုက်သည့် အရုပ် ကလေးတရုပ်ကို စိတ်တိုင်းကျနေသလို အန်း ဂုဏ်ယူမဆုံး ဖြစ်နေတော့၏။

※※※

# အခန်း(၁၅)

## (၁)

ဖရက်သည် ပိုက်ဆံရလာသည့် နေ့လည်း ရှိ၏။ မရသည့် နေ့လည်း ရှိ၏။ လှည်းတစီး ထိုးဆိုက်လာလျှင် အတင်းပြေးသွားပြီး ပစ္စည်းတွေ ကူချပေးသည်။ သည်အတွက် အလုပ် သမားများက တပြားတချပ် သူ့ကို စွန့်ကြဲကြ၏။

မြင်းစီးလာသည့် လူကြီးလူကောင်းများ ဆိပ်ကမ်း လာလျှင် မြင်းကို ပြေးယူပြီး ထိန်းထား ပေးသည်။ ခြံစည်းရိုးတိုင်တွင် ချည်ထားပေးသည်။ သည်အတွက်လည်း သူ ပိုက်ဆံရ၏။ တခါတလေ တဒေါ်လာခွဲတောင် စီသည့် နေ့များ ရှိသည်။

အိမ်ပြန်ရောက်လျှင် အမေ့ကို တပြားမကျန် အပ်သည်။ အမေ ပင်ပန်းလှပြီ။ ခါးကို လက်နှင့် ထောက်ထောက် နေတတ်၏။ ခါးချည့်နေပြီ။ အချို့အိမ်ကြီးများက အကြွင်နာတရား ကင်းမဲ့လှ၏။ မီးပူတိုက်ရာတွင် လက်ကိုင်ပဝါ ထောင့်စွန်းကလေး မပြန့်ရုံမျှဖြင့် ပိုက်ဆံဖြတ်၏။ သို့သော် အမေက ဘယ်တော့မျှ မညည်း။ ခေတ်အခြေအနေ ကောင်းလာပြီ ဖြစ်ကြောင်း သာ တွင်တွင်ပြောနေ၏။ လူတွေမှာ ကျွန်တွေသာ ဆက်ပိုင်နေလျှင် သည်အလုပ်ကလေးတောင် ရချင်မှ ရမည်ဟု ဆို၏။ ဟုတ်မည်၊ ဆိပ်ကမ်းတွင် သူနှင့် ရွယ်တူ နီဂရိုးကောင်ကလေးများ လည်း အလုပ် လုပ်နေကြပြီ။

ဆိပ်ကမ်းတွင် ဖရက် လုပ်လာသည်မှာ တနှစ်ပြည့်ပြီ။ သူ့ကို လူကြီးတွေက သဘော ကျ၏။ ဖရက်က ဘယ်တော့မျှ မခိုမကတ်။ ပြီးတော့ သဘောကောင်းသည်။ ဖရက်အတွက် အလုပ်မရသည့် နေ့ မရှိတော့ပေ။ သို့သော် သည့်ထက်ပိုရသည့် အလုပ်တခုခု ပြောင်းလုပ်ချင် နေ၏။ မနှစ်ဆောင်းတွင်းက ဆိပ်ကမ်းတဝိုက်တွင် မြူတွေ ဆိုင်းသဖြင့် အလုပ်မဖြစ်ခဲ့ သည်ကို သွားသတိရမိသောကြောင့် ဖြစ်၏။

သို့သော် သည်နှစ်ဆောင်းက မြူမကျဘဲ မြစ်ရေတွေ တက်လာသည်။ ဆောင်းအကုန် နွေအကူး မြောက်ပိုင်းတွင် ရေခဲတွေ ပျော်ကာ မြစ်ရေတက်ခြင်း အကြောင်းကို ဖရက် သိထား၏။ သည့်အတွက် ဘာမျှ ထွေထွေထူးထူး မတွေးမိ။

သို့သော် ရေက မနှစ်ကထက် ပိုကြီးလာ၏။ သို့စင်လျက် လှေ၊ သင်္ဘောများက ဝင်နေဆဲ၊ ထွက်နေဆဲ ဖြစ်သည်။ ရေက ကျချိန်ရောက်သည်အထိ ပြန်မကျတော့။ ဆက်လို့သာ တက် နေ၏။

လှေ၊ သင်္ဘောတွေ မလာကြတော့။ ကုန်စည်စီးဆင်းမှုသည် မီးရထားဘက်သို့ လှည့် သွားပြီ။ ဆိပ်ကမ်းအလုပ်သမားတွေ အလုပ် မရှိကြတော့။ အချို့က မီးရထားလမ်း ဖောက်သည့် ဘက်သို့ လစ်သွားကြ၏။ ကျန်လူတွေကို ဘာလုပ်ကြမလဲ ဟု ဖရက်က မေးတော့ အားလုံး ခေါင်းယမ်းပြကြသည်။

ကျောင်းမှာတုန်းက ဆရာ ပြောဖူးသည်ကို ပြေးသတိရသည်။ ရှေးရှေးတုန်းက လူရိုင်း များသည် ရေကြီးလျှင် မြစ်ကို ဘုရားသခင် အထင်ဖြင့် ရှိခိုးကြသည် တဲ့။

ပြီးတော့ တနင်္ဂနွေနေ့ ဘာသာရေးသင်တန်းက ပို့ချသည့် ဘုရားစာများကိုလည်း သတိရနေ၏။ ဘုရားသခင်သည် လူသတ္တဝါများကို စောင့်ရှောက်တော်မူသည်ဟု သင်ကြားရ သည်။ သို့ဆိုလျှင် အမေသည် မည်သည့်အတွက် ခါးကျိုးလုခမန်း အလုပ်လုပ်နေရခြင်းလဲ။ မိမိကိုယ်တိုင်လည်း ဆယ့်လေးနှစ်သားအရွယ်တွင် ဘာကြောင့် ပင်ပန်းကြီးစွာ ကူလီထမ်း နေရခြင်းလဲ။

ထိုည အမေ အိပ်ပျော်သွားသည်နှင့် ကြမ်းပြင်ပေါ်တွင် ဒူးထောက်ကာ ဘုရားသခင်ထံ သို့ ဆုတောင်းလေသည်။ အမေ့ကိုရော မစ္စစ်စပီမြစ်ကြီးကိုပါ သနားကြင်နာစွာ စောင်မကြည့်ရှု ဖို့၊ မေ့မေ့လျော့လျော့ မထားဖို့ ပန်ကြား အသနားခံသည်။

နောက်တနေ့တွင် ဆိပ်ကမ်းမှ အဘိုးအိုတယောက်အား ဖရက် မေးကြည့်သည်။

“ဒီလို ရေကြီးတဲ့အခါ လူတွေ ဘယ်သွားပြီး အလုပ် လုပ်ကြသလဲ အဘ”

အဘိုးအိုက ပါးစပ်မှ ဆေးတံကို ဖြုတ်ပြီး-

“ဟိုးအထက်ဘက်က တာဖို့တဲ့ဆီ သွားပြီး လုပ်ကြတာပေါ့ကွ၊ ဒီနှစ်တော့ ဒီရေကြီးပုံနဲ့ တာတွေပေါ် ရေလျှံလိမ့်မယ် ထင်တယ်ကွ”

“ရေလျှံတော့ ဘယ်လို နေလဲဟင် အဘ”

အဘိုးကြီးက ဆေးတံဖွာရင်း-

“ရေခဲတောင်ပြိုတာ မင်း မြင်ဖူးသလား”

“ရေခဲတောင်ပြိုတာ...”

“တာကြီးတွေ ကျိုးသွားတာပေါ့ကွာ၊ ရေခဲတောင် ပြိုသလိုပဲ ကြောက်စရာကောင်း တယ်”

“ဘယ်လိုလူတွေ အဲဒီမှာ သွားလုပ်ကြတာလဲ အဘ”

“သူလိုကိုယ်လို လူတွေပါပဲ၊ ဂိုဏ်းနဲ့ဖွဲ့ပြီး သွားကြတာ များတယ်”

“သူတို့ ပိုက်ဆံရလားဟင် အဘ”

“ရတာပေါ့ကွ”

“အဲဒီကို ဘယ်လို သွားရသလဲ အဘ”

“တာဘေးလမ်းအတိုင်း လျှောက်သွားရတာပေါ့၊ ဒါပေမဲ့ သွားဖို့ မလွယ်ပါဘူးကွာ၊ မင်း ဘယ်လျှောက်နိုင်လိမ့်မလဲ”

ဖရက် ရယ်သည်။

“ကျွန်တော် အပင်ပန်း ခံနိုင်ပါတယ်ဗျ”

နောက်တခါ အိမ်နီးနားချင်း နီဂရိုးတယောက်ကို လှမ်းမြင်သဖြင့် လျှောက်သွားသည်။

“ဗျို့ ဇီကီ”

ဇီကီက ပြုံးပြီး-

“မင်္ဂလာပါ အဖြူကောင်ကလေး”

“ကျွန်တော့်မှာ ပိုက်ဆံသုံးဆင့် ရှိတယ်ဗျ၊ အမေ့ကို ပေးပေးပါဗျာ၊ ကျွန်တော် အထက် ဘက် တာဖို့တဲ့ဆီမှာ သွားလုပ်မလို့၊ အလုပ်ပြီးရင် ပြန်လာမယ်လို့၊ စိတ်မပူနဲ့လို့”

ဖရက်က လိုလိုမည်မည် တဆင့် ဆောင်သွား၏။ ခေါင်းရွက်ဈေးသည် နီဂရိုးမကြီး တယောက်ဆီမှ တဆင့်ဖိုး မုန့်ဝယ်ပြီး အိတ်ထဲ ထည့်ကာ ထွက်လာခဲ့သည်။

ခဏလျှောက်မိတော့ ဝက်သစ်ချမြိုင်လှည်းတစီး မောင်းလာသည်နှင့် ကြုံသည်။ တက်လိုက်လာခဲ့သည်။ ဝက်သစ်ချမြိုင် ယာတောစပ်အထိ ရောက်မည်တဲ့။ နန်းတော်ကြီးနှင့် တူသည့် ဝက်သစ်ချမြိုင်အိမ်ကြီးကို အဝေးကပင် လှမ်းမြင်နိုင်သည်။ သည်အိမ်ကြီးအကြောင်း ကို မေမေ ပြောလို့ သိနေ၏။

"ငါ ကြီးလာရင် ရထားကြီးစီးပြီး သူတို့အိမ်ရှေ့ကို ဖြတ်မောင်းပြလိုက်မယ်" ဟု စိတ် ထဲက ကြုံးဝါးလိုက်မိ၏။

ပြီးတော့ ဆက်လျှောက်သည်။ တော်ပါသေး၏။ နေက သိပ်မပူ။ အုံ့ဆိုင်းနေ၏။ လမ်း တွင် တွေ့သမျှ နီဂရိုးများကို "နေကောင်းလား" နှုတ်ဆက်သည်။

ရှေ့တွင် မြင်နေရသည့် ညို့ညို့ဆိုင်းဆိုင်း တောတန်းက သစ်ဖြူတောအစ ဖြစ်မည်။ အိမ် နှင့် အဝေးကြီးကို ရောက်ခဲ့ပြီ။ ဒါလောက်ဝေးဝေး တခါမျှ မလျှောက်ဖူးခဲ့။ လျှောက်ရင်း လျှောက်ရင်းနှင့် ဟိုအဝေးတွင် တာကြီးကို လှမ်းမြင်ရပြီ။ တောင်တန်းကြီး တတန်း ဝပ်စင်း နေသည်နှင့် တူ၏။ ဆယ့်ငါးပေ၊ ပေနှစ်ဆယ်လောက် မြင့်မည် ထင်သည်။

ညနေပိုင်းတွင်မှ တာခြေရင်းသို့ ရောက်၏။ ဗိုက်ဆာလိုက်၊ မုန့်ကို လွေးလိုက်ဖြင့် လျှောက်လာခဲ့ခြင်း ဖြစ်၏။ မစ္စစ်စပီထဲသို့ နေလုံးကြီး ထိုးဆင်းစ ပြုနေပြီ။ သူ့ခြေထောက် တွေလည်း သူ့ကို ဆက်မသယ်ချင်ကြတော့။

လမ်းအကွေ့ တကွေ့ အချိုးလိုက်တွင် လုပ်ငန်းခွင်ကို လှမ်းမြင်ရ၏။ တာဘောင်ပေါ် ကို တက်လိုက်၊ ဆင်းလိုက် လုပ်နေကြသူတွေ မည်းမည်းလှုပ်နေ၏။ မလှမ်းမကမ်းမှ မြေပြန့် ပေါ်တွင် တဲတွေ တန်းစီနေသည်။

သဲအိတ်တွေကို လူတွေက တာပေါ် ထမ်းတင်နေကြခြင်း ဖြစ်၏။ အချို့က မြည်းတွေနှင့် သယ်နေကြသည်။ ပုရွက်ဆိတ်တွေလို မနားမနေ သူတို့ လုပ်နေကြခြင်း ဖြစ်သည်။ အချို့ မြည်း တွေက မြေကြီးအိတ်တွေသယ်ပြီး တာတမံအခြေကို အားဖြည့်ဖို့နေကြ၏။ သူ့ကို ဘယ်သူမျှ ဂရုမစိုက်ကြ။ သူတို့အလုပ်နှင့် သူတို့ အသည်းအသန် ဖြစ်နေကြ၏။

"ဟေ့ကောင်ကလေး ဖယ်စမ်း၊ လမ်းမှာ ရှုပ်မနေနဲ့"ဟု ဟောက်သူက ဟောက်၏။ အလုပ်သမား လိုသေးလားဟု မြည်းမောင်းလာသူ တယောက်ကို သူ လှမ်းမေးတော့ လှည့်မကြည့်။

"ဖယ်စမ်း၊ လမ်းဖယ်စမ်း" ဟူ၍သာ တယောက်ပြီး တယောက်

အော်ငေါက်နေ ကြ၏။

လေးပတ်လည် တိုင်ကြီးတတိုင်ကို မနိုင့်တနိုင် ထမ်းလာပြီး တာဘောင်ပေါ် လှဲကာ ဆွဲတင်နေသော နီဂရိုးတယောက်ကို အနားကပ်ပြီး ဖရက် မေးသည်။

"ဒီမှာ ဘယ်သူ တာဝန်ခံလဲဗျ"

"ဘာပြောတယ်"

"ဒီမှာ ဘယ်သူ တာဝန်ခံလဲဗျ"

"ဘာပြောတယ်"

"ဒီမှာ ဘယ်သူ အကြီးဆုံးလဲ မေးတာပါ"

"မစ္စတာဗန့်စ်"

"မစ္စတာဗန့်စ် ဆိုတာ ဘယ်သူလဲဗျ"

"လူဖြူ အစိုးရကန်ထရိုက်ပဲ"

သူက ပြောပြောဆိုဆို တိုင်ကြီးကို ဆွဲတင်နေသည်။ ဖရက်က သူ့နောက်မှ ပြေးလိုက် သွားပြီး ဆက်မေးသည်။

"သူ့ကို ဘယ်မှာ တွေ့ရမလဲဗျ"

"ဟောဟို အမြင့်ဆုံးတာထိပ်က သဲအိတ်တွေ စီထားတဲ့ နောက်မှာ လည်ရှည်ဖိနပ် ကြီး စီးထားတယ်"

သူက တိုင်ကြီးကို မနိုင်မနင်းဆွဲပြီး တာဘောင်ပေါ် တက်သွားပြီ။ သူ ညွှန်ပြသည့် နေရာသို့ ဖရက် လှမ်းကြည့်လိုက်သည်။ အရပ်မြင့်မြင့် လူကြီးတယောက်ကို လှမ်းမြင်ရ၏။ အင်္ကျီ၊ ဘောင်းဘီ တဆက်တည်း ဝတ်စုံကို ဝတ်ထား၏။ ဒူးခေါင်းရောက်သည့် သားရေ လည်ရှည်ဖိနပ်ကြီး စီးထား၏။

ရှုပ်ယှက်ခတ်နေသည့် ဆူဆူညံညံ အသံတွေကြားမှ ဖရက် တိုးဝှေ့ပြီး တာပေါ်သို့ တက်လာခဲ့သည်။ တာပေါ်ရောက်မှ စီချနေသည့် သဲအိတ်တွေကို ငုံ့ကြည့်ပြီး ဘုရားတမိသည်။ မြစ်ရေပြင်မှာ ဆယ့်ငါးပေမြင့်သည့် တာကြီးပေါ်ကို ရောက်လုခမန်း ဖြစ်နေပြီ။

မစ္စစ်စပီကို အလွန်လှပသည်ဟု ထင်ခဲ့၏။ ခုတော့ မည်းညစ်ညစ် ညို့တိုတိုအဆင်းကို ဆောင်လျက် တာတမံကြီးကို ဒေါသတကြီး မာန်ဖီတိုက်ခိုက်နေပြီကော။ မြစ်ညာတွင် ဖြိုချ ဖျက်ဆီးခဲ့သည့် သစ်လုံးတွေ၊ သစ်ပင်ကြီးတွေကပါ အရှိန်နှင့် မျောပါလာပြီး တာကြီးကို မစ္စစ်စပီဘက်မှ စစ်ကူတိုက်ပေးနေ၏။ ဖရက် လန့်ပြီး ထွက်ပြေးချင်စိတ် ပေါက်သွား၏။

ထိုစဉ် သူ့ပခုံးကို လက်နှစ်ဖက်နှင့် ဆွဲပြီး-

“ဟဲ့ … ကလေး ဖယ်လေ၊ ဟိုမှာ အလုပ် လုပ်နေကြတာ မင်း မမြင်ဘူးလား”

လှည့်ကြည့်လိုက်တော့ မစ္စတာဗန့်စ် ဖြစ်နေ၏။ ဖရက်က အနီးဆုံး သဲအိတ်တလုံးကို ဖမ်းကိုင်လိုက်ပြီး-

“ကျွန်တော် အလုပ်လုပ်ဖို့ လာတာပါဦး၊ ကျွန်တော် သဲအိတ်တလုံးကို ကောင်းကောင်း ထမ်းနိုင်ပါတယ်”

“ဟ… မင်း ကလေးပဲ ရှိသေးတာ၊ ဘယ်ဖြစ်မလဲ၊ သွားပါကွာ”

ဖရက်က လက်နှစ်ဖက်ဖြင့် သဲအိတ်ကို ဆွဲပြီး ထမ်းပြလိုက်သည်။

“ကျွန်တော် ထမ်းနိုင်ပါတယ်ဗျ၊ လူကြီးတွေ လုပ်သလောက် ကျွန်တော် လုပ်နိုင်ပါ တယ် ဦး”

မစ္စတာဗန့်စ် ပြုံးသည်။ သူ့မျက်နှာမှာ နီရဲနေ၏။ တပတ်စာ မရိတ်ရသေးသည့် မုတ်ဆိတ် တွေက သူ့မျက်နှာ တခုလုံး ဖုံးတော့မလို။

“မင်း အသက် ဘယ်လောက် ရှိပြီလဲ”

“ဆယ့်လေးနှစ် ပြည့်ပါတော့မယ် ခင်ဗျာ”

“မင်း ငယ်ပါသေးတယ်ကွာ၊ ဒီအလုပ်က အရမ်းကြမ်းတာ”

“ကျွန်တော် လူကြီးတယောက်လောက် လုပ်နိုင်ပါတယ် ဦး၊ ပြီးတော့ အလုပ်ရမှ ဖြစ်မယ်၊ အမေက အဝတ်လျှော်ပါတယ်၊ ကျွန်တော်တို့ သားအမိ မစားလောက်လို့ပါ ခင်ဗျာ၊ ဒါကြောင့် ကျွန်တော် အလုပ်လုပ်ဖို့ ထွက်လာတာပါ”

မစ္စတာဗန့်စ်က မျောဒေါက်တိုင်ကြီးတတိုင်ကို ထမ်းလာသူတယောက်အား အော်ပြောသည်။

“အောက်အထိ လျှောချ၊ တောင်ဘက်လိုင်းထဲ ထည့်”

ပြီးတော့မှ ဖရက်ကို လှည့်စကားပြောသည်။

“တာကျိုးတာတို့ ဘာတို့ ဖြစ်လာရင်၊ ဖြစ်တော့ မဖြစ်ဘူးပေါ့ကွာ၊ ဖြစ်လာရင် ကလေးတယောက်အတွက် တို့ တာဝန်မယူနိုင်ဘူးကွ”

သို့သော် အလွန့် အလွန် စိတ်အားထက်သန်နေသော ဖရက်၏ မျက်နှာကို မစ္စတာဗန့်စ် ငုံ့ကြည့်နေသည်။ ပြီးတော့ ခပ်ဖြည်းဖြည်း ပြုံးသည်။

“လူတွေကတော့ အများကြီး လိုတာပဲကွ၊ ကဲ . . . ဟောဟို ဆံပင်နီနီနဲ့ အလုပ်ကြပ်ဆီ ကို သွား၊ ငါ လွှတ်လိုက်တယ်လို့ ပြော ဟုတ်ပြီလား၊ ရေမကျသေးခင် တလျှောက်လုံး တနာရီကို ဆယ်ဆင့်ရမယ် ကြားလား”

ဖရက်က ကျေးဇူးတင်ကြောင်း ပြောပြီး ဆံပင်နီနီနှင့် လူဆီသို့ ပြေးချသွားသည်။

“ကျွန်တော် မစ္စတာဗန့်စ်ဆီက လာခဲ့တာ ခင်ဗျ၊ တနာရီ ဆယ်ဆင့်နဲ့ ကျွန်တော့်ကို အလုပ်ခန့်လိုက်တယ်”

အလုပ်ကြပ်က အိတ်ထဲမှ မှတ်စုစာအုပ် ထုတ်ပြီး သူ့နာမည်ကို ရေးမှတ်သည်။

“ဟိုမှာ သဲလှည်းတစီး လာနေပြီ၊ တွေ့လား၊ အဲဒီ အပေါ်က သဲအိတ်တွေကို တာပေါ် ဆွဲတင်ရမယ်”

တာဘောင် ဆင်ခြေလျှောအတိုင်း ဖရက် ပြေးဆင်းလာခဲ့သည်။ လူတယောက်က လှည်းပေါ်မှ သဲအိတ်များကို တွန်းချပေးနေသည်။

အများနည်းတူ ဖရက် ဝင်ဆွဲသည်။ အမြင့်ကို ဆွဲတင်ရမည့် အလုပ်မှာ မလွယ်လှ ကြောင်း တွေ့ရ၏။ မြေညီတွင် ထမ်းရသည်ထက် ပိုလေး၏။ တာပေါ်အထိ ဆွဲတင်ပြီးတော့ ဖရက် အတော်မောနေပြီ။ ခဏရပ်ပြီး အမောဖြေ၏။ အလုပ်ကြပ်က လှမ်းအော်သည်။

“ဟေ့... မင်း ဘာလုပ်နေတာလဲ၊ ပြန်ဆင်းသယ်လေ”

ဖရက် ပြန်ပြေးဆင်းသွားသည်။ အလုပ်ကြပ်က အော်ပြီး အမိန့်ပေးလျှင် ချက်ချင်း ခုန်ပျံ လှုပ်ရှားရမည်ကို ဖရက် သိပြီးသား ဖြစ်၏။ သို့သော်

သဲအိတ်ကြီးတွေက သူ့အတွက် အဆမတန် လေးလံလှသည်။ လေးငါးအိတ် သယ်ပြီးတော့ လူက သာခွေယိုင် ဖြစ်လာ၏။ မိုင်ပေါင်းများစွာ လျှောက်လာရသည့်အတွက် အလိုလို ခြေကုန်နေသည့် နေ့ မဟုတ်လား။

မှောင်စပြုလာပြီ။ ဖရက် ဖတ်ဖတ်မောနေပြီ။ သူများတွေကို အကဲခတ်ကြည့်လိုက်၏။ ဘယ်သူမှ မနား။ ဆက် သယ်နေကြ၏။ သဲလှည်းတွေအနီးတွင် မီးတိုင်ကြီးတွေ ထွန်းပေး သည်။ သဲလှည်းတွေက အများကြီး၊ မီးတိုင်တွေကလည်း တန်းစီနေ၏။ အလုပ်သမားတွေ လည်း သူ့အဆိုင်းနှင့်သူ သဲသဲမဲမဲ အလုပ် လုပ်နေကြ၏။

ခပ်ယိုင်ယိုင် ခြေလှမ်းများဖြင့် လှည်းဆီသို့ ဖရက် ရောက်သွားသည်။ လှည်းသမားက လှမ်းအော်သည်။

"ဟေ့ . . . ချာတိတ် မြန်မြန်လုပ်လေ"

ဖရက် နောက်တအိတ် ဆွဲတင်ပြန်၏။ နေ့လယ်နေ့ခင်းတွင် လျှောပြေပြေနှင့် အလွန် ကြည့်ကောင်းသည့် တာရိုးကြီးသည် ယခုတော့ မျဉ်းမတ်တကြောင်းလို ထောင်နေသည်ထင်၏။ ပြီးတော့ တမိုင်လောက် မြင့်နေသည် ထင်၏။ ဖိနပ်မပါသည့် ခြေထောက်ဖြင့် တာဘောင်ပေါ်မှ မြက်ပင်တွေကို ကုတ်ကတ်ပြီး တက်သည်။

အမျိုးသမီး တယောက်အသံကို ကြားလိုက်၏။

"ကော်ဖီသောက်ချိန် ရောက်ပြီ၊ ရော့.. ကလေး"

သဲအိတ်ကို ချလိုက်ပြီး သတ္တုမတ်ခွက်ကို လှမ်းယူလိုက်သည်။ အမျိုးသမီးက သံပုံးကြီးထဲမှ ကော်ဖီတွေ ခပ်ထည့်ပေး၏။ အငွေ့တထောင်းထောင်း ထနေသည်။

ဖရက်က ဆင်ခြေလျှော မြက်ခင်းပေါ်တွင် ထိုင်ချလိုက်ပြီး-

"ကျေးဇူးတင်ပါတယ် အစ်မရယ်"

"သကြား ယူဦးမလား"

အမျိုးသမီးက သတင်းစာနှင့် ထုပ်ထားသည့် သကြားကတော့ကို ကမ်းပေးသည်။ ဖရက်က ကော်ဖီခွက်ထဲသို့ သကြားနည်းနည်း ယက်ချလိုက်၏။

"အပါး... ကောင်းလိုက်တဲ့ ကော်ဖီ"

ဖရက် သက်ပြင်းချပြီး ပြောသည်။

“မစ္စက်လေးမင်း၊ မစ္စက်လေးမင်း၊ ဒီဘက်မှာ လူရှိသေးတယ်၊ ဒီဘက်ကို လာပါဦး”

အမျိုးသမီးက လှမ်းအော်တော့ ဗိုက်ရွှဲရွှဲနှင့် မိန်းမတယောက် အမှောင်ရိပ်ထဲမှ ထွက် လာသည်။ သံပုံးကြီးတပုံးကို မနိုင်မနင်းဆွဲလျက်။ ပုံးထဲတွင် ဝက်ဆီဖတ်နှင့် အသီးအနှံတွေ။ ဖရက်ကို ပန်းကန်တချပ်နှင့် ဇွန်းတချောင်းပေးပြီး စားစရာတွေ အမို့အမောက် ထည့်ပေး၏။ သည်လောက် အရသာရှိသည့် ညစာမျိုး ဖရက်၏ တသက်တာတွင် မစားဖူးခဲ့ပေ။

“စား စား၊ မင်းတို့လူတွေ စားနိုင်မှ လုပ်နိုင်မှာ”

သုံးမိနစ်အတွင်း သူ့ကို နှစ်ခါယူစားသူ စာရင်း အသွင်းခံလိုက်ရ၍ ဖရက်ပျော်သွားသည်။ ဗိုက်ပြည့်တော့မှ ဟိုဟို သည်သည် လှမ်းအကဲခတ်သည်။ အမျိုးသမီးတဒါဇင်ခန့် လိုက်ကျွေး နေကြခြင်း ဖြစ်၏။ အလုပ်သမားများ၏ အိမ်သူများ ဖြစ်မည်။

“မင်းအခြေအနေ ဘယ်လိုလဲဟေ့”

တရင်းတနှီး မေးသည့် အသံ။ လှည့်ကြည့်လိုက်တော့ မစ္စတာဗန့်စ် ဖြစ်နေ၏။ ကြင်နာ တတ်သည့် အပြုံးမျိုးဖြင့် သူ့ကို ပြုံးကြည့်ပြီး မေးလိုက်ခြင်း ဖြစ်၏။

“ကောင်းပါတယ် ခင်ဗျာ၊ ကျွန်တော် လုပ်နိုင်ပါတယ်”

“မင်း ခရီးပန်းလာတယ်၊ အိပ်ပါတော့လား”

ဖရက် ဟန်မဆောင်ဘဲ ပြန်ပြောလိုက်၏။

“ဟုတ်ကဲ့ပါ ခင်ဗျာ၊ ကျွန်တော် ဘယ်မှာ အိပ်ရမှာပါလဲ ဦး”

“လာ.... ငါနဲ့ လိုက်ခဲ့၊ ငါလည်း တရေး မှေးမလို့”

သူ့နောက်မှ ဖရက် ဆင်းလိုက်သွားသည်။ တာခြေရင်းတွင် လူတွေ၊ မြည်းတွေ အားလုံး ရွှံ့တွေ၊ ရေတွေ ပေကျံနေ၏။ တဲတလုံးထဲသို့ ပတ္တာဖူးစကို မပြီး မစ္စတာဗန့်စ် ဝင်သွားသည်။ နောက်မှ ဖရက် လိုက်ဝင်သွား၏။ ကွပ်ပျစ်ကြမ်းပေါ်တွင် လူတွေ တန်းစီ အိပ်နေသည်ကို ခပ်ရေးရေး မြင်ရ၏။

“ကျွန်တော် ဘယ်အနားမှာ အိပ်ရမလဲ ခင်ဗျာ”

"လွတ်တဲ့ နေရာသာ ဝင်အိပ်ကွာ၊ မင်း အလုပ်လုပ်တာ မဆိုးပါဘူး"

မစ္စတာဇန့်စ်က ပြောတော့ ဖရက် ဝမ်းသာသွားသည်။ ပြောပြောဆိုဆို မစ္စတာဇန့်စ် သူ့အိပ်ရာရှိရာ အမှောင်ထဲသို့ လျှောက်သွားရင်း ပျောက်ကွယ်သွား၏။ ခြေထောက်တွင် ရွှံ့တွေ ပေလူးလျက် အတိုင်းပင် လွတ်သည့် နေရာတွင် ဖရက် လှဲချလိုက်သည်။ ချက်ချင်း အိပ်ပျော် သွားသည်။

အခြားလူတွေ ထတော့ ဖရက် နိုးလာသည်။ အပေါက်ဝမှ ဝင်နေသည့် အရုဏ်တက် အလင်းရောင်ကို မြင်နေရ၏။ လူတွေ တယောက်နှင့်တယောက် စကား သိပ်မပြောကြ။ သူ့ကိုလည်း တယောက်မျှ နှုတ်မဆက်။ အပြင်တွင် မိုးရွာမည့် ဟန် ပြင်နေသည်။ ညက အမျိုးသမီးတသိုက် ပေါင်မုန့်နှင့် ကော်ဖီ လိုက်ဝေနေကြပြန်သည်။

မိုးစင်စင်လင်းတော့မှ သည်အမျိုးသမီးတွေလည်း အလုပ်လုပ်နေသည်ကို ဖရက်တွေ့ရ သည်။ သူတို့ ကလေးတွေပါမကျန် ဝင်ရောက် သယ်ပိုးနေကြ၏။ အားလုံး သဘောကောင်းပုံ ရကြသည်။ ဖရက်သည် သည်လိုပတ်ဝန်းကျင်ကို ရောက်လာ၍ ပင်ပန်းရမှန်း မသိဘဲ ပျော်နေ၏။

မြစ်ရေက တက်သည်ထက် တက်လာလေ အလုပ်က ပင်ပန်းလေ ဖြစ်လာ၏။ အလုပ် သမားတွေ ဘယ်သူမျှ မနားရဲအောင် ဖြစ်လာကြသည်။ သည်လောက် အလုပ်လုပ်သည့် လူတွေ ကို ဖရက် တခါမျှ မမြင်ဖူးခဲ့။ အမျိုးသမီးများက တနေ့လျှင် သုံးကြိမ် အစားအသောက်ကျွေး သည်။ မိုးရွာရွာ နေပူပူ လိုက်ကျွေး၏။ အလုပ်သမားတွေကလည်း မြင်းလှည်းတွေကို မှီသူမှီ၊ မြေသယ်လက်တွန်းလှည်းပေါ် တက်ထိုင်သူ ထိုင်နှင့် စားကြ သောက်ကြ၏။ ပြီးသည်နှင့် ချက်ချင်း အလုပ်ပြန်စ ကြရသည်။

အမြင့်ဆုံး တာနေရာကနေပြီး တမိုင်လောက်ကို သူတို့ သဲအိတ်တွေ စီချနေကြသည်။ ထောင်ပေါင်းများစွာသော သဲအိတ်တို့သည် ကြာတော့ တောင်လို မောက်လာသည်။ မိန်းမ တွေက ကွင်းထဲတွင် မြေကြီးတူးပြီး ယောကျ်ားတွေက တွန်းလှည်းနှင့် သယ်ကြသည့် ဆိုင်းများ လည်း ရှိ၏။ မြည်းဖြင့် ဆွဲတင်သည့် ဆိုင်းများလည်း ရှိ၏။ မြည်းတွေမှာ ပင်ပန်းလွန်း၍ ခိုင်းလို့ သိပ်မရချင်တော့။ တံ့နှေးစွာဖြင့် လှမ်းနေကြ၏။ အလားတူ မြည်းမောင်းသူများလည်း မနည်းဟန်ထားရပုံရ၏။ မိုးရွာချလိုက်၊ နေပူလာလိုက်ဖြင့် လူတွေမှာ လူရုပ် မပေါ်ကြတော့။

မိုးတိတ်ပြန်တော့ ဗွက်ထဲ ရုန်းရသည်မှာ မလွယ်။ ဖိနပ်ရှိသူများ မရုန်းနိုင်သဖြင့် ဖိနပ် တွေ ချွတ်ပစ်ရ၏။ ဖရက်သည် နေ့နှင့်ည မခွဲခြားနိုင်အောင်

ဖြစ်လာ၏။ အချိန်နာရီကိုလည်း မမှန်းတတ်တော့။

ညညတွင် လူတွေက အလင်းရောင်ရဖို့ မီးတွေ ဖိုကြသည်။ သို့သော် မိုးရွာချလိုက်လျှင် ငြိမ်းသွားကြပြန်၏။ သည်လိုအခါမျိုး ဆိုလျှင် မှောင်နှင့်မည်းမည်းထဲတွင် အလုပ်လုပ်ရ၏။ မခံမရပ်နိုင်လောက်အောင် ပင်ပန်းလာမှ တဲတန်းလျားဆီကို ပြန်ပြီး အိပ်ကြရ၏။ အချို့လည်း တန်းလျားအထိ မပြန်နိုင်ကြတော့ဘဲ လဲကျရာ နေရာတွင် ရွှံ့အလူးလူးဖြင့် အိပ်လိုက်ကြ၏။ သည်ပုံနှင့် ပြန်ထ၊ အလုပ်လုပ်၊ ညပိုင်းတွင်လည်း တလဲလဲ။ သည်သံသရာတွင် လည်နေကြ၏။

ရေသည် တလက်မချင်း တက်လျက်ရှိ၏။ သဲအိတ်တွေ၊ မြေကြီးတွေ ဖို့လို့ မနိုင်နိုင် အောင် ဖြစ်လာ၏။ မြစ်ရေသည် အမြင့်ဆုံးတာခြေကို ဝဲစုပ်ကာ ပြင်းထန်သော အဟုန်ဖြင့် တိုက်စားလျက် ရှိသည်။ သည်နေရာကို သဲအိတ်တွေ ပစ်ချပြီး ရေအလျဉ်ကို တားဆီးဖို့ ကြိုးစားသော်လည်း အချည်းနှီးသာ။ ကြိုတင် ကျားကန်ထားသည့် သစ်သား ကတုတ်များ၊ ကတုတ်ထဲမှ သဲများကိုလည်း မစွစ်စပီက ဝါးမျိုပစ်လိုက်လေပြီ။

သဲအိတ်များ ချလို့ မနိုင်နိုင်အောင် ဖြစ်လာသောအခါ အလုပ်သမားအချို့က ကြံရာမရနှင့် သူတို့အိပ်ရာတွေကို ယူလာပြီး ပစ်ချကြ၏။ မစ္စတာဗန့်စ်က သည်လိုလုပ်သည်မှာ မြစ်ရေကို တားဆီးဖို့ ဘာမျှ အထောက်အကူ မပြုကြောင်း ဖရက်ကို ကပ်ပြောသည်။ သို့သော် သူတို့ အပြုအမူမှာ အားတက်စရာလို ဖြစ်နေ၏။

မိန်းမတွေက ဘာအကြံပေါက်သည် မသိ၊ သူတို့ မွေးထားသည့် ကြက်၊ နွားတိရစ္ဆာန်တွေ ကို တာပေါ်မောင်းတင်ဖို့ လုပ်နေကြ၏။ အလုပ်ကြပ်က ခွင့်မပြုဘဲ တားထားရသည်။ ရေတက် နေသည့် သတင်းကြောင့် အရပ်ထဲမှ နှစ်ထပ်အိမ်များ အပေါ်ထပ်သို့ ပြောင်းရွှေ့နေကြပြီ။

ရွာထဲတွင် တဲကုပ်ဖြင့် နေရသည့် နီဂရိုးများက နှစ်ထပ်အိမ်နှင့် နေနိုင်သူ လူဖြူများထံ အသနားခံပြီး နားခိုခွင့် တောင်းကြရသည်။ တမြို့လုံး၊ တနယ်လုံး တာမကျိုးပါစေနှင့်ဟု ဆုတောင်းလျက် ရှိကြ၏။ ကလေးတချို့က သူတို့ အဝတ်အစားတွေ၊ ကစားစရာတွေကို သစ်ပင် ပေါ် တက်ချိတ်ထားကြသဖြင့် သစ်ပင်များမှာ ခရစ္စမတ်သစ်ပင်များနှင့် တူနေတော့သည်။

တာလုပ်သားများ၏ မိန်းမများကတော့ ပစ္စည်းတွေ သိမ်းကာ အသင့်လုပ်ထားကြ၏။ အလုပ်သမားများကိုတော့ တယောက်မျှ မစ္စတာဗန့်စ်က ပြန်ခွင့် မပေး။ ကိုယ်ဝန်ကြီးနှင့် မိန်းမတယောက်က အထုပ်အပိုးတွေ သစ်ပင်ပေါ်တင်ဖို့ သူတယောက်တည်း မဖြစ်နိုင်၍ သူ့ယောက်ျားကို

ခဏခွင့်ပြုပါမည့်အကြောင်း ရှိခိုးဦးတင် တောင်းပန်သဖြင့် သူ့ကိုတော့ မစ္စတာ ဗန့်စ်က သွားခွင့် ပေးလိုက်သည်။ ရွာနီးချုပ်စပ်များတွင် လေ့ရှိသူများက ပစ္စည်းတွေ လှေပေါ် တင်ပြီး အသင့်ပြင်ထားကြ၏။

သို့သော် စခန်းထဲမှ အမျိုးသမီးအချို့ကတော့ သွေးအေးသည်။ သူတို့ပစ္စည်းပစ္စယ ကလေးများကို လွတ်ရာကျွတ်ရာ ပို့ပြီး အလုပ်သမားတွေ စားဖို့ သောက်ဖို့ ချက်ပြုတ်နေကြ၏။ ကလေးအချို့ အပြင်ထွက် ကစားနေကြ၏။ အချို့အင်္ကျီအပြဲ ထိုင်ချုပ်နေကြ၏။ အချို့ ဝက်စာ ကျွေးနေကြ၏။ ရေကြီးသည်ကို သူတို့ အကြိမ်ကြိမ် မြင်ဖူးသည်။ တာကျိုးသည်ကို မမြင်ဖူး၍ သူတို့ ကြောက်ရမှန်း မသိကြခြင်း ဖြစ်၏။

ပခုံးတွေ၊ လက်မောင်းတွေ ပြုတ်ကျမတတ် သဲအိတ်တွေ ဖရက် ဆက်ထမ်းသည်။ သည်ည သူက မီးဖိုပေးသည်။ မိုးရွာသဖြင့် မီးသေသွားတော့လည်း ခါတိုင်းလိုပင် အမှောင် ထဲတွင် ဆက်ထမ်းသည်။ စားချိန်ရောက်လျှင် တာပေါ်တွင် မတ်တတ်စားသည်။ တခါတလေ ဆောင့်ကြောင့်ထိုင် စားသည်။ ပန်းကန်ပြား မလောက်သဖြင့် အပြေးအလွှား စားရ၏။ တာပေါ် က ပြေးဆင်းလာသည့်တိုင် ပါးစပ်ထဲတွင် ပလုတ်ပလောင်းနှင့်။

အိပ်ချိန်တွင် တဲထဲသို့ ပြန်ရောက်သည့်အခါလည်း ရှိ၏။ မြေကြီးပေါ်တွင် ပစ်လှဲချပြီး အိပ်ပျော်သွားသည့် အခါလည်း ရှိ၏။ သို့သော် သူများနည်းတူ ထပြီး လုပ်၏။ ဒါလောက် ဒေါသကြီးနေသည့် မစ္စစ်စပီကို သူတို့ နိုင်အောင် တိုက်နိုင်ပါမည်လားဟု စိတ်ထဲ သံသယ ဖြစ်လာ၏။

သို့သော် စိတ်ကို တင်းထားသည်။ ငါ့အမေအတွက် တနာရီ ဆယ်ဆင့်နဲ့ အလုပ်လုပ် နေတာပဲ၊ ဒါ ငါ့ရဲ့ ကိုယ်ရေး ကိုယ်တာ တိုက်ပွဲပဲ၊ မစ္စစ်စပီ ပါးပျဉ်းကျသွားအောင် လုပ်မယ့် တိုက်ပွဲဟာ ငါ့တိုက်ပွဲပဲ။ သည်တာကြီး မကျိုးအောင် လုပ်ရမည်၊ သည်တာကြီး ခိုင်ခံ့အောင် လုပ်ရမည်။ လူတချို့နှင့် မြည်းတချို့ အသက်ဆုံးချင် ဆုံးလိမ့်မည်။ သို့သော် မစ္စစ်စပီကိုကား အောင်နိုင်ရမည်။

တနေ့ သဲအိတ်ကို တာပေါ် ဆွဲတင်နေချိန်တွင် မစ္စတာဗန့်စ် ရောက်လာသည်။

"ကြိုးတချောင်းရှာပြီး မြည်းတွေ ဆွဲသလို ဆွဲကွ၊ အဲဒါ ပိုသက်သာတယ်"ဟု အကြံပေး၏။

"ဟုတ်ကဲ့ ခင်ဗျ"

မစ္စတာဇန့်စ်က တွေ့လျှင် သူနှင့် အာလာပသလ္လာပ ပြောတတ်သည်။

"ဟေ့ . . . ခဏ နေဦးကွ၊ ဟိုမှာ ကော်ဖီအမျိုးသမီး လာနေပြီ"

အလုပ်သမားတွေ ဝိုင်းပြုံ ရောက်လာကြသည်။ မစ္စတာဇန့်စ်က ကော်ဖီတခွက်ယူပြီး ဖရက်ကို ပေးသည်။ အခြား အလုပ်သမားတွေကိုလည်း "ကလေးကို ဦးစားပေးကြပါကွာ" ဟု မေတ္တာရပ်ခံသည်။

"ကျေးဇူးတင်ပါတယ် ခင်ဗျာ"

အငွေ့တထောင်းထောင်းနှင့် ကော်ဖီကို ဖရက် မော့ချလိုက်သည်။

ကောင်းလိုက်သည့်ဖြစ်ခြင်း။ မစ္စတာဇန့်စ်ကလည်း သူ့နံဘေး လာသောက်ရင်း သူ့ကို ပြုံးကြည့်နေသည်။ သူ့အဝတ် အစားများမှာလည်း ရွှံ့နိုင်းချင်းနှင့် ဖြစ်နေပြီ။ မုတ်ဆိတ်မွေးတွေကလည်း မျက်နှာတခုလုံးကို တောဖုံးလုနေပြီ။ သူ့တွင် ရိတ်ချိန် လုံးဝ မရတော့။

"ကျေးဇူးတင်ပါတယ်ကွာ၊ မင်းတို့ အမျိုးသမီးတွေ မရှိရင် တို့ ဒီလို အလုပ်ဖြစ်မှာ မဟုတ်ဘူး" ဟု ကော်ဖီအမျိုးသမီးကို လှမ်းပြောလိုက်သည်။

"ဟုတ်ကဲ့ရှင့်၊ ကျွန်မတို့ ဘာမှ မပင်ပန်းပါဘူး၊ ညစာကို တဲမှာ စားမှာလား၊ ဒီမှာ ပဲ စားမှာလား ရှင့်"

"ဒီမှာပဲ စားတာပေါ့ကွာ၊ ကဲ . . . ဖရက် အလုပ်ပြန်စကြစို့၊ ပင်ပန်းနေပြီလား"

"မပင်ပန်းပါဘူး ခင်ဗျာ"

မစ္စတာဇန့်စ်က ပြုံးပြီး "ငါ ပြောသလို ဆွဲကွ"ဟု ပြောသွားသေးသည်။ သူ ပြောသည့် အတိုင်း လုပ်ကြည့်တော့ လူသက်သာသည်။ သူနှင့် စကားများများ ပြောချိန်ရလျှင် သိပ်ကောင်း မှာပဲဟု ဖရက် တွေးနေမိ၏။ သူ့အလုပ်ကို ဖရက် ယဉ်ပါးစ ပြုလာပြီ ဖြစ်၏။

ရေတက်ရှိန် တန့်သွားလျှင်တော့ သူနှင့် စကားပြောဖို့ အချိန်ရကောင်းပါရဲ့။ သည် အဆင့်ရောက်အောင်၊ သည်လိုအလုပ်မျိုး လုပ်နိုင်အောင် ဘာတွေကို ကျော်ဖြတ်ခဲ့ရသလဲ ဖရက် သိချင်နေ၏။

ကော်ဖီသောက်ပြီး အလုပ် ပြန်စနေကြပြီ။ မစ္စတာဇန့်စ်က မြည်းသမားအုပ်စုကို အော်ဟစ် အမိန့်ပေးနေ၏။ သူ ပြောပုံဆိုပုံကို ဖရက်

သဘောကျနေသည်။ လေးလည်း လေးစားမိ၏။ အမြင့်ဆုံးနေရာတွင် မတ်တတ်ရပ်ပြီး မစ္စစ်စပီကို ဆဲဆိုကြုံးဝါးနေ၏။ မြစ်ရေက သဲအိတ် အပေါ်ဆုံးလွှာကို ရောက်တော့မည်။ မျောပါလာသည့် သစ်ပင်ကြီးငယ်တွေကလည်း မစ္စစ်စပီ ၏ စစ်ကူများပမာ တာကြီးကို အားနှင့် အင်နှင့် ဝင်ဆောင့် တိုက်ခိုက်နေ၏။

မျောတိုင်ကြီးများဖြင့် လူတချို့ ကျားကန်ထားသည့် နေရာသို့ အရောက်သယ်သွားပြီး သဲအိတ်ကို ဖရက် ပစ်ချလိုက်သည်။ နေလုံးကြီးက မစ္စစ်စပီ၏ ဟိုမှာဘက်ကမ်းဆီသို့ နိမ့်ဆင်း စ ပြုနေပြီ။ မကြာခင် ညစာ ရောက်လာတော့မည်။ နောက်ဘက်မှ မစ္စတာဗန့်စ်၏ အမိန့်ပေးသံ ကြားလိုက်ရသည်။

“ဟေ့… ဟိုအမျိုးသမီးကို ပြောစမ်း၊ နွားတွေ ပြန်မောင်းယူသွားလို့၊ သူ့နေရာမှာ သူ ပြန်နေပစေလို့၊ ဟေး… ဖရက်… ဖရက်အပ္ပဂျွန်း”

ဖရက်က မစ္စတာဗန့်စ်ဆီ ပြေးသွားသည်။

“ဟုတ်ကဲ့ ခင်ဗျာ”

“သူတို့ မျောတိုင်တွေ လိုလိမ့်ဦးမယ်၊ မင်း သွားထမ်းခဲ့”

“ဟုတ်ကဲ့ ခင်ဗျ”

ဖရက် ခဏ တွေသွားသည်။ မြစ်ရေကို ကာဆီးထားသည့် သဲအိတ်တန်းကြီးကို ကြည့်ပြီး-

“ဦး.. ဦး.. ရေတွေ အရမ်းတက်လာပြီ ခင်ဗျ”

“သွားပါ သားရယ်၊ မပူပါနဲ့၊ ရေတက်တာ မဆန်းပါဘူး”

“ဒီလိုပဲ တက်တတ်တာပဲလား ဦး”

မစ္စတာဗန့်စ်က ခေါင်းယမ်းပြီး-

“ဒါလောက်တော့ မတက်ဖူးဘူးကွ၊ ငါ့လုပ်သက် နှစ်ပေါင်း နှစ်ဆယ်အတွင်းမှာ ဒီနှစ် ရေတက် အကြမ်းဆုံးပဲ၊ စက္ကန့်ပေ ပေနှစ်သန်းလောက် ရှိနေပြီ”

“ဗျာ.. စက္ကန့်ပေ ဆိုတာ ဘာလဲဟင် ဦး”

"တမိနစ်မှာ တက်တဲ့ ရေကုဗပေကို ပြောတာ၊ ကဲ . . . မျောသွားထမ်းချေဦး"

"ဟုတ်ကဲ့ဦး၊ ကျွန်တော် စကားကြောရှည်ချင်လို့ မဟုတ်ပါဘူး ခင်ဗျာ"

ဖရက် ပြေးဆင်းလာခဲ့ပြီး မျောတွေ တွင်တွင်သယ်ပေးသည်။ အလုပ်သမားကြီးတွေက နေ့းနေ့းနှင့် မှန်မှန် သံအိတ်တွေကို ကျားကန်နေကြ၏။ သူတို့ကို ကြည့်ပြီး ငါ့လောက် သူတို့ မပင်ပန်းပါဘူးဟု စိတ်ထဲ ထင်လိုက်၏။ မျောတိုင်တွေကို ဖရက် မနားမနေ ထမ်းပို့နေရသည်မှာ ကြာပြီ။ လူလည်း ဗုန်းဗုန်းလဲတော့မည်။

အလုပ်ထဲတွင် ပင်ပန်းလွန်းသည့်အပြင် နေပူလိုက်၊ မိုးရွာလိုက်နှင့် ဖျားနာသူများ၊ ဗုန်းဗုန်း လဲ၍ ပြန်ကြရသူများ ရှိ၏။ သို့သော် ဖရက်က ခံနိုင်ရည် ရှိသည်။ သူ့ကို ဖျားအောင် နာအောင် ဘယ်အရာကမျှ မလုပ်နိုင်သလို ဖြစ်နေ၏။ တာတမံ တုတ်၍ မပြီးမချင်း၊ ရေမကျမချင်း သူ ပေနေမည်။ သည်ပွဲပြီးလျှင် ညစာစားပွဲကြီးနှင့် အောင်ပွဲခံမည်။ ကြက်သား၊ ဝက်သား၊ အလျှံပယ် ကျွေးမည်ဟု အမျိုးသမီးတွေက အားပေး၏။

ကျိုးပေါက်လုနီးပါး နာနေသည့် နေရာတွင် ပန်းတာတခုထပ်ဖို့ ဝါရှင်တန်မှ အစိုးရ အင်ဂျင်နီယာများ လွှတ်ပေးမည် ဆို၏။ အလုပ်သမားများကတော့ စားပွဲ၊ ကုလားထိုင်ဖြင့် စားရမည့် ညစာစားပွဲကို မြင်ယောင်ပြီး သွားရည်ကျနေကြပြီ။ ဖရက် တကိုယ်လုံး ရိုက်ထားသလို နာကျင်နေပြီ။ သို့သော် ဖွဲကား မလျှော့။ ဉာဏ်စွမ်းရှိသမျှ၊ ကိုယ်စွမ်းရှိသမျှ တိုက်ပွဲဝင်မည်။

အလုပ်သမားတွေက သူ့ကို သစ်သားပြားတွေ သယ်ခိုင်းသည်။ ပြီးတော့ သံတွေ တနင့် တပိုး သယ်ခိုင်းသည်။ ပြီးမှ သံအိတ်တွေ ဆက်သယ်ရ၏။ ဖရက်၏ ခြေထောက်တွေ စုတ်ပြဲ နေပြီ။ ရောင်ကိုင်းနေပြီ။ တကိုယ်လုံးလည်း ချွေးတွေ စက်စက်နစ်နေပြီ။ လူတွေ အော်သံ၊ ဆူသံတွေကို မစ္စစ်စပီ၏ အော်မြည်သံက လွှမ်းနေ၏။ စိတ်ထဲတွင် ထူးဆန်းနေ၏။ မိမိသိသည့် မစ္စစ်စပီသည် ငြိမ့်ငြိမ့်ညင်ညင်ကလေး စီးသွင်နေသည့် မစ္စစ်စပီပါ။ ခုတော့ တဟဲဟဲအော်မြည် ကာ တိုက်ပွဲ ခေါ်သံကို ဟစ်ကြွေးနေသည့်အလား။

ဖရက်သည် ဘုရားတပြီး ဆုတောင်းနေမိ၏။

သည်တာကြီးကို မကျိုးမပေါက်အောင် စောင့်ရှောက်တော်မူပါဘုရား။ ခြေထောက် အောက်မှ မြေကြီးတွေ သိမ့်သိမ့်ခါ သွားသည်ဟု စိတ်ထဲ ထင်လိုက်၏။ သံအိတ်တန်းကြီး လှုပ်လှုပ် ရှားရှား ဖြစ်နေပါပြီလား။ အလုပ်သမားများ၏ အော်သံသည် လူ့သံနှင့် မတူတော့။ ငယ်သံပါ အောင် စူးစူးဝါးဝါး အော်နေကြ၏။

လက်ထဲမှ တူတွေ၊ မျောတိုင်တွေ ချပြီး ဦးတည့်ရာသို့ စွတ်ပြေးနေကြ၏။ တာရိုးတဖက်စီကို ဦးတည်ပြီး ပြေးနေကြခြင်း ဖြစ်၏။

ထိုစဉ် မစ္စတာဗန့်စ်က သူ့ပခုံးကို အားနှင့် ဆွဲလိုက်သည်။ သူ လဲကျသွား၏။ ချက်ချင်း ပြန်ထသည်။ ကွင်းထဲတွင် မိန်းမတွေ အော်သံ၊ နွားတွေ၊ ဝက်တွေ အော်သံဖြင့် အဝီစိပွက်သလို ဆူညံသွား၏။

တာကျိုးသွားလေပြီ။

"ဟေး... ဖရက်.. ပြေးလေ၊ မင်း ဘာလုပ်နေတာလဲ၊ သေပါတော့ကွာ၊ ကလေးတယောက်ကို ငါ ခေါ်ထားမိတာ မှားတာပဲ"

မစ္စတာဗန့်စ်က ပြောရင်း ပြေးနေ၏။ သည်တော့မှ ဖရက် စွတ်ပြေးလိုက်သွားသည်။ မြင်ကွင်းအားလုံး ရှုပ်ယှက်ခတ်နေသည်။ လူဖြူတွေ၊ လူမည်းတွေ၊ ဝက်တွေ၊ နွားတွေ၊ ကော်ဖီ ပုံး သယ်ပြေးနေကြသည့် မိန်းမတွေ၊ ကလေးတွေ၊ မြေသယ် လှည်းတွေ။

အဆုတ်တွေ ပွင့်ထွက်သွားမတတ် ဖရက် ဆက်ပြေးနေ၏။ ရွှံ့တွေ ကပ်နေသည့် မျက်စိကို ပွတ်လိုက်သည်။ ပြီးတော့ နောက်ဘက်ကို ပြန်လှည့်ကြည့်လိုက်၏။ သူတို့ ကြိုးစားပမ်းစား အားထုတ်ပြီး ကျားကန်ခဲ့သည့် နေရာမှာ ကြောက်မက်ဖွယ်အရှိန်ဖြင့် ရေတွေ ဒလဟော စီးဝင် နေလေပြီ။

ကျိုးသွားသည့် တာအကျယ်မှာ လမ်းတခုစာမျှလောက်သာ ရှိ၏။ သို့သော် မိနစ်ပိုင်း အတွင်း ရေလုံးကြီးသည် သဲအိတ်တွေကို တွန်းဖယ်ဖြိုဖျက်ကာ အတင်းတိုးဝင်နေသဖြင့် ကျိုးသည့် တာအပေါက်မှာ ကျယ်သည်ထက် ကျယ်လာကာ ဝင်နေသည့် ရေလုံးကြီး၏ အရှိန်မှာလည်း များသည်ထက် များလာတော့၏။ နွားမတကောင် တလိမ့်ခေါက်ကွေး လဲကျ မျောပါသွား၏။ ကျိုးနေသည့် တာပေါက်ကြီး၏ ဟိုဘက်တွင် မိမိတို့နှင့် ဆန့်ကျင်ဘက်ဆီသို့ တအားပြေးနေသူ များကိုလည်း မြင်နေရ၏။ ကမ္ဘာကြီး နှစ်ခြမ်းကွဲသွားသလို စိတ်ထဲ ထင်လိုက်၏။ သည်လူ တွေကို နောက်ထပ် ပြန်တွေ့ရပါတော့မည်လား။

ကြည့်ရင်း ကြည့်ရင်း ကျိုးသွားသည့်တာမှာ လမ်းတလမ်းစာလောက်မှ ပေနှစ်ရာ လောက် ဖြစ်သွားသည်။ ကွင်း တခုလုံး ရေလျှံသွားပြီ။ ရေသံသည် ပို၍ကြောက်စရာကောင်း လောက်အောင် ဆူညံလာသည်။

တနင်္ဂနွေကျမ်းစာ သင်တန်းတွင် လူတွေပြောသလို ကမ္ဘာ့နောက်ဆုံးတရားစီရင်ခန်းနေ့၏ ဘုရားသခင် ရယ်သံမျိုးများလား။

တဲတန်းလျှားများဆီတွင် လှေတွေပေါ်ကို မိန်းမတသိုက် တိုးဝှေ့တက်နေကြ၏။ ကလေးတချို့က သစ်ပင်ပေါ် တက်ပြီး မအေတွေကို အော်ခေါ်နေကြ၏။ သို့သော် မအေတွေက သူတို့ဆီ မသွားနိုင်တော့။ လှေတွေ ရေစီးနှင့် မျောပါသွားကြ၏။ တာကြီးသည် ရေပတ်လည် ဝိုင်းရံလျက်ရှိသည့် ကျွန်းရှည်လမျောကြီး ဖြစ်သွားလေပြီ။ တာပေါ်တွင် လူတွေ၊ တိရစ္ဆာန် တွေ အပြည့်အကျပ် ပြေးလွှားနေကြ၏။

သဲအိတ်တွေက ပြိုလို့ မဆုံးတော့။ တာကျိုး အပေါက်ဝသည် ကျယ်သထက် ကျယ် လာနေပြီ။ တာဘေးမှ သစ်ပင်တပင်ပေါ်တွင် ငှက်သိုက်တသိုက် ရှိ၏။ ငှက်ကလေး လေး ကောင် ပေါက်နေသည်။ ငှက်ဖိုနှင့် ငှက်မသည် ထပျံသွား၏။ ငှက်ကလေးတွေက ကြောက်အား လန့်အားဖြင့် တစာစာအော်နေပုံကို ဖရက် လှမ်းမြင်နေရသည်။ သစ်ပင်သည် ရေအစီးတွင် လဲပြိုကျသွားသောအခါ ငှက်သိုက်ကလေးလည်း လွင့်စဉ်မျောပါသွားလေတော့သည်။ ငှက်ဖို နှင့် ငှက်မသည် ဆောက်တည်ရာမရ တစာစာအော်မြည်လျက် ပျံသန်းလိုက်ပါသွားလေသည်။

“မကောင်းဘူး၊ တာမကောင်းလို့ ကျိုးတာ”

ဖရက် တယောက်တည်း ပြောနေ၏။ ရင်ထဲတွင် နာလာသည်။ ခြေတွေ၊ လက်တွေ နာခြင်းမျိုး မဟုတ်၊ ပြီးတော့ မျက်ရည်တွေ ကျလာသည်။ ဘယ်သူမျှ မမြင်၍ တော်ပါသေး၏။ အရမ်းရှက်သွားသည်။ ကလေးဘဝ လွန်မြောက်ကတည်းက ဖရက် မျက်ရည်မကျခဲ့ခြင်း ဖြစ်သည်။ မျက်ရည်သုတ်ပြီး လှမ်းကြည့်လိုက်တော့ ဒူးနှစ်ဖက်ပေါ်ကို မေးထောက်လျက် ထိုင်နေသော မစ္စတာဗန့်စ်ကို လှမ်းမြင်ရသည်။ သူလည်း မျက်ရည်တွေ ကျနေ၏။

မစ္စတာဗန့်စ် သူ့ကို မြင်သွားပြီ။ နာကျင်သည့် မျက်နှာမျိုးဖြင့် ပြုံးပြ၏။ သူ့အနားကို ဖရက် ရောက်သွားတော့ အတင်းဆွဲပြီး ထိုင်ခိုင်းသည်။

“တို့ ဘယ်သူ့မှ ပြန်မပြောကြေးနော် သား”

“ဟုတ်ကဲ့ပါဦး”

ခပ်နိမ့်နိမ့်သစ်ပင်များ ရေအောက် ရောက်သွားပြီ။ ခပ်မြင့်မြင့် သစ်ပင်များ၏ သစ်ကိုင်း များပေါ်တွင် ငှက်တွေ ဝိုင်းအုံကာ အော်မြည်နေကြ၏။ သားတကွဲ မယားတကွဲ ဖြစ်နေသည့် ကျေးငှက်သာရကာများ။ ဟိုအဝေးမှ အိမ်ကလေးများမှာ မီးခိုးခေါင်းတိုင်သာ ရေပေါ်တွင် ကျန်တော့၏။ တာပေါ်မှ အလုပ်သမားများက သူတို့မိန်းမများ၏ လှေတွေကို ဟိုဘက်လှော်၊ သည်ဘက်လှော်နှင့် ရေစီးအခြေအနေကို ကြည့်ပြီး အော်ဟစ်နေ၏။

ရေပြင်ပေါ်တွင် စားပွဲတွေ၊ ကုလားထိုင်တွေ၊ မွေ့ရာတွေ၊ ဝက်တွေ၊ နွားတွေ ပေါလောပေါ်ကာ မျောလျက်ရှိသည်။

ခဏာ နားပြီး ဖရက် စကားစသည်။

“ကျွန်တော် တခု မေးပါရစေဦး၊ တာကို မကျိုးအောင် ဆောက်လို့ မရဘူးလား”

မစ္စတာဗန့်စ် သက်ပြင်းရှည်ကြီးတချက် ချသည်။

“သူတို့ကတော့ ဖြစ်နိုင်တယ် ပြောတယ်ကွ၊ ဘုရားသခင် စောင်မကြည့်ရှုတော်မူရင် တော့ မသိဘူး”

“ကျွန်တော် ကြီးလာရင် မကျိုးနိုင်တဲ့ တာတွေ ဆောက်မယ် ဦး၊ ခုလို လူတွေ ဒုက္ခမရောက်စေရဘူး”

“သွားစမ်းပါကွာ၊ အဓိပ္ပာယ်မရှိ”

မစ္စတာဗန့်စ် စိတ်ဓာတ်အကျကြီး ကျနေသည်။ ဖရက် သူ့ကို အပြစ်မတင်ရက်ပါ။ တဖြည်းဖြည်း မှောင်လာပြီ။ မစ္စစ်စပီ ရေအောက်သို့ နေလုံးကြီး မြုပ်သွားပြီ။ ရုတ်တရက် အမှောင်ထုက လွှမ်းပစ်လိုက်၏။

တာပေါ် ရောက်နေသူများက မီးတွေ ဖိုကြသည်။ ဖရက်၏ နှာခေါင်းထဲသို့ ကော်ဖီနံ့ သင်းလာ၏။ အမျိုးသမီးများ၏ လေ့တွေ တာဆီသို့ ရောက်အောင် လှော်လာနိုင်ခဲ့သဖြင့် ညစာ မငတ်ခြင်း ဖြစ်၏။

“ကျွန်တော်တို့ ဒီလို ဘယ်လောက် ကြာအောင် နေရဦးမှာလဲဟင် ဦး”

“ဘာပြောတယ် ဖရက်”

သူ ကြားလိုက်ဟန် မတူ။ သူ့မျက်လုံးများက အမှောင်ထဲမှ ဒေါသကြီးနေသည့် ရေပြင်ကြီးကိုသာ ငေးစိုက်ကြည့်နေဆဲ ဖြစ်၏။

ဖရက်က ထပ်မေးသည်။

“ဪ... တရက်၊ နှစ်ရက်ပေါ့ကွာ၊ အစိုးရက ကယ်ဆယ်ရေး သင်္ဘောတွေ လွှတ်ပေး မှာပါ၊ တို့ ရေနစ်မသေနိုင်ပါဘူးကွ”

“ဦး မြစ်ရေအကြောင်း ကောင်းကောင်း သိမှာပေါ့နော်”

"အင်း .. သိဖို့ လိုတာပေါ့ကွာ၊ တသက်လုံး လုပ်လာတာကိုး၊ ဒါပေမဲ့ ဦး သိသလောက် မစ္စစ်စပီအကြောင်းကို ဘယ်သူမှ မသိဘူးကွ"

ဖရက် ထွက်ပြေးချင်စိတ် ပေါက်သွားသည်။ သည်လို အနိဋ္ဌာရုံမြင်ကွင်းမျိုးကို ဘယ်တော့ မှ မမြင်ချင်တော့။ ရေဘေးဒုက္ခသည်တွေကို တာပေါ် မီးရောင်တွင် ရေးရေးမြင်နေရ၏။ မစ္စတာဗန့်စ်က မြေကြီးပေါ် လှဲချလိုက်ပြီး-

"ဖရက်.... မင်း အိပ်တော့လေ"

ဖရက် လှဲချလိုက်သည်။

"မအိပ်ခင် ကျွန်တော် တခု မေးပါရစေဦး"

"ဘာများလဲကွ"

"ဦးက အမြဲတမ်း မြစ်နားမှာ နေခဲ့တာလား"

"အေး. . . ဆိုပါတော့ကွာ

"ကျွန်တော်လည်း အချိန်ပြည့် အလုပ်လုပ်ချင်ပါတယ်၊ တာတွေကို ဒါထက် ပိုပြီး ခိုင်ခံ့ အောင် ဖို့ချင်တယ်၊ ဦးကို ကျွန်တော် ကူညီနိုင်မယ် ထင်ပါတယ်"

မစ္စတာဗန့်စ်က ဖရက်၏ လက်မောင်းကို လှမ်းပုတ်ပြီး-

"မင်း ကြီးလာလို့ ဟောဒီမြစ်ကြီးကို ထိန်းနိုင်ရင် မင်း နာမည်ကြီးတယောက် ဖြစ်သွားမှာ သေချာတယ်၊ ဒါပေမဲ့ အဲဒီလို ဖြစ်ဖို့ မလွယ်ဘူးကွ၊ မင်း ကျောင်းနေဖူးသလား"

"ဟုတ်ကဲ့၊ ကျွန်တော် လေးတန်းအထိ နေဖူးပါတယ်"

"သင်္ချာ သင်ရသလား"

"သင်ရတယ် ခင်ဗျ၊ သင်္ချာမှာတော့ ကျွန်တော် အတန်းထဲမှာ အမြဲတမ်း ပထမ ရတယ်"

"အဲဒါဆို မင်း ငါ့ဆီမှာ အမြဲတမ်း အလုပ်ရနိုင်ပါတယ်"

"ဦး တကယ် ပြောတာလား ဟင်"

"တကယ်ပေါ့ကွ၊ ကဲ .. မင်း အိပ်တော့"

"ဟုတ်ကဲ့ ခင်ဗျာ"

အမြဲတမ်း အလုပ်ရတော့မည် တဲ့။ အမေ အတင်း ကျောင်းလွှတ်သည်ကို ပြန်တွေးပြီး ကျေးဇူးတင်နေမိသည်။ ကယ်ဆယ်ရေး လှေသင်္ဘောတွေ မြန်မြန်ရောက်ပါတော့။ အိမ်ကို မြန်မြန် ပြန်ရောက်ချင်လှပြီ။

# (၂)

ကိုရီမေသည် ဖရက်အတွက် အလွန်အမင်းကြီး စိတ်မပူလှ၊ ဖရက်က ဦးနှောက်ရှိသူ မဟုတ်လား။ အန္တရာယ်ကို လွတ်အောင် ရှောင်နိုင်လိမ့်မည်ဟု ယုံကြည်ထား၏။ သို့သော် တာကျိုးကြောင်း သတင်းကြားရတော့ မပူဘဲ မနေနိုင်အောင် ဖြစ်နေ၏။ သတင်းစာထဲတွင် ပါသည်ဟု ပြောကြသော်လည်း ကိုရီမေ လက်လှမ်းမမီ။ ဆိပ်ကမ်းတဝိုက်တွင် တွေ့သမျှ လူကို သတင်းလိုက်မေးသည်။ စိတ်မပူဖို့ ဝိုင်းပြောကြ၏။ ဖရက် အကြောင်း ဘာမျှ မသိရ။

တာကျိုးပြီး တပတ်အကြာတွင် အဝတ်ခြင်းတောင်းကို ခါးစောင်းတင်လျက် အိမ်မှ ထွက်လာစဉ် အိမ်ပြန်လာသည့် ဖရက်နှင့် တန်းတိုးသည်။ ခြင်းတောင်းကို ပစ်ချပြီး “သား. . . ဖရက်”ဟု အော်ကာ ကိုရီမေ ပြေးချသွားသည်။ သားအမိ နှစ်ယောက် ပြေးဖက်လိုက်ကြ၏။

“အောင်မယ်လေး... မေမေ စိတ်ပူလိုက်ရတာ သားရယ်”

ဖရက်ကို ကိုရီမေ အတင်းဖက်နမ်းနေ၏။ ထွားလာလိုက်သည့် ကောင်ကြီး။ ကိုရီမေ သူ့အရပ်ကို မမီချင်တော့။ ခြေဖျားထောက်ပြီး နမ်းနေရ၏။

ဖရက်က ရယ်ပြီး ရှက်ကိုးရှက်ကန်းနှင့် -

“တော်ပါတော့ မေမေရာ. . သား ပြန်ရောက်လာပြီပဲ"

“မေမေ အရမ်း စိတ်ပူသွားတယ်၊ တာကျိုးတော့ သား အဲဒီမှာလား”

“ဒါပေါ့ မေမေရ”

“မေမေ့ကို အဲဒီအကြောင်းတွေ ပြောပြစမ်းပါဦး သားရယ်”

“ပြောပြပါ့မယ် မေမေရယ်၊ ဖြည်းဖြည်းပေါ့၊ အချိန်တွေ အများကြီးပါ ၊ မေမေ အဝတ် ခြင်း ယူဦးလေ၊ သူများတွေ တက်နင်းကုန်မယ်၊ ပေးပေး အဲဒီခြင်းတောင်း၊ သား ထမ်းမယ်”

ကိုရီမေက သားကို သေသေချာချာ ကြည့်ပြီး-

“ဖရက်အပွင့်ချွန်း၊ သားက တကယ် ကြည့်လို့ ကောင်းတာပဲ”

ရွှံ့တွေ ပေကျံနေသည့် သားကို ကြည့်ပြီး ရင်ထုမနာလည်း ဖြစ်မိ၏။ အင်္ကျီတဖက် လက်မောင်းရင်းမှ ပြတ်ထွက်နေသည်။ ဘောင်းဘီဆို နှစ်ဖက်စလုံး ဒူးဆစ်အောက်ပိုင်း မရှိတော့။ ဆံပင်တွေက ရွှံ့နိုင်းချင်းနှင့်။

အထိတ်တလန့် ဖြစ်နေသည့် ပုံစံဖြင့် ကြည့်နေသည့် မအေကို ပြန်ကြည့်ပြီး ဖရက် ရယ်နေသည်။

“တာဖို့တဲ့ ဆီမှာ လူတိုင်း သားလိုချည်းပါပဲ မေမေရာ၊ ပူလိုက်တာ မေမေရာ၊ သံပရာရည်လေး ဘာလေး သောက်ကြရအောင်”

“သံပရာရည် ဟုတ်လား”

ကိုရီမေ မျက်လုံးပြူးသွားသည်။ ဖရက်က အအေးဆိုင်တဆိုင်ဆီသို့ လျှောက်သွားနေ နှင့်ပြီ။ သူက ခပ်တည်တည်နှင့် ရေခဲစိမ် သံပရာရည်နှစ်ခွက် လှမ်းမှာလိုက်၏။ ဂီးလ်ဒေးနှင့် ကွဲသွားပြီးနောက် သံပရာရည်ကို ကိုရီမေ တခါမျှ မသောက်ဖြစ်တော့။ သူ ငွေချေပုံ၊ ပိုသည့် အကြွေ ပြန်သိမ်းပုံကို ကိုရီမေ ငေးကြည့်နေမိ၏။ ဖရက်က မအေကို အအေးခွက် ကမ်းပေး ရင်း ပြုံးနေ၏။

“အင်း. . . ကောင်းလိုက်တဲ့ သံပရာရည်”ဟု အားရပါးရ ပြောသည်။

ကိုရီမေက ခေါင်းညိတ်ပြီး-

“သား ပိုက်ဆံတွေ အရမ်းမသုံးနဲ့လေ၊ အဝတ်လေး ဘာလေး ဝယ်ချုပ်ရဦးမယ်လေ”

“ဝယ်ချုပ်တာပေါ့ မေမေရာ၊ အဲ... မေမေလည်း ချုပ်ရမယ်”

ဖရက်က အိတ်ထဲ နှိုက်ပြီး ငါးဒေါ်လာတန် တရွက် ပေးလိုက်သည်။

“သား ဘာတွေ လုပ်လာတာလဲဟင်၊ ဒါလောက်များများ ပိုက်ဆံတွေ ရအောင် မတော်တရော်တွေများ လုပ်လာသလား သားရယ်”

ကိုရီမေက ဖရက်၏ လက်မောင်းကို ဆွဲပြီး မေးနေ၏။

“ဟာ. . . မေမေကလည်း မဟုတ်တာ၊ သားကို လွှတ်ပါ ၊ သား ကလေး မဟုတ်တော့ ဘူး၊ တာလုပ်သားဗျ၊ ကျွန်တော် တနာရီကို ဆယ်ဆင့်ရတယ်၊ တနေ့ကို ဆယ့်ငါးနာရီ လုပ်တယ်၊ နားရက် လုံးဝ မရှိဘူး၊ ကယ်ဆယ်ရေးလှေတွေကို စောင့်ရတဲ့ အချိန်အတွက်တောင် ငွေရှင်းပေးလိုက်သေးတယ်”

ကိုရီမေ ရေခဲတုံးကလေးကို အားရပါးရ ဝါးလိုက်သဖြင့် နင်သွားပြီး ချောင်းဆိုးသေး သည်။ ချောင်းဆိုးရပ်မှ-

“အင်း . . . အင်း ဟုတ်ပါပြီ၊ အရမ်း ပင်ပန်းလားဟင် သား”

“ပင်တော့ ပင်ပန်းတယ်၊ အဲဒီအကြောင်းတွေ သား မပြောချင်ပါဘူး”

ဖရက်က ဖန်ခွက်ကို ကောင်တာ စားပွဲပေါ်တွင် ပြန်ချလိုက်သည်။ ကိုရီမေက-

“သား ဟိုမှာကြည့်စမ်း၊ ရထားကြီးတစီး ဝင်လာတယ်၊ မြင်းသွားထိန်းပေးလိုက်ပါ လား၊ မုန့်ဖိုးလေး ဘာလေး ရတာပေါ့”

ဖရက်က ရထားဆီသို့ လှည့်၍ပင် မကြည့်ဘဲ-

“သား အဲဒါမျိုးတွေ မလုပ်တော့ဘူး မေမေ၊ ကျွန်တော့်မှာ အလုပ်နဲ့ အကိုင်နဲ့ ဖြစ်နေပြီလေ”

ဖန်ခွက်ကို ချပြီးမှ ဝက်သစ်ချမြိုင်မှ ရထားကြီး ဖြစ်ကြောင်း ကိုရီမေ သတိထားလိုက်မိသည်။ သူတို့အတွက် ဆိုလျှင်တော့ ဖရက်က လုပ်ချင်သည့်တိုင် ကိုရီမေ ခိုင်းလိမ့်မည်မဟုတ်။

ဖရက်ကို ဝမ်းသာအားရ ကြည့်ပြီး ကိုရီမေ မေးသည်။

“သား တကယ်ပြောတာလား၊ ဘာအလုပ်လဲ ဟင်”

“တာဖို့တဲ့ လုပ်ငန်းကို ပညာသင်ဘဝက စရမယ်၊ မစ္စတာဗန့်စ်ဆိုတဲ့ လူကြီးတယောက် ဆီမှာ လုပ်ရမှာ၊ ခုလုပ်ခဲ့တဲ့ နေရာမှာ သူက အကြီးဆုံးပဲ၊ သူက တာအကြောင်း ကောင်းကောင်း သိတယ် မေမေ၊ တနင်္လာနေ့မှာ သား ပြန်သွားရမယ်၊ တပတ်ကို စားပြီးသောက်ပြီး သုံး ဒေါ်လာ ရမယ်၊ သား ဆက်ကြိုးစားရင် သူ့လို ကန်ထရိုက်တာတယောက် ဖြစ်လာနိုင်တယ်တဲ့၊ အစိုးရဆီက အလုပ်တွေရမှာ မေမေရ”

ဖရက်က အသက်မရှူအားဘဲ မအေ့ကို အားရပါးရ ပြောပြနေ၏။ ကိုရီမေသည် နားထောင်နေရင်း စိတ်တွေ လှုပ်ရှားနေသည်။

“သား တကယ် ပြောနေတာလား ဟင်”

“ကန်ထရိုက်တာ ဖြစ်လာရင် လူကြီးလူကောင်း ဖြစ်သွားပြီ မေမေ၊

ဝါရှင်တန်ကို သွားရမယ်၊ တခါတလေ သမ္မတနဲ့ တောင် တွေ့ရတယ်တဲ့”

“တကယ်”

ကိုရီမေ ပါးစပ်အဟောင်းသား ဖြစ်လျက် မေးပြန်၏။ သည့်ထက်လည်း သူ ဘာမျှမပြောတတ်တော့။ သားပြောသည့် အကြောင်းအရာတွေက သူ့အတွက် ကြီးကျယ်လွန်းနေ သည်။ ဖရက်က ဆက်ပြောနေ၏။ ကိုရီမေ ဝမ်းသာလွန်းသဖြင့် မကြားတချက် ကြား တချက်။

မိမိသား ဖရက်အပ္ပဂျွန်းက သမ္မတနှင့်ပင် စကားပြောခွင့် ရချင် ရလိမ့်မည်တဲ့။ ထိုစဉ် ဝက်သစ်ချမြိုင် ရထားကြီးပေါ်မှ ဒင်းနစ်လန်း (အငယ်) ဆင်းလာသည်။ မီးခိုးရောင် ဝတ်စုံဖြင့် အခံ့ အညား။

“. . သိလား၊ မေမေ ပြောသလိုပဲ၊ တာဖို့တဲ့ နေရာမှာ နီဂရိုးတွေပဲ လုပ်ကြတာတဲ့၊ သားလို လူဖြူချာတိတ်ကလေးက စိတ်ဝင်စားတယ် ဆိုတော့ သူ သင်ပေးမယ် တဲ့၊ ပြီးတော့ အောင်မြင်အောင်လည်း သူ လုပ်ပေးမယ်တဲ့”

ဒင်းနစ်လန်းက လက်ကမ်းပေးပြီး မအေကို ရထားပေါ်မှ အောက်သို့ ခေါ်ဆင်းသည်။ ကိုရီမေ၏ မျက်လုံးများက အလိုလို အန်းရှာရမီဆီသို့ ရောက်သွားသည်။ ဒင်းနစ် တံခါးပိတ် နေတုန်း အန်းရှာရမီက ရပ်စောင့်နေသည်။ ချောမောလှပ နေတုန်းပင်။ သို့သော် အရွယ်တော့ ထောက်လာပြီ။ အပြာရင့်ရောင် ပိုးဝတ်စုံနှင့်၊ အပြာရင့်ရောင် ဦးထုပ်ကို ဆင်မြန်းလာ၏။ လည် အဟိုက်တွင် ဇာပတ်လည် ကွပ်လျက်။ စကတ်ကြီးက မြေကြီးတွင် တရွတ်တိုက်လျက်။ လမ်းလျှောက်ပုံက ဒူးနှစ်ဖက်ကို ကြိုးနှင့် ချည်ထားသလား အောက်မေ့ရ၏။

ဒင်းနစ်ကလေးကလည်း ပီဘိ လူကြီးလူကောင်းတယောက်ပုံစံဖြင့် မအေကို လက်တွဲ ကာ ခံ့ခံ့ညားညား လျှောက်သွား၏။ ကိုရီမေ၏ မျက်စိထဲတွင် သူတို့၏ ခမ်းနားထည်ဝါမှုများ မှေးမှိန်သွား၏။ သည်လို သမားရိုးကျလမ်းအတိုင်း ရွှေလင်ပန်းနှင့် အချင်းဆေးသူများ သွားနေ ကြသည်မှာ အဆန်းလား။

တနေ့တွင် မိမိသား ဖရက်သည် ရောမကန်ထရိုက်တာကြီး ဖြစ်မလာနိုင်ဘူးဟု ဘယ်သူ ပြောရဲမည်လဲ။ သို့သော် သူတို့လို ရေပေါ်ဆီ လူတန်းစားများ၏ လက်ကြောမတင်းသော အလှအပမျိုးတော့ ဖရက် ပိုင်ဆိုင်လိမ့်မည် မဟုတ်ပေ။

မည်သို့ရှိစေ ဖရက်အပ္ပဂျွန်း အောင်မြင်မည်မှာ မုချဖြစ်သည်ဟု ကိုရီမေ ယုံကြည်နေ၏။ နှစ်ပရိစ္ဆေဒ ကြာချင်တော့ ကြာလိမ့်မည်ပေါ့။

ရင်ထဲတွင် အောင့်သက်သက်နှင့် အဖေ ပြောဖူးသည့် ပုံပြင်ကို သွားသတိရလိုက်သည်။ မိမိနှင့် အန်းရှာရမီသည် မျိုးရိုးအစဉ်အဆက်အရ သွေးသားများ ဖြစ်သည် တဲ့။

ဖရက်က စိတ်အားထက်သန်မှု အပြည့်ဖြင့် စကားကောင်းနေဆဲ။

"...ဒီမယ် မေမေ၊ တပတ်ကို သုံးဒေါ်လာ ရမယ်ဆိုရင် မေမေ အဝတ်လျှော်ဖို့ မလိုတော့ဘူး၊ အဲဒီ အခါမှာ မေမေ အချိန်လည်း ရမှာ မဟုတ်တော့ဘူး၊ ကျွန်တော်တို့ လူလူသူသူ အိမ်ကောင်းကောင်းလေး ရှာနေကြမယ်လေ၊ အိမ် အလုပ်နဲ့ပဲ မေမေ အားတော့မှာ မဟုတ်ဘူး"

ကိုရီမေသည် ဒင်းနစ်လန်းဆီမှ မျက်နှာလွှဲလိုက်ပြီး ဖရက်ကို ကြည့်လိုက်သည်။

"အေးပေါ့ သားရယ်၊ သား ပြောတဲ့အတိုင်း မေမေ လုပ်ရမှာပေါ့" ဟု အလိုက် အထိုက် ပြောလိုက်၏။

"လုပ်ရမှာပေါ့ မေမေရ၊ မစ္စတာဗန့်စ်က ပြောတယ်၊ သား ကြိုးစားရင် မကြာခင် လခ တိုးပေးမယ် တဲ့၊ မြေကြီးကနေ တာတမံတွေ ဖြစ်လာအောင်လည်း သား လုပ်တတ်လာမှာ၊ သူ အဲဒါတွေ သားကို သေသေချာချာ ပြောပြတယ်။ ကယ်ဆယ်ရေးလှေတွေ စောင့်ရင်း သားတို့ စကားပြောချိန်တွေ အများကြီး ရတယ်၊ သား အလုပ်လုပ်တာကို သူ သဘောကျ တယ်တဲ့၊ လူကြီးတယောက်လောက် လုပ်နိုင်တယ် တဲ့"

ဖရက် အလွန်တက်ကြွနေ၏။ အသိအကျွမ်းများ တွေ့မလားဟု ပတ်ဝန်းကျင်ကို သူ ဝေ့ကြည့်သေးသည်။ သူ့ အောင်မြင်မှု သတင်းတွေကို ဖောက်သည်ချချင်နေဟန်တူ၏။ ဘယ်သူ မှ မတွေ့တော့ မအေ့ကို ဆက်ပြောသည်။

"ဒီလိုလုပ် မေမေ၊ မေမေ အိမ်ပြန်၊ သား ဒီအဝတ်တွေ သွားပို့လိုက်မယ်။ ပြီးတော့ ဆိပ်ကမ်းဘက် တပတ်လောက် လျှောက်ကြည့်လိုက်ဦးမယ်၊ အသိတွေ တွေ့ရင် ဖောက်သည် ချရတာပေါ့၊ သား အမဲနှပ် စားချင်တယ်၊ မေမေ ချက်ထားပေးနော်၊ သားမှာ ပိုက်ဆံပါပါတယ် မေမေရ"

ဖရက်က သူ့အမေ လက်မောင်းကို တို့ပြီး-

"သွားလေ မေမေ၊ ဘာတွေ ငေးနေတာလဲ"

"ဟိုမှာ ကြည့်စမ်း၊ ဟိုကောင်လေး မချောဘူးလား"

ဖရက်က မနှစ်မြို့သည့် လေသံဖြင့်-

"သူ့တသက်မှာ အလုပ်ကို တရက်တောင် လုပ်ဖူးပုံ မပေါ်ပါဘူး မေမေရာ၊ ကဲ...မေမေ...အမဲနှပ်နော်၊ မေမေကလည်း သား ပြောနေတာတွေ မကြားသလိုပဲ"

"ကြားပါတယ် သားရဲ့"

ကိုရီမေက စိတ်ထဲ တင်းကျပ်ကျပ် ဖြစ်နေပုံဖြင့် ပြန်ပြောလိုက်သည်။ ပြီးတော့ ဖရက် ၏ လက်မောင်းကို ဆုပ်လိုက်၏။ အင်္ကျီချိုင်းပြတ်နှင့် လက်မောင်းတွင် ရွှံ့တွေ ပေကျံနေ၏။ လက်မောင်းကြွက်သားကြီးတွေက ဖောင်းကြွလျက်။

ကိုရီမေ့ မျက်လုံးအစုံက လန်းမိသားစုဆီသို့ ရောက်သွားပြန်၏။ ဒင်းနစ်က သူ့အမေကို ဆိုင်ကြီးတဆိုင်ထဲသို့ လက်တွဲပြီး ငြိမ့်ငြိမ့်ကလေး ဝင်သွားသည်။ အတိတ်၏ အရိပ်များ တရေးရေး ပေါ်လာ၏။

သူတို့ကို အကြိမ်ကြိမ် တိုက်ခိုက်ခဲ့၏။ ပွဲတိုင်း အရေးနိမ့်ခဲ့သည်။ သို့သော် အန်း၏ သားကို လှမ်းကြည့်လိုက်တော့ လူတယောက်အဖြစ်ထက် ဘာမျှ မရှိတော့သော ဒဏ္ဍာရီဆန် လှသည့် ဆွေစဉ်မျိုးဆက်၏ အရိပ်တခုလိုပင် ကိုရီမေ မြင်သည်။

မိမိသားသည် မျိုးဆက်သွေးအားဖြင့် အစဉ်အလာ မရှိခဲ့သော်လည်း အားမာန်ရှိသည်။ ခွန်အားရှိသည်။ သတ္တိရှိသည်။ သည်သတ္တိ၊ ခွန်အားတို့ဖြင့် မျိုးဆက်သစ်တခုကို ထူထောင် လိမ့်မည်။

"မေမေ... သားပြောတာ ကြားရဲ့လား၊ အမဲနှပ် လုပ်ထားပါ ဆို"

"ဩော်.... ကြားပါတယ် သားရဲ့၊ လုပ်ထားပါ့မယ် သားရယ်၊ သားဘဝမှာ ဒီနေ့ အကောင်းဆုံးညစာ ဖြစ်စေရမယ်၊ ဟုတ်ပြီလား"

ဒင်းနစ်လန်းကလေး ဆိုင်ထဲတွင် ပျောက်ကွယ်သွားသည်အထိ သူ့နောက်ကျောကို ကိုရီမေ ငေးကြည့်နေဆဲ ဖြစ်သည်။ သိမ်ငယ်စိတ် မရှိတော့။ ရင်ထဲတွင် အောင်မြင်သူအဖြစ် ဖြင့် ကြည်နူးနေမိလေသည်။

※※※




# မဟာရံတံတိုင်းကို ဖြတ်ကျော်ခြင်း

WHISPER OF WORDS

# ဤစာအုပ်ကို ဘာသာပြန်ရာ၌ ကျေးဇူးစကား ဆိုအပ်သူများ ရှိပါသည်။

- This Side of Glory အပါ အဝင် စာအုပ်ကောင်းများကို အမြဲပေးလေ့ ရှိသည့် ကျွန်တော့် ဌာနမှူး ဆရာ ဦးအုန်းဖေ [ ညွှန်ကြားရေးမှူး (ဘဏ္ဍာရေး)၊ မြန်မာ့ရေနံ ကော်ပိုရေးရှင်း ]

- "ဝမ်းနည်းစရာ အခန်းတွေကို ဖတ်နေရင်း မျက်ရည် ကျမိတယ်၊ ကြည်နူးစရာ အခန်းတွေ ကျပြန်တော့လည်း ပီတိမျက်ရည် လည်ရတယ်။ ဒီစာအုပ်ရဲ့ ရသက သိပ်ထူးခြားတယ်ကွ၊ ဖတ်နေကျ အမေရိကန်ဝတ္ထု တွေနဲ့ တခြားစီပဲ" ဟု အညွှန်းစကားဆိုကာ အတင်းဖတ်ခိုင်းသည့် ကျွန်တော့် ဆရာ အန်ကယ်ဂျော့ [ မစ္စတာ နော်တင်၊ အငြိမ်းစား၊ မြန်မာ့ရေနံ ကော်ပိုရေးရှင်း ]

- စိုက်ပျိုးရေး ဝေါဟာရများကို ရှာဖွေ စုဆောင်းပေးပြီး စာမူကို အချောကိုင်ပေးသည့် သမီး ထားထားဦး [ စိုက်ပျိုးရေးသုတေသန ]နှင့်

- ကျွန်တော့်အား စာရေးချင်စိတ် ရှိလာအောင်နှင့် စာရေးချိန်ရအောင် ဖန်တီးပေးရင်း စာမူကြီးကို အကြိမ်ကြိမ် ဖတ်ရှု ပြင်ဆင်ပေးသွား ရှာသော ကွယ်လွန်သူ ချစ်ဇနီး မေ [ ဆရာမ ခင်မေကြူ၊ တောင်ကြီး] တို့ ဖြစ်ပါသည်။

# ဂွင်ဘာရစ္စတိုနှင့် သူ့ဝတ္ထုများ

၁၉၀၃ ခုနှစ်၊ စက်တင်ဘာလ ၁၆ ရက်နေ့တွင် ဂွင်ဘာရစ္စတိုကို ဖွားမြင်သည်။ ဖခင်မှာ လူးဝစ်ဂျဒ်ဆင် ဘာရစ္စတိုဖြစ်ပြီး မိခင်မှာ ကာရိုလိုင်းကော်နယ်လီယာ ဖြစ်သည်။ အယ်လ် ဘားမားပြည်နယ်၊ မာရီယန်မြို့ ဂျဒ်ဆင်ကောလိပ်တွင် ပညာသင်ပြီး ကိုလံဘီယာတက္ကသိုလ်မှ သတင်းစာပညာဘွဲ့ ထပ်ယူသည်။ နယူးအော်လီယန်းထုတ် တိုင်းမ်ပီကာယွန် သတင်းစာ တွင် ၁၉၂၅ ခုနှစ်မှ ၁၉၃၃ ခုနှစ်အထိ သတင်းထောက် လုပ်သည်။ နောက်ပိုင်းတွင်မှ ဝတ္ထုတွေ ရေးခြင်း ဖြစ်၏။ ၁၉၂၉ ခုနှစ်တွင် ဘာရစ်မန်ဒင်နှင့် လက်ထပ်သည်။ ထိုစဉ်က ဘာရစ်မှာ သတင်းထောက်တယောက်ဖြစ်ပြီး နောက်ပိုင်းတွင် ရုပ်ရှင်ဇာတ်ကား ထုတ်လုပ်ရေးပိုင်းသို့ ကူးသွားသည်။

ဂွင်က သူ့ဘဝ တစိတ်တပိုင်းကို ဤသို့ ရေးခဲ့၏။

“ကယ်လီဖိုးနီးယား ဘီဗာလီတောင်ကုန်းမှာ ကျွန်မတို့ နေပါတယ်။ ကျွန်မတို့ လင်မယား တွဲပြီး ပထမဆုံးရေးတဲ့ “ကိုယ်ပျောက် ဧည့်သည်” လျှို့ဝှက်သည်းဖိုဝတ္ထု ကို ၁၉၃၀ ပြည့်နှစ်မှာ “နဝမမြောက် ဧည့်သည်” ဆိုပြီး အိုဝင်ဒေးဗစ်က ရုပ်ရှင်ရိုက် ပါတယ်။

စာရေးဆရာမ လုပ်မယ်လို့ ဘယ်တုန်းကစပြီး ဆုံးဖြတ်ခဲ့တယ် ဆိုတာ ကျွန်မ မမှတ်မိခဲ့ပါဘူး။ ဒါပေမဲ့ ကျွန်မ လုပ်စရာ ဒါပဲရှိတယ် ဆိုတာကတော့ ရှင်းနေပါတယ်။ ငယ်ငယ်ကတည်းက စက္ကူပုံမြင်ရင် ခဲတံတချောင်းနဲ့ လက်ယားနေတတ်သူ မဟုတ် လား။ အဖေကလည်း ဘာသာရေးဘက် မလိုက်ခင် သတင်းထောက်လေ။ အမေရိကန်-စပိန်စစ်ပွဲထဲ ဝင်တိုက်ချိန်မှာတောင် တဖက်က သတင်းထောက် လုပ်ရက်ပဲ။ ဆယ့်နှစ် နှစ် သမီးအရွယ်မှာ ကျွန်မရဲ့ လက်ရေးကို ပုံနှိပ်စာလုံးအဖြစ်နဲ့ စမြင်ဖူးပါတယ်။ အထက်တန်းအောင်တော့ နှစ်ခန်းရပ် ပြဇာတ်တပုဒ် ရေးတင်တယ်။ အဲဒီ ကျွန်မ ပြဇာတ်ကို ကျောင်းဆင်းပွဲမှာ စင်တင် ကပြခဲ့ပါတယ်။

တက္ကသိုလ်ရောက်တော့ ပြဇာတ်တွေ ဝါသနာအလျောက် ကျွန်မ ရေးတယ်။ နောက်တော့ ကျောင်းက တာဝန်ပေးလို့ ဆက်ရေးဖြစ်တယ်။ ၂၅ ဆင့်ကနေ သုံးဒေါ်လာအထိ ကျွန်မကို စာမူခ ပေးတယ်။ နယူးယောက်ကို ရောက်တော့ ကိုလံဘီယာ တက္ကသိုလ် ပူလစ်ဇာ သတင်းစာ သင်တန်းကျောင်းမှာ ကျွန်မ ဆက်တက်တယ်။ အောင်မြင်နေတဲ့ လုပ်ငန်းရှင်ကြီးတွေရဲ့ အတ္ထုပ္ပတ္တိတွေကို ကျောင်းတက်ရင်း ရေးပြီး စီးပွားရေးစာစောင်တွေကို ပို့တယ်။

အဲဒီလိုနဲ့ ကျွန်မ သတင်းထောက် ဖြစ်လာတာပါပဲ။ ကျွန်မ လုပ်တဲ့ တိုင်းမ် ပီကာယွန်နဲ့ အပြိုင် သတင်းစာ တစောင် ဖြစ်တဲ့ အိုက်တင်မ် မှာ ကျွန်မ ယောကျ်ားက သတင်းထောက်။ လင်မယားနှစ်ယောက် သတင်းတွေ အပြိုင်လိုက်ကြ၊ အပြိုင် ရေးကြပေါ့။ အသေအလဲ သူနိုင် ကိုယ်နိုင် ကြိုးကြတာနော်။ အဲဒီအချိန်မှာ အလုပ် တဖက်နဲ့ ဝတ္ထုတွေ ကျွန်မ ရေးနေပါပြီ။ သူလည်း ရေးနေပါပြီ။

နှစ်ပုဒ်ရေးပြီးလို့ ပြန်ဖတ်ကြည့်တော့ ကျွန်မ စိတ်ပျက်သွားတယ်။ စိတ်ဓာတ် တွေ အရမ်းတက်ကြွနေချိန်မှာတောင် စိတ်ပျက်သွားတာလေ။ ဘယ်လိုမှ ပုံနှိပ်စာလုံး မဖြစ်သင့်တဲ့ စာမူတွေ။ ရေဒီယို အကျယ်ကြီးဖွင့်တဲ့ အိမ်နီးနားချင်းကို မကျေနပ်လို့ သတ်ဖို့ ကြိုးစားတဲ့ ဇာတ်လမ်းလေ။

လူဝီစီးယားနားနောက်ခံ တောင်ပိုင်းစိုက်ပျိုးရေး ဝတ္ထုရှည်ကြီးကို ကျွန်မ ဟောလိဝုဒ်မှာ ရေးတာပါ။ မျိုးဆက်နှစ်ဆက်ကို ဇာတ်အိမ်တည်ပြီး တော်လှန်ရေး မတိုင်မီကာလကနေ ပထမကမ္ဘာစစ်အထိ ရေးခဲ့ပါတယ်။ ပထမဆုံး စရေးတဲ့အပိုင်း က နွေကန္တာ (Deep Summer )ပါ။ လျှို့ဝှက်သည်းဖိုတွေ ရေးနေရာက လိုင်းပြောင်း ရေးတဲ့ ကျွန်မရဲ့ ပဋ္ဌမမြောက် စာအုပ်ပေါ့။ ထူးထူးခြားခြား အောင်မြင်ပါတယ်။ စာအုပ် တွေ ရေးနေရင်း ကျွန်မ နယ်တကာလှည့်ပြီး ဟောပြောပွဲတွေလည်း လုပ်ပါတယ်။ ၁၉၃၉ ခုနှစ် ရောက်တော့ ဘီဗာလီတောင်ကုန်းမှာ ကျွန်မ အိမ်ဝယ်နိုင်ခဲ့ပါတယ်။ ကျွန်မ တသက်လုံး အိပ်မက်မက်ခဲ့တဲ့ အိမ်ကြီးမျိုး ဝယ်နိုင်ခဲ့တာပါ။ ပြတင်းပေါက် တွေ အများကြီးနဲ့၊ ရေကူးကန်နဲ့၊ ဧရာမ စာရေးစားပွဲကြီး ပါတဲ့ ကိုယ်ပိုင်စာကြည့် ခန်းနဲ့၊ ပြီးတော့ ဆိုဖာ အကြီးစားတွေနဲ့ပေါ့။

လူတွေက မေးကြတယ်။ မိသားစုတစုထဲမှာ စာရေးဆရာနှစ်ယောက် ဘယ်လိုနေကြသလဲတဲ့။ ရှင်းရှင်းကလေးပါ၊ စာအုပ်မထွက်မချင်း ကျွန်မရဲ့စာမူကို သူ မဖတ်ဘူး။ ကျွန်မကလည်း သူ့ဇာတ်ညွှန်းကို ရုပ်ရှင်ကား ထွက်မလာမချင်း မဖတ်ဘူး။ ဒီတော့ ကျွန်တို့ လင်မယားမှာ ငြင်းစရာ ခုံစရာ သိပ်မရှိတော့ဘူးပေါ့။ အားလပ်ချိန်တွေမှာ အပြင်ထွက်ပြီး ကစားကြတယ်။ အဲဒါက နှစ်ယောက်စလုံးရဲ့ ဝါသနာလေ”

ဂွင်ဘာရစ္စတို၏ ထင်ရှားသော စာအုပ်များမှာ ကိုယ်ပျောက်ဧည့်သည် (The In-visible Host, 1930) [ဘာရစ်မန်ဒင် နှင့် တွဲလျက်] နွေကန္တာ (Deep Summer, 1937) မြကတ္တီပါလမ်း (The Handsome Road, 1938)၊ မဟာရံတံတိုင်းကို ဖြတ်ကျော်ခြင်း (This Side of Glory, 1940), Tomorrow is Forever (1943) [1945 ခုနှစ်တွင် ရုပ်ရှင်ရိုက်ရသည်] Jubilee Trail (1950) စသည်တို့ ဖြစ်၏။

Deep Summer, The Handsome Road & This Side of Glory သုံးတွဲပေါင်းပြီး Plantation Triology နာမည်ဖြင့် စာအုပ်ထူကြီး ပြန်ထွက်တော့ အကြိမ် ပေါင်းများစွာ ပြန်ရိုက်ရသည့် စာအုပ်ကြီး ဖြစ်လာသည်။

လူတန်းစား နှစ်ရပ်၊ မျိုးဆက် အဆင့်ဆင့်ကို ဇာတ်အိမ်ဖွဲ့ထားသော တအုပ်ချင်း ဖတ်လို့ ရသည့် ဝတ္ထုကြီး ဖြစ်၏။ အမေရိကန်တောင်ပိုင်း၏ သမိုင်းလည်း ဖြစ်၏။ တောင်ပိုင်းသားတို့သည် လူဝီစီးယားနား တောနက်ကြီးကို ခုတ်ထွင်ရှင်းလင်းပြီး ဝါဂွမ်းတွေ၊ ကြံတွေ၊ မဲနယ်တွေ စိုက်ကြ၏။ စပိန်၊ ပြင်သစ်နှင့် အင်္ဂလိပ် ကိုလိုနီတို့ကို တော်လှန်တိုက်ခိုက်ခဲ့ကြ၏။

လူမည်းကျွန်တွေ အများအပြား ဝယ်နိုင်ပြီး ရောမစိုက်ပျိုးရေး မဟာလုပ်ငန်းရှင်ကြီး များ ဖြစ်လာကြ၏။ သို့သော် လူတိုင်း ချမ်းသာလာကြသည်တော့ မဟုတ်။ လူဖြူဆင်းရဲသား များက လူတန်းစားတရပ်အဖြစ် ကျန်နေခဲ့၏။ ဒီလူတန်းစား နှစ်ရပ်နှင့် ငွေဝယ်ကျွန် လူမည်းများသည် ခရီးရှည်ကြီးကို နှစ်ပေါင်းများစွာ အတူဖြတ်သန်းခဲ့ကြရသည်။

နွေကန္တာ သည် ဝတ္ထုကြီး၏ ပြည်တည်ခန်း ဖြစ်၏။ အထက်အညာမှ ပိန်းကောလှေ ကြီးများနှင့် စုန်ဆင်းကာ လူဝီစီးယားနား စိမ့်မြေတွေ၊ တောရိုင်းမြေတွေကို စိုက်ပျိုးမြေတွေ ဖြစ်အောင် လက်တွေ၊ ဘဝတွေ ကျွဲပခုံးထသည်အထိ အလုပ်လုပ်ခဲ့ကြ၏။ ကျွန်ဝယ်နိုင်သူ များက စိုက်ပျိုးရေး မဟာလုပ်ငန်းရှင်ကြီး ဖြစ်လာပြီး ကျွန် မဝယ်နိုင်သူများ လူဖြူ ဆင်းရဲသား ဘဝတွင် ကျန်ရစ်ခဲ့ကြ၏။ နွေကန္တာ မှ ဇာတ်ကောင်များသည် ယနေ့ခေတ် အမေရိကန်များ အထိ အရိပ်ထိုးလျက် ရှိသေးသည်။

မြကတ္တီပါလမ်း သည် နွေကန္တာ၏ မျိုးဆက်သွေးများဖြင့် ဇာတ်အိမ် တည်ထားသည်။ နွေကန္တာမှ ခေတ်ဦးလမ်းပြ တောင်ပိုင်းသား အမေရိကန်များသည် ပြည်တွင်းစစ်ကို တိုက်ခိုက် ခဲ့ကြသည်။ မြောက်ပိုင်းနှင့် မပေါင်းလို၍၊ ကျွန်စနစ်ကို ဆက်လက်ထားရှိလို၍ လက်နက် ကိုင်ဆွဲ တိုက်ပွဲဝင်ခဲ့ကြခြင်း ဖြစ်သည်။ အမေရိကန် ပြည်တွင်းစစ်သည် အရင်းရှင်စနစ်ကို ကိုယ်စားပြုသည့် မြောက်ပိုင်းသားတို့၏ အရင်းရှင်စနစ်ဦးနှင့် တောင်ပိုင်းသားတို့၏ မြေရှင် ပဒေသရာဇ်စနစ်ဟောင်း နှစ်ခု၏ တိုက်ပွဲ ဖြစ်သည်။

နွေကန္တာ သည် ဂျူးဒစ်ရှာရမီနှင့် ဖီးလစ်လန်းတို့၏ ဇာတ်လမ်း ဖြစ်သည်။ တောကြီး မျက်မည်းထဲတွင် သစ်လုံးအိမ်ကလေး ဆောက်ကာ ဘဝကို စခဲ့ပြီး ရောမ ဝါဂွမ်းနှင့် သကြား လုပ်ငန်းရှင်ကြီးတွေအဖြစ် အောင်မြင်ခဲ့သော်လည်း ဆင်းရဲသား လူဖြူလူတန်းစားနှင့် ငွေဝယ် ကျွန် လူမည်းတို့၏ တူးတူးခါးခါး အမုန်းပွားခြင်းကို ခံခဲ့ရ၏။

မြကတ္တီပါလမ်း တွင် အန်းရှာရမီလန်းသည် ပြည်တွင်းစစ်နှင့် စစ်ပြီးကာလ၏ ဒဏ်၊ လူမည်းများထက် ပိုဆိုးသည့် လူဖြူဆင်းရဲသားများ၏ မုန်းတီးမှု ဒဏ်တွေကို မရှုမလှ ခံစားခဲ့ရ သည်။ မျိုးဆက်တခုတည်းက ဆင်းသက်ခဲ့ပြီး လူဖြူ

ဆင်းရဲသားဘဝတွင် ကျန်ရစ်သည့် ကိုရီမေအပ္ပဂျွန်း၏ အမုန်းနှင့် အားပြိုင်မှု ကဏ္ဍပင် ဖြစ်သည်။ ပြည်တွင်းစစ်ကာလသည် မျှော်လင့်ချက်တို့၊ ဆန္ဒတို့ တစစီ ဖြစ်ရသည့် ကာလ ဖြစ်သည်။

မဟာရုံတံတိုင်းကို ဖြတ်ကျော်ခြင်း တွင်ကား တဖက်မှ လူဖြူဆင်းရဲသား အပ္ပဂျွန်း မျိုးရိုးက သားသမီးတွေကို ကောလိပ်ပို့နိုင်သည်အထိ တက်လာပြီး မဟာစိုက်ပျိုးရေး လုပ်ငန်းရှင်ကြီးများ ဖြစ်ကြသည့် လန်းမိသားစုက စီးပွားကျချိန်အဖြစ် ဇာတ်အိမ်ဖွဲ့သည်။ စစ်ကြီးပြီးတော့ တောင်ပိုင်း၏ လူမှုရေး ဘဝအထွေထွေသည် ပြောင်းလဲသွားသည်။ အရင်းရှင်နှင့် အရင်းမဲ့တို့၏ ဆက်ဆံရေးသည်လည်း အပြောင်းလဲကြီး ပြောင်းလဲသွားခဲ့၏။ ကျွန်တွေ လွတ်လပ်ရေး ရသွားပြီ။ သို့သော် အယ်လီနာ အပ္ပဂျွန်းနှင့် ကက်စတာလန်းတို့ ချစ်မိကြလေသောအခါ တောင်ပိုင်းသည် အစစအရာရာ မပြောင်းလဲသေးကြောင်း တွေ့ကြ ရတော့သည်။ ဘယ်ဘက်ကမျှ သဘောမတူကြ။

လန်းမိသားစုသည် ရှင်ပြုစဉ်က ရွှေထီးဆောင်းခဲ့သည့် ပုံစံအတိုင်း အတိတ်၏ ပုံသဏ္ဍာန် ဟောင်းပေါ်တွင် ဆက်နေသည်။ ကက်စတာလန်းက ခပ်ပွေပွေ၊ ခပ်ပေါ့ပေါ့ လူစားကလေး။ အယ်လီနာအပ္ပဂျွန်းက ဆင်းရဲသူ ခေတ်ပညာတတ် မိန်းကလေး..။

သို့သော် သူတို့နှစ်ဦး ရှုးရှူးမူးမူး ချစ်မိကြလေသောအခါ နှစ်ဖက်မိဘများ၏ စိုးရိမ်မှုတို့ အဟောသိကံ ဖြစ်ကြရတော့သည်။ သို့သော် အလွှာနှစ်ရပ်မှာ ဝေးကွာလွန်းသောကြောင့်၊ ဘဝနောက်ခံသမိုင်းကြောင်းများ က ခြားနားလွန်းသောကြောင့် အိမ်ထောင်ရေး မပြိုကွဲအောင် အသေအလဲ ကြိုးပမ်းကြရသည်။ ကြေကွဲ ရင်နင့်စရာ၊ ပြုံးပျော် ကြည်နူးစရာများဖြင့် စာရေးဆရာမ ဘရစ္စတိုက အဆုံးသတ်ထားပါသည်။

**ဘာသာပြန်သူ**

※※※

# အခန်း (၁)

မိုးကောင်းကင်တခွင်လုံး အပြာရောင် ကတ္တီပါအုပ်ဆောင်းကြီးတခုသဖွယ် ကြည်လင် ပြာလဲ့နေသည်။

မစ္စစ်စပီ မြစ်ရေပြင်သည် နေရောင်ခြည်တွင် တဖျပ်ဖျပ် တောက်ပလျက်။ အချိန်မှာ ၁၉၁၂ ခုနှစ်၊ ဇန်နဝါရီလ ဖြစ်သည်။ မြစ်ကမ်းနဖူးမှ ဧရာမ တဲကြီးတလုံးထဲတွင် အသက် ၂၂ နှစ်အရွယ် အယ်လီနာအပ္ပဂျွန်း အမည်ရှိ မိန်းမပျိုတဦးသည် လက်နှိပ်စက် တလုံးဖြင့် အလုပ်များလျက် ရှိသည်။ ဖခင်ဖြစ်သူ၏ ပြန်စာများကို ရိုက်ပေးနေခြင်း ဖြစ်၏။ ကလေးမ၏ ဖခင် ဖရက်အပ္ပဂျွန်း မှာ ရေကာတာ ကန်ထရိုက်လုပ်ငန်းရှင်ကြီးတဦး ဖြစ်သည်။ နေ့လယ်စာစားပြီးချိန် ဖြစ်၍ ဖရက်အပ္ပဂျွန်းသည် ဆေးပြင်းလိပ်ခဲရင်း စာတွေကို တစောင် ချင်း ဖတ်ပြီး လက်မှတ်ထိုးနေသည်။

ဖရက်နှင့် အယ်လီနာတို့ သားအဖနှစ်ယောက်မှာ သားအဖလို မနေကြဘဲ သူငယ်ချင်း တွေလို ရင်းရင်းနှီးနှီး ရှိကြသည်။ တဦးကိုတဦး အပြန်အလှန် လေးစားကြသည်။ မစ္စစ်စပီ မြစ်ကြီးနှင့် တနယ်လုံး၏ စိုက်ခင်းများကို စည်းခြားထားသည့် ရေကာတာ တည်ဆောက်ရေး လုပ်ငန်းကို ဖရက် လုပ်လာခဲ့သည်မှာ နှစ်ပေါင်း ၃၀ ရှိခဲ့ပြီ။ သမီးဖြစ်သူ အယ်လီနာက ကောလိပ်မှ ပြန်လာပြီး ကျောင်းအားချိန်များ၌ လက်ရေးတို လက်နှိပ်စက် သင်ကြား တတ်မြောက်ခဲ့ကြောင်း၊ အဖေ့အလုပ်တွင် ဝင်ကူချင်ကြောင်း အဆိုပြုလာသောအခါ ဖရက်က သူ့အတွင်းရေးမှူးအဖြစ် တန်းခန့်လိုက်သည်။ ဖရက်သည် အချိန်ကို အလဟဿ အကုန်ခံ စေသည့် လူစားမျိုး မဟုတ်ပေ။

ဖေဖေ မည်ရွေ့မည်မျှ အလုပ်ကြိုးစားခဲ့သည်ကို အယ်လီနာ ငယ်ငယ်ကလေးကတည်း က သိခဲ့၏။ မှတ်မိနေသေးသည်။ မှန်အိမ်အောက်တွင် ညဥ့်နက်သန်းခေါင်ထိ အလုပ်လုပ်တတ် သော ဖေဖေ့ကို မေမေက ဗိုက်ကြီး တကားကားဖြင့် နို့စို့ကလေးကို ရင်ခွင်ပိုက်ပြီး အိပ်ဖို့ နားဖို့ အမြဲသတိပေးရ၏။ သို့သော် မေမေက အလျှော့ပေးရသည်ချည်းပင်။ ကော်ဖီဖျော်ပေးပြီး ဖေဖေ့အနားမှ ထွက်ခဲ့ရသည်ချည်း။ ဖေဖေက ကော်ဖီသောက်ရင် မျက်လုံးကျယ်သည် တဲ့လေ။

ဖေဖေ့အားမာန်မှာ သမီးတယောက်အနေနှင့် ဂုဏ်ယူစရာအတိ ဖြစ်ခဲ့သည်။

ဘ၀ကို သဲအိတ်ထမ်းသမား ဘ၀က စခဲ့သည် မဟုတ်လား။ ခုတော့ မစ္စစ်စပီ မြစ်ရိုးတလျှောက် အစိုးရထံမှ ရသည့် ရေကာတာ ဆောက်လုပ်ရေး ကန်ထရိုက်လုပ်ငန်းတွင် ဖေဖေသည် ဘုရင်တဆူ။ ဖေဖေသည် ရှိတော့ ရှိသည်၊ ရှားသည် ဟူသည့် လူစားမျိုး။

နယူးအော်လင်းတွင် အိမ်ကြီးတဆောင်ကို စိတ်တိုင်းကျ အလှအပဆောက်ထား သည်။ အလုပ်ခွင်ကို ကြီးကြပ်ကွပ်ကဲရန် ဆင်းလာသည့် အခါတွင်လည်း တဲကြီးတလုံးကို အိမ်နှင့် မခြား ကျယ်ကျယ်ဝန်းဝန်း ဇိမ်ရှိရှိနေနိုင်ရန် တည်ဆောက်ထား၏။

ဖေဖေ့လုပ်ငန်း ဘယ်ရွေ့ဘယ်မျှ အောင်မြင်နေသည်ကို ယာယီစခန်း၏ ပင်မရုံးချုပ်၊ သို့မဟုတ် တည်းခိုရိပ်သာအဖြစ် သားအဖနှစ်ယောက် အသုံးပြုနေသည့် တဲကြီးက သက်သေ ပြနေသည်။ အခင်းက ရွှေ့ပြောင်း၍ ရသည့် လျှာထိုးခင်း၊ စခန်းပြောင်းသည့်အခါ လွယ်ကူ စေရန် လျှာထိုးချပ်များကို သုံးပေစီ စပ်ထားသည့် အခင်းရှင်။ နံရံလေးဖက်ကို သုံးပေမြင့်ထိသစ်သားဖြင့် ပြုလုပ်ထားပြီး အထက်ပိုင်းတွင် သံဆန်ခါ ကာထားသည်။ သံဆန်ခါ၏ အပြင် ဘက်တွင် တာလပတ်ဖြင့် ထပ်ကာထား၏။ ပူအိုက်လျှင် စက်သီးဖြင့် လွယ်ကူစွာ လိပ်တင်နိုင်ပြီး ဆောင်းနှင့် မိုးရာသီတို့တွင် တင်းတင်းချပ်ချပ် တာလပတ်နံရံ ဖြစ်စေရန် ပတ်ပတ်လည် တွင် ချိတ်တွေ၊ ကွင်းတွေနှင့် ဖမ်းထားသည်။

အခန်းထဲတွင် ထမင်းစား စားပွဲ၊ ကုလားထိုင်များနှင့် စာအုပ်စင်အပြင် ထင်းသုံးခေါင်း တိုင်နှင့် မီးလင်းဖိုတဖို ရှိသည်။ မီးခိုးခေါင်းတိုင်မှာ တာလပတ်နံရံတဖက်ရှိ လက်ခံသံတိုင် ကိုမှီပြီး အယ်လီနာ၏ စာရေးစားပွဲနံဘေးမှ အပေါ်သို့ ထောင်တက်သွားသည်။ အိပ်ခန်းများနှင့် မီးဖိုခန်းကိုလည်း အလားတူ နံရံများဖြင့် ကန့်ခြားထားသည်။ တာလပတ်ခင်း လမ်းကလေးက သုံးပေအကျယ်။ စခန်းတဝိုက်တွင် ဖေဖေနှင့် လျှောက်လိုက်နေရသည်ကို အယ်လီနာ အလွန် သဘောကျသည်။ အယ်လီနာသည် အလွန်ကြံ့ခိုင်သည့် မိန်းကလေး ဖြစ်၏။ ပြီးတော့ အလွန် ပြည့်ဝသည်၊ ဝီရိယရှိသည်၊ ပွင့်လင်းသည်။

အယ်လီနာကို လှသည်ဟု မဆိုနိုင်။ သို့ရာတွင် မိန်းကလေးများတွင် မြင်တွေ့ရခဲသည့် အလှမျိုးတော့ ရှိသည်။ အယ်လီနာသည် သံမဏိတံတားတခုကဲ့သို့ ကြံ့ခိုင်စွာ လှပနေသည်၊ ကျက်သရေရှိသည်၊ အသုံးဝင်သည်။

ကျစ်လျစ်သိပ်သည်းလှသည့် ခန္ဓာကိုယ်နှင့် ဖြောင့်စင်းရှည်သွယ်သည့် ပေါင်တံများမှာ ပြေပြစ်တင့်တယ်သည်။ ကိုယ်ကို မတ်မတ်ထားပြီး လမ်းလျှောက်တတ်၏။ သူ့လမ်းလျှောက်ပုံ မှာ သွက်လက်သည်။ ခြေလှမ်းများက

ရဲရင့်သည်။

ပုံပန်းသဏ္ဍာန် တခုချင်းအနေဖြင့်မူ မလှ။ နှာခေါင်းရှည်ရှည်၊ မေးရိုးကားကား၊ နှုတ်ခမ်း အနေအထားက တင်းမာ ပြတ်သားမည့် ပုံ။ ပိုင်ပိုင်နိုင်နိုင် ဆုံးဖြတ်နိုင်စွမ်းရှိမည့် နှုတ်ခမ်းမျိုး။ ဤသည်တွေ ပေါင်းစပ်လိုက်သည့်အခါ အလွန်အားမာန် ရှိသည့်၊ ထူးခြားသည့် မျက်နှာတခု ဖြစ်လာသည်။ လေးကိုင်းသဏ္ဍာန်မျက်ခုံးနှင့် မျက်တောင်ကော့ကြီးများအောက်မှ အပြာရင့်ရောင် မျက်လုံးအစုံကမူ ရိုးသားခြင်း၊ နူးညံ့ခြင်းကို အထင်းသား ပြနေသည်။ အညိုရင့်ရောင် ဆံပင်တွေက နဖူးပေါ်တွင် ဝဲကျနေတတ်၏။

အယ်လီနာက အခြားအခြားသော အမေရိကန် တောင်ပိုင်းသူများလို ခါးကျဉ်အောင် စည်းနှောင်လေ့ မရှိ။ ခေတ်နှင့် အညီ ဆင်ယင်ထုံးဖွဲ့မှုကို မကြိုက်၍ မဟုတ်။ အတွင်းခံ ခါးစည်း ကိုယ်ကျပ်အင်္ကျီ ဝတ်လျှင် အသက်ရှူမဝသောကြောင့် ဖြစ်၏။ သို့သော် လွတ်လွတ်လပ်လပ် လှုပ်ရှားသွားလာတတ်မှုနှင့် သဘာဝကိုယ်နေဟန်ကြောင့် သူ့အဝတ်အစားနှင့် သူ ကြည့်ကောင်း ၍ နေသည်သာ။ လည်တိုင်ရင်းတွင် ဝိုက်၍ ကျနေသော ကော်လာအဖြူနှင့် အပြာရင့်ရောင် ပိုးပျော့ရှပ်အင်္ကျီမှာ ခြေချင်းဝတ်ထိ ဝဲကျနေသော အပြာရောင် သက္ကလတ် စကတ်နှင့် လိုက်ဖက် လှသည်။ သာမန်အားဖြင့် ကြည့်လျှင် ခါးပတ်ကို တအားတင်းထားသည် ထင်ရ၏။

သို့သော် အသားပိုမရှိသော သဘာဝ ဝမ်းဗိုက်သားပေါ်တွင် ခပ်လျော့လျော့ ပတ်ထား ခြင်းမျှသာ ဖြစ်၏။ စကတ်၏ အောက်ပိုင်းတွင် အတွန့်များ ပါသဖြင့် လှုပ်ရှားသွားလာရာတွင် လွယ်ကူသွက်လက်သည်။ လွတ်လပ် ပေါ့ပါးသည်။ ကြော့ရှင်းသည့် ကိုယ်နေဟန်နှင့် ရိုးယဉ် သည့် ဆင်ယင်ထုံးဖွဲ့မှုမှာ လိုက်ဖက်လှ၏။

ရာသီဥတု သာယာပြီး နေခြည်က ဝင်းလက်နေသဖြင့် လောကသည် နှလုံးမွေ့လျော် ပျော်ဖွယ်ရာအတိ ဖြစ်နေ၏။ အပြင်ထွက်လျှောက်ဖို့ စိတ်ကူးလိုက်သည်။ အလုပ်စားပွဲတွင် ထိုင်ခဲ့သည်မှာ မနက် ၆ နာရီကတည်းက ဖြစ်၏။ ထမင်းစားချိန် ခဏပဲ နားရသေးသည်။ လက်မောင်းတွေ အောင့်နေပြီ။ ပြန်စရာ စာသုံးစောင်ပဲ ကျန်တော့သည်။ စာအိတ်တွေကို ခပ်လောလော ဖောက်လိုက်၏။

ပထမက လွှတ်တော် အမတ်တဦးထံမှ စာ၊ ရေကြောင်းထိန်းသိမ်းရေး ကွန်ဖရင့် တက်ဖို့ ဖိတ်ကြားခြင်း ဖြစ်၏။ သည်ကိစ္စ ဖေဖေ သိပြီးသား၊ သွားဖို့လည်း ဆုံးဖြတ်ပြီးသားမို့ မပြန်တော့ဘဲ ခြင်းတောင်းထဲ ပစ်ထည့်လိုက်သည်။ နောက် စာတစောင်က အယ်လီနာ့ နာမည်နှင့်ပါလား၊ ခပ်သွက်သွက် ဖောက်ဖတ်လိုက်သည်။

“ဘွဲ့ရ အမေရိကန် အမျိုးသမီးများ၏ အမျိုးသမီး အခွင့်အရေးများ တောင်းဆိုမှု ဆန္ဒပြပွဲကို ထောက်ခံရန်”

ခြင်းတောင်းထဲသို့ ပစ်ထည့်လိုက်ပြန်သည်။ စိတ်ဝင်စားသည့် အရာကို စိတ်ပါလက်ပါ လုပ်တတ်၏။ အများနှင့် ပေါင်းစပ် လုပ်ကိုင်ရမည်ကိုမူ လုံးဝ ဝါသနာမပါတတ်။ နောက်ဆုံးတစောင်ကတော့ ပြန်ကြားဖို့လိုသည့် စာ။ စာရွက်ကို လက်နှိပ်စက်ထဲသို့ ထည့် လိုက်၏။

“ပြီးလုပြီလား” ဟု ဖေဖေက လှမ်းမေးတော့ ခေါင်းညိတ်ပြပြီး လက်ချောင်းတွေက မိုးသီးမိုးပေါက်တွေ ရွာချသလို သွက်၍ ရိုက်တော့သည်။

“အကယ်၍ ရာသီဥတု ဆိုးရွား ဖောက်ပြန်ခြင်း မရှိလျှင် တည်ဆောက်ဆဲရေကာတာ အသစ်ကြီးသည် မတ်လ ၁ ရက် နေ့တွင် ပြီးစီးမည်ဟု ခန့်မှန်းကြောင်း ပြန်ကြားအပ်ပါသည်။ သင်၏ သစ္စာရှိစွာသော ဖရက်အပ္ပဂျွန်း၊ ကန်ထရိုက်တာချုပ်”

သမီးဖြစ်သူက သူ့နာမည်ကို ရိုက်ချပြီး စာရွက်ကို လက်နှိပ်စက်မှ ထုတ်ယူနေစဉ် ဖရက် ဆေးလိပ်ကို ပါးစပ်မှ ဖြုတ်၍ ကလောင်တံကို လှမ်းယူလိုက်သည်။

“အဲဒါ နောက်ဆုံးပဲ ပါပါ၊ အား လား… အတော်ဖားသွားပြီ”

“သမီး ကြည့်ရတာ ပင်ပန်းတယ် မထင်ရပါဘူး”

တနေ့လျှင် ၁၄ နာရီ အလုပ်လုပ်သည့် ဖရက်အပ္ပဂျွန်း ပြန်ပြောလိုက်သည်။ သူ လုပ်သလို လူတိုင်း လုပ်နိုင်ရမည် ဟုလည်း နားလည်ထားသူ ဖြစ်၏။

အယ်လီနာက ဖအေလုပ်သူကို တချက်လှမ်းကြည့်ပြီး စာအိတ်တလုံးပေါ်တွင် လိပ်စာ ရိုက်ချလိုက်သည်။

“မစ္စတာ ကက်စတာလန်း၊ ဝက်သစ်ချမြိုင် ယာတောစခန်း၊ လူဝီစီးယားနားပြည်နယ်”

“ဒါက ဘာအကြောင်းအရာလဲ သမီး”

“မစ္စတာကက်စတာလန်းက ဘယ်တော့လောက် ပြီးမယ် ဆိုတာ သိချင်တယ်တဲ့၊ သူ့ဝါခင်းတွေ စိုက်ချိန်လောက် ဆိုရင် သမီးတို့ ဒီကနေ ပြောင်းနိုင်ကြလိမ့်မယ်လို့ မျှော်လင့် ပါတယ်တဲ့”

ဖရက်အပွဂ္ဂျန်းက လက်မှတ်ထိုးရင်း ခပ်ရွှင်ရွှင် လေသံဖြင့် -

"အင်း... ဝါဂွမ်းသမားတွေက သူတို့အလုပ်သမားတွေအပေါ် တို့ ဘယ်လောက် ဩဇာညောင်းနေတယ် ဆိုတာ မသိကြဘူး၊ ဒါပေမဲ့ ပါပါ့လူတွေက သူတို့အလုပ်သမားတွေကို ဒုက္ခမပေးပါဘူးကွာ"ဟု ပြောလိုက်သည်။

အယ်လီနာက မတ်တတ်ရပ်ပြီး အညောင်းဆန့်လိုက်၏။

"အဲဒီ ဝက်သစ်ချမြိုင် ဝါစိုက်ခင်းက ဒီတခွင်လုံးကြီးလားဟင် ပါပါ"

ဖရက်က ခေါင်းညိတ်ပြီး-

"အကျယ်ကြီး၊ နည်းတဲ့ မြေတွေ မဟုတ်ဘူး၊ ကေနှစ်ထောင်လောက် ရှိမယ်၊ ဒါပေမဲ့ ပါပါ့အထင် အဲဒီမြေတွေအားလုံး သူတို့ ပေါင်ထားရတယ်"

ဖေဖေ့လေသံက မလိုတမာ လေသံ။

"ဘာဖြစ်လို့လဲဟင် ပါပါ"

မတ်တတ်ထပြီး ရယ်မောရင်း-

"အဲဒီ လန်းမိသားစုဟာ ဘိုးစဉ်ဘောင်ဆက်ကတည်းက ပေါ့ပေါ့နေ ပေါ့ပေါ့စားတွေ သမီးရဲ့၊ အလုပ်ကို လက်ကြော တင်းအောင် လုပ်ချင်ကြတာ မဟုတ်ဘူး။ မျိုးနဲ့ ရိုးနဲ့ အရက်သောက်တယ်၊ မိန်းမလိုက်တယ်၊ ပြည်တွင်းစစ်ကြီးကို သူတို့က အမင်္ဂလာလို့ သဘော ထားကြတယ်"

အယ်လီနာက သူ့အဖေ ပြောပုံကို သဘောကျစွာ ရယ်ရင်း စားပွဲပေါ်သို့ တင်ပါးလွှဲ ထိုင်ပြီး-

"ဒါပေမဲ့ သူတို့မြေတွေကို ရေဘေး ကာကွယ်ဖို့တော့ အစိုးရက လုပ်ပေးနေသားပဲ ပါပါရဲ့"

"အေး... ဒါတော့ ဟုတ်တယ်"

ပြောပြောဆိုဆို တံခါးပေါက်ဆီသို့ လှမ်းကြည့်ပြီး-

"ကဲ.. ပါပါ အပြင်သွားလိုက်ဦးမယ်"

မြဲမြံသည့် ခြေလှမ်းကျဲကြီးများနှင့် ထွက်သွားသည့် ဖေဖေ့

နောက်ကျောပြင်ကို ငေးကြည့်နေမိသည်။ ဘဝတလျှောက်လုံး ခယောင်းလမ်းပေါ်တွင် လျှောက်ခဲ့ရသဖြင့် မြေကြီး နှင့် အသားကျနေသော ဖေဖေ့ ခြေထောက်များ၊ ဖေဖေ့ ခြေဖဝါးများသည် ကတ္တရာလမ်း၊ ကျောက်လမ်းနှင့် ရင်းနှီးမှု မရှိလှ။ ဖေဖေ လမ်းလျှောက်ပုံသည် ငါလာနေပြီဟေ့၊ ငါ့ရှေ့မှ ဖယ်ကြ ရှားကြဟု ပြောနေသည့်နှယ်။ ပြုံးမှန်းမသိ ပြုံးနေမိသည်။ ဖေဖေ့လောက် ကြည်ညို မြတ်နိုး အားကိုးစရာ ကောင်းသည့် လူမျိုးသည် ကမ္ဘာတွင် ရှိမည် မထင်တော့။

စားပွဲပေါ်မှ လျှော့ဆင်းလိုက်ပြီး အညောင်းဆန့်လိုက်ပြန်သည်။ ပြီးတော့ အိပ်ခန်း ထဲသို့ ဝင်ကာ အနွေးထည်တထည် ယူသည်။ ပခုံးတဖက်တွင် ပစ်တင်၍ အပြင်ထွက်ခဲ့၏။ ရေကာတာဟောင်းကြီးပေါ်သို့ လျှောက်လာခဲ့သည်။ လေရူးက ဟိုဘက်မှ တိုက်လိုက်၊ သည်ဘက်မှ ဝှေ့လိုက်နှင့်ပါလား။ ရေကာတာ၏ အတွင်းပိုင်းမှ ညစ်ပုပ်ပုပ် အဆင်းရှိသည့် ရောမလွင်ပြင်ကြီးသည် ထွန်ယက်စိုက်ပျိုးမှုကို ငံ့လင့်နေသည့်အလား။ မြစ်၏ ဟိုမှာဘက်ကမ်း မှ ရှုခင်းကမူ ရွှေရောင် မီးရောင် တဖိတ်ဖိတ် လက်လို့။

တာဟောင်း၏ နံဘေးမှ ဝက်သစ်ချပင်ပျိုတပင်တွင် မှီရပ်ပြီး လေကိုတဝကြီးရှူသည်။ မျှော်မဆုံးသည့် ပတ်ဝန်းကျင် ရှုခင်းတွေကို အရသာခံရင်း ငေးကြည့်နေမိ၏။

အမေရိကန်တောင်ပိုင်း ဆောင်းရာသီက အေးမြ ငြိမ်သက်လှ၏။ ဟိုးအနိမ့်ပိုင်းဆီတွင်မူ မြစ်ရေသည် ပျင်းရိငြီးငွေ့ဖွယ်ရာ တငြိမ့်ငြိမ့် စီးဆင်းလျက်ရှိသည်။ ရေကာတာကြီးနှင့် မြစ်ကမ်းနဖူး၏ စပ်ကြား သောင်ကြောတွင် အလုပ်သမား တဲတန်းလျားများဖြင့် မြို့ကလေး သဖွယ် စည်ကားနေသည်။ ကိုက် ၃၀၀ လောက် အကွာတွင် အလုပ်သမားတသိုက် မြည်းဆွဲ ဝန်တင်လှည်းများနှင့် မြေကြီးတွေ သယ်ဖို့နေကြ၏။ ဧပြီလတွင် တက်မည့်ရေကို ရေကာတာ အဟောင်းကြီးက ခံနိုင်စွမ်း မရှိတော့။

ရှုခင်းကို ငေးပြီး သဘောကျနေမိ၏။ တဖက်တွင် လုံးဝငြိမ်သက်နေသည့် လွင်တီး ခေါင်၊ တဖက်တွင် ပုရွက်ဆိတ်တွေလို လှုပ်လှုပ်ရွရွနှင့် အလုပ်လုပ်နေကြသော လူမည်းအလုပ်သမားများ၊ တဲတန်းလျားများ နံဘေးတွင် ဆော့ကစားနေကြသည့် နက်ကြုတ်ကြုတ် ကလေးငယ်များနှင့် ချက်ရေး ပြုတ်ရေးအတွက် အလုပ်ရှုပ်နေကြသော သူတို့ အမေများ။

သည်ပတ်ဝန်းကျင်၊ သည်မြင်ကွင်းကို အယ်လီနာ အလွတ်ရနေပြီ။ မစ္စစ်စပီ မြစ်ရေ သည် မနက်ပိုင်းတွင် ဝါကြန့်ကြန့် အဆင်းရှိပြီး ညနေပိုင်းတွင်တော့ ခရမ်းရောင် ပြေးနေ တတ်သည်။ လရောင်ရွှန်းမြသော ညများတွင်ကား တတိုင်းမွေးရောင် ဖွေးလျက်။ ဆောင်းအခါ ရေအကျတွင်မူ သိမ်သိမ်မွေ့မွေ့

စီးနေတတ်၏။ ငြိမ့်ငြိမ့်ညင်ညင်ကလေး။

ဆောင်းအကုန် နွေအကူးတွင်တော့ ကျားသစ်နက်တကောင်လို အော်ဟစ် ဆူညံ နေတတ်ပြန်သည်။ ဒေါသအမျက် ခြောင်းခြောင်းထွက်လျက်။ မစ္စစ်စပီသည် ချစ်စရာလည်း ကောင်း၏။ ကြောက်စရာလည်း ကောင်း၏။ သည်လိုပင် အယ်လီနာ ခံစားမိသည်။

ခပ်လှမ်းလှမ်း ရေကာတာ လုပ်ငန်းခွင်ဆီမှ စည်းချက်ညီညီ အော်ဟစ် အားပေးနေကြ သော လူမည်းလုပ်သားတို့၏ ငြသံများကို ကြားနေရသည်။ နောက်ဘက်မှ ကားသံလိုလို ကြားမိ၍ ကြည့်လိုက်၏။ ဝဂ္ဂမ်းများ သယ်သည့် ကားလမ်းဆီမှ မီးခိုးတလူလူနှင့် မောင်းလာ နေသော ကားကလေးတစီး။ စက်သံမှာ ဆူညံစွာ အော်ဟစ်လျက်။ ကားမောင်းသူတွင် ဦးထုပ် မပါ။ သူ့ဆံပင်တွေမှာ လေထဲတွင် ပျံ့ဝဲနေသည်။

ရေကာတာဟောင်း၏ ဆင်ခြေလျှော အနိမ့်ပိုင်းမှ ထင်ရှူးပင်ပျိုတပင်၏ အောက်တွင် ကားကို ထိုးရပ်လိုက်ပြီး ကားမောင်းသူက ခုန်ဆင်းလိုက်သည်။ အရပ်အမောင်း ကောင်းကောင်း လုလင်ပျိုတဦး။ ဆံပင်တွေက ခေါင်းပေါ်တွင် လွင့်ဝဲလျက်။ အယ်လီနာကို မြင်တော့ သူ တအံ့တဩ ဖြစ်သွား၏။ ခဏငယ်မျှတွေနေပြီး အယ်လီနာရှိရာ တာဘောင်ပေါ်သို့ တက်လာ သည်။

သူ့လှုပ်ရှားမှုကို ကြည့်ရသည်မှာ ခပ်ပေါ့ပေါ့၊ ခပ်သွက်သွက်။ သည်လောကကြီးထဲသို့ သူ့ကို ပျော်ဖို့ရွှင်ဖို့ မွေးဖွား ပေးလိုက်သည့်အလား။ အယ်လီနာထက် ခေါင်းတလုံးနီးပါး ပိုမြင့်သည်။ ရင်အုပ်ကားကား၊ အသားရောင်က နေလောင်ထားသည့် အသားရောင်မျိုး။ သူ့ဘဝတလျှောက်လုံး အပြင်တွင် အချိန်ကုန်နေသည်လား မသိ။ ဆံပင်နှင့် မျက်လုံးကလွဲပြီး သူ့တကိုယ်လုံး ပင်လယ်ဓားပြနှင့် တူနေ၏။ နဖူးကတော့ ကျယ်သည်။ နှာရောင်က မသိမသာကလေး ကောက်နေ၏။

ကလေးမကို သူက ကြည့်ပြီး ပြုံးသည်။ ပျိုပျိုအိုအို တွေ့ဆုံသမျှ ပြုံးပြတတ်သည့် နှုတ်ခမ်းမျိုး၊ သူ့ကိုယ်သူ ပျိုတိုင်း ကြိုက်တဲ့ နှင်းဆီခိုင်ဟု သေချာနေသည့် အပြုံးမျိုး။ ဒါမျိုးကို အယ်လီနာတို့က အလွန်ချဉ်။ ဒါပေမဲ့ ဘာကြောင့်မှန်း မသိ၊ သူ့ကြည့်ပြီး ပျော်ချင်သလိုလို ဖြစ်နေသည်။

“အနှောင့်အယှက် ပေးသလိုများ ဖြစ်နေရင် ခွင့်လွှတ်နော်”

ညှော့ခန်းဆောင်ထဲသို့ ခွင့်မတောင်းဘဲ ဝင်လာမိသူ တဦး၏ အမူအရာမျိုးဖြင့် ခါးကို ညွှတ်သည် ဆိုရုံကလေး ညွှတ်ပြီး တောင်းပန်သည်။

“တယောက်ယောက်ကို ရှင် လိုက်ရှာနေတာလား ဟင်”

ပြန်မေးရင်း ဘာကြောင့် ပြုံးပြလိုက်မိမှန်း မသိလိုက်။

“ဟင့်အင်း၊ ဘယ်သူ့ကိုမှ မရှာပါဘူး။ ကွင်းထဲကို လှည့်ကြည့်မလို့ ထွက်လာတာ၊ မင်းကို လှမ်းမြင်လိုက်တာနဲ့”

ဘာကြောင့်မှန်း မသိပြန်၊ ရယ်နေမိသည်လေ။

သူက “စိတ်အနှောင့်အယှက် ဖြစ်သွားလားဟင်” တဲ့။

“အိုး...... ဘာဆိုင်လဲ၊ ဒီရေကာတာကြီးကို အမေရိကန်ပြည်ထောင်စုအစိုးရ ပိုင်တာပဲ၊ အစိုးရကို အခွန်ထမ်းနေတဲ့ ပြည်သူတိုင်း ဒီနေရာကို လာခွင့်ရှိတာပဲ”လို့ ပြန်ပြောလိုက်တဲ့ ကိုယ့်အသံ ကိုယ် ကြားပြီး အံ့သြနေမိသည်။

သူ စိုက်ကြည့်နေမှန်း သိလျက် မမြင်ကျိုးကျွန်ပြုပြီး ခပ်တည်တည် ပြန်ပြောလိုက်ရ ပေမယ့် အသံက ကြည်လင်ရွှင်ပျနေသည့် အသံ၊ မိတ်ဆွေ ဖြစ်လိုနေသည့် အသံ။

“ကဲ.. ဟုတ်ပါပြီတဲ့ဗျာ”

သူက အံ့သြသည့် အမူအရာနှင့် ပြန်ပြောသည်။ ခပ်တုံးတုံးထဲက ထင်ပါရဲ့။ သည်အမူ အရာမျိုးနှင့် မိန်းကလေးတိုင်းကို ချဉ်းကပ်လျှင်တော့ စွံဖို့ မလွယ်။ သူက စကားဆက်သည်။

“မိသား ဖသားပီပီ တယောက်နဲ့ တယောက် မိတ်ဆက်ပေးဖို့ တို့နှစ်ယောက်စလုံး သိတဲ့ မိတ်ဆွေတယောက်တော့ လိုတာပေါ့လေ။ ဒါပေမဲ့ ခုလောလောဆယ် ကိုယ့်နာမည်ကို မှတ်ထားပါ၊ ကက်စတာလန်း”

“ကက်စတာလန်း၊ ဟုတ်လား”

တအံ့တသြ ပြန်မေးလိုက်ရင်း-

“ကြည့်စမ်း၊ ခုပဲ ကျွန်မ ရှင့်ဆီ စာတစောင် ရေးလိုက်သေးတယ်”

“ကိုယ့်ဆီကို၊ ဟုတ်လား”

သူ့ကြည့်ရတာ ပျော်သွားသလို၊ ပြီးတော့ ဝေခွဲမရသလို။

“ဒါဆို ကမ္ဘာပေါ်မှာ ကိုယ့်လောက် ကံကောင်းတဲ့ ကောင် ဘယ်ရှိတော့မလဲ။ ဒါထက် တို့ အရင်က မတွေ့ဖူးကြပါဘူးနော်၊ မင်းပုံက တခါတွေ့ဖူးရင် မေ့လို့ ရမယ့် ပုံစံမျိုးမှ မဟုတ်တာ”

“သွားစမ်းပါ”

သူ့ကို ပြန်ပက်လိုက်ပေမယ့် ရယ်နေမိဆဲ။

“ဒီ ရေကာတာ တည်ဆောက်ရေး စီမံကိန်းမှာ ကျွန်မအဖေက အကြီးဆုံးရှင့်။ ဘယ်တော့လောက် ပြီးမလဲလို့ ရှင် မေးတဲ့ စာကို ပြန်ဖြေတာ။ ကျွန်မက ဖေဖေရဲ့ အတွင်း ရေးမှူးလေ၊ ဒါကြောင့် ကျွန်မ ရှင့်ဆီ စာပြန်ရတာ”

“ဟုတ်လား”

“ရှင် ဝမ်းသာစရာ သတင်းပါ။ မတ်လဆန်းလောက် ဆိုရင် ကျွန်မတို့ ရွှေ့နိုင်ပါပြီ” သူ့မျက်နှာတွင် တောင်းပန် တိုးလျှိုးလိုသည့် အမူအရာကို တွေ့မြင်ရ၏။ ရှေ့ကို တလှမ်းတိုးသည်။ စကားဆက်သည်။

“ကျွန်မတို့ကို ရှင် ဒီက ရွှေ့စေချင်တာ သဘောပေါက်ပါတယ်။ ကျွန်မတို့ ရေကာတာ လုပ်သား နီဂရိုးတွေဟာ ခပ်ကြမ်းကြမ်း ခပ်ရမ်းရမ်းတွေ၊ ရှင့်ဆီက ဝါစိုက်ပျိုးရေး နီဂရိုးတွေနဲ့ အဆင်မပြေဘူး မဟုတ်လား။ ဒါကြောင့် ကျွန်မတို့ကို ရွှေ့စေချင်တာ သဘာဝကျပါတယ်၊ ကျွန်မ အပြစ်မတင်ပါဘူး”

“မင်းဟာ အတော်လာတဲ့ မိန်းကလေးပါလား”

တအံ့တသြ ပြောရင်း သူ့မျက်နှာ ရုတ်ခြည်း ဝင်းထိန်သွားသည်။

“မင်းပြောတာ မှန်တယ်၊ သိပ်မှန်တယ်၊ သူတို့တွေ မတည့်ကြဘူး။ ဒါကြောင့် ဝါစိုက်ချိန်မှာ ရေကာတာလုပ်သားတွေ ဒီက ရွှေ့စေချင်တာ။ နေပါဦး၊ ဒါဆို မင်းတို့ပါ ပြောင်းမှာပေါ့၊ ဟုတ်လား”

“ဒါပေါ့ရှင်”

သူက စိတ်ပျက်သွားဟန် ပြလိုက်သည်။ ပြီးတော့မှ ပြုံးပြီး-

“ထားပါလေ၊ နှစ်လတောင် လိုသေးတာပဲ၊ ကဲ . . . အမိနာမည်ကလေးများ တဆိတ်မသိရဘူးလား”

“အယ်လီနာအပ္ပဂျွန်းပါ”

“ကျေးဇူးပါပဲဗျာ”

ကက်စတာက သူ့ကုတ်အင်္ကျီကို ချွတ်ပြီး မြက်ခင်းပြင်ပေါ်တွင် ခင်းပေးလိုက်၏။

“ထိုင်လေ”

သူ့လုပ်ပုံ ကြည့်ပြီး မထင်မှတ်ဘဲနှင့် အယ်လီနာက သူ့ကို သဘောကျနေမိသည်။ ပခုံးပေါ်မှ ကုတ်အင်္ကျီကို ပုတ်ပြပြီး-

“ကျွန်မမှာလည်း ပါသားပဲ”

“အဲဒါကို ဝတ်ထားပါ၊ ကိုယ် မင်းကို လှမ်းမြင်ကတည်းက ကုတ်အင်္ကျီ ပါလာတာ သတိထားမိသားပဲ”

ဆက်၍ မငြင်းကြတော့။ သူက အယ်လီနာ့ ပခုံးပေါ်မှ ကုတ်အင်္ကျီ လှမ်းယူပြီး ဝတ်စေ လိုက်သည်။ ယောကျ်ားကလေးများက သူ့ကို မိန်းကလေးတယောက်လို ယုယုယယ ဆက်ဆံခဲ့ဖူးခြင်းမျိုး အယ်လီနာ မကြုံဖူးခဲ့။ အသာအယာပင် ကုတ်အင်္ကျီကို ဝတ်လိုက်သည်။ စိတ်ထဲ တွင် တမျိုးကြီး။ ကြည်နူးမိတာလား။ သူ၏ ပိုင်စိုးပိုင်နင်း ဂရုစိုက်မှုကြောင့် ပျော့နွဲ့နေသလိုလို။

သူ့ကုတ်အင်္ကျီပေါ်တွင် ထိုင်လိုက်သည်။ သူက အယ်လီနာနှင့် ယှဉ်၍ မြက်တော ထဲတွင် ပယ်ပယ်နယ်နယ် ထိုင်ချ သည်။

“အောက်မှာ စိုနေတယ်လေ” လို့ သတိပေးတော့ “ရပါတယ်၊ ကိုယ် ဘယ်တော့မှ အအေးမမိတတ်ဘူး” တဲ့။

သူက မြက်ခင်းထဲကို တံတောင်ဆစ်နှင့် ထောက်ရင်း အယ်လီနာ့ကို မော်ကြည့်နေ သည်။

ဖေဖေ့ပြောသံကို နားထဲတွင် ပြန်လည် ကြားယောင်လာသည်။ မျိုးနဲ့ ရိုးနဲ့ အရက် သောက်၊ မိန်းမပွေကြသူတွေ တဲ့။ ကြည့်ရတာတော့ ဟုတ်မည့် ပုံပဲ။ ဒါပေမဲ့ သူကတော့ မွန်မွန်ရည်ရည်ရှိသား။ ခံ့ချောချောပြီး အလွန် ယောကျ်ားပီသသည့် ကိုယ်နေဟန်မျိုး။

“အယ်လီနာတဲ့၊ ဟုတ်လား၊ သိပ်ကောင်းတဲ့ နာမည်ကလေးပဲ၊ မင်းကော မင်းနာမည် ကို သဘောကျရဲ့လား”

“ကျပါတယ်၊ ဒါပေမဲ့ နယ်လီလို့ ခေါ်ရင်တော့ မကြိုက်ဘူး”

သူက ခပ်တိုးတိုး ရယ်သည်။

“မင်းလို မိန်းကလေးကို နယ်လီလို့ ဘယ်သူ ခေါ်မလဲကွယ်”

“ဖေဖေပေါ့၊ တခါတလေ ခေါ်တယ်ရှင့်၊ ကျွန်မတို့စခန်းက မြည်းအမတွေ အားလုံး နယ်လီချည်းပဲ။ ကျွန်မက မကြိုက်ဘူး၊ မခေါ်နဲ့လို့ ဆိုတာနဲ့ ခုတော့ မခေါ်တော့ပါဘူး”

“ကိုယ်တော့ မင်းကို အဲဒီလို ဘယ်တော့မှ မခေါ်ပါဘူး ကလေးမရယ်၊ ကတိပေး ပါတယ်”

“ဟိုမှာ ရှင့်ကားကို စက်မရပ်ဘဲ ဘာလို့ ဒီအတိုင်း ထားခဲ့သလဲ”

သူက ကားဆီသို့ လှည့်မကြည့်ဘဲ-

“ရပ်ထားခဲ့ရင် ပြန်နှိုးနေရမှာပေါ့” တဲ့။ ကြည့်၊ ဖေဖေပြောတာ ဟုတ်မှာပါ ၊ ပေါ့ပေါ့ နေ ပေါ့ပေါ့စား လူပျင်းတွေ။

“စက်နှိုးရမှာ ပျင်းရင်လည်း ရှင် မြင်းလှည်းပဲ မောင်းပါလား”

“ဟင့်အင်း၊ ကိုယ်က မော်တော်ကားမှ သဘောကျတာ။ ကိုယ် အကဲခတ်လို့ ရပြီ၊ မင်းဟာ အတော်ပိုင်စိုးပိုင်နင်း ပြောတတ်တဲ့ မိန်းကလေးပဲ၊ ဟုတ်လား”

“သူများတွေကတော့ အဲဒီလို ပြောကြတာပဲ” လို့ ခပ်ပြုံးပြုံး ပြန်ပြောတော့ သူက “အဲဒီ သူများတွေက မင်း သိပ် ချစ်စရာကောင်းတဲ့ အကြောင်းကော မပြောကြဘူးလား” တဲ့။ ခေါင်းကို သွက်သွက်ယမ်းပြီး-

“ဟင့်အင်း၊ ဘယ်သူမှ မပြောကြဘူး၊ ကျွန်မဟာ တခြားမိန်းကလေးတွေလိုပဲ လှတယ်ပြောရင် သဘောကျတတ်ပါတယ်။ ဒါပေမဲ့ ကျွန်မ မေးရိုးတွေ၊ နှာတံတွေ မလှမှန်း ကျွန်မ သိနေတာပဲ”

“ကောလိပ်မှာတုန်းက ကောင်လေးတွေနဲ့ ဆုံဖူးမှာပေါ့။ မင်းကို သူတို့ မပြောကြ ဘူးလား၊ တမျိုးလှတယ်လို့”

“ဘယ်လို တမျိုးလဲ”

“ဟို... စတော်ဘယ်ရီ စားလို့ ကောင်းသလို ငါးဥလည်း အရသာ မရှိဘူးလား”

အယ်လီနာက သူ့ကိုယ်သူ ပြန်ငုံ့ကြည့်ပြီး တချက်တွန့်သွားသည်။ သူ့ကို ဘယ်သူမျှ လှသည်ဟု မပြောဖူးကြ။ သူ့ကျောင်းနေဖက် ယောကျ်ားကလေး သူငယ်ချင်းတွေ၊ အလုပ်ခွင်မှ အင်ဂျင်နီယာတွေ သူ့ကို တလေးတစား ဆက်ဆံကြသည်မှာ အတွက်အချက် မြန်ဆန်၍ ဖြစ်၏။ သင်္ချာတော်၍ ဖြစ်၏။ ကက်စတာလန်းမှာ ကျောင်းသားအရွယ်ကို အများကြီး လွန်ခဲ့ပြီး ဖြစ်သည်။ နှစ်ဆယ့်ခြောက်၊ နှစ်ဆယ့်ခွန်လောက် ရှိမည် ထင်၏။ မိန်းကလေး တယောက်၏ အဓိပ္ပါယ် အရည်အသွေးကို ကြည့်တတ်ပုံ မရဘူး ထင်ပါရဲ့။ ထားပါလေ။ အတွေးစကို ဖြတ်ပစ်လိုက်သည်။ လှျာအရိုးမရှိ လျှောက်ပြောနေတာ ထင်ပါတယ်။ မိန်းကလေးတယောက်ကို ကြည်နူးမြူးပျော်အောင် လုပ်တတ်တယ် ဆိုတာ အဲဒီ အလုပ်ကို လုပ်နေကျမို့ ဖြစ်မှာပေါ့။

ကက်စတာက နောက်သလို ပြောင်သလို အမူအရာနှင့် အယ်လီနာ့တကိုယ်လုံးကို စေ့စေ့ကြည့်သည်။

"မင်း ကိုယ်ပြောတာတွေ တခွန်းမှ မယုံဘူးပေါ့၊ ဟုတ်လား"

"ဟုတ်တယ်၊ တခွန်းမှ မယုံဘူး"

"ကဲ.. ထားပါလေ၊ လာ တို့ ကားလျှောက်စီးကြရအောင်"

"ကားလျှောက်စီးမယ်၊ ဟုတ်လား၊ ဘယ်ကို လျှောက်စီးမှာလဲ"

"မင်း ကြိုက်တဲ့ နေရာပေါ့၊ လာပါကွယ်"

သူက ကုန်းထလိုက်ပြီး အယ်လီနာ့ကို လက်ကမ်းပေးသည်။

အယ်လီနာက နှုတ်မှ အဖြေမပေးမိ။ စိတ်ထဲက ပြောနေ၏။ ငါ သူ့ထောင်ချောက်ထဲ ကိုများ ရောက်နေပြီလား။ သူ ငါ့ကို တခြားကြောင့် ဖိတ်ခေါ်နေတာ မဟုတ်ဘူး။ သူ့ကို မကျတဲ့ မိန်းကလေး မရှိဘူးဆိုတဲ့ အစွဲကြောင့်ဖြစ်မှာ။ ဒါကို သိနေရင် ငြင်းလိုက်ရုံပေါ့ ၊ ငြင်းလိုက်မယ်။

အယ်လီနာ အဖြေပေးလိုက်သည်။

"ကျေးဇူးပဲ၊ ကျွန်မလည်း ကားလျှောက်စီးချင်နေတာ"

"အေး... ဟုတ်ပြီ"

အယ်လီနာ့ အဖြေကြောင့် ကက်စတာ ဝမ်းသာသွားသည်။ အယ်လီနာက

ကက်စတာ လောက် မြူးကြွသည့်လူမျိုး တခါမျှ မမြင်ဖူးသေး။ သူ့လက်ကို အတင်းဆွဲပြီး ပြေးဆင်း မည် ပြု၏။ အယ်လီနာက တံ့ခနဲ ပြန်ဆွဲထားပြီး-

“ကုတ်အင်္ကျီလေ” ဟု သတိပေးရ၏။

သူ့အဖြစ်ကို သူ သဘောကျသလို ရယ်သည်။ ကုတ်အင်္ကျီကို ကောက်ဝတ်သည်။ တွန့်ကြေနေ၏။ သို့သော် သူလုံးဝ ဂရုမစိုက်။ သူ့မျက်လုံးတွေမှာ တောက်ပလျက်။ ဟန်နှင့် ပန်နှင့် လမ်းလျှောက်လျက်။

အယ်လီနာက သချ်ာတပုဒ်ကို အဖြေထုတ်သလို ထုတ်ကြည့်သည်။ သူ့ပုံက ကိုယ့်ကိုယ် ကိုယ် ယုံကြည်လွန်းသည့်ပုံ။ တလောကလုံးကို ထီမထင်သည့် ပုံစံမျိုး။

တာရိုးနံဘေးသို့ ဆင်ခြေလျှောအတိုင်း ပြေးဆင်းခဲ့ကြသည်။ သူက အယ်လီနာ့ကို လက်တွဲလျက်။ ပြီးတော့ ကားပေါ်သို့ တက်ကြသည်။ အယ်လီနာ စကတ်ကို တင်းတင်းဆွဲ သိမ်းပြီး ထိုင်သည်။

“ကိုင်ထားနော်၊ လမ်းက ဆိုးတယ်”

ကွင်းထဲကို ဖြတ်ပြီး လမ်းမဆီသို့ ကက်စတာက မောင်းလာခဲ့သည်။ ကားကလေးမှာ လမ်းကြမ်းတလျှောက် ခုန်ပေါက် ဆူညံလျက်။ မနည်းထိန်းထားရသည်။ တခါတခါ လွင့်စဉ်ကျသွားမည်လား အောက်မေ့ရသည်။ ရင်ထဲတွင် တထိတ်ထိတ်နှင့်။ နောက်တွင် ဖုန်လုံးကြီးတွေ တလိပ်လိပ် တက်ကျန်ခဲ့သည်။ ထိုင်ခုံကို မြဲမြဲကိုင်ထားမိ၏။ ကြောက်လည်း ကြောက်၊ ပျော်လည်း ပျော်သလိုပဲ။ ခဏကြာတော့ ကက်စတာက ကားကို အရှိန်လျှော့လိုက်၏။ သံတိုင် ခြံစည်းရိုးပတ်ပတ်လည် ကာရံထားသည့် ဧရာမ ဝင်းခြံကြီးကို လှမ်းမြင်ရ၏။

“ဒါ ကိုယ့်အိမ်ပဲ၊ တို့ လည်ချောင်းထဲက ဖုန်တွေ ရှင်းသွားအောင် အထဲဝင်ပြီး ကော်ဖီလေး ဘာလေး သောက်ကြရအောင်” ဟု သူက အဆိုပြုသည်။

“ရှင် ဒီလိုပဲ အမြဲတမ်း မောင်းလေ့ ရှိသလားဟင်”

“ဟုတ်တယ်၊ အမြဲတမ်းပဲ၊ ကိုယ် မောင်းတာကို မင်း ကြောက်တယ် ထင်တယ် ဟုတ်လား၊ မကြောက်ပါနဲ့ကွာ၊ ကိုယ်က ကားသရဲပါ”

“နေပါဦး၊ ရှင့်ကို ကျွန်မ ဒီ “ဝက်သစ်ချမြိုင်” စခန်းကမှန်း မသိဘူး၊ ရှင် ဒီမှာနေတယ် ဟုတ်လား”

သူက အလွန့် အလွန်အံ့ဩသည့် အမူအရာလုပ်ပြတော့ အယ်လီနာ မရယ်ဘဲ မနေ နိုင်ပြန်။

"ဒီမယ် အယ်လီနာ၊ ကိုယ် ဒီမှာ မွေးပြီး ဒီမှာ ကြီးလာတာလေ၊ တို့မိသားစု အဆက် ဆက် ဝက်သစ်ချမြိုင်မှာ နေလာကြတာ။ တော်လှန်ရေးကာလ မတိုင်ခင်ကတည်းကပဲ"

သူက ကားဘရိတ် နင်းထားလိုက်ပြီး ဘောင်းဘီအိတ်ထဲကို နှိုက်နေသည်။ အိတ်ဆောင် ဓားကလေးကို ထုတ်ပြီး-

"ဟောဒီမှာ ကိုယ့်နာမည်"

လက်ကိုင်ပေါ်တွင် "ကက်စတာလန်း"ဟု ကမ္ပည်းထိုးထား၏။

"ကိုယ့်မေမေက မွေးနေ့လက်ဆောင် ပေးတာလေ၊ ကိုယ်က မေ့တတ်လွန်းလို့ စာတန်း ထိုးပေးထားတာ"

"ရှင့်အမေ အိမ်မှာ ရှိနေလား ဟင်"

"ဖေဖေနဲ့ မေမေ မရှိကြဘူး ထင်တယ်၊ အိမ်စေတွေတော့ ရှိကြမှာပါ။ လာလေ၊ အိမ်ထဲ ဝင်ကြရအောင်။ ဒီအနား တဝိုက်မှာ ကော်ဖီရနိုင်တာ ဒီတနေရာပဲ ရှိတာပါ"

အယ်လီနာက ခေါင်းညိတ်သည်။ ကက်စတာက အိမ်ဝင်လမ်းကို ချိုးကွေ့ပြီး မောင်းဝင် လာသည်။

အိမ်ကြီးကို သဘောကျလွန်း၍ အယ်လီနာ ဟန်မဆောင်နိုင်ဘဲ တအံ့တဩ ချီးကျူး လိုက်မိသည်။ ဝင်းတံခါးဝမှ ရောမ အိမ်ဖြူကြီးသို့ အရောက် လမ်းတဖက်စီတွင် ဝက်သစ်ချ ပင်အိုကြီးတွေ စီတန်းလျက်။ အပွေးတွေမှာ ရေညှိတက်နေ၏။ အခက်အလက်တွေ ဝေဖြာ နေ၍ အိမ်ကြီးကို ခပ်လှမ်းလှမ်းမှ အပြည့်အဝ မမြင်နိုင်။ အဝင်လမ်းဆုံးသို့ ရောက်ခါနီးမှ အိမ်ဖြူကြီး၏ မြင်ကွင်းကို ရှင်းရှင်းလင်းလင်း မြင်ရတော့သည်။

အရှေ့မုခ်ဆောင်မှာ အမိုးမြင့်။ အပေါ်ထပ်နှင့် တညီတည်း။ ရေးဂရိဗိသုကာလက်ရာ ပုံစံမျိုး ဖြစ်သည်။ မုခ်ဆောင် တိုင်ကြီးလေးလုံးမှာ အမိုးအထိ အမြင့်ကြီးတွေ။ တံခါးမကြီးမှာ ရောမ တံခါးရွက်ကြီးနှစ်ရွက်နှင့်။ ပြတင်းပေါက် မြင့်မြင့်ကြီးများတွင် ခန်းဆီးများ အပြည့် တပ်ထားသည်။

ကားပေါ်မှဆင်းပြီး ကက်စတာတို့ အိမ်ကြီး၏ ခမ်းနားထည်ဝါပုံကို အယ်လီနာ ရင်သပ် ရှုမော ဖြစ်နေသည်။ ခြုံကြည့်လျှင် ဝက်သစ်ချမြိုင် စံအိမ်ကြီးမှာ ရှေးဟောင်း ဂရိဗိသုကာ လက်ရာနှင့် ခေတ်ပေါ် အမေရိကန်ဒီဇိုင်းကို ရောမွှေသမ ထားသည့် လက်ရာမျိုး ဖြစ်သည်။ ၁၈ ရာစု နှစ်ဦးပိုင်း၊ ပြင်သစ်နှင့် အမေရိကန်တော်လှန်ရေးအပြီးတွင် ဂရိ ဒီမိုကရေစီစနစ် ကူးစက်ပြန့်ပွားခဲ့၏။ တဆက်တည်း ဂရိဗိသုကာ အတတ်ပညာလည်း ဒီမိုကရေစီနိုင်ငံသစ် များသို့ ရောက်ရှိလာခဲ့၏။ ဤတွင် အမေရိကန် ကြေးရတတ်များသည် သူ့ထက်ငါ အလု အယက် "ဂရိ" ဆန်ကုန်ကြ၏။ ဆင်ဝင်တွေ၊ တံခါးပေါက်တွေ၊ ရောမ ကွန်ကရစ်တိုင်ကြီး တွေနှင့် ပန်းရန်၊ ပန်းပု လက်ရာတွေနှင့် စုလစ်မွမ်းချွန်တွေပါ ဂရိဆန်ဆန် ဆောက်လုပ်ကြ၏။ သည်အိမ်ကြီးကို သည်ခေတ်က ဆောက်ခဲ့ဟန် တူ၏။ ဆောက်လုပ်ရေး အင်ဂျင်နီယာများ သည် လက်ရာမြောက်ပါ ပေသည်။ အယ်လီနာက ကက်စတာအား တလေးတစား လှမ်းကြည့် လိုက်သည်။

"ဒါလောက်လှတဲ့ နေရာမျိုးကို ကျွန်မ တခါမှ မတွေ့ဖူးသေးဘူး၊ လာလေ၊ အထဲ ဝင်ကြရအောင်" ဟု ပြောမိလျက်သား ဖြစ်နေ၏။

ဧည့်ခန်းဆောင်မှာ အကျယ်ကြီးဖြစ်၏။ အမိုးကလည်း မြင့်မှမြင့်။ အဝင်ဝတွင် အပေါ်ထပ်သို့တက်သည့် ကြောင်လိမ် လှေကားရှိသည်။ ဧည့်ခန်းဆောင်၏ နံရံတွင် ဆီဆေး ပန်းချီကားချပ်ကြီးများ ချိတ်ဆွဲထား၏။ အယ်လီနာ၏ ဘယ်ဘက်နံရံမှ ကားချပ်မှာ အဖြူ ရောင်ဆံပင်တု အုပ်ထားသည့် လူကြီးတယောက်၏ ပုံ။ ပုံထဲမှ လူကြီးက သူ့ကို ငုံ့ကြည့် နေသည်ဟု အယ်လီနာ ခံစားလိုက်မိသည်။ မျက်နှာချင်းဆိုင်နံရံတွင်ကား အပြာရောင်နောက်ခံ တွင် ၁၈ ရာစု အဝတ်အစားများဖြင့် ဆင်ယင်ထုံးဖွဲ့ထားသည့် အမျိုးသမီးငယ်တဦး၊ နောက် တကားမှာ နဖူးပြင်ပေါ်သို့ ဆံနွယ်ခွေတွေ ဝဲ၍ ကျနေသည့် အမျိုးသမီးကြီး တဦး၏ပုံ။ လည်ပင်းပေါက်လေးထောင့်နှင့် ဝတ်ရုံကို ဆင်မြန်းလျက်၊ ရင်သား၏ အောက်ပိုင်းတွင် ရှုံ့ကြိုး ဖြင့် စည်းနှောင်ထား၏။

ပြင်သစ်နိုင်ငံ နပိုလီယံ စိုးစံအုပ်ချုပ် မင်းလုပ်စဉ်က ဆင်ယင်ထုံးဖွဲ့မှုမျိုး။ ရှေ့သို့ တိုးသွားပြီး ကြောင်လိမ်လှေကားရင်းတွင် ရပ်သည်။ စုံတွဲ ပုံကြီးတပုံကို မော်ကြည့်သည်။ အမျိုးသားက မီးခိုးရောင် ပြည်ထောင်စုစစ်တပ် ယူနီဖောင်းနှင့်။ အမျိုးသမီးက အပြာရောင် စကတ် ဝိုင်းဝိုင်းကြီးကို ဆင်မြန်းထားသည်။

အယ်လီနာက ကက်စတာဘက်သို့ လှည့်ပြီး မေးလိုက်သည်။

"ကဲ... ကျွန်မကို ပြောပြပါဦး၊ သူတို့ ဘယ်သူ ဘယ်ဝါတွေ ဆိုတာလေ"

ကက်စတာက အလွန့်အလွန် ရိုကျိုးသည့် အမူအရာနှင့် ရှင်းပြသည်။

ဆံပင်တုခေါင်းစွပ်နှင့် လူကြီးက သူ၏ အဘိုးရဲ့ အဘိုးရဲ့ အဘိုးဖြစ်ကြောင်း၊ နာမည် က ဖီးလစ်လန်း၊ ယနေ့ ဝက်သစ်ချမြိုင်ဟု အမည်တွင်သည့် ယာတောမြေတွေကို အင်္ဂလန် ပြည့်ရှင် တတိယမြောက် ဂျော့ဘုရင်က ပိုင်စားပေးခဲ့ကြောင်း၊ ပြင်သစ်နှင့် တိုက်ခိုက်ခဲ့ရသည့် လွတ်လပ်ရေးစစ်ပွဲများတွင် ရှုပ်ရှုပ်ချုံချုံ အမှုထမ်းခဲ့သည့်အတွက် ရသည့် ဆုလာဘ် ဖြစ် ကြောင်း၊ မျက်နှာချင်းဆိုင်မှ အမျိုးသမီးကြီးမှာ ဖီးလစ်လန်းကတော် ဖြစ်ကြောင်း၊ သူတို့ လင်မယား တောင်ပိုင်းသို့ သစ်ထွင်းလှေဖြင့် စုန်ဆင်းလာကြသည့် အချိန်မှာ မီးသဘော်ပင် မပေါ်သေးကြောင်း၊ ရေနွေးငွေ့ကို ဆူနေသည့် ရေနွေးအိုးထဲတွင်သာ တွေ့ရသည့်အချိန် ဖြစ်ကြောင်း စသည် စသည်များ။ ယူနီဖောင်းနှင့် စုံတွဲက ကက်စတာ၏ အဘိုးနှင့် အဘွား။ အဘိုးဖြစ်သူမှာ ငယ်ငယ်ရွယ်ရွယ်နှင့် တိုက်ပွဲတွင် ကျဆုံးသွားပြီး အဘွားကတော့ အသက်ရှည် စွာ နေသွားရသည် တဲ့။

"အဘွားကို မီလိုက်သေးတယ်လေ၊ ကောင်းကောင်းမှတ်မိနေသေးတယ်။ လာ ဟိုဘက်မှာ ပုံတွေအများကြီး ရှိသေးတယ်၊ သွားကြည့်ရအောင်၊ အိမ်ကို ကြည့်ချင်ရင်လည်း လျှောက်ကြည့်တာပေါ့"

ကက်စတာက စိတ်ရှည်လက်ရှည် လိုက်ပြသည်။

အိမ်ကြီးမှာ အဆောင်ဆောင် အခန်းခန်းနှင့် ကြီးမားကျယ်ဝန်းလှသည်။ အစေခံ အခန်းများမပါ အားလုံး အခန်းပေါင်း ၃၀ ရှိသည် တဲ့။ စာကြည့်ခန်းသို့ ရောက်ကြသည်။ သားရေဖုံး စာအုပ်ကြီးတွေ၊ ကာလပေါ်ဝတ္ထုတွေ အပြည့်။ စာအုပ်နာမည်အချို့ကို အယ်လီနာက အသံထွက်၍ ဖတ်ပြီး သဘောကျသလို ရယ်နေ သည်။ "ကလစ်တန်၏ ကျိန်စာ" တဲ့။ "အမျိုးသမီးဆောင် နှစ်ပတ်လည် ၁၈၄၁ ခုနှစ်" တဲ့။ "ကြားသာ ကြားဖူးနေတာ၊ ဒီစာအုပ်တွေကို ခုမှပဲ မြင်ဖူးတော့တယ်။ ဟောဒီ မစ္စက်ဆောက်သ်ဝတ်သ် ဆိုတာက ဘယ်သူလဲဟင်"

"သူက လျှို့ဝှက်သည်းဖိုတွေ ရေးတဲ့ စာရေးဆရာမလေ။ မုန်တိုင်းအန္တရာယ် စွန့်စား ခန်းတွေ၊ အရိုးမှာ ကျောက်မျက်ရတနာတွေ စီခြယ်ထားတဲ့ ဓားမြှောင်တွေနဲ့ တယောက်ကို တယောက် တိုက်ကြခိုက်ကြတဲ့ ဇာတ်လမ်းမျိုးတွေပေါ့။ ကိုယ်တို့ မိသားစုက စာပေကို သိပ်မြတ်နိုးကြတာ"

အယ်လီနာက "ရိုဒေး"၏ စာအုပ်တအုပ်ကို ဆွဲယူလိုက်ပြီး စာမျက်နှာတွေကို လှန်နေ သည်။ ရောမဝတ်ရုံကြီးနှင့် အမျိုးသမီးကြီးပုံကို ထောက်ပြပြီး-

"သူ့ခေတ်နဲ့သူတော့ ကြည့်ကောင်းတာပဲနော်။ သူတို့ခေတ်က လူတွေကို ကြည့်ရတာ အရာရာကို တင်းတိမ်ရောင့်ရဲ နေပုံပဲ။ ဘဝကလည်း အဲဒီတုန်းက ပိုပြီး ရိုးသားအေးချမ်းမယ် ထင်တယ်နော်" ဟု အယ်လီနာက မှတ်ချက်ချသည်။

ကက်စတာက ရယ်ပြီး-

"ဒီစာကြည့်ခန်းထဲမှာ ကိုယ် အချိန်အများဆုံး ကုန်တာပေါ့။ လွန်ခဲ့တဲ့ ရာစုခေတ် တိုင်းရဲ့ လူနေမှုဘဝဟာ ဒီဘက် ရာစုခေတ်ရဲ့ ဘဝထက် ပိုပြီး ရိုးသား အေးချမ်းတာချည်းပါပဲ အယ်လီနာ"

"ဒါဖြင့် ၁၉ ရာစုခေတ်ကျရင် ကျွန်မတို့ ခုအချိန်ထက်ပိုပြီး ရှုပ်ထွေးဆန်းပြားလာ မယ်လို့ ရှင် ထင်တယ်ပေါ့၊ ဟုတ်လား"

"ဒါပေါ့၊ ဒါပေမဲ့ အမေရိကန်မှာ နောက်ထပ် ပြည်တွင်းစစ် မဖြစ်တော့ပါဘူး။ ရှေးရှေးက ခေတ်တွေ အေးချမ်းတယ်လို့ တို့ ထင်နေတာက ပြဿနာတွေကို တို့အဘိုး၊ တို့အဘွားတွေ ဘယ်လိုရှင်းသွားကြတယ် ဆိုတာ သိနေလို့ပါ ။ ပြီးတော့ ဟိုခေတ်က ပေါ်ခဲ့တဲ့ ပြဿနာမျိုးတွေက ခုခေတ် ပြဿနာတွေလို မရှုပ်ထွေးဘူးလေ၊ အဖြေက စာအုပ်တွေမှာ ရှိပြီးသားတွေ မဟုတ်လား"

နှစ်ယောက်သား ရယ်လိုက်ကြသည်။

အယ်လီနာက စာအုပ်ကို သူ့နေရာတွင်သူ ပြန်ထားသည်။ ပြီးတော့ စာကြည့်ခန်းကို ဝေ့ကြည့်သည်။ အခန်းလယ်မှ စားပွဲကြီးတလုံးပေါ်တွင် ရောမသမ္မာကျမ်းစာလို စာအုပ်ကြီး တအုပ်။ သတ္တုပြားဖြင့် ဖုံးထား၏။ အယ်လီနာက စာအုပ်ကြီးကို လှန်ခိုင်းသည်။ ကက်စတာ အလယ်စာမျက်နှာကို မှန်းပြီး လှန်လိုက်၏။ မိသားစု မှတ်တမ်းများ ရေးမှတ်ထားသည့် လက်ရေးစာမျက်နှာကို လှန်မိလျက်သား ဖြစ်သွားသည်။ ခေတ်အဆက်ဆက်ကို ဖြတ်သန်း ခဲ့သည့် လက်ရေးများမှာ အညိုရောင်ဘက်သို့ ကူးပြောင်းနေပြီ။

လက်ထပ်ထိမ်းမြားခြင်းများ၊ မွေးနေ့မွေးရက်များ၊ ကွယ်လွန်အနိစ္စရောက်ခြင်းများ။ လန်း မျိုးဆက်၏ မှတ်တမ်းများကို အယ်လီနာ တရွက်ပြီး တရွက် လှန်ဖတ်နေသည်။

"ဝက်သစ်ချမြိုင်တွင် ခရစ်တော်၌ အိပ်ပျော်ခြင်း။ ၁၈၁၀ ပြည့်နှစ်၊ စက်တင်ဘာလ ၂၃ ရက်။ ဖီးလစ်လန်း။ ဇာတိ ကာရိုလိုင်းနားတောင်ပိုင်း"

"သစ်ဖြူတောရိပ်သာတွင် လက်ထပ်ထိမ်းမြားခြင်း။

"ဒင်းနစ်လန်းနှင့် အန်းရာရမီ။ ၁၈၅၉ ခုနှစ်၊ ဒီဇင်ဘာလ ၂၆ ရက်"

"လူဝီစီးယားနားတွင် လက်ထပ်ထိမ်းမြားခြင်း။

ဒင်းနစ်လန်း(အငယ်)နှင့် လီဆိုင်စိန်ကလဲယား။ ၁၈၈၄ ခုနှစ်၊ မတ်လ ၂၁ရက်"

"ဒါ ရှင့်မိဘတွေပေါ့၊ ဟုတ်လား"ဟု မေးလိုက်သည်။ ကက်စတာက ခေါင်းညိတ် ဖြေ၏။ သဘောကျနေပုံ။ အယ်လီနာ အားလုံးကို စိတ်ဝင်စားနေပြီ မဟုတ်လား။ အယ်လီနာ နောက်တမျက်နှာကို လှန်ပြန်သည်။

**မီးရှူးသန့်စင် ဖွားမြင်သည့် မှတ်တမ်းများ။**

"ဝက်သစ်ချမြိုင် ယာတောတွင် ကက်စတာလန်းကို ဒင်းနစ်လန်းနှင့် လီဆိုင်စိန်ကလဲယား တို့မှ ၁၈.၂.၈၅ တွင် ဖွားမြင်သည်။"

ကက်စတာအောက်တွင် ညီတယောက်နှင့် ညီမတယောက် မွေးဖွားသည့် မှတ်တမ်း နောက် အဆက်မရှိတော့။ အယ်လီနာက ကက်စကာကို မော်ကြည့်လိုက်၏။

"ရှင့်နာမည်လည်း ဒီအထဲပါဖို့ ကောင်းပြီလေ၊ တယောက်ယောက်နဲ့ တွဲပြီးတော့ လေ"

"ဘာဖြစ်လို့... ဘာဖြစ်လို့ ပါဖို့ ကောင်းရတာလဲ"

"ဩော်. . . အဆုံးမရှိတဲ့ ဒီမျိုးဆက်ရှည်ကြီးမှာ ရှင်လည်း ကွင်းဆက်ကလေး တခုပဲ မဟုတ်လား"

ကက်စတာက ရယ်ပြီး-

"ဒါတော့ အမိရယ်၊ တို့အားလုံး အတူတူပဲပေါ့ကွာ"

ကျမ်းစာအုပ်ကြီးကို ပိတ်ခဲ့ပြီး စာကြည့်ခန်းထဲမှ ထွက်ခဲ့ကြသည်။ ကြောင်လိမ် လှေကား၏ အောက်ဆုံးထစ်တွင် မြင်းခွာရာပုံစံတခု ချိုင့်ဝင်နေသည်ကို ကက်စတာက ပြသည်။

အထပ်ထပ် အကြိမ်ကြိမ် ဆေးသုတ်ထားသော်လည်း မြင်းခွာရာမှာ အထင်းသား ပေါ်လွင် နေသည်။ ၁၈၆၀ ပြည့်နှစ်များတွင် ဝက်သစ်ချမြိုင်သည် ပြည်တွင်းစစ်ဒဏ်ကို ခံခဲ့ရ၏။ စစ်သားတွေ အိပ်ခန်းမဆောင်ထဲ အထိ မြင်းစီး၍ ဝင်လာခဲ့ကြသည့် သက်သေသာဓကအဖြစ် ထင်ကျန်ရစ်သည့် မြင်းခွာရာ။

"ကြားရ မြင်ရတာတွေ ကျွန်မဖြင့် အံ့သြလို့မဆုံး ဖြစ်နေတယ်။ ကျောင်းတုန်းက သင်ခဲ့ရတာတွေကို ကိုယ်တွေ့ မျက်မြင် လာတွေ့နေရတယ်လေ"

အယ်လီနာက ရင်သပ်ရှုမော ပြောလိုက်သည်။

"မင်း ပြောပုံက မိုင်တသောင်းလောက် အဝေးက လာခဲ့ရတာ ကျနေတာပဲ"

ကက်စတာကာက ခပ်ရွှင်ရွှင် ပြန်ပြောလိုက်၏။

"ကျွန်မကို ဒီအနီးအနားက ရေကာတာတွေပေါ်မှာ မွေးခဲ့တာပါ၊ ဒါပေမဲ့ ဒီလို အတွေ့အကြုံမျိုးနဲ့ သိပ်ဝေးခဲ့တယ်လေ။ ကျွန်မ စကားများလွန်းလို့ ရှင် ငြီးငွေ့နေပြီလားဟင်"

"အို... မမလေးကလည်း ကျွန်တော်က ကော်ဖီသောက်ရင်း ဆက်နားထောင်ဦး မှာဗျ"

အယ်လီနာက အားတုံ့အားနာ ရယ်သည်။ ခန်းမဆောင်ကို ဖြတ်ပြီး စာကြည့်ခန်းနှင့် မျက်နှာချင်းဆိုင် ဧည့်ခန်းဆီသို့ လျှောက်ခဲ့ကြ၏။ တအိမ်လုံး၏ ပင်မဧည့်ခန်းကြီး ဖြစ်သည်။ ခပ်မတ်မတ် မဟော်ဂနီရောင် ဆိုဖာကြီးတွေနှင့်။ ဘရာဇီးပြည်ထွက် သစ်မာသားဖြင့် ပြုလုပ် ထားသည့် လေးထောင့် ရေးစန္ဒရားကြီးတလုံး၊ ခေတ်ဟောင်း၏အရိပ်များ ဖြစ်၏။ တနေရာ တွင်မူ နောက်ဆုံးပေါ်ခေတ်စက်တလုံး။ အသစ်နှင့် အဟောင်း ပေါင်းစပ်ထားခြင်း။ စာကြည့် ခန်း မီးလင်းဖို ပုံစံအတိုင်း ကျောက်ဖြူသားဖြင့် ပြီးသည့် ဧည့်ခန်းမီးလင်းဖိုကြီးမှ မီးလျှံများမှာ ကြေးဝါ အကာတိုင်များကြားတွင် ကခုန်ယိမ်းနွဲ့လျက်။ မီးဖိုနံဘေးတွင် ပိုးကြိုးတချောင်း တွဲလောင်းကျနေသည်။ မီးသဘော်ကြီးများတွင် ဥသြဆွဲသည့် ကြိုးမျိုး။

"အဲဒီကြိုးက အလှသက်သက် ချထားတာလားဟင်" ဟု အယ်လီနာ၏ အမေးကို ကက်စတာက "ကြည့်လေ" ဟု ပြောရင်း ဆွဲပြသည်။

အနက်ရောင်ဝတ်စုံနှင့် နီဂရိုးအမျိုးသားတဦး ပြေးထွက်လာသည်။ ကက်စတာက သူ့ကို "ကာမီယို" ဟု ခေါ်ပြီး ကော်ဖီဖျော်ခိုင်းလိုက်၏။ သူက အလွန့် အလွန် ရိုကျိုးသော အမူအရာဖြင့် -

"မလေး၊ အနွေးထည် ချွတ်မလား ခင်ဗျ" ဟု မေးသည်။

အယ်လီနာက ချွတ်ပေးလိုက်သည်။ ကာမီယို ထွက်သွားတော့ တံခါးပေါက်ကို လှမ်းကြည့် မိသည်။ တံခါးပတ္တာနှင့် လက်ကိုင်က ငွေသားစစ်စစ်တွေ။ သည်တော့မှ စောစောက စာကြည့် ခန်းတံခါး လက်ကိုင်ဖုသည်လည်း ငွေရောင်ဖြစ်ကြောင်း ပြန်သတိရသည်။ ခေတ်ဟောင်း၏ အရှိန်အဝါများ။ အယ်လီနာ ခဏ တွေရပ်နေသည်။ သူ့ဘဝတွင် အမေရိကန်

ဝါစိုက်ခင်းလုပ်ငန်း ရှင်များ၏ ကြီးကျယ်ခမ်းနားပုံကို ပထမဆုံး ထိတွေ့ရခြင်း ဖြစ်၏။ ရာစုခေတ် အဆက်ဆက် တွင် အထက်တန်းကျပေ့ ဆိုသည့် ယဉ်ကျေးမှု ရိုးရာခလေ့များကို မိမိတို့ ကိုယ်ပိုင်ဟန်ဖြင့် ထိန်းသိမ်းထားကြသည့် လူတွေ။ အိမ်ကြီးကို ကြည့်လေ။ ပန်းချီ ကားချပ်ကြီးတွေကို ကြည့် လေ။ ပြီးတော့ လှေကားအိမ်ရဲ့ အနေအထား။ ပြီးတော့ ဝက်သစ်ချပင်အိုတွေ၊ သည်သရုပ် သကန် အားလုံးသည် ကက်စတာ့တွင် လာ၍ ဟပ်နေသည်ဟု တွေးမိ၏။ သူ့ကိုယ်သူ ယုံကြည် စိတ်ချနေသည့်ပုံ အမြဲပေါ်လွင်နေသည် မဟုတ်လား။ သည်လို ဆိုပြန်တော့ နားလည်ဖို့ သိပ် မခက်တော့။

ကက်စတာက နရီသွက်သွက် သံစုံတေးတပုဒ် ဖွင့်သည်။ ငွေဖြင့် အတိပြီးသော ကော်ဖီလင်ပန်းကို ကိုင်၍ ကာမီယို ဝင်လာတော့ ကက်စတာက ဓာတ်စက်ကို ပိတ်လိုက်သည်။ ကာမီယိုက ကော်ဖီဗန်းကို မီးလင်းဖိုရှေ့မှ စားပွဲနိမ့်ကလေးပေါ်တွင် ချထားခဲ့သည်။ သူတို့ နှစ်ယောက် ကြမ်းပြင်ပေါ်တွင် မျက်နှာချင်းဆိုင် ထိုင်ချလိုက်ကြ၏။ အယ်လီနာက ကော်ဖီ ငှဲ့သည်။

"လှလိုက်တာနော်"

အယ်လီနာက ငွေကော်ဖီအိုးကို လက်နှင့် တို့ကြည့်ပြီး ပြောလိုက်သည်။

"ကြည့်ရတာ မင်္ဂလာလက်ဖွဲ့ပစ္စည်းနဲ့ တူတယ်နော်"

"အင်း... ဟုတ်မယ် ထင်တယ်"

"ရှင့်အမေ ပစ္စည်းလား ဟင်... ကက်စတာ"

"မဟုတ်ဘူး၊ မေမေရဲ့ အဘွားလက်ထက်က ပစ္စည်းလား မသိဘူး၊ အဲဒီမှာ စာပါတယ် ထင်တယ်"

အယ်လီနာက ကော်ဖီအိုးကို ပတ်ပတ်လည် ငုံ့ကြည့်သည်။

"အက်ဖ်၊ အယ်လ်၊ ဒီ တဲ့။ ဖရန်းစက် ဂျူဟန် မဟုတ်လားဟင်။ ခုနကျမ်းစာအုပ်ထဲမှာ လက်ထပ်မင်္ဂလာမှတ်တမ်း တွေ့လိုက်သလိုပဲ။ နို့ နေပါဦး ကက်စတာ"

အယ်လီနာက တုံ့ခနဲ စကားလက်စ ဖြတ်ပစ်လိုက်သည်။

"ဘာလဲဟင် အယ်လီနာ"

“ဟင့်အင်း၊ ဘာမှ မဟုတ်ပါဘူး၊ ကျွန်မနဲ့လည်း မဆိုင်ပါဘူး၊ ရှင့်အစေခံတွေ တော်တော် ပစ်စလက်ခတ်နိုင်တာပဲ။ ဟိုမှာ ကြည့်ပါဦး၊ ခုတ်စက်ထားတဲ့ နေရာနဲ့ တည့်တည့်နံရံမှာ ပေါက်ပြဲလို့”

ကက်စတာ ခပ်တိုးတိုး ရယ်လိုက်သည်။

“အဲဒီနေရာကို ပြင်မယ် ပြင်မယ်နဲ့ မလုပ်ဖြစ်ခဲ့ဘူး၊ နှစ်ပေါင်းလေးဆယ် ကြာခဲ့ ပြီလေ။ အဲဒါလည်း ပြည်တွင်းစစ်ရဲ့ ဒဏ်ပဲ အယ်လီနာ”

“ဩော်. . . ဟုတ်လား”

အယ်လီနာက ခပ်တိုးတိုး ပြန်ပြောလိုက်၏။ ပြီးတော့ ချိုင့်ဝင်နေသည့် နေရာကို လှမ်းကြည့်ရင်း ပြုံးလိုက်သည်။ ပြည်ပန်းညို ချိုချင်လျက် ဆားက ဖျက်ဆိုသလို သည်ဒဏ်ရာ ကြီးက အိမ်၏ အလှကျက်သရေကို အနှောင့်အယှက် ပြုနေသည်။

“ကျွန်မ သိပ်သဘောကျနေတာ၊ သိလား။ ကျွန်မ ဒီလိုအိမ်ကြီးမျိုးနဲ့ ဒီလို အသုံး အဆောင်မျိုးတွေကို တခါမှ မမြင်ဖူးခဲ့ဘူး၊ ကျွန်မ တွေ့ဖူးသမျှ အိမ်တွေနဲ့ သိပ်ခြားနား နေတယ်လေ။ နယူးအော်လင်းမှာ ကျွန်မတို့အိမ် ရှိပါတယ်၊ လွန်ခဲ့တဲ့ ကိုးနှစ်လောက်ကမှ ဆောက်ခဲ့တာ။ ဒါပေမဲ့ ခေတ်မီတယ်ကို မထင်ဘူး”

“ကောင်းတာပေါ့၊ ကိုယ်တော့ အဲဒီလို အိမ်သစ်မှာ နေဖို့ ခဏခဏ စိတ်ကူးမိတယ်၊ ရေပိုက်တွေလည်း ခေတ်မီတယ်၊ လျှပ်စစ်မီးတွေ ဆိုရင်လည်း ဘယ်တော့မှ ခေါင်းပေါ်ပြိုကျမှာ မပူရဘူး။ ကဲ... မလေးရယ်၊ ကော်ဖီနည်းနည်းငှဲ့ပေးပါဦး”

အယ်လီနာက ကော်ဖီ ထပ်ဖြည့်ပေးသည်။

“ကျွန်မ ဘာပြောချင်တယ် ဆိုတာ ကျွန်မ ဖေဖေနဲ့တွေ့မှ ရှင်းသဘောပေါက်မှာ။ ဖေဖေက တကယ့် ပစ္စုပ္ပန်လူသား၊ ပြီးတော့ တကယ့် ကိုယ့်အားကိုယ်ကိုးသမား၊ တကယ့် အမေရိကန်ဆန်တဲ့ လူ။ သူ့ခေတ်မှာ မရခဲ့တာတွေကို သားသမီးတွေ ခေတ်မှာ ရနေတဲ့ အတွက် ဂုဏ်ယူတတ်တဲ့ လူစားမျိုး”

“မင်း မပြောလည်း ကိုယ် အကဲခတ်လို့ ရပါတယ် အယ်လီနာ”

ကက်စတာက အလေးအနက် ဆိုသည်။

“မင်းလည်း ဖအေတူပဲ မဟုတ်လား၊ ခွန့်အပြည့် အားအပြည့်နဲ့လေ”

“အဲဒီလို ပြောကြတာပဲ၊ ဖေဖေနဲ့ အလုပ်လုပ်လာတာ ကြာပြီလေ။ ကျောင်းမပြီးခင် ကတည်းက နွေရာသီတွေမှာ ဖေဖေ့ကို ကူခဲ့တာ”

“ကောလိပ်တုန်းက ဘယ်ကျောင်းမှာလဲဟင်”

“ဘားနဒ်မှာပါ၊ ရှင်ကော”

“ကိုယ်က “ကျူလိန်း” ထွက်ပါ၊ ကောလိပ်မှာ ပျော်ခဲ့ရဲ့လား”

“ဒါလောက်ကြီးလည်း မဟုတ်ပါဘူး၊ ကျွန်မက စာကြမ်းပိုးလည်း မဟုတ်ဘူးလေ၊ တခြားမိန်းကလေးတွေနဲ့လည်း မတူဘဲကိုး။ တခြား မိန်းကလေးတွေလို ကျွန်မ ဘဝက ခေါက်ရိုးမကျိုးတဲ့ ဘဝမှ မဟုတ်တာ။ သဘာဝအန္တရာယ် ရေဘေးကို သွေးနဲ့ ချွေးနဲ့ရင်းပြီး တိုက်ခိုက်နေကြတဲ့ လူသားတွေထဲမှာ ကျွန်မက ကြီးပြင်းခဲ့ရတာလေ။ လောကကြီးမှာ ခေါင်းစည်းကြိုး လှလှကလေးတွေလောက် ဘာမှ အရေးမကြီးဘူးလို့ ကျွန်မ ဘယ်လိုလုပ်ပြီး ယူဆနိုင်ပါ့မလဲ။ ကျွန်မ သူများတွေထက် ကိုယ့်ကိုယ်ကိုယ် အမွှမ်းတင် ပြောနေသလိုတော့ မဖြစ်ပါဘူးနော်၊ ကျွန်မပြောတာတွေ ရှင် နားလည်နိုင်ပါ့မလား မသိဘူး”

“နားလည်ပါတယ် အယ်လီနာ”

ကက်စတာက အလေးအနက် ဆက်ပြောသည်။

“ကိုယ်တော့ မင်းလို မိန်းကလေးမျိုး တခါမှ မတွေ့ဖူးသေးဘူး။ ကဲ… တခြား ကျောင်းအတွေ့အကြုံတွေ ပြောပါဦး၊ တခြား ကောင်မကလေးတွေ အကြောင်းလေ”

အယ်လီနာက ဒူးထောင်ပြီး လက်နှစ်ဖက်ဖြင့် ပိုက်သည်။ မေးကို ဒူးပေါ်တင်သည်။

“အဆောင် မိန်းကလေးတွေလား၊ သူတို့ တီးတိုး တီးတိုး သဖန်းပိုး လုပ်ကြတဲ့ အကြောင်းတွေက ကျွန်မ တသက် စိတ်မဝင်စားတဲ့ ကိစ္စတွေ။ သူတို့သိချင်တဲ့ ကိစ္စတွေက ကျွန်မ သိပြီးသားတွေပဲဟာ။ လင်ယူသားမွေး ကိစ္စတွေက ကျွန်မ ပတ်ဝန်းကျင်စခန်းမှာ အမြဲ ဖြစ်နေတာပဲ၊ မသိဘဲ နေမလား။ ကျွန်မက နီဂရိုးတွေ ကခုန်နေတဲ့ တဲထဲပေမယ့် သွားကြည့် ချင်ကြည့်တာ။ ကိုယ့်ဟာ ကိုယ်လည်း ထင်ပါတယ်၊ မိန်းကလေး မဆန်ဘူးလို့လေ”

"ဟုတ်ပါတယ်၊ မင်းဟာ တကယ့်ကို မိန်းကလေး မဆန်တာ"

ကက်စတာက ခပ်ပြုံးပြုံး ပြောသည်။ ကော်ဇောပေါ်တွင် သူ တင်ပျဉ်ခွေထိုင်လျက် အယ်လီနာ ပြောသမျှကို စိတ်ဝင်တစား နားထောင်နေသည်။

"ကဲ... ရေကာတာတွေအကြောင်း ဆက်ပြောပါဦး"

အယ်လီနာသည် သူ့အကြောင်း သူ ပြောခဲ့သော မိန်းကလေး ဖြစ်၏။ ခုတော့ ဝေဝေ ဆာဆာ ပြောနေမိသည်။

သူတို့ထမင်းချက် ရန်ဒါအကြောင်း၊ ရန်ဒါက သွားထဲတွင် စိန်မြုပ်ထားကြောင်း၊ တာဝန် ချိန်တွင် ထိခိုက်သေဆုံး သွားသော သူ့ယောကျ်ားအတွက် အမေရိကန်အစိုးရက လျော်ကြေး ပေးကြောင်း၊ ရန်ဒါက နောက်အိမ်ထောင်ပြုလျှင် သိုက်တူးသမားနှင့် တွေ့မည်စိုး၍ အတွင်း ပစ္စည်းတွေကို ကိုယ်နှင့်မကွာထားပြီး မုဆိုးမဘဝနှင့်ပင် သူတို့သားအဖနှင့် ဆက်နေကြောင်း စသည်များ။ ပြီးတော့ တနေ့ နှစ်ဒေါ်လာခွဲရသဖြင့် မင်းစိုးရာဇာဆန်ဆန်နေသော ဂျယ်လီရိုး အကြောင်း။ ဂျယ်လီရိုးသည် ပွင့်ရိုက်အင်္ကျီတွေ ဘာတွေ ဝယ်ဝတ်နိုင်သူ ဖြစ်၏။ အလုပ်လည်း တော်သူ ဖြစ်၏။ ဂျယ်လီ၏ တာဝန်မှာ ရေကာတာ၏ ဆင်ခြင်လျှော တာရိုးများကို ညီအောင် ညှိရသည့်အလုပ် ဖြစ်၏။ ဖို့သမျှ မြေကြီးတွေကို သူက မြေညှိစက်ဖြင့် တစောင်းညှိရသူ ဖြစ်၏။ ဂျယ်လီ ညှိပြီးသား တာရိုးကို ကန်ထရိုက်တာက တိုင်းလျှင် ဘယ်တော့မှ အစောင်းဒီဂရီ မှားယွင်းသွားခြင်းမျိုး မတွေ့ရ။ အမြဲတမ်း အံကိုက်၊ အတွင်းက ၃ အချိုး ၁၊ အပြင်က ၄ အချိုး ၁။

အယ်လီနာက ဆက်ပြောသည်။

"ကျွန်မကတော့ အလုပ်မှာ စိတ်ဝင်စားတဲ့ လူဆို သိပ်သဘောကျတာ။ ဖေဖေ့ကို သိပ်သဘောကျတာ အဲဒါကြောင့်လည်း ပါတာပေါ့။ ရေကာတာ တည်ဆောက်ရေး အင်ဂျင်နီယာတယောက်အနေနဲ့ ဖေဖေ့လောက် သေချာတဲ့လူ မရှိသေးဘူး။ ဖေဖေဟာ သိပ်ဂရု စိုက်တယ်၊ ဘူမိဗေဒ မြေလွှာအကြောင်းကို ကောင်းကောင်းလေ့လာတယ်၊ ရေကာတာ ပုံထုတ်တဲ့ နေရာမှာလည်း ဝတ်ကောင်းစားလှ ချုပ်သလို ဂရုတစိုက် လုပ်တာ။ အဲဒီလို စနစ် တကျ ပြင်ဆင်မှု မပြီးမချင်း မြေကြီးတကော်တောင် မတူးရဘူးလေ"

"ကိုယ် မွေးကတည်းက ဒီမှာ နေလာပေမယ့် ရေကာတာရဲ့ အရေးပါ ပုံနဲ့ ရေကာတာ တွေရဲ့ အကြောင်း ခုမှ သိရတယ် အယ်လီနာ။ ကိုယ့်စိတ်ထဲက ဒီတိုင်းပြည်မှာ ဝါဂွမ်းကလွဲပြီး ဘာမှ အရေးမကြီးဘူး အောက်မေ့ခဲ့တာ"

"ဒါ သဘာဝကျပါတယ်လေ၊ အဲဒါက ရှင့်အလုပ်ပဲ ကက်စတာ။ ရေကာတာက ရှင့်ကိစ္စမှ မဟုတ်ဘဲ၊ ရှင် တကယ် စိုက်ပျိုးရေးသမား ဖြစ်ချင်သလားဟင်"

"ဒါပေါ့၊ ကိုယ်ရဲ့ညီ "ဆီဘက်စတိန်" ကတော့ ကုန်သည်လောကကို ဝင်သွားတယ် လေ၊ အဖေ အနားယူတော့ ယာလုပ်ငန်းတခုလုံး ကိုယ့်ကို လွှဲခဲ့တယ်။ ညီတော်မောင်က နယူးအော်လင်းကို ပြောင်းသွားတယ်"

"သူက ဘာတွေ အရောင်း အဝယ် လုပ်တာလဲဟင်"

"ဝါပဲပေါ့၊ တော်တော် အခြေအနေ ကောင်းပါတယ်" ကက်စတာက မတ်တတ်ထရင်း ဆက်ပြောသည်။

"ဆီဘက်စတိန်က ကိုယ့်ထက်လည်း တော်တယ်၊ ထက်လည်း ထက်တယ်၊ သူ့အလုပ် နဲ့သူ သိပ်ဟပ်မိတယ်လေ။ သူက ဝါဂွမ်းလောကကို ခါးစောင်းတင်ထားတာ"

မီးလင်းဖို၏ ကျောက်ဖြူသားရင်တားကို နောက်မှီပြီး ရပ်သည်။ အယ်လီနာက ဒူးပေါ်တွင် မေးတင်လျက်က မော်ကြည့်ပြီး-

"ကျွန်မ အကဲခတ်လို့ ရပါပြီ၊ ကိုယ့်အထွာနဲ့ ကိုယ်ပေါ့။ ဘာလို့ ဖော့ပြောနေရတာလဲ၊ ရှင်လည်း ဒီနေရာနဲ့ အံကိုက်ပါပဲ၊ ရှင် ဒီဝက်သစ်ချမြိုင်ကို သိပ်တွယ်တာတယ် မဟုတ်လား၊ ဒါကို ဘာလို့ ထည့်မပြောရဲတာလဲ"

သူ ခေါင်းညိတ်သည်။ ဘဝင်မြင့်ချင်သွားသလိုလို၊ ရှက်သလိုလို ဖြစ်သွားသည်။

"ဟုတ်တယ် အယ်လီနာ၊ ဝက်သစ်ချမြိုင်ကို ကိုယ် သိပ်ချစ်တယ်၊ ကိုယ်ဟာ ဝက်သစ်ချ မြိုင်ရဲ့ အစိတ်အပိုင်း တခုလို ဖြစ်နေပြီ"

ခေတ္တ ငြိမ်သွားကြပြန်သည်။ မီးလင်းဖိုထဲမှ မီးလျှံကြောင့် နံရံတွင် သူတို့အရိပ်တွေ ထင်ဟပ်နေသည်။ မားမားမတ်မတ် ခန့်ခန့်ညားညား ရပ်နေသော ကက်စတာကို မီးမောင်းထိုးပြ နေဘိသို့။ အယ်လီနာ စိတ်ထဲက ပြောနေသည်။ သူပြောတာ မှန်တယ်။ သူဟာ ဝက်သစ်ချမြိုင်ရဲ့ ရင်သွေးပဲ။ သည်အိမ်ကြီးရော၊ သည်ဝက်သစ်ချပင်တွေရော သူနဲ့ ဘယ်လိုမှ ခွဲမရဘူး။ မီးဖိုနံဘေးမှာ ငြိမ်ငြိမ်ကလေး ရပ်နေပေမယ့် သူဟာ သည်ဝက်သစ်ချမြိုင်ရဲ့ ရောမ ခွန်အား ရှင်ပဲ။ ဖေဖေပြောတာ တဖက်သတ် ကျလွန်းတယ် ထင်တယ်။ ကက်စတာဟာ ယောက်ျားပီသရုံ၊ စွဲမက်စရာကောင်းရုံ မကဘူး။ ဆွဲဆောင်မှုလည်း ရှိတယ်။ သူ့ကို သဘောမကျစရာ ဘာမှ မရှိပါဘူး။ အမှန်ကို ဝန်ခံရရင်တော့ သူ့ကို

သဘောကျနေပြီ။

တံခါးမကြီးဆီမှ ခြေသံတွေ ကြားရ၍ နှစ်ယောက်လုံး လှမ်းကြည့်လိုက်ကြ၏။

အယ်လီနာက ဖြုန်းခနဲ ထရပ်လိုက်သည်။ လုံးဝက္ကနွေ့မပျက်။ ခပ်တည်တည်။ သူ့လွတ်လပ်မှုကို တစုံတယောက်က အနှောင့်အယှက် ပြုလိုက်သည့်အလား။

"အိမ်သားတွေ ပြန်လာကြပြီ ထင်တယ်၊ ဟုတ်လား"

"ဟင့်အင်း၊ ဖေဖေနဲ့ မေမေတင်ပါ၊ ကိုယ် ဒီကို ခေါ်လာခဲ့မယ်"

ကက်စတာက အခန်းကို ဖြတ်လျှောက်သွားသည်။ ခဏကလေးအတွင်း သူ့မိဘများ ကို အယ်လီနာ ရှိရာသို့ ခေါ်လာခဲ့၏။

မစ္စတာလန်းတို့ ဇနီးမောင်နှံကို လှမ်းမြင်ရတော့ "လှလိုက်တာ" ဟု အသံမထွက်ဘဲ ပြောလိုက်မိသည်။ ရုပ်ချင်းက ခပ်ဆင်ဆင်။ အလွန်ကျက်သရေရှိသည့် စုံတွဲ ဖြစ်သည်။ အရပ် မြင့်မြင့်၊ သွယ်လျလျ။ စကားသံတွေကလည်း ချိုသာ နူးညံ့လိုက်သည့် ဖြစ်ခြင်း။ နှစ်ဦးစလုံးက အယ်လီနာကို ပျူပျူငှာငှာ တရင်းတနှီး ဆက်ဆံကြသည်။

မစ္စတာလန်းက သူနှင့်အတူ ရှယ်ရီတခွက်သောက်ဖို့ ဖိတ်ခေါ်၏။ အယ်လီနာ တွေနေသည်။ စိတ်ထဲမှာတော့ ကက်စတာနှင့်သာ ဆက်ပြီး စကားပြောချင်နေ၏။ မစ္စတာ လန်းက ဆက်တိုက်တွန်းသည်။

"သားက ခုလို မိန်းမချောကလေးတွေကို အိမ် ဖိတ်ခဲပါတယ်ကွယ်၊ ဒါကြောင့် ရောက်တုန်းရောက်ခိုက် ဖြည်းဖြည်းပေါ့ ဟုတ်လား"

သူတို့နှစ်ယောက်စလုံး ဝေခွဲမရ ဖြစ်သွားကြ၏။ သူတို့ တကယ်ပြောနေကြတာမှ ဟုတ်ရဲ့လား၊ ရှယ်ရီတခွက် သောက်ပြီးမှ ပြန်ဖို့ ဆုံးဖြတ်လိုက်သည်။

မစ္စက်လန်းက ဆောင်းလာသည့် သားမွေးဦးထုပ်ကြီးကို အစေခံတယောက်လက်သို့ လှမ်းပေးလိုက်၏။ ကာမီယိုက ဖန်ခွက်တွေနှင့် ဝိုင်ခြင်ခွက်ယူပြီး အခန်းထဲသို့ ဝင်လာသည်။

လက်ထပ်ထိမ်းမြားခြင်း။ ဒင်းနစ်လန်း (အငယ်) နှင့် လီဆိုင်စိန်ကလဲယား။

အယ်လီနာက မိသားစုမှတ်တမ်းကို သတိရလိုက်၏။

အလွန့်အလွန် လူကြီးလူကောင်း ပီသသည့် အဘိုးကြီးပဲ။ ပြောသမျှ၊ လုပ်သမျှ မှတ်တမ်း တင်ရမည့် ပုဂ္ဂိုလ်မျိုးထင်ပါရဲ့။ ဝိုင်နှင့် ဆေးလိပ်ကောင်းကောင်းကြိုက်ပြီး ကာလပေါ် ဝတ္ထုတွေနှင့် ပြင်သစ်ဂီတပညာရှင် "ဒီဘူစီ"ရဲ့ လက်ရာတွေကို ကြိုက်မည့်ပုံ။ သည်လောက် သိမ်မွေ့နူးညံ့လှသည့် မိဘနှစ်ပါးကနေပြီး ကက်စတာလို သားကို ဘယ်လိုလုပ်ပြီးများ မွေးလာ ကြပါလိမ့်။

ဒင်းနစ်လန်းက ရှယ်ရီဝိုင် ငှဲ့ပေးရင်း-

" အိမ်နီးနားချင်းတွေမို့ လာလည်တာ ထင်တယ်၊ ဟုတ်လား မစ္စအပ္ပဂ္ဂျန်း"

အယ်လီနာ အတွေးစ ပြတ်သွားသည်။

"ဟုတ်ကဲ့၊ ကျွန်မတို့ နယူးအော်လင်းမှာ နေပါတယ် မစ္စတာလန်း"

"နယူးအော်လင်း၊ ဟုတ်စ။ အေး.. တို့များ သိရမှာပေါ့၊ အပ္ပဂ္ဂျန်းဆိုတဲ့ နာမည် ကြားဖူးနေသားပဲကွယ်။ သတိကလည်း မေ့လိုက်တာ၊ ဘယ်မှာ သိဖူးလဲ မမှတ်မိတော့ဘူး"

"ဖေဖေ့နာမည်ကို ကြားဖူးတာ ဖြစ်နိုင်ပါတယ်ရှင်။ ဖေဖေက ဒီမြစ်ရိုးတလျှောက် မှာ ရေကာတာဆောက်တဲ့ ကန်ထရိုက်တာပါ"

"အင်း... ဟုတ်မယ် ဟုတ်မယ်၊ တော်တော်ပျော်စရာ ကောင်းမယ့် အလုပ်ပဲထင် တယ်။ ဟုတ်လား မစ္စအပ္ပဂ္ဂျန်း"

မစ္စတာလန်းက ဖန်ခွက် လှမ်းပေးရင်း မေးလိုက်၏။

"တကယ့်ကို ပျော်စရာ ကောင်းတာပါရှင့်"

အယ်လီနာက ဖန်ခွက်ကို ဖြတ်ပြီး မီးလျှံတွေကို လှမ်းကြည့်ရင်း ပြန်ပြောလိုက်သည်။

မစ္စက်လန်းက ပြုံးပြုံးကြီးနှင့် အယ်လီနာ ပြောသည်ကို ခေါင်းညိတ်ထောက်ခံနေ၏။ ပြီးတော့ ကက်စတာကို လှမ်းကြည့်မေးလိုက်သည်။

"ဒီ နွေလယ်ပိုင်း စာများ လာသေးလား"

"လာတယ် မေမေ။ နယူးအော်လင်းက စာတွေ အများကြီးပဲ၊ ပြည်နယ်ကပွဲ

ဖိတ်စာ တွေ ထင်ပါရဲ့”

“ပြည်နယ်ကပွဲ”ဆိုသော စကားလုံးကို ကြားသည်နှင့် ဒင်းနစ်လန်းက “ဒါဆို တို့နယူး အော်လင်းကို ပြန်ချိန်တန်ပြီ ဟေ့”ဟု လှမ်းပြောသည်။

အယ်လီနာက အံ့သြသွားပြီး ဖျတ်ခနဲ လှမ်းကြည့်လိုက်၏။

“ဟင်… ကက်စတာ့ မိဘတွေ ဒီမှာ နေကြတာ မဟုတ်ဘူးလား”

ကက်စတာက ဝင်ရှင်းပြသည်။

“ဖေဖေ့ ကျန်းမာရေးက သိပ်မကောင်းဘူးလေ၊ လုပ်ငန်းတွေကို ဦးစီးဖို့ ကိုယ့်ကို တာဝန်လွှဲပေးပြီးကတည်းက နယူးအော်လင်းကို ပြောင်းနေကြတာ။ ဝက်သစ်ချမြိုင်ကို ခရစ္စမတ်အချိန်ပဲ လာတာ”

“သြော်.. ဟုတ်လား၊ ဒါဖြင့် ကက်စတာတယောက်တည်း ဒီအိမ်ကြီးမှာ ပျင်းစရာ ကြီး နေမှာပဲနော်”

“ဟင့်အင်း၊ မပျင်းပါဘူး အယ်လီနာ”

ကက်စတာ အမေက ဝင်ပြောသည်။

“သူ့မှာ ဘယ်ပျင်းချိန်ရမှာလဲ ကလေးရယ်၊ အိမ်ပြင်ရောက်ချင် ရောက်နေ၊ ရောက်မနေလို့ အိမ်မှာ သူရှိရင်လည်း ဧည့်သည်က ပြတ်တယ်မှ မရှိတာ။ သားက တွေ့သမျှ လူတိုင်း ကို ခင်တတ်တာကွဲ့”

“မင်းကော လူတွေကို မခင်တတ်ဘူးလားဟင်”

ကက်စတာက အယ်လီနာကို မေးလိုက်၏။

“လူတိုင်းကိုတော့ ဘယ်ခင်နိုင်ပါ့မလဲ၊ တချို့ကိုပဲ ခင်နိုင်မှာပေါ့”

“ကိုယ်ကတော့ လူတိုင်းကို ခင်တာ။ လူတော်လူကောင်းတွေကိုတော့ သူတို့နဲ့ ပေါင်းသင်းရတာ ပျော်လို့ ခင်တယ်၊ ခပ်တုံးတုံး လူတွေကျတော့ အပေါ်စီးက ကြည့်ပြီးတော့ သနားကြင်နာစိတ်နဲ့ ခင်ရပြန်ရော”

အမေလုပ်သူက သားပြောပုံကို သဘောကျပြီး ရယ်နေသည်။

“ဒါထက် တနေ့ခင်းလုံး ဘယ်ပျောက်နေတာလဲ”ဟု မေးပြီး ကက်စတာ့

မေမေက သူ့နှုတ်ခမ်း လှလှကလေးတွေကို စုလိုက်သည်။ တနေ့ခင်းတာ သည်သား မရှိ၍ မပြည့်မစုံ ဖြစ်နေသည့်အလား၊ အလိုမကျသည့် အလား။

“ဆီလ်ဗီယာကဖြင့် လိုက်ရှာတာ နှံ့နေတာပဲ”

မစ္စတာဒင်းနစ်လန်းက ရယ်နေသည်။ ကက်စတာက အယ်လီနာဘက်သို့ လှည့်ပြီး-

“တို့ ပြောတာတွေကို ဘယ်လိုမှ မအောက်မေ့နဲ့နော် အယ်လီနာ၊ မောင်နှမဝမ်းကွဲ တွေက အများကြီးရယ်”

“သားကလည်းကွာ၊ ဝမ်းကွဲဆိုတာကတော့ လူတိုင်းမှာ ရှိကြတာပဲ။ မဟုတ်ဘူးလား မစ္စအယ်လီနာရယ်”

ဒင်းနစ်လန်းက ဝင်ပြောသည်။

“အဲဒါတော့ ကျွန်မ မသိဘူးရှင့်၊ ကျွန်မမှာတော့ လုံးလုံး မရှိဘူး”

“ဟင် . . . အယ်လီနာမှာ မောင်နှမဝမ်းကွဲ မရှိဘူး၊ ဟုတ်လား”

ကက်စတာက တအံ့တသြ ဝင်မေးသည်။

“အဖေနဲ့ အမေ့မှာ ညီအစ်ကို မောင်နှမရယ်လို့ မရှိကြဘူးလေ”

“ဟာ… ဒါဆို အယ်လီနာ မင်း သိပ်ကံကောင်းတာပေါ့”

“ကျွန်မ အထင်တော့ မောင်နှမများမှ ပိုပျော်စရာ ကောင်းမယ် ထင်တယ်။ ဒါပေမဲ့ ကျွန်မကတော့ အရင်းတွေ ရှိတော့ သိပ်မဆိုးပါဘူး၊ မွေးချင်းငါးယောက် ရှိတယ်လေ။ မေမေ ကတော့ ပြောဖူးတယ်၊ တကောင်ကြွက် ဥတလုံးဘဝနဲ့ ကြီးပြင်းရတာ သိပ်ပျင်းစရာကောင်း တာပဲတဲ့”

မစ္စက်လန်းက ခေါင်းတညိတ်ညိတ်နှင့် နားထောင်ရင်း-

“ကလေးတို့ မေမေ ပြောတာ ဟုတ်မှာပေါ့ကွယ်၊ သူ့မှာကော အရင်းအချာ မရှိဘူး လား၊ ဦးလေး သားချင်းနဲ့ ကြီးလာ ရတာလား၊ ဇာတိကကော ဟင်”

“မေမေဟာ နယူးအော်လင်းကပါပဲ။ မိဘမဲ့ကျောင်းမှာ ကြီးပြင်းခဲ့တာပါရှင်”

“အို… ဟုတ်လား”

မစ္စက်လန်းက သနားသွားဟန်၊ စိတ်မကောင်းဟန်ဖြင့် စုတ်သပ်လိုက်သည်။ အယ်လီနာက တုံ့ဆိုင်းဆိုင်းနှင့် ဆက်ပြောသည်။

"မေမေပြောတော့ မိဘမဲ့ကျောင်းဟာ ထင်သလောက် မဆိုးပါဘူးတဲ့၊ ကလေးတွေကို သိပ်ဂရုစိုက်ပါတယ် တဲ့"

မစ္စတာ ဒင်းနစ်လန်းက ကရုဏာသံဖြင့်-

"အင်း... အဲဒီ တချိန်ကတော့ ခေတ်ဆိုး ခေတ်ကျပ်ကြီးပဲ၊ လူတိုင်း ဒုက္ခရောက် ခဲ့ကြတဲ့ ခေတ်ပေါ့ကွယ်"

"လူတိုင်း ဒုက္ခရောက်ကြတယ်၊ ဟုတ်လား"

"ဒါပေါ့ ကလေးရယ်၊ မြောက်ပိုင်းသားတွေ တောင်ပိုင်းကို ဆင်းလာပြီး သောင်းကျန်း ကြတဲ့ အချိန်လေ။ တို့များ ငယ်ငယ်ရှိသေးတာပေါ့။ အဝတ်သစ်အစားသစ် ဆိုတာ ရွှေထက် ရှားတဲ့ ခေတ်ပေါ့"

အယ်လီနာက ဖောင်းကြွရုပ်လုံးများဖြင့် ပြောင်လက်နေသော ငွေလင်ပန်းနှင့် ကော်ဖီ ကရားကို မြင်ယောင်ပြီး အတွေး နက်နေသည်။

"ခုပဲ ကျွန်မတို့ ရှေးခေတ်ကြောင်း ပြောနေကြတာ။ ကက်စတာက အတိတ်မှာ သာယာစိုပြည်တဲ့ အချိန်ဆိုတာမျိုး ရှိတယ်ဆိုရင် သူ မယုံဘူး တဲ့"

"ဟုတ်တယ်လေ၊ ကိုယ်တော့ ဒီခေတ်မှာ လူဖြစ်ရတာကိုပဲ ကျေနပ်တယ်။ မင်းကော ဟင် အယ်လီနာ"

"အဲဒီ အကြောင်းတော့ ကျွန်မ တခါမှ အလေးအနက် မစဉ်းစားမိဘူး ကက်စတာ။ အဲဒီခေတ်က အဝတ်မျိုးတွေ မဝတ်ရတာတော့ ဝမ်းသာစရာပဲ။ သူတို့ခေတ်က ဂါဝန်ကြီးတွေ ဝတ်ပြီး လမ်းလျှောက်ခိုင်းရင် လျှောက်တတ်မှာ မဟုတ်ဘူး"

"မင်းတို့ခေတ် စကတ်တွေလည်း လမ်းလျှောက်ရ ခက်တာပါပဲကွယ်။ တို့များကို ဝတ်ပြီး ထိုင်ခိုင်းရင်တော့ ထိုင်တတ်မှာ မဟုတ်ဘူး"

အယ်လီနာက အလျှော့မပေးဘဲ ဆက်ပြောသည်။

"ကျွန်မတော့ ခုခေတ်စကတ်နဲ့ ထိုင်လို့ တတ်ပါတယ်။ ဟိုတုန်းက ဂါဝန်ကြီးတွေနဲ့ ဘယ်လိုထိုင်ကြလဲ ဆိုတာတော့ ကျွန်မ မစဉ်းစားတတ်အောင်ပဲ"

အယ်လီနာက ဖန်ခွက်ကို လင်ပန်းပေါ်သို့ ပြန်တင်လိုက်သည်။

"ဝက်သစ်ချမြိုင်ဟာ သိပ်ကို ချမ်းမြေ့ပါတယ်ရှင်။ ကဲ.... ကျွန်မကို ခွင့်ပြုပါဦး၊ ပြန်ဖို့ အချိန်တန်ပါပြီ"

မစ္စကက်လန်းက ညစာစားပြီးမှ ပြန်ဖို့ အတင်းတားသေး၏။ အယ်လီနာက ငြင်းသည်။ အဘိုးကြီး၊ အဘွားကြီးကို နှုတ်ဆက်သည်။ ပြီးတော့ ကက်စတာနှင့်အတူ ကားဆီသို့ လျှောက်လာခဲ့၏။ အပြန်လမ်းတွင် စကား သိပ်မပြောဖြစ်ကြ၊ စခန်းသို့ ရောက်ခါနီးမှ ကက်စတာက-

"ကိုယ် မနက်ဖြန် လာခဲ့ရမလား ဟင်"

"မနက်ဖြန်၊ မမြန်လွန်းဘူးလား"

"မမြန်ပါဘူး အယ်လီနာ၊ အဝတ်အစား ခေါက်ရိုး မကျိုးအောင်နဲ့ ခါးပတ်အောက် ကနေ စကတ်လျှော မကျအောင် အချိန်ရှိသရွေ့ ဂရုစိုက်မနေတဲ့ မိန်းကလေးမျိုးကို ကိုယ် တွေ့ချင်နေတာ ကြာပြီ။ မနက်ဖြန် ဟုတ်လား"

အယ်လီနာ ရယ်သည်။

"ကောင်းပြီလေ၊ သုံးနာရီ မထိုးခင်တော့ အလုပ်ရှုပ်နေမှာ နော်"

ကားရပ်ပြီး နှစ်ယောက်သား တဲကြီးဆီသို့ လျှောက်လာကြသည်။ ကက်စတာက ဆိုင်းမဆင့် ဗုံမဆင့် -

"ဟေး. . . ဒီမှာ၊ မင်းကို ကိုယ် သိပ်သဘောကျသွားပြီ၊ သိလား" ဟု ပြောပြီး ချာခနဲ လှည့်ပြန်သွားသည်။

လေကလေး ချွန်လျက်။

လောကသည် သူ့အတွက် ပျော်ဖွယ်ရာအတိ ရှိနေသည့်အလား။

※※※

# အခန်း (၂)

## (၁)

သည့်နောက်ပိုင်းတွင် ကက်စတာနှင့် အယ်လီနာတို့ နေ့စဉ်လိုလို တွေ့ဖြစ်ကြသည်။ သို့သော် အယ်လီနာက စည်းကမ်းတခု ချမှတ်ထား၏။ မနက်ပိုင်းကို ဘယ်တော့မှ မလာရ။ တခုတော့ရှိသည်၊ ဖေဖေ့ဆီမှာ အလုပ်ဝင်ခဲ့သည်မှာ ကြာပြီ။ ဘယ်တုန်းကမှ ခုလို နာရီ တကြည့်ကြည့် မလုပ်မိ။ အလုပ်ကိုတော့ စိတ်ပါလက်ပါ လုပ်လျက်ပါနော်။ နေ့လယ်ခင်း အပြင်ထွက်တာကလည်း အညောင်းပြေ အညာပြေ လမ်းလျှောက်သည့် သဘောပါ။ တခု တော့ ဝန်ခံရမည်။ သူနှင့် အတူရှိသည့် အချိန်တွေက ပျော်စရာ ကောင်းနေတော့ မနက်ခင်း အလုပ်ချိန်တွေဟာ အလိုလို ပျင်းရိငြီးငွေ့ဖွယ်အတိ ဖြစ်လာသည်လေ။

အလုပ်ချိန်မှာ သူ့အကြောင်း မတွေးမိဖို့ တကယ်ကြိုးစားတာပဲ။ ဒါပေမဲ့ ရက်တွေ ကြာလေလေ မတွေးမိဖို့ ကြိုးစားတဲ့ အကြောင်းက ပိုပြီး ခေါင်းထဲမှာ ကြီးစိုးလာလေလေ။ " မစ္စစ်စပီမြစ်ကြောင်း ထိန်းသိမ်းရေး ကော်မရှင်"ရဲ့ အစီရင်ခံစာကို ရိုက်နေတုန်း သူပြောတဲ့ ဟာသကလေးတွေကို ကြားယောင်ပြီး စက်ရိုက်နေသည့် လက်ချောင်းတွေ တုံ့နှေးသွားကြ ပြန်ရော။ ပြီးတော့ စာလုံးတွေ အမှားမှား အယွင်းယွင်း ရိုက်မိလေရော။ အမြဲတမ်း သေသပ် လှပနေလေ့ရှိတဲ့ စာတွေ အမှားများကုန်ရော။ ဒေါ်ပွပွနဲ့ ဆွဲဆုတ်၊ အသစ်ပြန်ရိုက်ပေါ့။ ကက်စတာသာ မြင်ရင် ရယ်နေမှာပဲ ဆိုပြီး သူ့ရယ်သံကိုတောင် ကြားယောင်လာသလိုပဲ။ ကပ္ပလီအိမ်ဖော် ရန်ဒါကို ကော်ဖီ ယူလာဖို့ ပြောမှ အဖြစ်က ပိုဆိုးလာတယ်လေ။

ရန်ဒါက သူ့ရဲ့ စိန်ခြယ်သွားကို အဖွေးသား ဖြဲဝင်လာပြီး "မလေး ခေါင်းကိုက်လို့ လား" တဲ့။

"မကိုက်ပါဘူး၊ ငါ့စိတ်တွေ ကယောင်ချောက်ချား ဖြစ်နေလို့"

ရန်ဒါက ရယ်နေပြီး-

"မလေး စိတ်က ဟို ဝက်သစ်ချမြိုင်ကို ရောက်နေတယ် ထင်တယ်"

“သွားစမ်း ရန်ဒါ၊ ပေါက်တတ်ကရတွေ”

ရန်ဒါက ခါးထောက်ပြီး အကဲခတ်သလို လုပ်နေသည်။

“ဟုတ်ပါတယ် မလေးရယ်၊ မလေး သူ့ကို သဘောကျနေပြီ မဟုတ်လား၊ မလေး ကြွေချင်နေပြီ မဟုတ်လား”

ဘာမျှ ပြန်မပြောဘဲ ကော်ဖီကို ငုံ့သောက်နေလိုက်၏။

“သူက သိပ်အထက်တန်းကျတာပဲနော်၊ သူကလေ လာတိုင်းလိုလိုပဲ ရန်ဒါကို ပိုက်ဆံပေးတယ် မလေးရဲ့၊ ဆင့် ငါးဆယ်ကြီးများတောင်။ မလေး သတိတော့ထားနော်၊ သူ့ကြည့်ရတာ ဖွံ့နဲ့တူတယ်”

“နင် လုပ်စရာရှိတာ သွားလုပ်စမ်း ရန်ဒါ ၊ အပြောက်အပြောက်ကလေးတွေနဲ့ ငါ့အင်္ကျီ ကို မီးပူထိုးစမ်း၊ ငါ ဒီနေ့လယ် ဝတ်မလို့” လို့ ဟောက်လိုက်မှ “ဟုတ်ကဲ့ မလေး” ဆိုပြီး ထွက်သွားသည်။ ဒါတောင် ခေါင်းယမ်းပြီး ပွစိ ပွစိနှင့် ဘာတွေ ပြောသွားသည် မသိ။ သူ့နောက်ကျောကို ငေးကြည့်နေမိ၏။

“ဖွံ့”တဲ့။ ရန်ဒါ ဘာဆိုလိုသည်ကို ကောင်းကောင်းနားလည်လိုက်သည်။ နီဂရိုးဆိုတဲ့ လူမည်းတွေဟာ သူတို့ မသိတာ ဟူ၍ မရှိ။ လူဖြူတွေ သူတို့အကြောင်းကို သိတာထက် သူတို့က လူဖြူတွေအကြောင်း အပုံကြီး ပိုသိသည်။ ကော်ဖီခွက်ကို ပန်းကန်ပြားထဲသို့ ဆောင့်ကြီးအောင့်ကြီး ချလိုက်ပြီး အလုပ်စားပွဲတွင် ပြန်ထိုင်သည်။ အလကား ပေါက်တတ် ကရ။ ကက်စတာနှင့် ပတ်သက်ပြီး ဝေဖန်စရာ ဘာမျှ မလို။

ဖေဖေက ကက်စတာနှင့် တွေ့တော့ ဖော်ဖော်ရွေရွေပင်။ သို့သော် ပေါ့ပေါ့နေ ပေါ့ပေါ့ စား အထက်တန်းလွှာ လူတန်းစား ဆိုသည့် အစွဲကတော့ ဖေဖေ့တွင် ရှိနေဆဲ။ ဘဝဟူသည် နှလုံးမွေ့လျော် ပျော်ဖွယ်ရာ အတိပါလား ဆိုသည့် ကက်စတာ၏ လောကအမြင်ကိုလည်း ဖေဖေ ဘယ်လိုမှ လက်မခံနိုင်။ သမီးလုပ်သူကို နားမလည် ဖြစ်နေ၏။ ဘာကိုများ သဘော ကျနေပါလိမ့် ဟူ၍။ ထူးထူးထွေထွေ ဝေဖန်ခြင်းကား မပြု၊ အချိန်လည်း မရ။ ဖေဖေသည် သူ့အလုပ်နှင့်သူ အမြဲ ဗျာများနေသည် မဟုတ်လား။ ကက်စတာကို ဖေဖေ သဘောမကျသည့် အတွက်တော့ စိတ်ထဲတွင် စနောင့်စနင်း မဖြစ်မိ၊ ဂရုမစိုက်သလိုပဲ နေလိုက်သည်။ လောလော ဆယ် ရနေတဲ့ ပျော်စရာ အချိန်ကလေးက လွဲပြီး တခြား ဘာကိုမျှ မစဉ်းစားချင်။

အလေးအနက် စဉ်းစားဖို့လည်း မကြိုးစားချင်။ ကက်စတာနှင့် တွေ့ပြီး

နောက်ပိုင်း ဘဝဟာ ပိုပြီး လန်းဆန်းစိုပြည်လာခြင်းကိုပဲ သိသည်။ သူနဲ့ တွဲသွားနေခိုက် ယောက်ျားပီသတဲ့ သူ့ရုပ်သွင်ကို သဘောကျတာရယ်၊ သူ့ရဲ့အရွတ်အနောက် ကလေးတွေကြောင့် ရယ်ရတာ ရယ်ကလွဲပြီး ဘာမျှ မသိချင်။ ကက်စတာသည် အရာတိုင်းကို ရယ်စရာဖြစ်အောင် လုပ်တတ် ၏။ ရာသီဥတု ဘယ်လောက်ဆိုးဆိုး၊ လမ်း ဘယ်လောက်ကြမ်းကြမ်း သူမမှု။ အခြားလူတွေ ကို အပြစ်မမြင်တတ်။ ဘယ်တော့မျှ မညည်းညူတတ်။ သူ့အတွက် ရယ်စရာတွေချည်း။ ခေါင်းမာသည့်၊ အငြင်းသန်သည့် မိမိကိုလည်း သူသည်းညည်းခံ၏။ တသက်လုံး ရယ်မောလာခဲ့ရသည့် အချိန်တွေထက် ကက်စတာနှင့် သိကျွမ်းခင်မင်ခဲ့သည့် ရက်သတ္တပတ် အနည်းငယ် အတွင်း ရယ်မောရသည့် အချိန်က ပိုလိမ့်မည် ထင်၏။

တွေ့လိုက်လျှင် ဝမ်းသာအားရ လက်ကို ဆွဲပြီး ခဏ ကိုင်ထားတတ်သည်။ တွေ့ရတာ ဘယ်လောက် ဝမ်းသာကြောင်း ပြောစမြဲ။ သည်ထက်ပိုပြီး ဘယ်တော့မျှ အခွင့်အရေး မယူ တတ်။ ဘယ်တော့မျှ အသားချင်း မထိ။ သို့ရာတွင် တွေ့သည့်အခိုက် သူပျော်နေသည်ကို အတိုင်းသား တွေ့ရတတ်သည်။ အမြဲရွှင်ပျလျက်။ အမိုးမပါသည့် သူ့ကားကလေးဖြင့် ကျေးလက် ယာတောအနှံ့ လျှောက်မောင်းကြ၏။ ဣန္ဒြေရရပင်။

တဖက်ကမ်းသို့ ကူးတို့နှင့်သွားပြီး ကြံခင်းတွေထဲ လျှောက်လည်ကြသည်။ ကြံခုတ် ချိန်က မပြီးသေးဘူးလေ။ ကြံချောင်းတွေကို အားရပါးရ စုပ်နေတဲ့ နီဂရိုးတွေ။ အချိုရည်တွေ က သူတို့ မေးစေ့ပေါ်မှာ စီးကျလို့၊ သူတို့ အင်္ကျီတွေဟာ ကြံရည်တွေနဲ့ စေးထန်းနေမှာပဲနော်။ နီဂရိုးအဘိုးအိုတယောက် ထန်းလက်မိုး တဲကြီးထဲတွင် ကြံကြိတ်နေသည်ကိုလည်း သွားကြည့် ကြသည်။ မြည်းတွေနှင့် လှည့်ရသည့် ဧရာမသစ်သားလုံးကြီး နှစ်ခုကြားသို့ ကြံချောင်းတွေ ထည့်ရသည်။ ရေတံလျှောက်မှတဆင့် မီးဖိုပေါ်ရှိ အိုးထဲသို့ ကြံရည်တွေ ဒလဟော စီးကျသွား သည့်အခါ နီဂရိုးတွေ ဝမ်းသာအားရ အော်ကြ ဟစ်ကြသည်။ ကက်စတာက သကာရည်ချိုင့် ကြီး နှစ်ချိုင့် ဝယ်ခဲ့၏။ တချိုင့်ကို အယ်လီနာအား ပေးသည်။ သကြား မဖြစ်တဖြစ် တင်လဲ ရည် ပျစ်ပျစ်တွေ။ ညစာအတွက် ဘီစကွတ်နွေးနှင့် စားဖို့တဲ့လေ။ ပြီးတော့ ကက်စတာက အသိပေးသေးသည်။

“ချိုင့်ထဲကို သတ္တုဇွန်းနဲ့ မနှိုက်နဲ့နော်၊ သစ်သားဇွန်းကိုပဲ သုံးရတယ်၊ သတ္တုဇွန်းနဲ့ ဆိုရင် မနက်မလင်းခင် သကြားမှုန့်တွေ ဖြစ်သွားရော”

တခါတော့ သစ်တောထဲသို့ ပျော်ပွဲစား မောင်းထွက်ခဲ့ကြသည်။ ထင်းရှူးပင်ပျို တောစပ်တွင် ကားရပ်သည်။ ကားပေါ်က ဆင်းမည်အပြုတွင် မိုးက သဲသဲမဲမဲရွာချတော့၏။ ကားပေါ်သို့ အပြေးအလွှား ပြန်ခုန်တက်ပြီး ခင်းဖို့ ယူလာသည့် ကော်ဇောကြီးကို အမိုးလုပ်၍ ခိုကြရသည်။

ရေညှိတွေ တက်နေသည့် ပင်အိုကြီးများထဲတွင် ပင်ပျိုကလေးများမှာ တမျိုးချစ်စရာ ကောင်းနေသည်။ ဝက်သစ်ချပင်ကြီးများမှ ရော်ရွက်တို့သည် မတ်လတွင် စိမ်းလန်းထိုးထွက် လာမည့် ရွက်နုရွက်သစ်တွေအတွက် နေရာဖယ်ပေးကြရတော့မည်။ ပင်မြင့် ပင်စောက်တွေ ပေါ်တွင် တွယ်ကပ်ပေါက်ရောက်နေကြသည့် ရေညှိပင်တွေမှာ ပို၍ စိမ်းစိုနေသည်။ ဝက်သစ်ချ ပင်ကြီးတွေအောက်မှ မုန်ညင်းမြက်တွေက အညိုရောင်နှင့် ခရမ်းရောင်နုနု။ ထင်းရှူးပွေး များတွင်တော့ ရေညှိမှိုတွေ ဒုတက်လျက်။

မှိုင်းပျမှုန်ရီနေသည့် သစ်တော၏ အသေးစိတ်မြင်ကွင်းကို ကက်စတာက ရှင်းပြသည်။

ထူး၍ မဆန်းသည့် ရှုခင်းထဲမှ သဘာဝအလှကို အယ်လီနာ ခံစားမိသလိုလို ရှိလာ၏။ မိုးထဲ လေထဲတွင်ပင် သူတို့ မောင်းပြန်လာကြသည်။ အယ်လီနာ စိတ်ထဲတွင် ကမ္ဘာသစ်တခုသို့ သွားသည့် ခရီးဟု ထင်မှတ်နေ၏။

ဝက်သစ်ချမြိုင်သို့လည်း မကြာမကြာ ရောက်ဖြစ်သည်။ မီးဖိုရှေ့မှ ကော်ဇောပေါ် တင်ပျဉ်ခွေထိုင်ပြီး စကားပြောကြသည်။ ရံဖန်ရံခါ ပြောနေကြသည့် အကြောင်းအရာတွေကို အယ်လီနာ မေ့သွားတတ်သည်။ စိတ်ထဲတွင် ပေါ့ပါးနေ၏။ ပျော်နေသလိုပဲ။

ဝက်သစ်ချမြိုင်သို့ ရောက်သည့်အခါများတွင် ကက်စတာ့ မိဘများနှင့် ရံဖန်ရံခါသာ တွေ့တတ်၏။ ဆုံသည့်အခါတိုင်း အဘိုးကြီး၊ အဘွားကြီး၏ ဆက်ဆံရေးမှာ သိမ်မွေ့ညင်သာ လွန်း၍ ကျိတ်ပြီး မြတ်နိုးရ၏။ ဝက်သစ်ချမြိုင်နှင့် ဆက်စပ် ပတ်သက်သမျှသည် လှပနေ သည်။ ဝက်သစ်ချမြိုင်သည် ဖန်ပေါင်းချောင်နှင့် ထားရမည့် အဖိုးတန် ရှေးဟောင်းရတနာ တပါးနှင့်လည်း တူနေသည်။ သည်မိသားစုသည် အယ်လီနာအတွက် ထူးဆန်းနေ၏။ သူတို့ ၏ တန်ဖိုးတွေ လျော့ကျသွားမည်ကို ဘယ်တော့မျှ သံသယမရှိကြ၊ မစိုးရိမ်ကြ။ သူတို့ကိုယ် သူတို့ ယုံကြည်စိတ်ချမှု အပြည့်ဖြင့်။ ဒါကိုတော့ အယ်လီနာ မငြင်းနိုင်။ အံ့ဩစရာကောင်းသည် က သူတို့လူတန်းစားကို အမနာပ ပြောကြဆိုကြ၊ နှာခေါင်းရှုံ့ကြသူတွေကို သူတို့က အရေး မလုပ်ဘဲ အရေထူနိုင်ခြင်းပင် ဖြစ်၏။

တဖြည်းဖြည်းနှင့် အယ်လီနာ့အမြင် တမျိုးဖြစ်လာသည်။ သူတို့ ကြည့်ရသည်မှာ အထက်တန်းကျသည်၊ အဆင့်အတန်း မြင့်သည်မှာ မှန်ပါ၏။ သို့သော် တမျိုးကြီးဟု ထင် လာသည်။ ထင်သလောက် အလေးအနက် မရှိသလိုပဲ။ ကက်စတာက သူ့မိသားစုအကြောင်း ဘယ်တော့မျှ နက်နက်နဲနဲ စဉ်းစားဟန်မရှိ။ သူက ဝါခင်းတွေကို သဘောကျသည်၊ ဝက်သစ်ချ မြိုင်ကို ခင်တွယ်သည်။ ဝါပင်က ဝါသီးတွေ သီးလာပြီး ဖွေးဖွေးလှုပ် ပွင့်အာလာလျှင် သူပျော် သည်။

ဝါကောက်ချိန်တွင် ပျော်သည်၊ ပြီးတော့ ရေကူးသည်၊ အမဲလိုက်သည်၊ ကပွဲတွေ သွားသည်။ အပေါင်းအသင်းတွေနှင့် စုပြီး စန္ဒရားတွင် ဝိုင်းဖွဲ့ကာ ဆိုကြ တီးကြခြင်းကို နှစ်သက်သည်။

"လောကကြီးအကြောင်း တခါမှ အလေးအနက် မစဉ်းစားမိဘူးလား ဟင်" ဟု အယ်လီနာက မေးကြည့်ဖူးသည်။ တနေ့ ဝက်သစ်ချမြိုင်မှ အပြန်ခရီးတွင် ဖြစ်၏။ အယ်လီနာ က ပေါင်ပေါ်တွင် ရွက်လှပင်တွေ တပွေ့တပိုက်ကြီးတင်လျက်။ အချိန်မှာ အစောကြီး ရှိသေးသည်။ စခန်းတွင် စစ်တပ်မှ အင်ဂျင်နီယာ စစ်ဗိုလ်နှစ်ယောက်ကို ထမင်းကျွေးစရာရှိ၍ စောစော ပြန်လာခြင်း ဖြစ်သည်။ ရန်ဒါကို ကူရန်နှင့် ထမင်းစားပွဲကို စနစ်တကျ ပြင်ရန် ဖြစ်၏။ အယ်လီနာ့ အမေးကို ကက်စတာက ကားမောင်းနေရင်း ခေါင်းငဲ့ပြီး ပြန်မေးသည်။

"ဘာတွေ စဉ်းစားစရာ ရှိလို့လဲ အယ်လီနာရဲ့"

"လူတွေ အကြောင်းကော တခါမှ မလေ့လာဘူးလား"

"ဟင့်အင်း၊ တခါမှ မစဉ်းစားမိဘူး ထင်တာပဲ။ လူတွေဟာ သူ့ဟာသူ နေကြတာပဲ၊ ကိုယ်နဲ့ ဘာဆိုင်တာ မှတ်လို့"

"သူတို့ကို နားမလည်ချင်ဘူးလား"

သူက ဖျတ်ခနဲ ငဲ့ကြည့်ပြန်သည်။ မျက်ခုံးကို တအားတွန့်လိုက်သည်။

"ဒီမယ် အယ်လီနာ၊ ကိုယ် လူတွေအကြောင်း မင်းထက် အများကြီး ပိုသိတယ်"

"ဟင့်အင်း၊ မဖြစ်နိုင်ဘူး"

"တကယ် ပြောတာ"

သူက ဟန်ပါပါ အစချီလိုက်သည်။

"ဒီမယ် အယ်လီနာ၊ ကိုယ်က လူတွေကို အရှိအတိုင်း မြင်တယ်၊ မင်းကတော့ အင်ဂျင် နီယာတွေအတွက် မင်း အဖြေထုတ်ပေးနေရတဲ့ ညီမျှခြင်းတွေ၊ ပုံသေနည်းတွေနဲ့ ရှုမြင် သုံးသပ်တယ်"

အယ်လီနာက ရွက်လှပန်းရွက်ကလေးတွေကို လိပ်ရင်း စဉ်းစားလိုက်လာသည်။

“ဟုတ်တယ် ကက်စတာ၊ အယ်လီနာတို့ နှစ်ယောက်မှာ တူတာ ဆိုလို့ ဘာမှ မရှိဘူးနော်”

သူက ခေါင်းညိတ်သည်။

“သိပ်ဟုတ်တာပေါ့၊ မင်းဟာ ကိုယ့်အတွက် အံ့သြစရာချည်းပဲ”

“ကက်စတာနဲ့ အယ်လီနာ ဘယ်သူ မှန်သလဲ ဟင်”

“အို… အယ်လီနာရယ်၊ လူတွေကို မှားတယ်၊ မှန်တယ် ဆိုတာ ဘယ်“စံ”နဲ့ ပြောကြ မလဲ၊ တယောက်နဲ့တယောက် မတူနိုင်ကြဘူးလေ၊ မျက်လုံးပြာနဲ့ မျက်လုံးညို ကွာသလိုပါပဲ”

ကက်စတာက လမ်းမကြီးမှနေ၍ ရေကာတာစခန်းသို့ သွားသည့် အဝင်လမ်းထဲသို့ ချိုးကွေ့လိုက်သည်။

“အယ်လီနာတို့နှစ်ယောက် အဲဒီလို အသွင်မတူကြလို့ ပိုပြီး ပျော်စရာကောင်းနေ တာလား မသိဘူးနော်”

“ဖြစ်နိုင်တယ် အယ်လီနာ”

“ဆန်းတော့ ဆန်းတယ်နော်၊ ကက်စတာနဲ့ အယ်လီနာဟာ ပြည်နယ်တခုတည်းမှာ လူမျိုးတမျိုးတည်းကနေပြီး တခေတ်တည်းမှာ မွေးလာကြပြီးတော့ မတူတာတွေ အများ ကြီး ရှိနေတယ်နော်”

ခဏနားပြီး စကားဆက်သည်။

“အယ်လီနာတော့ ဘာကြောင့်လဲ ဆိုတာ သိနေသလိုပဲ”

“ကဲ.. ဆိုပါဦးတဲ့ဗျာ”

ကက်စတာက ဘာမျှ အရေးမကြီးသလို ခပ်ပေါ့ပေါ့ ပြောလိုက်သည်။

“ကက်စတာက တောင်ပိုင်းသား၊ အယ်လီနာက အမေရိကန်”

ကက်စတာက ရယ်နေသည်။

“မင်းဟာ တကယ့်ကို ချစ်ဖို့ကောင်းတဲ့ ကလေးမကလေးပဲ။ လေးစားပါတယ်။ တခု ကိုယ့်အတွက် လုပ်ပေးပါ။ ကိုယ်သေသွားရင် ကိုယ့်အုတ်ဂူပေါ်မှာ ရေးပေးပါ။

“ပျော်ပျော် နေရင်း သေသွားသူ လူတယောက်” လို့။

အယ်လီနာ ရယ်ရတော့သည်။ စခန်းကို ရောက်တော့ အယ်လီနာကို သူက တဲအထိလိုက်ပို့သည်။ တံခါးဝတွင် နှုတ်ဆက်ပြီး “မနက်ဖြန် လာခဲ့ဦးမယ်နော်”ဟုပြောသည်။ မြတ်နိုး စွာ ပြုံးကြည့်နေရင်း-

“အဲဒီ ပန်းနီနီတွေနဲ့ ဆိုတော့ သိပ်ကြည့်ကောင်းတာပဲ၊ နဂိုရှိလို့ပါလေ”

“သူက ချောတာပါ” ဟု အယ်လီနာက ပြန်ပြောလိုက်သည်။

ဆင်ခြေလျှော ရေကာတာရိုးပေါ်သို့ ပြေးတက်သွားသော သူ့နောက်ကျောကို ကြည့်ပြီး အယ်လီနာ ငေးကျန်ရစ်သည်။ အမျိုးသား ကချေသည်တယောက်လို သူ့ကိုယ်ခန္ဓာက ကျစ်လျစ်သည်၊ တောင့်တင်းသည်။ တာပေါ်ရောက်တော့ သူက လက်ပြသည်။ အယ်လီနာ တယောက်တည်း ပြုံးကျန်ရစ်၏။ မြင်ကွင်းမှ လုံးဝ ပျောက်ကွယ်သွားသည်နှင့် ရွက်လှပင် တပင်ကို အစည်းထဲမှထုတ်ပြီး ရွက်ချပ်လွှာကလေးတွေကို ရေတွက်နေသည်။

“သိပ်ချစ်ဖို့ကောင်းတဲ့ ကက်စတာ၊ သူ ငါ့ကို ချစ်နေပြီလား မသိဘူး၊ သိပ်ချစ်ဖို့ ကောင်းတာပဲကွယ်”

တယောက်တည်း တီးတိုး တီးတိုး သဖန်းပိုး လုပ်နေမိ၏။

※※※

## (၂)

အပြန်လမ်းတွင် ကက်စတာ သီချင်းကလေး တအေးအေးဖြင့်။ ထုံးစံအတိုင်း သူက အရှည်ကြီး မတွေး၊ လောလောဆယ် အယ်လီနာနှင့် ပျော်နေသည်ကိုပဲ သိသည်။ အယ်လီနာ က ဘယ်မိန်းကလေးနှင့်မျှ မတူ၊ အလွန်ထူးခြားသည့် ဟာမကလေး။ သူ့အလုပ်ကို ဘာပြု လို့များ ဒါလောက် တန်ဖိုးထားနေပါလိမ့်။ တွဲရတဲ့အချိန် နည်းလွန်းသည်ဟု ထင်၏။ ဆင်ဝင် အောက်တွင် ကားရပ်ပြီး အိမ်ထဲသို့ ပြေးဝင်ခဲ့သည်။ ညှော့ခန်းထဲတွင် ဖေဖေရော မေမေပါ ရှိနေကြ၏။ တစုံတရာကို အလေးအနက် ဆွေးနွေးနေကြဟန် ရှိသည်။ ဖေဖေက မီးဖို နံဘေး တွင် ရပ်လျက်၊ မေမေက ထိုင်လျက်မှ စိုးရိမ်တကြီး ဖေဖေ့ကို မော်ကြည့်နေသည်။

"ဒီအတိုင်း လက်ပိုက်ကြည့်နေလို့ မဖြစ်တော့ဘူး"

နားစွန်နားဖျား ကြားလိုက်၏။ ဘာများပါလိမ့်။

ကုတ်အင်္ကျီကိုချွတ်ပြီး ဆိုဖာပေါ်သို့ ပစ်တင်လိုက်ရင်း နှုတ်ဆက်သည်။

"ဟဲလို"

"သား ဘယ်သွားနေတာလဲ"

"အယ်လီနာကို ပြန်ပို့နေတာပါ"

မေမေက သက်ပြင်းချပြီး-

"အင်း . . . ထင်တော့ ထင်သားပဲ"

ကက်စတာက မီးလင်းဖိုထဲမှ ထင်းတုံးတွေ ရှေ့တိုးလိုက်သည်။ ဖေဖေက စိတ်ပျက် လက်ပျက် အမူအရာနှင့် မေမေ့ကို လှမ်းကြည့်သည်။ တခုခုတော့ တခုခုပဲ။ မီးလင်းဖိုနံဘေး တွင် မှီရပ်ပြီး မတုန်မလှုပ် အမူအရာဖြင့် အဘိုးကြီး၊ အဘွားကြီးကို ကြည့်နေလိုက်သည်။

ဖေဖေက "သား အယ်လီနာကို သဘောကျနေတာတော့ မဟုတ်ပါဘူးနော်"တဲ့။ မေမေကတော့ "ဖေဖေနဲ့ မေမေတို့ သဘောမကျလို့ ပြောတာ မဟုတ်ဘူးနော်" ဟု ဖွဲ့ဖွဲ့ စကားကို ဝင်ထောက်သည်။

“ဒါပေမဲ့”

မေမေ ရုတ်တရက် ဆက်မပြောဘဲ တုံ့ဆိုင်းနေ၏။

“မေမေတို့ သူ့ကို လန့်သွားကြတယ် မဟုတ်လား”

မေမေ့စကားကို ဖြတ်ပြီး ဝင်ပြောလိုက်သည်။

“စတွေ့တဲ့ နေ့ကတည်းက ရှေးဂါဝန်ကြီးတွေ အကြောင်းနဲ့ ဝတ်စားဆင်ယင်မှု အကြောင်း ပြောတော့ မေမေ သူ့ကို အထင်သေးသွားတယ် မဟုတ်လား။ အယ်လီနာကို သူ့အဖေက ရေကာတာစခန်းထဲမှာ ကြီးပြင်းစေခဲ့တာကိုလည်း ဖေဖေတို့၊ မေမေတို့ နားလည် ဦးမှပေါ့။ ပြည်နယ်ကပွဲကို အလွတ်ခံပြီး မပြန်ဘဲ နေတာလည်း သူ့ကို အကဲခတ်ချင်လို့ မဟုတ်လား။ ကျွန်တော်တော့ မေမေတို့ကို သိပ်ဘဝင်မကျဘူး။ ကျွန်တော် သိတယ်၊ အယ်လီနာဟာ သိပ်တော်တဲ့ မိန်းကလေး”

“ဟုတ်ပါတယ်လေ၊ ဖေဖေတို့ကလည်း အယ်လီနာကို မတော်ဘူးလို့ မပြောပါဘူး” ဖေဖေ ဝင်ဆွေးနွေးသည်။

“အယ်လီနာအပွဂျွန်းဟာ အဖိုးတန်မိန်းကလေးတယောက်ပါ။ ဒါပေမဲ့ အဲ. မျိုးရိုး နောက်ခံဆိုတဲ့ ကိစ္စက ရှိသေးတယ် သား။ ဒါကို စဉ်းစားတဲ့ နေရာမှာ ဖေဖေနဲ့ မေမေတင် မကဘူး၊ ဆွေမျိုးတွေပါ ပါတယ်။ မျိုးရိုး အစဉ်အဆက်ရဲ့ တန်ဖိုးလေ”

“ကျွန်တော်တို့ ဆွေမျိုးတွေက ဒီကိစ္စကို အလေးအနက် စဉ်းစားတယ် ဆိုရင် ဖေဖေ နဲ့ မေမေဟာ ရှေ့ဆုံးက နေမှာပါ”

ဆိုဖာတလုံးဆီကို လျှောက်သွားပြီး ခြေထောက်နှစ်ချောင်း ရှေ့ပစ်၍ ထိုင်ချလိုက်သည်။

“သား ဒီလို မပြောရဘူးလေ”

မေမေက ကုလားထိုင်ကို ဆွဲလှည့်ပြီး သားနှင့် မျက်နှာချင်းဆိုင်လိုက်သည်။ ပြီးတော့ ဘယ်တုန်းကမျှ မပြောဖူးသည့် လေသံမာမာဖြင့် -

“ဒီမယ် ကက်စတာ၊ မေမေ့ကို ဂုဏ်မက်တယ်၊ အဆင့်အတန်း ခွဲတယ်လို့ ဘယ်တုန်း ကမှ အပြောမခံခဲ့ရဘူး။ အယ်လီနာအပွဂျွန်းဟာ မေမေတို့ အသိုက်အဝန်းထဲက မဟုတ်ဘူးလို့ ပြောတာနဲ့ ဂုဏ်မက်တယ် ဆိုတဲ့ ဘွဲ့ထူးတော့ မယူပါရစေနဲ့သား”

ဘာပြန်ပြောရမှန်းမသိ ဖြစ်သွားသည်။ ဘာကိုမျှ အလေးအနက် မပြောချင်တာ။ အိတ်ထဲက စီးကရက်တလိပ်ကို ထုတ်သည်။ လက်မနှင့် လက်ညှိုးကြားတွင် ညှပ်ပြီး ကိုင် သည်။ မီးမညှိသေး။ မေမေက ဆေးလိပ်နံ့ မကြိုက်ဘူးလေ။ သည်တော့ စီးကရက်ဖြူဖြူ ကလေးကိုပဲ စကားဝိုင်းထက် စိတ်ဝင်စားစရာ ကောင်းနေသလို ငုံ့ကြည့်နေလိုက်သည်။ ပြီးတော့မှ ခပ်တည်တည်နှင့် ပြန်မေးလိုက်သည်။

"မေမေတို့ ဘာကို ဆိုလိုကြတာလဲ"

ဖေဖေ ဝင်လာပြန်သည်။

"အယ်လီနာ အပ္ပဂျွန်းရဲ့ အမေဟာ ဘယ်သူက မွေးလာတာမှန်း ဘယ်သူမှ မသိဘူး။ မိဘမဲ့ဂေဟာမှာနေရင်း ကြီးပြင်းလာတာ။ သူ့အဖေက မိန်းမပျက်တယောက်နဲ့ မှောင်ခို သမားတယောက်က တရားမဝင်မွေးတဲ့ ကိလိဋ္ဌသား"

"ဒါတွေ ဖေဖေ ဘယ်လိုလုပ်ပြီး သိတာလဲ" ခပ်ဆတ်ဆတ်ပင် မေးလိုက်သည်။

"သူ့အဖေ အကြောင်းလား၊ ကလေးမကို တွေ့တဲ့ နေ့ကတည်းက အပ္ပဂျွန်းဆိုတဲ့ နာမည် ကို ကြားဖူးပါတယ် ဆိုပြီး စဉ်းစားတာ။ နောက်တော့ ပေါ်လာတာပဲ၊ သားရဲ့ဘွားဘွား ဖေဖေ့ အမေကိုယ်တိုင် ပြောဖူးတာ"

"ဘွားဘွားက မှောင်ခိုတွေ၊ ပြည့်တန်ဆာတွေနဲ့ ဘယ်လို ပတ်သက်လို့လဲ"

"ဒီမယ် ကက်စတာ၊ ကိုယ့်အဘွား အကြောင်းကို ယဉ်ကျေးတဲ့ စကားလုံးနဲ့ ပြောပါ ။ ပြည်တွင်းစစ် မဖြစ်ခင်က မိန်းကလေးတယောက်ကို အဘွားက သနားလို့ဆိုပြီး အလုပ် ပေးလိုက်တယ်။ နောက်တော့ အိမ်ကနေ ပျောက်သွားလိုက်တာ သူ့အကြောင်း ဘာမှ မကြား ရတော့ဘူး။ စစ်ပြီးတော့မှ မှောင်ခိုသမား တယောက်ရဲ့ အငယ်အနှောင်းအဖြစ်နဲ့ ပြန်ပေါ် လာတယ်။ အဲဒီမှာ ကလေးတယောက် မွေးတာ"

"ဖရက်အပ္ပဂျွန်းပေါ့ ၊ ဟုတ်လား"

"ဟုတ်တယ်"

ခြေတဖက်ကို အခြားတဖက်ပေါ်သို့ လွှဲတင်လိုက်သည်။

အဘိုးကြီး၊ အဘွားကြီးကို တလှည့်စီကြည့်ပြီး-

“အဲဒီအတွက် ကျွန်တော်က အထင်အမြင် သေးရမယ်ပေါ့၊ ဟုတ်လား”

“ ကက်စတာ”

မေမေက မလိုတမာ အသံကို ပြုလျက် အနား လာထိုင်သည်။

“ဒီမယ် သား၊ မေမေတို့က အယ်လီနာအပွဂျွန်းကို တမင်တကာ နှိမ့်ချပြောဆိုနေတာ မဟုတ်ဘူး”

ချော့မော့သည့် လေသံကို ပြောင်းလိုက်ပြီး ညင်သာစွာဖြင့်-

“ဒါပေမဲ့ သားရယ်၊ သူတို့တတွေဟာ အုတ်ကြားမြက် ဆန်လွန်းပါတယ်။ ဒီမိန်းကလေးဟာကော ဘယ်လိုလုပ်ပြီး ဒီ “ပုတ်” ထဲက ရုန်းထွက်နိုင်မလဲ”

ဘာမျှ ပြန်မပြောဘဲ နားထောင်နေလိုက်၏။ မေမေက ဆက်သည်၊ အသံက ပို၍ နူးညံ့ပျော့ပျောင်းလာသည်။

“သားရဲ့ နောင်ရေးအတွက် မေမေတို့ စိတ်ပူလွန်းလို့ ပြောနေတာပါကွယ်၊ သားတို့ နှစ်ယောက်ဟာ သိပ်ကို ခြားနားလွန်း နေလို့ပါ။ ဘယ်လိုလုပ်ပြီး သား သူ့ကို တသက်လုံး နားလည်နိုင်မလဲ”

“ဗျာ... တသက်လုံး ဟုတ်လား”

ဆိုဖာပေါ်မှ ဝုန်းခနဲ ထရပ်သည်။ ဖေဖေနဲ့ မေမေကို စူးစူးရဲရဲ ကြည့်လိုက်သည်။

“သားက အယ်လီနာကို လက်ထပ်မယ်လို့ ထင်နေကြတယ်ပေါ့၊ ဟုတ်လား”

သူတို့ နှုတ်ဆိတ်နေကြသည်။

“ဟုတ်တယ် သား၊ သူ့ကို လက်ထပ်ရမယ်”

အော်ရယ်လိုက်မိသည်။

“ဟုတ်တယ်၊ သူ့ကို လက်ထပ်မယ်”

ကုတ်အင်္ကျီကို ကောက်ပြီး လက်လျှိုလိုက်သည်။

“ကက်စတာ၊ ဒါ ဘယ်လဲ”

မေမေက အော်မေးသည်။

“အယ်လီနာ့ဆီကိုလေ၊ လက်ထပ်ခွင့် သွားတောင်းမလို့”

ဖေဖေက ဖြတ်အော်သည်။

“ဟော့… မင်း ဇွတ်မလုပ်ရဘူး”

“ဟင့်အင်း၊ ကျွန်တော် ဇွတ်လုပ်တာ မဟုတ်ဘူး၊ ဖေဖေနဲ့ မေမေက ကျွန်တော့်ကို လှုပ်နှိုးပေးလိုက်တာ”

တံခါးကို ဆွဲဖွင့်လိုက်၏။

“ကက်စတာ”

မေမေက အော်ခေါ်သည်။

ဘာပြောမည်လဲဟု ခဏ စောင့်ကြည့်နေလိုက်သည်။ မေမေက အထိုင်မပျက် တလုံး ချင်း အလေးအနက် ဆက်ပြောသည်။ ဖြူဖွေးနေသည့် လက်နှစ်ဖက်ကို ဆက်ပြီး ပေါင်ပေါ်တွင် တင်လျက်။

“သားက မေမေတို့ ငယ်ငယ်က ခေတ်မျိုးနဲ့မှ မကြုံလိုက်ဘဲကိုး။ အခြေအနေ ဘယ်လောက်ဆိုးဆိုး အစဉ်အလာကို ထိန်းတယ်။ ညီအစ်မနှစ်ယောက်မှာ ထိုက်ထိုက်တန်တန် အဝတ်တစုံပဲ ရှိတယ် ဆိုပါတော့။ နှစ်ယောက်လုံး ဧည့်ခန်းကို တပြိုင်တည်း ဘယ်တော့မှ မထွက်ဘူး။ ခုပြောနေတဲ့ အောက်တန်းစားတွေနဲ့ မရောထွေးအောင် မေမေတို့က အဲဒီလို ကိုယ့် ယဉ်ကျေးမှုကို ကိုယ် ထိန်းလာတာ။ သားကိုလည်း အဆင့်အတန်းမီ လူငယ်တယောက် ဖြစ်အောင် တရင်းတနှီး ပျိုးထောင်ခဲ့တယ်။ ခုတော့ ဒါတွေကို သဲထဲရေသွန် လုပ်ပစ်တော့ မယ်ပေါ့၊ ဟုတ်လား”

စိတ်ပျက်လက်ပျက် ခေါင်းယမ်းမိသည်။

“တော်ပါတော့ မေမေရယ်”

မေမေ အပြေးအလွှား ထလာသည်။ တောင်းပန်သည်။

“သားရယ်၊ မေမေပြောတာ ယုံပါကွယ်၊ သား သူနဲ့ဆိုရင် ဘယ်လိုမှ

စိတ်ချမ်းသာ စရာ...

မေမေ့အတွက်တော့ စိတ်မကောင်းပါ။ ရယ်ချင်လာသည်။

"အဲဒီ ခေတ်အို ခေတ်ဆွေးကြီးက ပြိုကျပျက်စီးသွားပြီလေ မေမေ။ ဒါက ၁၉၁၂ ခုနှစ် မေမေရဲ့ ကျွန်တော့်ဘဝမှာ အချစ်နဲ့ ခုမှ တွေ့ရတာ ခြောက်ပတ်ပဲ ရှိသေးတယ်လေ"

မေမေ့နဖူးကို ကတိုက်ကရိုက်နမ်းပြီး ထွက်ခဲ့သည်။ နေရောင်ခြည်သည် ဝက်သစ်ချ ပင်တို့ အပေါ်တွင် ကြည်လင် တောက်ပနေသည်။ လေကလေး တချွန်ချွန်နှင့် ကားမောင်း ထွက်ခဲ့၏။ အယ်လီနာသည် အိမ်ရှေ့ဆင်ဝင်ဆောင်မှ ဒေါက်တိုင်ကြီးများနှင့် တူ၏။ ကြံ့ခိုင် သည်၊ သေသပ်သည်၊ အချိုးကျ ပြေပြစ်စွာ လှပသည်။ ခင်မင်တွယ်တာခဲ့ရသည်မှာ အချိန် မကြာလှသေးသော်လည်း အထွတ်အထိပ်သို့ ရောက်လျက်ရှိလေပြီ။

ကားကလေးသည် တအားပြေးလျက် ရှိ၏။ အယ်လီနာဆီသို့ ဦးတည်လျက်။ တဲကြီး ထဲသို့ ပြေးဝင်သွားသည်။ စားပွဲတလုံးတွင် အလုပ်ရှုပ်နေသော ရန်ဒါက လှည့်ပြီး ပြုံးပြုံး ပြက်ပြက် ပြုံးပြသည်။

"မင်္ဂလာပါ မစ္စတာကက်စတာ"

"မင်္ဂလာပါ ရန်ဒါ၊ မစ္စအယ်လီနာနဲ့ ခဏ စကားပြောချင်တယ် ရန်ဒါ"

"ဟုတ်ကဲ့ရှင့် ရပါတယ်။ မလေးရေ၊ ဧည့်သည် ရောက်နေတယ်"

ရန်ဒါက အသံကို မြှင့်ပြီး အတွင်းဘက်သို့ လှမ်းခေါ်သည်။

"အေး အေး လာပြီ"

အိပ်ခန်းဆီမှ ပြန်ထူးသံ။

စားပွဲတလုံး၏ နံဘေးတွင် ရပ်စောင့်ရင်း ရင်တွေ ခုန်နေသည်။ ခဏကြာတော့ အယ်လီနာ ဝင်လာသည်။ အဝတ်အစား လဲထားပြီးပြီ။ ခါးစည်းရှပ်အင်္ကျီအဖြူ၊ ပိုးပျော့ စကတ်အနက်။ လှုပ်ရှားမှုတိုင်းသည် ကျက်သရေရှိနေ၏။ တွေ့ဖူးသမျှ မိန်းကလေးများထဲ တွင် အယ်လီနာသည် အချိုးအစား ပြေပြစ်ဆုံးဟု ကက်စတာ ထင်သည်။ ရှင်းသန့်ကြံ့ခိုင် သည့် အလှမျိုး။ အယ်လီနာက သူ့ကို မြင်တော့ အံ့ဩလွန်းစွာဖြင့် -

"ဟင် . . . ကက်စတာ၊ ဘာလို့ ပြန်လာတာလဲ"

"ရန်ဒါ၊ တို့ လွတ်လွတ်လပ်လပ် စကားပြောပါရစေကွာ"

"ဟုတ်ကဲ့ပါရှင့်"

ရန်ဒါက ရယ်ပြီး ထွက်သွားသည်။ ကက်စတာက အယ်လီနာ ရပ်နေသည့် နေရာသို့ တိုးသွားပြီး-

"အယ်လီနာ၊ ကိုယ် မင်းကို လက်ထပ်ပါရစေ"

အယ်လီနာ ကြက်သေ သေနေသည်။ အကြောင်းသား ရပ်လျက်။ အတန်ကြာမှ နဖူး ပေါ် ဝဲကျနေသည့် ဆံနွယ်တွေကို သပ်တင်သည်။ အပြာရင့်ရောင် မျက်လုံးများဖြင့် သူ့ကို စိုက်ကြည့်သည်။

"ဘယ်လို ပြောလိုက်တယ်၊ ပြန်ပြောပါဦး ကက်စတာ"

"ကိုယ့်ကို လက်ထပ်ပါလို့"

အံ့သြခြင်း၊ မယုံကြည်နိုင်ခြင်းတို့ဖြင့် အယ်လီနာ ကတိုက်ကရိုက် ပြန်ပြောသည်။

"အင်း. . . အင်း လက်ထပ်မှာပေါ့၊ တကယ်ပါ"

ကက်စတာက အယ်လီနာ့ လက်ကလေးကို လှမ်းဆုပ်လိုက်ပြီး-

"မင်း တကယ် ပြောနေတာနော် အယ်လီနာ၊ တကယ်နော်"

အယ်လီနာ လွင်လွင်ကလေး ရယ်သည်။ လှိုက်လှဲ ကြည်နူးစွာဖြင့်။

"တကယ်ပါ ကက်စတာရယ်။ အယ်လီနာ ထင်တယ်လေ၊ သူ့ကို စတွေ့တဲ့ နေ့က တည်းက ချစ်မိတာလို့"

"ဟုတ်တယ် အယ်လီနာ၊ ကိုယ်လည်း ဒီအတိုင်းပဲ၊ ဒါကို ကိုယ် ဒီနေ့ မနက်ပိုင်းအထိမသိခဲ့ဘူး။ ကိုယ်ဆိုတဲ့ကောင်ဟာ တကယ့် ငတုံး။ ကြည့်စမ်း၊ မင်းကို ကိုယ် တခါမှတောင် မနမ်းဖူးခဲ့ဘူး"

အယ်လီနာက ပြုံးပြုံးကလေး ပြန်မေးသည်။

"ဒါဖြင့် ခု ဘာလို့ မနမ်းလဲ"

ရင်ခွင်ထဲသို့ ဆွဲယူလိုက်သည်။ ပြီးတော့ တိုးတိုးကလေး ပြောသည်။

"ကိုယ်လေ၊ ကိုယ်ဟာ မင်းအတွက် လူဖြစ်လာရသလိုပါပဲ အယ်လီနာရယ်"

※※※

# (၃)

ညနေ့သည်အင်္ဂျင်နီယာတွေ ရောက်မလာမီ သူတို့ လစ်ထွက်လာခဲ့ကြသည်။ ကံကောင်း သည်ဟု ဆိုရမည်။ အဘိုးကြီး၊ အဘွားကြီး သည်ည အိမ်တွင် ရှိမည် မဟုတ်။ ညစာစားပွဲ တခုနှင့် အပျော်ဖဲကစားပွဲတခုသို့ သွားရန်ရှိသည်။ ကက်စတာက သူ့မိဘတွေအကြောင်း ကောင်းကောင်းသိသည်။ အိမ်တွင်းရေးကိစ္စ ဘယ်လောက် အရေးကြီးကြီး အစဉ်အလာအရ တက်ရသည့် ပွဲလမ်းများကို ဘယ်တော့မျှ အလွတ်မပေးတတ်။

သို့သော် ပို၍ သေချာအောင် တနေရာတွင် ကားရပ်ပြီး အိမ်ကို ဖုန်းဆက်ကြည့် သည်။ စိတ်ချရမှ သူတို့နှစ်ယောက် ဝက်သစ်ချမြိုင်ဆီသို့ ဦးတည်မောင်းနှင်လာခဲ့ကြသည်။ မီးဖိုနံဘေးတွင် နှစ်ယောက်သား ထိုင်ကြ၏။ ထူးဆန်းအံ့သြဖွယ် ကောင်းလှသည့် ထိုတဒင်္ဂ။ ပြောစရာတွေ မကုန်နိုင်လောက်အောင် များပြားသည့် ရောမကိစ္စကြီးတခုလိုလို၊ တပြိုင်တည်းတွင် ဘာမျှပြောစရာ မလိုသည့် ဖြစ်ရိုးဖြစ်စဉ် ကိစ္စမျိုးကလေးလိုလိုနှင့် တိတ်ဆိတ် နေကြသည်။ အတန်ကြာမှ ကက်စတာက ဆိုဖာနောက်ကို မှီလိုက်ပြီး-

"ဒီ အသုံးမကျတဲ့ လောကကြီးတခုလုံး ဆွံ့အနေကြလား မသိဘူးနော် အယ်လီနာ။ တကယ်ချစ်ရတဲ့ ချစ်ခြင်းမေတ္တာ အကြောင်းကို ဘယ်သူမှ ကိုယ့်ကို မပြောခဲ့ကြဘူး"

"ချစ်တယ် ဆိုတာ ကိုယ့်ဘာသာကိုယ် မသိလို့ နေမှာပေါ့ ကက်စတာရယ်၊ ဒီလိုပဲ ဖြစ်တတ်တယ် ထင်ပါရဲ့"

ပြတင်းပေါက် နှစ်ပေါက်ကြားမှ ဆိုဖာပေါ်တွင် သူတို့ ထိုင်နေကြခြင်း ဖြစ်သည်။ မီးလင်းဖိုမှ မီးရောင်ဖြင့် အခန်းမှာ နှင်းဆီရောင် ပြေးနေသည်။ ကက်စတာက မတ်တတ်ရပ် လိုက်သည်။ အယ်လီနာ့ ဆံပင်တွေကို ဖွဖွကလေး ငုံ့နမ်းသည်။ ပြီးတော့ မီးဖိုခြေရင်းမှ အုတ်ခုံဆီသို့ လျှောက်သွားသည်။ အယ်လီနာက ချစ်သူ၏ လှုပ်ရှားမှုကို ငေးကြည့်နေသည်။ ဘယ်လောက် ချောမောလှပ ယောကျ်ားပီသလိုက်ပါသလဲ။

ကက်စတာက ထင်းတုံးတွေ ထပ်ထည့်ပြီး မီးညှပ်ကြီးနှင့် တုံးတွေကို မီးရှိန်ကောင်း အောင် စီစဉ်နေသည်။ မီးလျှံတွေ လင်းသည်ထက် လင်းကာ လူးလွန့်တက်လာသည်။ သူ့ကို မီးမောင်းထိုးပြနေဘိသကဲ့သို့။ သူက နောက်လှည့်

မကြည့်ဘဲ လှမ်းပြောသည်။

"ကိုယ် စဉ်းစားနေတယ် သိလား အယ်လီနာ၊ ကိုယ်ဟာ မင်းရဲ့ ဘဝကြင်ဖော် ဖြစ်ရ လောက်အောင် အရည်အချင်း ရှိရဲ့လားလို့"

အယ်လီနာက ဆိုဖာနောက်သို့ ပစ်မှီပြီး ပြုံးလိုက်သည်။

"အဲဒီအကြောင်း မစပါနဲ့ကွယ်၊ ကက်စတာမှာ အယ်လီနာ လိုချင်တာတွေထက်တောင် ပိုနေပါသေးတယ်"

ကက်စတာက မီးညှပ်ကြီးကို ချထားပြီး နောက်သို့ လှည့်လိုက်သည်။ မျက်လုံးချင်း ဆုံမိကြသည်။

"အဲဒီလို ကြားရတော့ ကိုယ် ဝမ်းသာလိုက်တာ အယ်လီနာရယ်၊ ဒါပေမဲ့ ကိုယ့်ကိုယ် ကိုယ် မယုံသလိုပဲ"

အယ်လီနာ ချစ်စဖွယ် ရယ်သည်။

"မုန့်ခိုးစားတဲ့ ကလေးကို လူမိသလို ဖြစ်နေပြီလား ကက်စတာ။ ဘာလဲ၊ အယ်လီနာ ကို ပေးမယ့် ရောမ ဖွင့်ဟဝန်ခံချက်ကြီးရဲ့ နိဒါန်းလားဟင်"

"အင်း... ဟုတ်တယ် ဆိုပါတော့"

ကက်စတာက ရိုးသားစွာပင် ပြောလိုက်သည်။

အယ်လီနာက ခေါင်းယမ်းပြီး-

"အဲဒါတွေ အယ်လီနာအတွက် အရေးမကြီးပါဘူး ကက်စတာ"

ခဏ တွေနေသည်။ ပြီးမှ-

"လာပါဦး ကက်စတာရယ်"

ကက်စတာက အယ်လီနာ့ နံဘေးသို့ လာထိုင်သည်။

"တခြား မိန်းမတွေ ဟောဒီ မောင့်ကို ဒီက မိအယ်လီနာ ချစ်သလို ဘယ်သူမှ မချစ် နိုင်ကြပါဘူး၊ ချစ်နိုင်တဲ့သူ တွေ့ရင်လည်း ဘာတတ်နိုင်မှာလဲကွယ်"

"ဩော်.... အချစ်ကလေးရယ်"

“တကယ်ပြောတာပါ၊ အယ်လီနာ ဂရုမစိုက်ပါဘူး။ တခုတော့ ရှိတယ်ပေါ့၊ ဂရုမစိုက် ချင်ပေမယ့် ဂရုတော့ စိုက်သင့်တာပေါ့။ အယ်လီနာတခု မေးမယ်နော်”

“ဘာများလဲ အချစ်ရယ်”

“ရည်းစား ဘယ်နှယောက်ရှိလဲ၊ တကယ် အလေးအနက် ပြောတာကို ပြောတာနော်”

“အဲဒါ ဆိုရင်တော့ တယောက်မှ မရှိဘူး”

“တကယ်၊ စိတ်မကောင်း စရာပါလား”

ကက်စတာ ခေါင်းညိတ်သည်။

“ကိုယ်က ပါတီတွေမှာ ဘာဘွန်ဝီစကီ မူးအောင် သောက်တယ်၊ လရောင်ကို ခံစား တယ်။ အဲ… တခုတော့ ရှိတယ်ပေါ့”

“ဘာလဲ၊ ပြောလေ”

“အယ်လီနာကို အပွင့်လင်းဆုံးနဲ့ အရိုးသားဆုံး ပြောမယ်နော်။ တခါတုန်းကတော့ မိန်းကလေးတယောက်နဲ့ အလေးအနက်ကို ဖြစ်ဖူးခဲ့တယ်၊ ဒါပေမဲ့ ခဏပါ”

အယ်လီနာ ပြုံးပြန်သည်။

“အယ်လီနာ သိတဲ့ အထဲကလား ဟင်”

ကက်စတာ ပြုံးပြီး ခေါင်းယမ်းသည်။

“အဲဒါတွေနဲ့ မဆိုင်ချင်ဘူးနော်၊ ဒါပဲ”

“အို…. မဆိုင်စေရပါဘူး အယ်လီနာရယ်၊ သူနဲ့ မတွေ့တာလည်း နှစ်ပေါင်းများစွာ ကြာခဲ့ပါပြီ”

“ကဲ … အဲဒါကိုလည်း ဂရုမစိုက်ပါဘူး တဲ့”

စကားပြတ်သွားကြသည်။ တယောက်မျက်နှာ တယောက် ကြည့်နေကြသည်။ ဆွတ်ပျံ့ကြည်နူးမှုတမျိုးကို နှစ်ယောက်လုံး တသိမ့်သိမ့် ခံစားနေရသည်။ အယ်လီနာက ဆိုဖာပေါ်မှ လျှောဆင်းပြီး ကက်စတာ့ ခြေရင်းတွင်

ဒူးထောက် ထိုင်သည်။ လက်မောင်းတွေကို သူ့ဒူးနှစ်ဖက်ပေါ်တွင် ဖြတ်တင်ပြီး သူ့မျက်နှာကို မော်ကြည့်သည်။

"ကက်စတာရယ်၊ ဒီကမ္ဘာကြီးထဲမှာ အယ်လီနာ ဆိုတဲ့ ကောင်မကလေး ရှိတယ် ဆိုတာတောင် မသိသေးခင်က ဖြစ်ခဲ့တဲ့ ကက်စတာရဲ့ အတိတ်ကို အယ်လီနာ ဘာမှ သဝန်တို စရာ မရှိပါဘူးကွယ်။ ခုချိန်မှာ ကက်စတာရဲ့ အချစ်ကို ရတာပဲ ဘုရားသခင်ကို ကျေးဇူးတင် လှပါပြီ။ အယ်လီနာ့ဆီ လာရာလမ်းမှာ ဖြစ်ခဲ့တဲ့ အကြောင်းတွေကို အယ်လီနာ ရန်တွေ့လို့ ဘယ်ဖြစ်ပါ့မလဲ"

စကားဖြတ်ပြီး တိုးတိုးရယ်သည်။

"တခြားမိန်းကလေးတွေကို အရူးအမူးဖြစ်ခဲ့ရင် မစ္စစ်စပီမြစ်ကမ်းနဖူးက ထူးထူး ဆန်းဆန်း ကောင်မကလေးဆီကို ဘယ်ပြေးလာမလဲနော်"

ကက်စတာက ရင်ထဲ ပေါ့သွားလို ဝမ်းသာအားရဖြင့်-

"ဒါပေါ့ ဒါပေါ့၊ သိပ်ဟုတ်တာပေါ့။ အမှန်တော့ ကိုယ် ခုလို အလေသုံးဆယ်လုပ်ဖို့ မသင့်ဘူး။ ဘာပဲဖြစ်ဖြစ်လေ ကိုယ်တော့ ဘဝကို ခုမှ စရသလို စိတ်ထဲမှာ ထင်နေတယ်၊ ကဗျာဆရာတွေ ပြောတာ မှန်တယ်၊ ကိုယ်တွေ့ပဲ၊ ချစ်စိတ်မွှန်နေတဲ့ သူတွေဟာ အရူးတွေ ပဲတဲ့"

"တူတူပဲပေါ့ကွယ်"

အယ်လီနာက သူ့ပေါင်ပေါ်သို့ ခေါင်းမှီထားလိုက်သည်။

အကြာကြီး ငြိမ်နေကြသည်။ အချိန်မှာ သန်းခေါင်သို့ ချဉ်းနေကြောင်း နောက်ဆုံးမှ သူတို့ သတိရကြသည်။ အယ်လီနာ က ပြန်ပို့ခိုင်း၏။ အပြန်လမ်းတွင်လည်း နှစ်ယောက်သား တည်ငြိမ်စွာဖြင့် တိတ်ဆိတ် ငြိမ်သက်လျက်။ စကား မဆိုမိကြ။ ကောင်းကင်ပြာပြာတွင် ကြယ်ရောင် အရွှန်းမြဆုံးည။

※※※

# (၄)

ဖရက်သည် ပြည်နယ် ရေကာတာ တည်ဆောက်ရေးအဖွဲ့ချုပ်သို့ ပို့ရန်ရှိသည့် လချုပ် အစီရင်ခံစာကို ညဥ့်နက်သည်အထိ ထိုင်ရေးနေသည်။ အယ်လီနာတယောက် ပျောက်ခြင်း မလှ ပျောက်နေသည်ကို အံ့သြနေ၏။ ဖရက်အပ္ပဂျွန်းသည် သမီးအယ်လီနာကို ယုံကြည် စိတ်ချထားသူ ဖြစ်သည်။ အယ်လီနာသည် သူ့ကိုယ်သူ ထိန်းနိုင် သိမ်းနိုင်သည့် မိန်းကလေး၊ ဆင်ခြင်တုံတရားရှိသည့် မိန်းကလေး။

ရန်ဒါ ပြော၍ ကက်စတာ ဆိုသည့် ကောင်နှင့် ထွက်သွားကြောင်း သိပြီး ဖြစ်သည်။ သည်သူငယ် ခဏခဏ လာနေသည်ကို ဖရက်က ကြည့်၍ မရ။ အယ်လီနာသည် ခုခေတ် ကာလ သားသမီးတွေလို ခုမြင် ခုကြိုက် အစားထဲက မဟုတ်။ တပြိုင်တည်းတွင် ခုခေတ် ကောင်မကလေးတွေလို ယောကျ်ားတွေ အကြောင်းတော့ နှောကျေအောင် နားလည်နိုင်မည် မဟုတ်ပေ။ လူငယ်ဘာဝ အတွဲနှင့် ပျော်ရွှင် လည်ပတ်သည်ကို ဖခင်တယောက်အနေဖြင့် ခွင့်မပြုနိုင်စရာ မရှိ။ သို့သော် သည်ပေါ်ကြော့ ကက်စတာ ဆိုသည့် သူငယ်နှင့်တော့ တားမြစ် ရပေလိမ့်မည်။ သတိပေးဖို့လည်း ဆုံးဖြတ်ထားပြီး ဖြစ်၏။ တဖက်သတ်ကျလွန်းများနေ မည်လားဟု ဖရက် စဉ်းစားပါသေးသည်။ မြေကြီးနှင့် လုံးထွေးသတ်ပုတ် ကြရသည့် ရေကာတာ စခန်းများတွင် သမီးပျိုနှင့် လိုက်ဖက်သည့် လူငယ်လူရွယ် မရှိသည်တော့ အမှန်။

သည်တော့ စိတ်ဝင်စားစရာ၊ ခင်မင်စရာ တယောက်ယောက် ပေါ်လာ၍ သမီးက တွယ်တာခြင်းမှာ လုံးဝ သဘာဝကျသည့် ကိစ္စဖြစ်သည်။ ပြီးတော့ သမီးက လိမ္မာသည့် သမီး၊ ဖအေ့ကို ခွန်စိုက်အားစိုက် ကူညီနေသည့် သမီး။ သည်အတွက် သမီးအပေါ် ချုပ်ချုပ်ချယ်ချယ် မလုပ်သင့်။ အလုပ်အတွက် အယ်လီနာလို တော်သည့် မိန်းကလေးမျိုး နောက်တယောက် ရဖို့ ဆိုသည်မှာ လွယ်သည့် ကိစ္စမဟုတ်။ ဘာပဲဖြစ်ဖြစ် ကက်စတာလန်းနှင့် တွဲနေသည့်ကိစ္စ ကိုတော့ မနက်ဖြန် ပြောရမည်။ သည်လိုကောင်နှင့် လျှောက်ထွက်နေသည့် အချိန်တွေဟာ သမီးအတွက် နှမြောစရာ ကောင်းလှပါတယ်ကွယ်။ သူဟာ သမီး အချိန်တွေ ဖြုန်းရလောက် အောင် တန်ဖိုးရှိတဲ့ သူငယ် မဟုတ်ပါဘူး။

ဟင်... သန်းခေါင်တောင် ကျော်ပါပကော။ မနက်ဖြန် ငါးနာရီ ထရမှာ။ ဒီည ဒါလောက်နှင့် ရပ်မှဟု အလုပ်စားပွဲမှ ထမည်အပြု တာရိုးတဖက်မှ ကားရပ်သံ

ကြားလိုက် ရသည်။

သြ… ခုမှ ပြန်လာကြတာကိုး။

အကာ တာလပတ်များ ချထား၍ လှမ်းမမြင်ရ။ သေချာအောင် ကြည့်လိုက်ဦးမယ် ဆိုပြီး တဲထောင့်တနေရာမှ ကိုယ်ကို တစောင်းထားပြီး တာလပတ်အကာကို ဖယ်ကြည့် လိုက်သည်။ ဖအေက သမီးကို ချောင်းမြောင်း ထောက်လှမ်းနေသည်ဟု အယ်လီနာ အထင် မမှားစေလို။

သူတို့နှစ်ယောက် တာပေါ် ဖြတ်လျှောက်လာကြသည်။ တဲအနီး ရောက်လာပြီး နှုတ်ဆက်စကား ဆိုကြသည်။ ပြီးမှ တယောက်ကိုတယောက် ရင်ခွင်ထဲသို့ တိုးပြီး ဖက်လိုက် ကြသည်။ အံ့သြလွန်းသဖြင့် နှုတ်မှ အာမေဍိတ်သံ ထွက်မသွားအောင် မနည်း ထိန်းထားလိုက် ရ၏။ ဖရက်အပ္ပဂျွန်းသည် မြင်ကွင်းကြောင့် ဒေါသအမျက် ခြောင်းခြောင်းထွက်လျက် ရှိသည်။ ခုခေတ် ယောက်ျားကလေးနှင့် မိန်းကလေး နမ်းကြသည့်ကိစ္စမှာ အဆန်းမဟုတ်ပါ။ သူ ငယ်ငယ်က ခေတ်ထက် ပို၍ လွတ်လွတ်လပ်လပ် နမ်းကြသည် ခေတ်ကို ဖရက် သဘောပေါက် ပါ၏။ ဘုရား ဘုရား၊ သမီးဖြစ်သူ အယ်လီနာနှင့် ဟို လူ့ပေါ်ကြော့က နမ်းနေကြရုံတင် မဟုတ်ဘူးလေ။ တယောက်နှင့်တယောက် မခွဲနိုင် မခွာရက် တရှိုက်မက်မက် ပွေ့ဖက် ယုယ နေကြသည်။ သည်မျှ တဦးကိုတဦး စွဲလမ်းတပ်မက်သည့် အမူအရာမျိုး တသက်နှင့် တကိုယ် မတွေ့ဖူးခဲ့။

သမီးဖြစ်သူ အယ်လီနာ့ အကြောင်းကို ဖရက် ကောင်းစွာ သိသည်။ တိမ်းလွယ် ညွတ်လွယ် အစားထဲက မဟုတ်၊ အချစ်ကို ပေါ့ပေါ့တန်တန် တွက်မည့် မိန်းကလေးမျိုး မဟုတ်၊ ယခုလို လှိုက်လှဲပျူငှာသည့် အချစ်မျိုးကို လွယ်လွယ်နှင့် ပေးသည့် ကလေးမ မဟုတ်။ ကက်စတာလန်း၏ ရင်ခွင်ကို ဝင်သလို ဘယ်ယောက်ျားပျို၏ ရင်ခွင်ကိုမှ သမီးဖြစ်သူ မဝင် ခဲ့ဖူးကြောင်း ဖရက်အပ္ပဂျွန်း ကောင်းကောင်းသိခဲ့သည်။ သည်တော့ အယ်လီနာ သူ့ကို နှစ်နှစ် ကာကာ ချစ်နေပြီ ဆိုသည်မှာ ထင်ရှားနေပြီ။ အထည်ကြီးပျက် အထက်တန်းလွှာမှ လူပေါ့ လူသွမ်း လူသရမ်း၏ အချစ်ကို သမီးအလိမ္မာ အယ်လီနာတယောက် ယုံစားနေပြီကော။

နောက်ဆုံးတွင် သူတို့ လူချင်း ခွာလိုက်ကြသည်။ ပြီးတော့မှ အယ်လီနာက သမင် လည်ပြန် မကြည့်မိအောင် သူ့ကိုယ်သူ မနည်းထိန်းထားရသလို တဲဆီသို့ ပြေးချလာသည်။ စခန်းတခုလုံး အိပ်မောကျနေပြီဟု သူထင်နေပုံရ၏။ အိပ်ခန်းထဲသို့ ဖော့ဖော့ကလေး နင်းဝင် သွားသည်။ ကက်စတာက အယ်လီနာကို မျက်စိတဆုံး စောင့်ကြည့်နေ၏။ ကြယ်ရောင် ပျပျတွင် သူ့မျက်နှာက တည်ငြိမ် ခံ့ညားလျက်ပါတကား။

ရုံးခန်းဘက်သို့ ပြန်လှည့်လိုက်၏။ ဖရက်သည် စိတ်လိုက်မာန်ပါ လုပ်တတ်သူ မဟုတ်။ မနက်ဖြန်မှပဲ သမီးနှင့် စကားပြောတော့မည်။ တိတ်ဆိတ်ငြိမ်သက်နေသည့် တဲအတွင်းတွင် အယ်လီနာ၏ ရှိုက်သံသဲ့သဲ့ ပျံ့လွင့်လျက်။ ကျိတ်၍ ရှိုက်နေသည့် ငိုရှိုက်သံမျိုး။

ဖရက်သည် အိပ်ခန်းဆီသို့ လာခဲ့ပြီး အိပ်ဖို့ ကြိုးစား၏။ အိပ်လို့ မပျော်။ မနက်လင်းအားကြီးအထိ ဆေးလိပ်ထိုင် သောက်နေသည်။ ဖရက်အပူဂြုန်းသည် သမီး၏ အိမ်ထောင်ရေးနှင့် ပတ်သက်၍ ကြိုတင်စဉ်းစားပြီးသား ဖြစ်၏။ သမီးအနေနှင့် ဘယ်သူ့ကိုယူယူ အကြောင်းမဟုတ်။ ကန့်ကွက်စရာ မရှိ။ သူ့အိုးနှင့်သူ့ဆန်မို့ မတန်မရာဟု သမီးရှင်အနေဖြင့် ပြောလိမ့်မည် မဟုတ်။ အယ်လီနာ တစုံတယောက်ကို ဆုံးဖြတ်လိုက်သည်နှင့် "သမီးချစ်တဲ့ သူကို ဖေဖေ ကြည်ဖြူရမှာပေါ့ သမီးရယ်" ပြောပြီး လက်ထပ်ပေးဖို့ ရည်စူးပြီးသား။

ဒါပေမဲ့ အရောင်လွင့်ပြယ်နေပြီ ဖြစ်သည့် ရှေးခေတ် အမေရိကန်တောင်ပိုင်းနှင်းဆီ ပန်းလို အနာဂတ်မရှိသည့် လူစားနှင့်တော့ မပေးစားနိုင်။ ကက်စတာလန်းဆိုသည့် သူငယ် သည် အလုပ်ကို ဘာမျှ မည်မည်ရရလုပ်သည့် သူငယ် မဟုတ်။ လက်ကြောတင်းသည့် လူစား မဟုတ်။ ကြွေးပတ်လည်ဝိုင်းနေသည့် ဝက်သစ်ချမြိုင်ကို အရိပ်တကြည့်ကြည့်နှင့် အချိန်ကုန် နေသည့် လူ့ပေါ်ကြော့။

ဖရက်က ယားလို့ပင် မကုတ်အားသည့် သူ့အလုပ်ကို သူ ကျိန်ဆဲနေမိ၏။ ပတ်ဝန်း ကျင်တွင် ဘာတွေဖြစ်နေသည်ကို သူ မသိခဲ့။ ဘာကြောင့် သည်လိုအဖြစ်မျိုးကို ရောက်ရသလဲ ဟု သူ့ကိုယ်သူ ပြန်ဆန်းစစ်ကြည့်၏။ မီးလျှံကို မတိုးခင် ပိုးဖလံ သမီးပျိုကို ဘာကြောင့် သူ မထိန်းသိမ်းနိုင်ခဲ့သနည်း။

နောက်နေ့ မနက်တွင် ခုနစ်နာရီထိုးသည်အထိ အယ်လီနာ အိပ်ရာမှမထ။ ဖရက်သည် နံနက်စာကို စက်ရုပ်တရုပ်လို တယောက်တည်း စားနေသည်။

"ဟင်... ပါပါ အလုပ်ထဲကို ထွက်သွားပြီ အောက်မေ့နေတာ"

အယ်လီနာက ပြောပြောဆိုဆို နံနက်စာစားပွဲတွင် ဝင်ထိုင်သည်။

"ညက ပါပါ အလုပ်ထိုင်လုပ်တာ ညဉ့်နက်သွားတယ်။ တင်ရမယ့် လချုပ်တွေ ထိုင်ရေးနေတာ"

"ဟုတ်လား၊ ပါပါ ရိုက်စေချင်ပြီလား။ ပေးလေ၊ သမီး မနက်စာစားပြီး တန်းရိုက် လိုက်မယ်"

အယ်လီနာလည်း ညက များများစားစား အိပ်ပျော်ပုံ မရ။ မျက်ခွံတွေ မို့နေ၏။

ဝက်ပေါင်ခြောက်ကို စိတ်မပါ လက်မပါ နှင့် တို့ကာပင့်ကာ လုပ်နေပြီး ကော်ဖီကိုသာ တခွက် ပြီးတခွက် ထပ်သောက်နေသည်။ သမီးလုပ်သူအား ဘယ်လို စကားစရမည်ကို ဖရက် တယောက် စဉ်းစား၍မရ ဖြစ်နေ၏။ ဘယ်လိုပုံသဏ္ဍာန်နှင့်ပြောပြော သူ့ဘက်က မှားမည် ဟု ထင်နေ၏။ တသက်လုံး တာရိုးနှင့် မြေကျင်းတွေထဲတွင် အချိန်ကုန်ခဲ့သူတယောက် အနေနှင့် သံတမန်ပရိယာယ်ဖြင့် စကားကွယ်ကွယ် ပြောတတ်ဖို့ သူ့တွင် သင်ချိန်မရှိခဲ့။ သံပြားကျောက်စောင်း ကြိုသော်ပျောင်းအောင် ဖျောင်းဖျနိုင်မည် မထင်။ ရန်ဒါ ဝင်လာပြီး ဖယောင်းပန်းအနီပွင့်တွေ အပြည့်ပါသည့် စက္ကူဖာတလုံးကို အယ်လီနာအား ပေးသည်။

ကုလားထိုင်မှ ဝုန်းခနဲထပြီး ပန်းပွင့်တွေကို ဝမ်းသာအားရ လက်ခံယူသည်။ ပန်းပွင့် တွေထဲတွင် ပါလာသည့် ကတ်ပြားကလေးကို ဖတ်ပြီး အယ်လီနာ့ မျက်နှာသည် အိပ်မက်ဆန်သည့် ဆွတ်ပျံ့ကြည်နူးမှုမျိုး ဖြင့် ရီဝေနေသည်။

ဆတ်ခနဲ ခေါင်းမော့ပြီး-

"လာပို့တဲ့ သူငယ်ကလေး စောင့်နေလား ရန်ဒါ"

"ဟုတ်ကဲ့ မလေး၊ စောင့်နေပါတယ်"

ရန်ဒါက အလိုက်သိစွာ ပြုံး၍ ဖြေလိုက်သည်။

"ငါ စာရေးလိုက်ဦးမယ်၊ သူ့ကို မီးဖိုခန်းထဲမှာ ကော်ဖီတိုက်လိုက်"

ရန်ဒါ ထွက်သွားသည်။ အယ်လီနာက စာရေးစားပွဲဆီသို့ ထသွားသည်။ ဖရက်က ကုလားထိုင်မှ ထ၍-

"ပန်းတွေက ဘယ်သူ ပို့လိုက်တာလဲ သမီး"

သိလျက်နှင့် မေးလိုက်ခြင်း။

အယ်လီနာ စာရေးမပျက် ပြန်ဖြေ၏။

"ကက်စတာ ဆီကပါ ပါပါ"

"ခဏနေဦး၊ သမီး စာမပြန်ခင် ခဏလောက်"

အယ်လီနာက အသော့ရေးနေရာမှ တုံ့ခနဲ ရပ်လိုက်ပြီး ဖခင်ဖြစ်သူကို နားမလည်သလို မော်ကြည့်သည်။

"ဘာဖြစ်လို့လဲ ပါပါ"

ဖရက်အပွင့်လှန်းက သမီး စားပွဲဆီသို့ လျှောက်လာသည်။

"သမီးနဲ့ ဒီသူငယ်နဲ့ ချစ်နေကြပြီလား"

အယ်လီနာ ခေါင်းညိတ်သည်။ ပြုံးသည်။

"ပါပါ ဘယ်လိုလုပ် သိသလဲ ဟင်"

"သမီးတို့ ပြန်လာကြတော့ ပါပါ မအိပ်သေးဘူး။ နှစ်ယောက်သား ဖက်နမ်းနေကြ တာလည်း မြင်တယ်"

တုံးတိတိကြီး ပြောချလိုက်၏။ ဣန္ဒြေပျက်သွားပြီး ခြေမကိုင်မိ လက်မကိုင်မိနှင့် အရှက် ကြီး ရှက်သွားမည် ထင်လိုက်သည်။ သို့သော် အထင်နှင့်အမြင် ပါစင်အောင် လွဲခဲ့လေပြီ။ အယ်လီနာကို ဖော့တွက်ခဲ့မိပြီ။ အယ်လီနာသည် ဖခင်ကို ဘယ်ကိစ္စမျှ လျှို့ဝှက်ထားတတ်သည့် မိန်းကလေး မဟုတ်ခဲ့၍ ဣန္ဒြေတချက်ကလေးမျှ မပျက်ဘဲ ဖယောင်းပန်းတွေကို ငေးကြည့် နေလျက်က-

"သမီးလည်း ပါပါ့ကို ပြောမလို့ပါ၊ သမီး သူ့ကို လက်ထပ်မှာ ပါပါရဲ့"

"ဘာ .. ဘာပြောတယ်၊ မဖြစ်နိုင်ဘူး"

အယ်လီနာက မျက်လုံးပြာကြီးတွေ အပြုံးသားနှင့် ဖခင်ဖြစ်သူကို ကြောင်ကြည့်နေ သည်။ အံ့ဩလွန်းသဖြင့် ထွက်လာသည့် သူ့အသံမှာ သေးသေးမျှင်မျှင်ကလေး။

"ဘာပြုလို့လဲဟင် ပါပါ"

ဖရက်က ဘောင်းဘီအိတ်ထဲကို လက်နှိုက်ပြီး တွေတွေကြီး ရပ်နေသည်။ သမီး စိတ်ထိခိုက်မည် ကိုလည်း စိုးရိမ်နေ၏။ ဘာဆက်ပြောရမှန်း မသိအောင် ဖြစ်နေသည်။ နောက်ဆုံး သိပ်အလေးအနက် မဟုတ်သည့် လေသံကို ပြောင်းပြီး လေးတွဲ့နွေးကန်စွာ ပြောလိုက်သည်။ ညင်သာစွာဖြင့်။

"ပါပါ ဒီကိစ္စတွေမှာ သိပ်နားမလည်ပါဘူး၊ ဒါကြောင့် သမီး နားလည်အောင် ပါပါ ရှင်းမပြတတ်ဘူး။ ပါပါ့အမြင်တော့ ဒီသူငယ်ဟာ သမီးနဲ့ လုံးဝ မတန်ဘူး"

အယ်လီနာ မတ်တတ်ထရပ်သည်။ ဖအေ့ ပခုံးပေါ်သို့ လက်လှမ်းတင်လိုက်ပြီး

ပြုံးသည်။ ဖအေ့ကို သည်းခံခွင့်လွှတ်သည့် အပြုံးမျိုး။

"ကက်စတာဟာ သမီးနဲ့ ထိုက်တန်တဲ့ လူပါ။ သူတို့မိသားစုအပေါ် ပါပါ့အမြင် မှန်ပါတယ်၊ သမီးလည်း ခုတော့ ဒီအတိုင်း မြင်တတ်ပါပြီ။ ဒါပေမဲ့ ကက်စတာက ကက်စတာပဲ ပါပါရဲ့"

ဖရက်အပ္ပဂျွန်း သက်ပြင်းချသည်။

"ပါပါ ပြောတာ နားထောင်စမ်း နယ်လီ"

အယ်လီနာ ပြုံးနေဆဲ။ ကမ္ဘာကြီး လုံးသည် ဆိုသည်ကို ငြင်းနေသူတဦးအား ကြည့်၍ ပြုံးသည့် အပြုံးမျိုး။

"ဟော... ပါပါ၊ သမီးကို နယ်လီလို့ ခေါ်ပြန်ပြီ၊ အဲဒါဆို ပါ ပါပြောတာ နားမထောင် တော့ဘူး"

အယ်လီနာ စားပွဲတွင် ပြန်ထိုင်ပြီး ဖောင်တိန်ကို လှမ်းယူမည် ပြုသည်။

"မရဘူး၊ နားထောင်ကို ထောင်ရမယ်"

ဒေါသသံ မပါ၊ သာယာညင်းပျောင်းစွာဖြင့်-

"ပါပါပြောမယ် အယ်လီနာ၊ ပါပါ့အတွက်တော့ ပြောရအခက်ဆုံး ကိစ္စပဲ။ သူ့ကို သမီး ခုချစ်နေတယ်၊ ခုလောလော ဆယ်တော့ သိပ်ပျော်နေတယ်၊ ဒါပေမဲ့ သမီး ကက်စတာ လန်းကို လက်ထပ်ရင် ဘယ်လိုမှ တာရှည်ပျော်ရမှာ မဟုတ်ဘူး"

"ဘာဖြစ်လို့"

"ဘာဖြစ်လို့လဲ ဆိုတော့ သူဟာ လူကောင်းတယောက် မဟုတ်လို့ပေါ့"

အယ်လီနာက မီးခြစ်ဘူးတခုကိုယူပြီး ဆွဲဖျက်နေသည်။ အစသေးသေးကလေးတွေ ဖြစ်သည်အထိ ဆုတ်ဖြဲနေ၏။

"သူကလည်း ဒါကို ဝန်ခံပါတယ် ပါပါ၊ သူဟာ သူတော်ကောင်း သူမြတ်လောင်း တယောက် မဟုတ်ပါဘူး တဲ့။ ပါပါ ပြောချင်တာ ဒါပဲ မဟုတ်လား"

"သမီးရယ်၊ ပါပါပြောတာ နားလည်စမ်းပါ။ ပါပါက ပြီးခဲ့တဲ့ သူ့လုပ်ရပ်တွေကို ပြောနေတာမဟုတ်ဘူး၊ သူဘယ်လို လူစားမျိုးလဲ ဆိုတာ သမီး သိစေချင်လို့ ပြောနေတာ"

အယ်လီနာ စိတ်ဆိုးစ ပြုလာသည်။

"ဒါဖြင့် သမီးက မိဘစကား မြေဝယ်မကျ နားထောင်ပြီး ပြုံးပြုံးကလေးနဲ့ အသည်း ကွဲခံရမှာလား။ အယ်လီနာ အဲဒီလို မိန်းကလေးမျိုး မဟုတ်ဘူး ပါပါ"

"မဟုတ်ဘူး မဟုတ်ဘူး၊ သမီးဘဝကို အနှစ်သာရရှိရှိ အသုံးချစေချင်လို့ပါ။ ဘယ်မှာ သမီးကို စိတ်အဆင်းရဲခံစေချင်ပါ့မလဲကွယ်။ ဒီသူငယ်ဟာ သမီးရဲ့ ဘဝကြင်ဖော် ဖြစ်ကို မဖြစ်ထိုက်လို့ ပြောနေတာ၊ သိလား"

အယ်လီနာ၏ မျက်လုံးတွေ ထိတ်လန့်တုန်လှုပ်စဖွယ် မှေးစင်းသွားကြသည်။ အပြာ ရောင် မီးလျှံနှစ်သွယ် စူးစူးရှရှ ဝင်းလက်သွား၏။ အသံကိုနှိမ့်၍ ခပ်တိုးတိုး ပြောလိုက်သည်။

"ပါပါရယ်၊ သတိလည်း ထားပါဦး။ ပါပါ ပြောတာတွေက တရားလက်လွတ်တွေ"

"ဘာမှ သတိထားစရာ မလိုဘူး၊ သိလို့ ပြောနေတာ၊ အမှန်တွေ ပြောနေတာ။ လာ၊ ပါပါပြောတာ သမီး နားထောင်ရမယ်"

စိတ်ကို ထိန်းပြီး သမီးရှိရာသို့ ဖြည်းဖြည်းလျှောက်သွားသည်။

"ကက်စတာဟာ ဘဝအကြောင်းကို ဘာမှ သိတဲ့ သူငယ် မဟုတ်ဘူး အယ်လီနာ၊ လူကောင်ကြီးပြီး အသိစိတ်က ကလေးအဆင့်ပဲ ရှိတာ။ သမီးနဲ့ လုံးဝ မတန်ဘူး၊ သိလား"

ဖရက်အပွဂ္ဂျန်းက ပြောနေရင်း ရပ်သွားသည်။ အယ်လီနာက မတ်တတ်ထရပ်လိုက်၏။ လက်နှစ်ဖက်ကို စကတ်အိတ်ထဲတွင် နှိုက်လျက်။ လက်ဝါးကို ဖြန့်လျက်သား မဟုတ်၊ အိတ်နှစ်ဖက် ဖောင်းကြွနေသည်။ လက်သီး ကျစ်ကျစ်ပါအောင် ဆုပ်ထားကြောင်း ဖရက် သတိပြုမိလိုက်၏။ သူ့အမူအရာနှင့် တထပ်တည်း။ တခုခုကို ဆုံးဖြတ်ချက် ချပြီဆိုလျှင် သူကိုယ်တိုင်လည်း လက်သီးကျစ်ကျစ် ဆုပ်လေ့ရှိသည် မဟုတ်လား။

"ကောင်းပြီ ပါပါ၊ ပါပါ ပြောတာ နားထောင်ပြီးပြီ"

အယ်လီနာ့အသံမှာ တည်ငြိမ်လှ၏။

"သမီးအလှည့်၊ သမီး သူ့ကိုပဲ ချစ်တယ်၊ သူကလွဲပြီး ဘယ်သူ့မှ မချစ်နိုင်ဘူး၊ ဒါပဲ"

ဒီလိုပဲ ဖြစ်ရမည်ဟု ကြိုတွက်မိဖို့ ကောင်းသည်ဟု ဖရက်က သူ့ကိုယ်သူ အပြစ်တင် လိုက်၏။ အယ်လီနာလို မိန်းကလေးသည် တစုံတယောက်ကို ချစ်မိပြီဆိုလျှင် မည်သို့မျှ ပေါ့ပေါ့တန်တန် မဖြစ်နိုင်။ အလွန်ပြင်းထန်ပြီး အလွန်စိတ်ခတ် ခိုင်ကျည်သည့် မိန်းကလေး မဟုတ်လား။ သို့သော် လက်မလျှော့ချင်သေး။ အယ်လီနာကို ဟန့်တားလို့ရမည် ဆိုလျှင် ဖရက်အဖို့ ဘာကိုပဲ ပေးရ ပေးရ ဝန်လေးမည် မဟုတ်။ ဆက်လက်၍ တိုက်ပွဲဝင်ဦးမည်။

"ဟုတ်ပါပြီ၊ ပါပါ နားလည်ပါတယ်။ သူ့ကို သမီး ချစ်နေတယ်၊ ဒီကိစ္စ ဒါနဲ့ ပြီးရောလား၊ အရှည်ကြီး စဉ်းစားရမယ် သမီး။ ပါပါပြောတာ ယုံစမ်းပါကွယ်"

အယ်လီနာက အဝေးကို လှမ်းကြည့်နေ၏။ သူ့အဖေကိုပင် မမြင်တော့သလို။ ပြီးတော့ ခပ်ဖြည်းဖြည်း ပြောသည်။

"ပါပါ မေ့နေလို့လား၊ ဒါမှ မဟုတ် ဒီအဖြစ်မျိုးနဲ့ တခါမှ မကြုံဖူးလို့လား၊ လူတွေ ပြောပြောနေကြတဲ့ အချစ်ဆိုတဲ့ ကိစ္စကို သမီးလည်း ကြားဖူးနေသားပဲ။ ဒါပေမဲ့ သူတို့ အဓိပ္ပာယ် ဖွင့်ဆိုတဲ့ အချစ်ဟာ သမီး နားလည်ထားတဲ့အချစ်နဲ့ တခြားစီပဲ"

"အတူတူပါပဲ အယ်လီနာရယ်၊ ဘာထူးလို့လဲ"

ဖရက်က စိတ်ပန်းလူပန်းပုံစံဖြင့် ပြောလိုက်သည်။ သို့ရာတွင် အယ်လီနာ ဘာမျှ မပြောင်းလဲ။

ဖရက်အပ္ပလွန်းသည် စိတ်ထဲတွင် ရှိသမျှ၊ မှန်သည် ထင်သမျှ သွန်ချ၍ ပြောနေ၏။ ကက်စတာသည် ကိုယ့်ကျောရိုးနှင့် ကိုယ် မတ်တတ်ရပ်နိုင်သူ မဟုတ်ကြောင်း၊ ဒါကြောင့် အိမ်ထောင်တခုကို မည်သို့မျှ ဦးစီးဦးရွက် ရှေ့ဆောင်နိုင်မည့်သူ မဟုတ်ကြောင်း၊ အဖေ လုပ်သူက ကက်စတာအား ချိုးချိုးနှိမ်နှိမ်ပြောလေ အယ်လီနာ၏ ဒေါသမုန်တိုင်းက ပြင်းထန် လေလေ ဖြစ်လာ၏။ ဘယ်တုန်းကမျှ မကြည့်ဖူးသည့် မျက်လုံးမျိုးဖြင့် ဖအေကို စူးစူးရှုရှု ကြည့်လိုက်သည်။ မီးတဝင်းဝင်း တောက်လျက်။ ပြီးမှ စိတ်ကို အနိုင်နိုင်ထိန်းလျက် နားလည် လာအောင်၊ လက်ခံလာအောင် နူးနူးညွတ်ညွတ် တောင်းပန်တိုးလျှိုး၏။ နောက်ဆုံး စိတ်ပျက် လက်ပျက်နှင့် ငိုချလိုက်တော့သည်။

"ပါပါရယ်၊ သမီးကို တလျှောက်လုံး နားလည်လာခဲ့ပြီး ခုမှ ဘာဖြစ်လို့ သဘော မပေါက်နိုင်ရတာလဲဟင်။ မတားပါနဲ့တော့ ပါပါ၊ သမီး သူ့ကို ချစ်နေမိပါပြီ"

စားပွဲပေါ်တွင် ကိုယ်တပိုင်း မှောက်ချပြီး ရှိုက်ကြီးတငင် ငိုကြွေးသည်။

အူဝဲအရွယ်မှ လွန်မြောက်ခဲ့သည့် နောက်ပိုင်း အယ်လီနာ၏ မျက်ရည်ကို ဖရက်အပွဂျန်း ပထမဆုံး မြင်ဖူး ခြင်း။ သမီးငယ်ကို ကြည့်ပြီး သူ့ရင်ထဲတွင် နင့်သွားသည်။ တလျှောက်လုံး သားအဖနှစ်ယောက် သူငယ်ချင်းတွေလို တရင်းတနှီး နေလာကြသည့်အတွက် ပို၍ ယူကျုံးမရဖြစ်ကာ ဝမ်းနည်း မဆုံး ငိုကြွေးနေကြောင်း ဖရက် နားလည်လိုက်၏။ အယ်လီနာသည် အကြီးဆုံးသမီးမို့ အငယ် တွေထက် ပို၍ ဖအေနှင့် နီးစပ်ခဲ့၏။ သမီးဦးမို့ ရှူးအောင် ချစ်ခဲ့ရ၏။ အရုပ်ကလေးတွေ ပျက်လျှင် လည်း ဖအေကိုပဲ အပူကပ်၏။ အယ်လီနာ ငယ်ငယ်က ခပ်ဆိုးဆိုး။ ဘယ်သူ့မျှ ဗိုလ်မထား၊ ဖအေဆူလျှင်တော့ ငြိမ်ခံနေတတ်၏။ လိုချင်တာရှိလျှင် အဖေ့ဆီပဲ အပူကပ်၏။ အကြံဉာဏ် လိုချင်လျှင်လည်း အဖေနှင့်ပဲ တိုင်ပင်၏။ ဖရက် ကိုယ်တိုင်အတွက်လည်း အယ်လီနာသည် တိုင်ပင်ဖော် တိုင်ပင်ဖက်။ သားအဖနှစ်ယောက် ဘယ်တုန်းကမျှ သဘောထား မလွဲခဲ့ကြ။

ဖရက်က သူ၏ ရောမ ပခုံးကျယ်ကြီးကို လေးကန်စွာ တွန့်လိုက်သည်။

အဆိပ်ပြင်းစွာ တက်နေသည့် သမီးဖြစ်ထွေကို သဘောပေါက်လိုက်၏။ ဆက်၍ ပြောလေ အမုန်းပွားလေ ဖြစ်တော့မည်ကိုလည်း နားလည်လိုက်၏။ သို့သော် အချစ်ဆုံးသမီးကို စွန့်ရမည့် အရေးမို့ အလျှော့တော့ မပေးချင်သေး။ မိဘစကားကို နားမထောင်မချင်း အခန်းထဲ ပိတ်လှောင်ထားသည့် ခေတ်ကို ပြန်ရောက်လျှင်လည်း အကောင်းသား။

※※※

# (၅)

အယ်လီနာက အိမ်တွင် ဖြစ်နေသည့် ပဋိပက္ခအကြောင်းကို ကက်စတာအား မပြောဘဲ ထားသည်။ အလုပ်ကို ပုံမှန်အတိုင်း လုပ်လျက်၊ ကက်စတာနှင့်လည်း ခါတိုင်းလိုပင် ညနေခင်း များတွင် တွေ့မြဲတွေ့လျက် ဣန္ဒြေမပျက် ဆက်နေသည်။ အများအားဖြင့် ကားလှော်ကစ်စီး ကြခြင်းသာ ဖြစ်၏။ ဝက်သစ်ချမြိုင် သို့ မသွားတော့။ အဘိုးကြီး၊ အဘွားကြီးက မပြန်သေးဘဲ ဝက်သစ်ချမြိုင်တွင် တရစ်ဝဲဝဲလုပ်လျက် ရှိသေး၏။ နှစ်ယောက်သား ပြောစရာတွေ အများကြီး မဟုတ်လား။ ပြီးတော့ ဝက်သစ်ချမြိုင်သွားလျှင် အဘိုးကြီး၊ အဘွားကြီးတွေနှင့် ရင်ဆိုင်နေရဦး မည် မဟုတ်လား။ ကက်စတာက သူတို့အကြောင်းကို လူကြီးတွေအား ဖွင့်ပြောပြီးပြီဟု အယ်လီနာ နားလည်ထားသည်။ သို့သော် လုံးဝမေးမြန်းခြင်း မပြု။ ဖေဖေက ကက်စတာကို နှစ်ပြားမတန်အောင် ပြောသလို ဟိုဘက်ကလည်း မိမိကို အလားတူ တုံ့ပြန်မည်ကို အယ်လီနာ သိပြီး ဖြစ်၏။ ထို့ကြောင့် နှစ်ယောက်တူတူ နေရချိန်ကို ပိုယူပြီး ကြည်ကြည်နူးနူး ရွှင်မြူး ချမ်းအေးစွာ နေကြခြင်း ဖြစ်၏။

သို့သော် နောက်နှစ်ပတ် ဆိုလျှင် တာကြီးက ဖို့ပြီးတော့မည်။ ပြီးလျှင် နယူးအော်လင်း အိမ်ကို ပြန်ရတော့မည်။ အလုပ်တွေက လွတ်ကန်များလာသည်။ ကက်စတာနှင့် နေ့စဉ် တွေ့ချိန် မရတော့။ ဖေဖေနှင့် တိုက်ပွဲကတော့ တင်းမာနေဆဲ။ ရင်လေးနေမိ၏။

မေမေနှင့်ဆိုလျှင် သည်လိုဖြစ်မည် မဟုတ်။ မေမေ့ ဘဝအမြင်က တမျိုး။ ဖေဖေနှင့် မတူ။ ဘဝကို ဘယ်လိုရင်ဆိုင်ရ ရင်ဆိုင်ရ မပူသည့် မိန်းမစားမျိုး။ မေမေ ကလေးဘဝတွင် မေမေ့မိဘတွေ ကွယ်လွန်သွားကြ၏။ မော်လီသည် မိဘမဲ့ ကျောင်းတွင် ကြီးပြင်းခဲ့ရသည်။ အရွယ်ရောက်တော့ ကုန်တိုက်ကြီးတခုတွင် အရောင်းစာရေးမ ဝင်လုပ်သည်။ ဤတွင် ဖရက် အပ္ပဂျွန်းနှင့် တွေ့ခြင်း ဖြစ်၏။ ဖရက်က ရေကာတာ လုပ်ငန်းမှ လက်ထောက်ဖိုမင်ကလေး။ ဖရက်နှင့် လက်ထပ်ပြီး ရေကာတာ တည်ဆောက်ရေးစခန်းတွေ ရှိရာသို့ အတူလိုက်နေသည်။ ဖရက်နှင့် အဖွဲ့သားငါးယောက်ကို မေမေက ကိုယ်တိုင် ချက်ပြုတ်ကျွေးသည်။ နီဂရိုးအမျိုးသမီး အိမ်ဖော်၏ အကူအညီကို မယူခဲ့။ အယ်လီနာကို မွေးဖွားခါနီး နေ့စေ့လစေ့နှင့် မနိုင်မနင်း ဖြစ်လာခါမှ မော်လီအပ္ပဂျွန်းကို ဖရက် အတင်းတားယူရသည်။

ဖေဖေ့တွင် အင်ဂျင်နီယာစာအုပ်ကြီးတွေ ဝယ်ဖတ်ရန် ငွေလိုနေချိန်တွင် အခိုင်းအစေ အတွက် ငွေကုန်ကြေးကျ မခံနိုင်ဟု မေမေက ယူဆသည်တဲ့။ မေမေသည် ၁၁ နှစ်အတွင်း ကလေးခြောက်ယောက် မွေးသည်။ ခုတော့ ချောင်ချောင်လည်လည် နေရပြီမို့ မေမေ့ခန္ဓာ ကိုယ်မှာ ဝဖြိုးလာသည်။ ဘဝ၏ အစုန်အဆန်သဘောကို မေမေသည် ကောင်းစွာ သဘော ပေါက်သည့် အမျိုးသမီး ဖြစ်သည်။

နယူးအော်လင်း အိမ်သို့ ပြန်ရောက်ကြပြီး ကက်စတာ့ အကြောင်း သားအမိ သားအဖ တတွေ ပြောကြတော့ မေမေက သူကိုယ်တိုင် မတွေ့ဖူးသေး၍ ဘာမျှ ဝေဖန်ချက် မပေးလို သေးကြောင်း ပြောသည်။

မော်လီအပ္ပဂျွန်းသည် သမီးဆီမှ ကြားရသည့် ကက်စတာနှင့် လင်ဆီမှ ကြားရသည့် ကက်စတာမှာ တပုံစံစီ ဖြစ်နေ၍ ဘာမျှ နားမလည်နိုင်အောင် ဖြစ်နေ၏။ နောက်ပိုင်း သမီး လုပ်သူထံသို့ မကြာမကြာ ရောက်လာသော ကက်စတာကို တွေ့ရတော့ အလွန် ခင်မင်နှစ်လို ဖွယ်ကောင်းသည့် သူငယ်တဦးဖြစ်ကြောင်း မော်လီအပ္ပဂျွန်း အသိအမှတ်ပြုသည်။ သို့သော် လက်ထပ်ဖို့အထိ စဉ်းစားသည့်အခါ အလွန်အလုပ်များသည့် ဝါစိုက်ချိန်တွင် ဝါခင်းကြီးကို ပစ်ထားပြီး လူပျိုလှည့်ချိန် များလွန်းသည့် အတွက်တော့ စဉ်းစားသင့်ကြောင်း သမီးကို သတိပေးသည်။

"သမီးလည်း သူ့ဆီ နေ့တိုင်း စာရေးနေသားပဲ"

အကဲခတ် ကြည့်သည်။ အယ်လီနာက အခိုင်အမာ ဆုံးဖြတ်ပြီးပုံ။ ဘူးဆိုလျှင် ဖရုံသီး တော့မည် မဟုတ်သည့် သမီးကို သည်ကိစ္စအတွက် နောက်ထပ် တခွန်းမျှ မဟတော့။

မေမေ နားပူနားဆာ မလုပ်သည်ကို အယ်လီနာက ကျေးဇူးတင်မဆုံး ဖြစ်နေ၏။ သို့သော် တင်းမာ ခက်ထန်နေဆဲ ဖေဖေ့ မျက်လုံးတွေကို ဘယ်လို ပုန်းရှောင်ရပါ့မလဲ။ တခါ တခါ ရုံးမှာတက်ပြီး လက်ထပ်ချင်စိတ်ပင် ပေါက်လာသည်။ သို့သော် ကက်စတာ့ ဆန္ဒက မိသား ဖသားပီပီ တောင်းရမ်းချင်သည်။ စေ့စပ်ကြောင်းလမ်း သတင်းကို နယူးအော်လင်းထုတ် "ပီကာယွန်" သတင်းစာတွင် ထည့်ချင်သေးသည် တဲ့လေ။ ပြီးတော့ လက်ထပ်ပွဲကို ဖေဖေ့အိမ် မှာ အကောင်းဆုံး ဘိသိက်ဆရာနှင့် ကျင်းပဦးမည် တဲ့။

တနေ့တွင် နေ့လယ်စာ အတူစားနေကြရင်း ဖေဖေ့အကြောင်း ကက်စတာ့အား ဖွင့်ပြောလိုက်သည်။ ဖေဖေ့အနေဖြင့် သူ့အိမ်တွင် မင်္ဂလာဆောင်ခွင့်ပြုမည် မထင်ကြောင်း၊ ခုထိသဘောတူဖို့ အရိပ်အယောင်

မတွေ့ရသေးကြောင်းများပါ ပြောပြလိုက်သည်။ ပထမ ကက်စတာ အံ့သြနေ၏။ နောက်တော့ မပြုံးဘဲနှင့် ဝါးလုံးကွဲ ရယ်ပါလေတော့သည်။ ဒါရယ်စရာလားလို့ မေးတော့မှ သူ့မိဘတွေကလည်း လုံးဝ သဘောမတူကြောင်း၊ အယ်လီနာနှင့် လက်ထပ်လျှင် ဇာတ်သိမ်းကောင်းလိမ့်မည် မဟုတ်ကြောင်း ကန့်ကွက်သည့် ကိစ္စကို ကက်စတာက ထုတ် ပြောတော့သည်။ သို့သော် နှစ်ဖက်မိဘတို့၏ ကန့်ကွက်ပုံချင်းကတော့ မတူကြပေ။

အယ်လီနာ ဒေါပွသွားသည်။

"အလကား၊ အားလုံး ကြက်ဥခွံတွေချည်းပဲ"

"ဒါကြောင့် သူတို့နဲ့ပြိုင်ပြီး ဆန့်ကျင် မနေတော့ဘူးလေ အယ်လီနာ။ အယ်လီနာကို အရမ်းလိုချင်တယ်၊ မရ ရအောင်ယူမယ်၊ တင့်တောင့်တင့်တယ် လက်ထပ်မယ်၊ သိလား"

ကက်စတာက ရယ်နေပြန်သည်။

"ဒါ ရယ်စရာလား"

ကက်စတာက အူတက်မတတ် ရယ်နေ၏။

"တကယ် ရယ်စရာကောင်းတာ အယ်လီနာ။ မင်းအဖေက တို့ကို မီးစာကုန် ဆီခန်း ဆိုပြီး သဘောမတူတာ။ တို့အဖေ ထင်နေတာက မင်းအဖေဟာ ကိုယ့်ကို အမိဖမ်းပြီး သူတို့ အမျိုးထဲ ဆွဲသွင်းတယ် ထင်နေတာ၊ သိပ်ရယ်ရတာ။ တို့နှစ်ယောက်က အဲဒါတွေ ဘာမှ ဂရု မစိုက်ဘူး၊ တယောက်ကိုတယောက် ဘယ်လောက်ချစ်တယ် ဆိုတာပဲ သိတယ်။ အလကား ကွာ၊ ဒီအဘိုးကြီးတွေတို့ချည်း လွှတ်ထားလိုက်ရင် ပြီးရော"

သည်တော့ အယ်လီနာပါ ရယ်သည်။ ကက်စတာ ပြောသည်မှာ မှန်၏။ နှစ်ဖက် မိသားစု ဆန့်ကျင်ကန့်ကွက်နေကြသည်မှာ လုံးဝ အဓိပ္ပာယ်ရှိသည့် ကိစ္စ မဟုတ်။ ခဏ တွေဝေ စဉ်းစားပြီးမှ အယ်လီနာက-

"သူတို့ကတော့ ဖြစ်နိုင်ရင် တကမ္ဘာစီ ခြားနေစေချင်မှာပဲနော်"

"ကိုယ်တို့နှစ်ယောက်က လွဲပြီး အားလုံး ရူးကုန်ကြပြီ"

ကက်စတာက ပြောပြောဆိုဆို မကုန်သေးသည့် ဟင်းပွဲတွေကို သတိမရတော့ဘဲ စားပွဲထိုးကို ခေါ်ပြီး ငွေတွက် ခိုင်းသည်။ ပိုက်ဆံရှင်းပြီး-

“ကဲ… လာ သွားစို့၊ မင်းအဘိုးကြီးနဲ့ ကိုယ် လိုက်တွေ့မယ်”

ဖရက်အပွဂျွန်းကို ကက်စတာလန်း ရင်ဆိုင်သည်။ ရွှင်ပျသော တည်ငြိမ်မှုဖြင့်။ အယ်လီ နာကတော့ ချစ်သူ၏ သတ္တိကို ချီးကျူး မဆုံးတော့။ ဖရက်၏ ရုံးခန်းသို့ တန်းဝင်သွားပြီး မျက်နှာချင်းဆိုင် ရပ်လိုက်သည်။ အယ်လီနာကို လက်ထပ်မည့် အကြောင်း ခပ်တည်တည်ပင် ကြေညာသည်။

“ကျွန်တော့်ကို သဘောမကျနိုင်တဲ့ အတွက်တော့ ကျွန်တော် ဝမ်းနည်းပါတယ် ခင်ဗျား။ ဒါပေမဲ့ ကျွန်တော် အယ်လီနာကို ဖြစ်တဲ့နည်းနဲ့ လက်ထပ်မှာပါ၊ ကျွန်တော်တို့ နှစ်ယောက်လုံး မိဘရဲ့ခွင့်ပြုချက်ရမှ လက်ထပ်ရမယ့် အရွယ်ကိုလည်း လွန်လာပါပြီ။ အသက် ပြည့်နေကြပါပြီ။ ဒါပေမဲ့ ကျွန်တော်ဟာ ကျွန်တော်တို့ရဲ့ သိမ်မွေ့တဲ့ ရိုးရာအစဉ်အလာကို ထိန်းသိမ်းချင်တဲ့ လူငယ်တယောက်ဖြစ်လို့ ကျွန်တော့်ဇနီးလောင်းရဲ့ မိဘအိမ်မှာ မင်္ဂလာ အခမ်းအနား ကျင်းပချင်ပါတယ်။ ပြီးတော့ ဘာသာဓလေ့ ထုံးတမ်းအစဉ်လာအရ ဂိုဏ်းအုပ် ကြီးက သတို့သမီးကို မင်္ဂလာဆောင်နှင်းခွင့် တောင်းခံတဲ့အခါမှာ “သဘောတူပါတယ်”ဆိုတဲ့ ဖခင် ခွင့်ပြုချက်ကိုလည်း ရယူချင်ပါတယ်”

ဖရက်က သူ့လက်နှစ်ဖက်ကို စားပွဲပေါ်သို့ ကန့်လန့်ဖြတ် ပစ်တင်လိုက်သည်။

“မောင်ရင့် ကြည့်ရတာ ကိုယ့်ဘက်က ကိုယ်တော့ သိပ်သေချာနေတဲ့ပုံပဲ၊ ဟုတ်လား”

“ဟုတ်ကဲ့ ခင်ဗျာ၊ ဟုတ်ပါတယ်”

“အေး… ကျုပ်ကလည်း ကျုပ်ဘက်က သေချာတာ ပြောရဦးမယ်ဗျ။ ကျုပ်သမီး ကို မောင်ရင်နဲ့ ဘယ်တော့မှ သဘောမတူနိုင်ဘူး။ နောက်တခုက လူပုံအလယ်မှာ ကျုပ် သမီးကို မောင့်ရင့်လက်ထဲ ဝကွက်အပ်ဖို့ “သဘောတူပါတယ်” လို့ ဘယ်တော့မှ အာမဘန္ဓေ မခံဘူး”

ကက်စတာက ရယ်သည်။ သူ့ရယ်သံက အေးစက်စက်။

“မစ္စတာအပွဂျွန်းဟာ တော်တော်ခေါင်းမာပုံရတယ်။ ကိုယ့်ပတ်ဝန်းကျင်မှာ ကိုယ် ဆရာတဆူဖြစ်ခဲ့လို့ ငါပြောတိုင်း ဖြစ်ရမယ် ဆိုတဲ့ တယူသန်ဝါဒနဲ့ ဆိုရင်တော့ ဒီတပွဲမှာ အရှုံးနဲ့ ရင်ဆိုင်ရမှာပဲလို့ ကျွန်တော် ပြောချင်ပါတယ်။ အဲဒါဆိုလည်း ကျွန်တော်တို့ရဲ့ အပြစ် မဟုတ်တော့ဘူးပေါ့”

“ဒါဖြင့် ကျုပ်အပြစ်ပေါ့၊ ဟုတ်လား”

“ဟုတ်တယ် ခင်ဗျ၊ ကျွန်တော့်အထင် ပြောရရင် မစ္စတာအပ္ပဂျွန်းဟာ အယ်လီနာ ကို မွေးတုန်းက ဖအေတူ ခေါင်းမာတဲ့ သမီးမိန်းကလေးတယောက် ဖြစ်လာဖို့ စိတ်ကူးရှိခဲ့ ဟန် မတူပါဘူး။ ဒါပေမဲ့ အယ်လီနာကို တကယ်ပျိုးထောင်တဲ့အခါ ဖအေနဲ့တူအောင် ပျိုးထောင် လာခဲ့တယ် ထင်တယ်။ ဒါကြောင့် အယ်လီနာမှာ မစ္စတာအပ္ပဂျွန်း တပ်ဆင်ပေးခဲ့တဲ့ လက်နက် နဲ့ တန်ပြန်တော်လှန်ဖို့ အသင့်ဖြစ်နေပြီ။ ဒါဟာ ဘာလဲဆိုတော့ “သွေးမျိုးဆက်ရဲ့ တုံ့ပြန်မှု” လို့ ခေါ်ပါတယ်”

ခေတ္တ တိတ်ဆိတ်နေကြ၏။ ကက်စတာနှင့် အယ်လီနာက ဖရက်အပ္ပဂျွန်းကို စောင့်ကြည့် နေကြသည်။ နောက်ဆုံးတွင် ဖရက်က ခေါင်းကို ဖြည်းညင်းစွာ ညိတ်သည်။

“နားလည်ပါပြီကွာ၊ ဒီတိုက်ပွဲမှာ ငါ ရှုံးပါပြီ”

အယ်လီနာကို တချက် လှမ်းကြည့်သည်။

“သမီးက ဘာပဲဖြစ်ဖြစ် လက်ထပ်တော့မယ်ပေါ့၊ ဟုတ်လား”

“ဟုတ်ကဲ့ ပါပါ”

“ကောင်းပြီ ကက်စတာ၊ မင်း ပြောတာ ဖြစ်နိုင်ပါတယ်၊ ဒါပေမဲ့ ငါ အဲဒီလို လုံးဝ မထင်ခဲ့မိဘူး”

“ကျွန်တော်လည်း အစက မထင်ပါဘူး ခင်ဗျာ၊ ခု ဒီအခန်းထဲ ဝင်လာပြီး အယ်လီနာ့ အမူအရာကို အကဲခတ်လို့ ရသလောက် ကျွန်တော် ပြောလိုက်တာပါ။ ကျေးဇူးတင်ပါတယ် မစ္စတာအပ္ပဂျွန်း”

သည့်နောက်ပိုင်းတွင် ဖရက်အပ္ပဂျွန်း ဆန့်ကျင်မှု မပြုတော့။ အယ်လီနာအား အဝတ် အစား ဝယ်ဖို့ဆိုပြီး ချက်လက်မှတ်တစောင် ထုတ်ပေးသည်။ သို့သော် သမီးအတွက် ယူကျုံး မရ ဖြစ်နေသည့် အမူအရာကိုကား မဖုံးကွယ်နိုင်။ အယ်လီနာကမူ ကိစ္စပြီးချင်လှပြီ။ ဘာတွေ ဝယ်ရ ခြမ်းရမည်ကိုလည်း အယ်လီနာ မသိ။ တော်သေးသည်။ အီစတာပွဲတော် ကျောင်းပိတ် ရက်မို့ ညီမဖြစ်သူ ဖလောရင့်စ် အိမ်ပြန်ရောက်လာသည်။ ဖလောရင့်စ်၏ အကူအညီကိုပဲ ယူရတော့မည်။ ပီကာယွန် သတင်းစာတွင် စေ့စပ်ကြောင်းလမ်းခြင်း သတင်း ပါလာသည်။ အယ်လီနာ့ဓာတ်ပုံကို ဖော်ပြထားသည်။ လူမှုရေးကဏ္ဍ အယ်ဒီတာက အယ်လီနာ့ထံမှ ဓာတ်ပုံ မရမကတောင်းပြီး ထည့်ခြင်း ဖြစ်သည်။ သည်ကဏ္ဍအကြောင်းကို အယ်လီနာ အစက မသိခဲ့။ သည့်နောက်ပိုင်းတွင်

အယ်လီနာတယောက် ယားလို့ပင် ကုတ်ချိန် မရှိအောင် အလုပ်ရှုပ်ရ တော့သည်။

နောက်တနေ့တွင် သူ့အိပ်မက်တွေ သဲထဲရေသွန် ဖြစ်ရပါပြီဟု ဆိုခဲ့သော မစ္စက်လန်း ရောက်လာသည်။ အယ်လီနာတို့ အမေနှင့် တွေ့ပြီး-

"မစ္စက်အပ္ပဂျွန်းရယ်၊ ဟောဒီ သမီးချောကလေး ကျွန်မတို့ အသိုက်အဝန်းထဲ ရောက် လာတော့မှာမို့ ကျွန်မတို့ဖြင့် ဘယ်လို ဝမ်းသာနေကြရမှန်း မသိဘူး၊ သိလား" ဟု ပဋိသန္ဓာရ စကားဆိုသည်။ ကက်စတာ့ညီ ဆီဘက်စတိန်နှင့် ညီမ အဲလစ်တို့ကလည်း အယ်လီနာကို ထမင်းဖိတ်ကျွေးသည်။ တဖွဲဖွဲ ရောက်လာနေသော အစုလိုက် အပြုံလိုက် မင်္ဂလာလက်ဖွဲ့ ပစ္စည်းတွေကို ကြည့်ပြီး ကက်စတာလန်းနှင့် လက်ထပ်ရခြင်းမှာ အထွတ်အထိပ်သို့ ရောက်ရှိခြင်း တမျိုးပါလားဟု အယ်လီနာ သဘောပေါက်လိုက်သည်။

သစ်သီးလုပ်ငန်းဖြင့် ချမ်းသာလာသည့် "တော်နယ်လီ သစ်သီးကုမ္ပဏီ" ပိုင်ရှင်၏ သမီး လီနာတော်နယ်လီမှာ အယ်လီနာ၏ အခင်ဆုံး သူငယ်ချင်း ဖြစ်၏။ လီနာက လက်ဖွဲ့ပစ္စည်း တွေနှင့် စာတွေကို လက်ခံခြင်း၊ လက်ထပ်ပွဲပြီးလျှင် ပြန်ကြားရမည့် စာများကို ရွေးချယ်ခြင်း စသည့် တာဝန်ကို ယူပေးနေသည်။ လီနာသည် တောင်လိုပုံနေသည့် လက်ဆောင်ပစ္စည်းတွေ ကြားထဲတွင် မြုပ်နေ၏။ အထုပ်အပိုးတွေပေါ်တွင် ချိတ်ဆွဲထားသည့် ကတ်ပြားတွေကို ကြည့်ပြီး မျက်လုံးအပြူးသားနှင့်။

"ဘုရားရေ၊ အယ်လီနာ ဒီမှာကြည့်စမ်း။ ဒီနာမည်တွေဟာ သမိုင်းစာအုပ်ထဲမှာပဲ ရှိတော့တယ်လို့ ငါထင်နေတာ သိလား၊ သူတို့တွေ မသေကြသေးဘူး၊ ဟုတ်လား။ အယ်လီနာ ရယ်၊ နင်ဝင်ရမယ့် အသိုက်အဝန်းက ဆင်တွေချည်းပါလား ဟယ်"

အယ်လီနာ သက်ပြင်းချသည်။ ပြီးတော့ ရယ်သည်။

"တခါတုန်းက ငါ ကက်စတာကို ပြောဖူးတယ်ကွ။ ငါက မြောက်ပိုင်းဆန်တဲ့ အမေရိကန်။ သူက ပဒေသရာဇ်ဆန်တဲ့ တောင်ပိုင်းသားလို့။ ငါပြောတာ ဟုတ်နေပြီ ဆိုတာ ငါ သဘောပေါက်လာပြီ လီနာ"

"ဒီမယ် အယ်လီနာ၊ နင် လက်ထပ်တာဟာ ကက်စတာ တယောက်တည်း မဟုတ် ဘဲ လူဝီစီးယားနားပြည်နယ် တခုလုံးကို လက်ထပ်သလို ဖြစ်နေပြီ"

လီနာက စိတ်ပျက်လက်ပျက် လက်ခါ ပြပြီး-

"ငါတော့ အဲဒါတွေနဲ့ ကင်းကင်းနေချင်တယ် အယ်လီနာ"

“ငါလည်း မရောချင်ပါဘူးဟာ၊ ဒါပေမဲ့ ကက်စတာနဲ့ ပတ်သက်နေတော့”

လီနာက ခေါင်းညိတ်သည်။

“ငါ သူ့ကို တခါပဲ တွေ့ဖူးသေးတယ်၊ သိပ်ချောတာပဲနော်၊ နင်နဲ့ တကယ် ရှေ့သွား နောက်လိုက် ညီတယ် အယ်လီနာ”

“ဟုတ်လား”

“နင့်ဆုံးဖြတ်ချက် မှန်ပါတယ်ကွာ”

အယ်လီနာ ပြုံးသည်။ ကက်စတာ၏ အသိုက်အဝန်း အကြောင်းကို လီနာ သိစရာတွေ အပုံကြီး ကျန်သေးသည်။ မိမိကိုယ်တိုင်ပင် သိခါစရှိသေးသည် မဟုတ်လား။ ဥပမာ သူတို့ ဟန်ဆောင်လောက၏ ဆက်ဆံရေး။ သည်လက်ထပ်ပွဲကို လုံးဝ မလိုလားပါလျက် ဖျက်၍ မရသည့် အခါတွင် အလိုက်အထိုက်ပင် မကဘဲ ရွှန်းရွှန်းဝေအောင် ကြိုဆိုလက်ခံကြသည်။ ဖေဖေ ဖရက်အပွဂျွန်းနှင့် မကွာပါလား။ သူတို့တတွေ၏ ဘဝထဲကို ဘယ်သူမျှ ဝင်မကြည့် နိုင်ကြ။ ပတ်ဝန်းကျင်တခုလုံးက သည်လက်ထပ်ပွဲ၏ ကန့်လန့်ကာ နောက်ကွယ်မှ ပဋိပက္ခ များကို စိုးစဉ်းမျှ မရိပ်မိကြ။ သည်စိတ်ခေတ်ဖြင့်ပင် သူတို့တတွေ ပြည်တွင်းစစ်နှင့် ခေတ်ဆိုး ခေတ်ကျပ်ကြီးတွေကို ကျော်ဖြတ်ခဲ့ခြင်း ဖြစ်မည်ဟု အယ်လီနာ နားလည်လိုက်၏။ သဘာဝ မဟုတ်သည့် ယဉ်ကျေးသိမ်မွေ့ခြင်းများ၊ ဟန်ဆောင်မှု အတိလွှမ်းသည့် အပြုံးများ။

ဖရက်အပွဂျွန်းသည်လည်း ယဉ်ကျေးသိမ်မွေ့သူပင် ဖြစ်ပါ၏။ သို့သော် မတူ။ ဖရက် က တဲ့တိုးသမား၊ မင်္ဂလာမဆောင်ခင် တရက်တွင် ဖရက်က သမီးဖြစ်သူကို ခေါ်တွေ့သည်။

အယ်လီနာက ရင်တထိတ်ထိတ်နှင့် လာခဲ့သည်။ သားအဖနှစ်ယောက် မဆုံဖြစ်သည် မှာ ကြာပြီ။ အယ်လီနာက တမင်ရှောင်နေခြင်း ဖြစ်၏။ ဖခင်၏ မနှစ်မြို့သည့် မျက်လုံးများကို ရှောင်နိုင်သမျှ ရှောင်နေခဲ့ခြင်း။

သမီး ရောက်လာတော့ ဖရက်က ထူးထူးထွေထွေကိစ္စ မရှိသလို ခပ်အေးအေးပင်။ အယ်လီနာအား လက်မှတ်ကလေး တချက်ထိုးခိုင်းသည်။ “တော်နယ်လီ သစ်သီးကုမ္ပဏီ” အစုရှယ်ယာအချို့ကို အယ်လီနာအား လွှဲပြောင်းပေးခြင်း ဖြစ်၏။ တလလျှင် ဒေါ်လာ ၁၀၀ ဝင်ငွေရနေမည် ဖြစ်သည်။ အယ်လီနာ အံ့သြခြင်းဖြင့် ငြင်းဖို့ ကြိုးစားသေးသည်။ သို့သော် မရ။ ကျေးဇူးတင် မဆုံးကြောင်း ပြောတော့ ဖရက်က မနေတတ် မထိုင်တတ်ဖြစ်လျက် သူတတ်နိုင်

သမျှကို ပေးရခြင်း ဖြစ်ကြောင်း ပြန်ပြောသည်။ တော်နယ်လီ သစ်သီးကုမ္ပဏီမှာ အလွန်အလား အလာရှိသည့် လုပ်ငန်းကြီး ဖြစ်၏။ အမေရိကန်အလယ်ပိုင်းတခုလုံးကို ချုပ်ကိုင်ထားသည် ကုမ္ပဏီကြီး ဖြစ်၏။ ယမန်နှစ်က ရေကာတာလုပ်ငန်းနှင့် အဆိုပါ သစ်သီးကုမ္ပဏီ ရှယ်ယာ များမှ ရရှိသည့် ဖရက်၏ ဝင်ငွေမှာ ဒေါ်လာနှစ်သောင်းကျော် ရှိခဲ့သည်။ အယ်လီနာသည် သူ့ကိုယ်ပိုင် ဝင်ငွေဖြင့် အဝတ်အစား ဝယ်နိုင်မည်။ အသေးသုံးအတွက် လုံလောက်မည် ဖြစ်၏။ အဝတ်တစုံ၊ ဖိနပ်တရန်အတွက် လင့်ထံမှ လက်ဝါးဖြန့် တောင်းနေဖို့ မလိုတော့။ ထို့ပြင် တော်နယ်လီကုမ္ပဏီသည် တရှိန်ထိုးတက်နေသည့် လုပ်ငန်းဖြစ်၍ အယ်လီနာ ၏ ဝင်ငွေမှာ တဖြည်းဖြည်း တိုးပွားပေလိမ့်ဦးမည်။

ဖရက်အပ္ပဂျွန်း၏ အလုပ်ခန်းထဲတွင် သားအဖနှစ်ယောက် ထိုင်၍ စကားပြောနေကြ ခြင်း ဖြစ်၏။ အယ်လီနာက ဖြုန်းခနဲ ထပြီး သူ့အဖေ၏ ပါးပြင်ကို နမ်းလိုက်သည်။

"ပါပါဟာ သမီးအပေါ်မှာ သိပ်ကို ကောင်းခဲ့တဲ့ ဖခင်တယောက်ပါ"

အူလှိုက်သည်းလှိုက် ဆက်ပြောနေသည်။

"သမီး တကယ် ပြောတာပါ ပါပါ၊ ပါပါ သမီးတို့ ကိစ္စကို အစကနေ အဆုံးထိမထောက်ခံခဲ့ဘူး ဆိုတာ သမီး သိပါတယ်"

ဆက်အပြောရ ခက်နေသည်။ သည်အကြောင်းကို ကက်စတာနှင့် ဖေဖေ ဆုံပြီးခဲ့သည့် နောက်ပိုင်း တခွန်းမျှ မဟ ဖြစ်ခဲ့ကြတော့။

"ဒါပေမဲ့ ပါပါဟာ တတ်နိုင်သမျှ အရာအားလုံး သမီးကို လိုက်လျောနေတယ် မဟုတ်လား"

ဖရက်အပ္ပဂျွန်းက စားပွဲပေါ်တွင် လက်ကို ကန့်လန့်ဖြတ်တင်ရင်း သမီးကို ကြည့်ပြီး ပြုံးလိုက်၏။

"ပါပါက သမီးကို သိပ်ချစ်တာကိုး သမီးရဲ့"

အယ်လီနာ၏ လက်ကို ဆုပ်လိုက်သည်။

"သမီးနဲ့ ပါပါ ဒီကိစ္စနဲ့ ပတ်သက်ပြီး မကျေမလည် ဖြစ်ခဲ့ကြတယ်၊ ခပ်တန်းတန်း နေခဲ့ကြတယ်၊ ပါပါ့အထင်တော့ သမီးက မှန်တာပါ၊ ပါပါ မှားခဲ့တယ်။ တို့သားအဖ အရင် အတိုင်းပဲ သူငယ်ချင်းတွေလို နေသွားကြရအောင်နော်"

“ဩော်… ပါပါရယ်၊ သမီးကလည်း အဲဒီလိုပဲ နေချင်တာပါ၊ သမီးလည်း ပါပါ့ကို အောက်မေ့နေတာပါ”

အယ်လီနာ့အသံတွင် ငိုသံကလေး ပါနေသည်။

ဖရက်က အယ်လီနာ့ လက်ကို ဆုပ်လိုက်သည်။ ရုတ်တရက် ဘာမျှ ဆက်မပြောနိုင် ကြ။ သားအဖနှစ်ယောက်ကြားတွင် မည်သည့် အတားအဆီးမျှ မရှိတော့။

“ရုံးမှာ ခုခေါ်ထားတဲ့ မစ္စလိုရင်းက သမီးလို အားမကိုးရဘူး”

“တဖြည်းဖြည်း တတ်လာမှာပေါ့ ပါပါရယ်၊ သမီးလည်း ဒီလိုပဲ စသင်ခဲ့ရတာပဲဟာ”

“မဟုတ်ဘူး၊ ပညာအခြေခံကိုက နည်းတယ်၊ အနည်းဆုံး ကောလိပ်ရောက်ဖူးတဲ့ မိန်းကလေးတယောက်တော့ ရှာရမယ်”

အယ်လီနာ ချစ်စဖွယ် ပြုံးလိုက်သည်။ တက္ကသိုလ်ပညာကို အထင်ကြီးတတ်သော ပါပါ။

“ပါပါ မနိုင်မနင်း ဖြစ်လာရင် သမီးကို ပြောလေ၊ သမီး လာကူမှာပေါ့၊ ကက်စတာ ကလည်း ခွင့်ပြုမှာပါ”

“ဟင့်အင်း ကိစ္စ မရှိဘူး၊ ပါပါ ဖြစ်အောင် လုပ်ပါ့မယ်၊ ပါပါလုပ်ရင် မဖြစ် မရှိပါဘူး။ တခုတော့ ရှိတယ်၊ မိန်းကလေးတိုင်းမှာ သမီးလို ဦးနှောက်မျိုးတော့ မရှိကြဘူး”

“မိန်းကလေးတိုင်းမှာလည်း သမီးပါ ပါလို ပျိုးထောင်ပေးတဲ့ အဖေမျိုး မရှိကြပါဘူး”

သားအဖနှစ်ယောက် ပြိုင်တူ ရယ်လိုက်ကြသည်။

“ဘာတဲ့၊ ဟိုနေ့က ကက်စတာ ပြောသွားတာ။ အဲ…… “သွေးမျိုးဆက်ရဲ့ တုံ့ပြန် မှု” တဲ့၊ သိတော့ သိသလိုပဲ၊ ဒါပေမဲ့ အဲဒီ စကားလုံးရဲ့ အဓိပ္ပာယ်ကိုတော့ တိတိကျကျ ပါပါ နားမလည်ပါဘူး၊ စာလုံးတောင် မပေါင်းတတ်ဘူး။ ဒါပေမဲ့ အဲဒါနဲ့ တဆက်တည်း သမီးကို ပြောချင်လာတာ တခုရှိတယ်”

“ဘာများလဲ ပါပါရဲ့”

အယ်လီနာက သူ့လက်ကို ကိုင်ထားဆဲ ဖြစ်သည့် သူ့အဖေ၏ လက်ကို ထပ်ဆုပ် လိုက်ပြီး-

"ပြောပါ၊ သမီး ပါပါ့ကို စိတ်မဆိုးတော့ပါဘူး"

"အင်း... ဘယ်လိုပြောရမလဲ မသိဘူး၊ နည်းနည်းတော့ အပြောရကျပ်သား။ ပါပါ ပြောချင်တာက သမီးဟာ ပါပါနဲ့ တော်တော်များများ တူတယ်၊ ပါပါက နေရာတကာ ပါပါနဲ့ မတူစေ့ချင်ဘူး၊ ဘာလို့ ခုလို ဖြစ်လာရသလဲ ဆိုတာလည်း ပါပါ သိတယ်၊ သမီးက လောက ကြီးကို ခါးစောင်းတင်ချင်တယ်၊ အဲဒီ လောကအမြင်မျိုးကို ပါပါ သဘောမကျဘူး"

"ပါပါ ပြောတာ သမီး သိပ်မရှင်းဘူး"

"အဲ... ဒီလိုလေ၊ ဘဝမှာ ထူးထွေဆန်းပြားတာရယ်လို့ ဘာမှမရှိဘူး၊ သမီးက သိပ်မျှော်လင့်ထားတယ်၊ ဘဝဆိုတာ ပန်းခင်းလမ်းချည်း မဟုတ်နိုင်ဘူး၊ ကံကြမ္မာရဲ့ အလှည့် အပြောင်း ဆိုတာ ရှိစမြဲပဲ။ အဲဒီ တချိန်ကို ရင်ဆိုင်ဖို့ အသင့်အနေအထား အမြဲ ရှိနေရမယ်"

ဖရက်အပ္ပလ္လန်းက သမီးဖြစ်သူ၏ မျက်လုံးပြာပြာတွေထဲသို့ စူးစူးစိုက်စိုက် ကြည့်လိုက် သည်။

"ဒီမယ် သမီး၊ ပါပါ ခု ကောင်းကောင်း နားလည်ပြီ၊ ဟိုတုန်းက လေးလေးနက်နက် မစဉ်းစားခဲ့မိဘူး၊ ပထမဆုံး တာလုပ်ငန်းစတုန်းက တာတမံကြီးတခုလုံး ရေအောက် ရောက် သွားခဲ့ဖူးတယ်၊ အဲဒီတုန်းက ကိုယ့်ကိုယ်ကိုယ် သတ်သေမိမလောက် ဒုက္ခရောက်ခဲ့ရတယ်။ အဲဒီတာကို သုညကစပြီး ပြန်ဖို့ရတယ်၊ နောက်ဖို့တဲ့ တာတမံက အောင်မြင်တယ်၊ ဒီတော့မှ ဘာကြောင့် ပျက်စီးရတယ်ဆိုတာ နားလည်ရတယ်လေ။ ဘာလဲ သိလား၊ အစကတည်းက အကောင်းဆုံး ဖြစ်အောင် မလုပ်နိုင်ခဲ့လို့။ ပါပါ ပြောတာ ယုံရဲ့လား"

"အို... ပါပါကလည်း ယုံပါတယ်"

အယ်လီနာ့ အသံက ရယ်သံပါနေသည်။ အလေးအနက်ပြောခြင်း မဟုတ်ကြောင်း သူတို့ နှစ်ယောက်လုံး သိနေကြသည်။

ဖရက်က ခေါင်းယမ်းပြီး-

"ပါပါ ပြောတာ သမီး သေသေချာချာ စဉ်းစားစမ်းပါ ၊ ဒါကို

သဘောပေါက်ထားရင် ရေထဲမိုးထဲကျ ခံနိုင်ရည်ရှိတာပေါ့။ ဘဝတိုက်ပွဲအတွက် ကိုယ်ပိုင်လက်နက်ရှိဖို့ ပြောတာ၊ သမီးအတွက် ပြောနေတာနော်၊ ပါပါ့အတွက် မဟုတ်ဘူး”

“ဟုတ်ကဲ့ပါ ပါပါ”

အယ်လီနာက ရှေ့သို့ ကိုင်းပြီး သူ့အဖေ လည်ပင်းကို သိုင်းဖက်လိုက်သည်။

“ပါပါဟာ တကယ့်ကို ဦးဆောင်မှုပေးနိုင်တဲ့ ပုဂ္ဂိုလ်တယောက်ပါ၊ ပါပါ့ကို သမီး ချစ်ပါတယ် ပါပါရယ်၊ သမီး အတွက် သိပ်ပြီး အစိုးရိမ်ကြီး မနေပါနဲ့၊ အားလုံး အဆင်ပြေမှာပါ၊ သမီးဘဝကို သမီး ကျေနပ်နေပါတယ်၊ ကက်စတာနဲ့ ဆိုရင် ပျော်နေမှာပါ”

“အေး အေး၊ ပါပါ့ သမီး ပျော်ရွှင်ငြိမ်းချမ်းပါစေလို့ ပါပါလည်း ဆုတောင်းပေးပါ့ မယ်ကွယ်”

နောက်တနေ့တွင် လက်ထပ်မင်္ဂလာပွဲ ကျင်းပသည်။ မေလ နောက်ဆုံးအပတ်ထဲ တွင် ဖြစ်၏။ ပင်လယ်ကမ်းခြေသို့ မင်္ဂလာခရီး ထွက်ကြသည်။ မိုးအောက်မြေပြင် တခွင်လုံးတွင် သူတို့ နှစ်ယောက်တည်း ရှိကြသည့်အလား။

ဩော်… တသိမ့်သိမ့် ကြည်နူးရသည့် ဘဝတွင် အလှအပတွေ ဝေဆာလျက်ပါတကား။

※※※

# အခန်း (၃)

## (၁)

ပင်လယ်ရေပြင်သည် ခရမ်းရောင် မှန်ချပ်ကြီးတခုနှင့် တူနေ၏။ ကမ်းခြေဟိုတယ် တဝိုက်မှ တောင်ထန်းရွက်တို့သည် ချစ်စဖွယ် ယိမ်းနွဲ့ကခုန်လျက်။ ဟိုတယ်အဆောက်အအုံ သည် ကမ်းခြေ သဲသောင်ပြင်လို ဆွတ်ဆွတ်ဖြူ တောက်ပနေ၏။ ချစ်စရာ ရောင်စုံနေ့များသည် ဆက်တိုက်ကုန်လွန်လျက် ရှိသည်။ ကက်စတာနှင့် အယ်လီနာတို့ နှစ်ယောက်သည် ရေကူး လိုက်၊ လမ်းလျှောက်လိုက်၊ မဆုံးနိုင်သည့် သဲသောင်စပ်တွင် နေဆာလှုံလိုက်ဖြင့် အချိန်ကုန်မှန်း လုံးဝ မသိကြ။ ချစ်စ ကြင်စ ဇနီးမောင်နှံတို့ဘာဝ တယောက်မျက်နှာ တယောက်ကြည့်ကာ ဖြင့် အကျေနပ်ကြီး ကျေနပ်နေကြ၏။ ရုံဖန်ရံခါ စကားတလုံးမျှ မပြောဖြစ်ကြဘဲ တယောက် ကိုတယောက် ငေးကြည့်ရင်း ကြည်နူးမဆုံး ဖြစ်နေတတ်သည်။ အတူနေရခြင်း၏ အလှအပ တို့သည် ဆန်း၍ သစ်၍ မဆုံးနိုင်တော့ပြီ။ ဘယ်တော့မှ ဆုံးတော့မည် မဟုတ်ဟု အယ်လီနာ ထင်မှတ်နေတော့သည်။

အယ်လီနာအဖို့ စိတ်၏ ငြိမ်းချမ်းမှုကို ပထမဆုံး ခံစားနားလည်ရခြင်း။ စိတ်လိုက်မာန်ပါ လုပ်တတ်ကိုင်တတ်သူမို့ အယ်လီနာ့ဘဝတွင် ဗာဟီရကိစ္စတို့ဖြင့် အမြဲအလုပ်ရှုပ်နေတတ်သည်။ အအားမနေတတ်၊ နားရမည့် အချိန်သည် အယ်လီနာ့အတွက် ပျင်းစရာ အကောင်းဆုံး။ အားအင် ကို အမြဲအသုံးချနေရဖို့အတွက် အလုပ်တခုခုကို အမြဲရှာဖွေနေတတ်သူ ဖြစ်၏။ ခုတော့ အယ်လီနာတယောက် အားလပ်ခြင်း၊ အနားယူခြင်းတွင် နစ်မျောလွင့်ပါနေပြီ။

လွန်ခဲ့သည့် လပိုင်းက စိတ်ပန်း လူနွမ်းခဲ့သည်များကို ပြန်တွေးနေမိ၏။ ခုတော့ တိမ်ညွန့် တိမ်စိုင်ထဲတွင် လေဟုန်စီးနေရသည်နှင့် မခြားပါတကား။ ဘဝတွင် သည်လိုအခန်းကဏ္ဍမျိုး ရှိလိမ့်မည်ဟု အယ်လီနာ လုံးဝ မသိခဲ့ဘူးကွယ်။ ကက်စတာ ဆိုသည့် ချစ်သူသည် အယ်လီနာ အတွက် ကမ္ဘာကြီးတခု ဖြစ်ခဲ့လေပြီ။ ပျော်နေသည်ကိုပဲ သိသည်။ ဘာကြောင့် ပျော်နေမိသည်ကို ဂရုမစိုက်ချင်တော့ဘူးလေ။

ရွှေလည်တိုင်ကြော့ကြော့ကို ချစ်သူနမ်းပြီး နှုတ်မှ မိုးစင်စင်လင်းပြီလို့ သိရသည့်

နံနက်ခင်း တွေ မနည်းတော့ပြီ။ သည်လိုအခါမျိုးတွင် အယ်လီနာသည် မျက်လုံးပြာများကို ဖွင့်ပြီး ချစ်သူမျက်နှာကို မြတ်နိုးမဆုံး ကြည့်နေတတ်၏။ နေ့လယ်ပိုင်း ပူအိုက်ချိန်တွင် ရေဆင်းကူးပြီး ရေစပ်တွင် ပက်လက်လှန်၍ ဆံပင်တွေကို အခြောက်လှန်းနေချိန်တွင် ကက်စတာက သီးစုံ ဖျော်ရည် ပြေးယူပေးတတ်သည်။

ရေချိုးပြီးစ ဝတ်ရုံကြီး ဖိုးရိုးဖားရားနှင့် နေလျှင်လည်း အယ်လီနာသည် တမျိုး ကြည့်ကောင်း နေသည်ပင်။

“ခုလို နေလည်း လှတာပဲ” ဟု ပြောရင်း နှစ်ယောက်သား ပူးကပ်ထိုင်ပြီး ဖျော်ရည်သောက်ကြသည်။ ညချမ်းချိန်ခါများတွင် ကဖြစ်ကြသည့်အခါ အလွန် အက ကောင်းသလောက် မမောတမ်း ကနိုင်သည့် ချစ်သူ၏ အရည်အချင်းကို အယ်လီနာ အသိအမှတ် ပြုရပြန်၏။ “တာကီထရော့” လို အကမျိုးကို စည်းသွက်ကရသည့်တိုင်အောင် ကက်စတာ မမောတတ်။ သည်အကကို သရုပ်ပျက်အကဟု ဝိုင်း၍ ဝေဖန်နေကြောင်း အယ်လီနာက ပြောတော့-

“လွန်ခဲ့တဲ့ နှစ်တရာလောက်မှာ “ဝေါ့ဇ်” စကကြတုန်းကလည်း ဒီလိုပဲ ဝေဖန်ခဲ့ကြ တဲ့ အကြောင်းတွေ မဖတ်ဖူးဘူးလား” ဟု ကက်စတာက ပြန်မေးသည်။

အယ်လီနာ မကြားဖူးခဲ့ပါ။ သည်လို ရှာရှာဖွေဖွေ ပြုံးစရာ အကြောင်းအရာတွေ ကက်စတာ့တွင် အမြဲ ရှိနေတတ်သည်။ ဘိုးစဉ်ဘောင်ဆက်မှ စုဆောင်းလာခဲ့သည့် ဝက်သစ်ချ မြိုင် စာကြည့်တိုက်ကလည်း စုံလင်လှသည် မဟုတ်လား။ ကက်စတာ့လို လူမျိုးကို မချစ်ခဲ့မိလျှင်တောင်မှ အလွန်ခင်မင် နှစ်လိုဖွယ်ရာ ကောင်းသည့် အပေါင်းအသင်း အဖြစ်တော့ အယ်လီနာ လက်ခံမည် မုချ။ ခုတော့ ချစ်မိပြီ၊ ချစ်သည်မှ အရာတိုင်းကို မေ့လျော့နေလောက် အောင် ချစ်သည့် အချစ်မျိုး။ အချစ်ရှိန်သည် ဒီရေတက်သည့်အလား။ ချစ်သူ၏ ရင်ခွင်တွင် နားနေရ၏။ ချစ်သူ၏ ပခုံးသားများပေါ်တွင် မျက်တောင်ကလေး မှေးစင်းပြီး အိပ်ပျော်ခြင်းသို့ ရောက်ရ၏။

အို . . . မောင်ရယ်၊ သည့်ထက် ကြည်နူးစရာ ကမ္ဘာမှာ ရှိနိုင်ပါဦးမည်လားကွယ်။ သည်နေ့တွင် အယ်လီနာတယောက် ကက်စတာ၏ ပျော်ပျော်နေသေခဲ ဝါဒနှင့် ပို၍ နေသားတကျ ဖြစ်စ ပြုလာသည်။ ကက်စတာသည် မနောလိုချင်စရာ ကောင်းလောက်အောင် လူချစ်လူခင်ပေါသူ ဖြစ်သည်။ စားပွဲထိုး၊ ထမင်းချက်ကစ သူ့ကို ခင်ကြသည်။ တစုံတယောက် နှင့် သိကျွမ်းပြီး တရက် နှစ်ရက်အတွင်း ငယ်ပေါင်းကြီးဖော်တွေလို ဖြစ်သွားတတ်သည်။

နယူးအော်လင်းမှ ရှန်ဟဲအထိ ခရီးသွားရလျှင်တောင် အယ်လီနာလို

မိန်းကလေးက လမ်းတွင် စကားတလုံး ပြောဖြစ်ချင်မှ ပြောဖြစ်မည့် မိန်းကလေး။ ခုတော့ အယ်လီနာ သူ့ကိုယ်သူ အံ့သြမဆုံး ဖြစ်နေပြီ။ အလိုလို လူချစ်လူခင် ပေါ်နေသော ကက်စတာနှင့်အတူ လိုက်၍ ပျော်နေမိသည်။ ရွှန်းရွှန်းဝေအောင် ပြောတတ် ဆိုတတ်သူ မဟုတ်ပေမယ့် ကက်စတာ နှင့် ရောပြီး ကြည်နူးနေမိသည်။ စကားတွေ ဖောင်ဖွဲ့နေမိသည်။

"မစ္စကက်လန်းရယ်၊ ခင်ဗျားတို့ ဇနီးမောင်နှံနဲ့ ဆုံရလို့ ဒီအခေါက်ဟာ ကျွန်တော်တို့ အတွက် ပျော်စရာ အကောင်းဆုံးပါပဲဗျာ"ဟု ပြောလာကြလျှင် လင်တော်မောင်ကြောင့် ချီးကျူးခံရတာပဲဟု အယ်လီနာ ခံစားရသည်။ ထိုအခါမျိုးတွင် သည်လို ယောကျ်ားမျိုးကို ပိုင်ဆိုင်ရခြင်းအတွက် ဂုဏ်ယူမဆုံး ဖြစ်ရပြန်သည်။ ချစ်လင်နှင့် တွဲသွားရလျှင် အယ်လီနာ ခေါင်းကလေး မော့ထားတတ်၏။ ဟိုတယ်ခန်းမထဲသို့ နှစ်ယောက်သား ဝင်သွားကြလို့ အမျိုးသမီးတွေ ကက်စတာ့ကို လှမ်းပြီး ဝိုင်းငမ်းကြလျှင် အယ်လီနာ သဘောကျနေတတ်သည်။ အယ်လီနာသည် ကိုယ့်ကိုယ်ကိုယ် ဘယ်တော့မှ လျှော့တွက်တတ်သည့် မိန်းကလေးမျိုးတော့ မဟုတ်။ သို့ပေမဲ့ ဘာကြောင့်များ ကက်စတာ သူ့ကို ရွေးပါလိမ့် ဟူသည့် မေးခွန်းကို အကြိမ်ကြိမ် စဉ်းစားမိသည်။ ပြီးတော့ မိမိဘဝကို မိမိ ပို၍ ပို၍ ကျေနပ်ရပြန်သည်။

ကက်စတာ၏ ဘဝတွင် အရာတိုင်းသည် လွယ်ကူချောမွေ့လွန်းနေသည်။ ထိုအခါတွင် အယ်လီနာ တလျှောက်လုံး လိုက်နာကျင့်သုံးလာခဲ့သည့် ကျင့်ဝတ်နီတိတွေသည် ကက်စတာ အတွက် လိုက်နာရန် ခက်ခဲသည့် အထူးအဆန်းတွေ ဖြစ်နေတော့၏။ နာရီ သံပတ်ပေးဖို့ကို အမြဲ မေ့တတ်သည်။ အဝတ်အစားလဲရာတွင် ပစ်စလက်ခတ်နိုင်သည်။ ဘယ်တော့မှ သူ့ပစ္စည်း သူ ရှာမတွေ့တတ်။ မင်္ဂလာခရီးတလျှောက်လုံး သူ့ပစ္စည်းတွေကို သိမ်းရဆည်းရသည်နှင့်ပင် အချိန်ကုန်ရသည်ဟု အယ်လီနာက မကြာခဏ ထုတ်ပြောတတ်၏။ ထွက်သမျှ သတင်းစာတွေ ဝယ်သည်။ ဘယ်တော့မှ စီစီညီညီထားဖို့ စိတ်မကူး။ ဖတ်ပြီးလျှင် တွေ့ရာနေရာတွင် ပစ်ထား ခဲ့သည်။

"မောင်ဟာလေ ဗရုတ်သုတ်ခ အလွန်နိုင်တယ်၊ ရှုပ်ပွနေမှ သဘောကျတယ်၊ ဟုတ် လား" ဟု နားပူနားဆာ လုပ်သော်လည်း အကြောင်းမထူး။

"ရွေးကောက်ပွဲမှာ ဝီလ်ဆင်ပဲနိုင်နိုင်၊ ရူးစဗဲ့ပဲရရ အကြောင်း မဟုတ်ဘူး။ အရေးကြီး တာက သတင်းစာတွေကို ပစ်စလက်ခတ်ထားဖို့ပဲ ဆိုသလို ဖြစ်မနေဘူးလား မောင်" ဟု ဆိုလျှင်တော့ သူ ရယ်နေတတ်သည်။ သို့သော် သေသေသပ်သပ် သိမ်းသိမ်းဆည်းဆည်း ဖြစ် မလာ။

ချက်လက်မှတ်ရေးထိုးပြီး ညီညီညာညာဖြဲဖို့ ဘယ်တော့မှ မကြိုးစား။

လက်ခံဖြတ်ပိုင်း တွင် ဘယ်တော့မျှ ပြည့်ပြည့်စုံစုံ မကျန်ခဲ့။ အယ်လီနာက ပူညံပူညံလုပ်တော့ "အချစ်ကလည်း ကွယ်၊ ဘဏ်စာရင်းရှင်းတမ်း လာမှာပေါ့၊ ဘဏ်အမှုထမ်းတွေ အဲဒီအတွက် ခန့်ထားတာပဲ" တဲ့လေ။

သည်တော့လည်း မကျေမချမ်းနှင့် အယ်လီနာ ရယ်ရပြန်သည်။ "ရှင့်ဝေယျာဝစ္စကို လုပ်ပေးဖို့ အနားမှာ နတ်သမီးကလေးတွေ ရှိနေတယ်လို့များ ရှင်ထင်နေလားဟင်"ဟု ပြောလျှင်တော့ "အင်းလေ...... ဟုတ်သားပဲ၊ အချစ်ကိုလည်း သူတို့ လွှတ်လိုက်တာ မဟုတ်ဘူးလား" ဟု ပြန်ချေတတ်သည်။

သာမိုမီတာမှ ပြဒါးအမှတ် ၉၀ သို့ ရောက်နေသည့် နွေခင်းကြောင်တောင်ကြီးတွင် ဝီစကီသောက်ပြီး ခေါင်းမကိုက်ဘဲ၊ အပြုံးမပျက်ဘဲ ခါတိုင်းလိုပင် ပေါ့ပါးရွှင်လန်းနေမြဲ ရှိတတ် သည်ကိုလည်း အယ်လီနာ အံ့သြမဆုံး။

မင်္ဂလာခရီး ပြီးဆုံးတော့ ဝက်သစ်ချမြိုင်သို့ ပြန်လာခဲ့ကြသည်။

ဝက်သစ်ချမြိုင်ရှေ့တွင် အစေခံတွေက သူတို့ ဇနီးမောင်နှံကို စုရုံးကြိုဆိုကြသည်။ ကက်စတာ၏ မိခင်က ရင်းနှီးသည့် အပေါင်းအသင်းများနှင့် ဆွေမျိုးတသိုက်ကို ခန်းမကြီး ထဲမှ စောင့်ဆိုင်းစေပြီး သားနှင့် ချွေးမကို ကြိုဆိုနှုတ်ဆက်သည်။

အပေါ်ထပ်သို့ တက်ခဲ့ကြ၏။ ကက်စတာ့ကိုရော ကက်စတာ၏ အဖေကိုပါ မွေးဖွား ခဲ့သည့် အခန်းကို ရောက်ကြသည်။ အီတာလျံ ကျောက်ဖြူသားဖြင့် ပြီးသည့် မီးလင်းဖို ရင်တား ပေါ်တွင် ကျူးလစ်ပန်းတွေက ဖူးပွင့်ဝေဆာလျက်။ ပန်းနုရောင်ပိုးသားအမိုးအောက်မှ ရောမ ခုတင်ကြီးမှာ ရှည်ကြာလှပြီ ဖြစ်သည့် ရိုးရာအစဉ်အလာကို ထိန်းသိမ်းထားဖို့၊ သွေးမျိုးဆက် တို့ ရှင်သန်ပေါက်ဖွားစေဖို့အတွက် တမင် တည်ရှိနေသည့်နှယ်။ အိပ်ခန်းနှင့် တဆက်တည်း အခန်းမှာ ဧည့်ခန်းငယ်တခု ဖြစ်သည်။

ဧည့်ခန်းကလေးမှာ အဖိုးတန် သစ်နီသားနှင့် ပြုလုပ်သည့် ပရိဘောဂများဖြင့် ပြင်ဆင် မွမ်းမံထား၏။ နှင်းဆီပန်းတွေက ပန်းနုရောင်။ အယ်လီနာက အခန်းပတ်ပတ်လည်ကို ဝေ့ကြည့် ရင်း အိပ်ခန်းကြီးဆီသို့ ပြန်လှည့်ကြည့်လိုက်သည်။ ပြတင်းပေါက်မှ လှမ်းမြင်နေရသည့် မြင်ကွင်းမှာ ဝက်သစ်ချမြိုင်၏ အလှသင်္ကေတ ဖြစ်သည့် ဝက်သစ်ချမြိုင်တန်း။ တပင်နှင့် တပင်၊ တကိုင်းနှင့် တကိုင်း လေအဝှေ့တွင် တီးတိုးစကား ဆိုနေဘိသို့။ သည်အပင်တွေသည် သည်ဟန်အတိုင်း ရာစုနှစ်ပေါင်းများစွာကို ဖြတ်သန်းလာခဲ့ကြသည့် အပင်တွေ ဖြစ်သည်။

အယ်လီနာသည် မိမိ၏ ပုဂ္ဂလိက ဘဝကို ဝက်သစ်ချမြိုင်၏ ရှေးဟောင်းအစဉ်အလာ တွေက ဝါးမျိုပစ်လိုက်သလို ခံစားလိုက်ရသည်။ အယ်လီနာ ဆိုသည့် မိန်းကလေးသည် မရှိတော့။ ရဲတိုက်ကြီးတခု၏ နံရံမှ ကျောက်တုံးတတုံးလို ဝက်သစ်ချမြိုင်၏ အစိတ်အပိုင်း တခုဖြစ်သည့် မစ္စက်ကက်စတာလန်း သာလျှင် ကျန်ရှိတော့သည်။

"သိပ်လှပြီး သိပ်ကို ချစ်စရာကောင်းတာပဲ မောင်ရယ်၊ ပြီးတော့လေ သိပ်ခမ်းနားတာပဲ ကွယ်"ဟု ခပ်ညည်းညည်းကလေး ပြောမိသည်။ နောက်ပိုင်းတွင် အယ်လီနာသည် ရေပန်းဖွား အောက်တွင် ရေချိုးနေရင်း ရှေးဟောင်း မဟော်ဂနီ မှန်တင်ခုံကြီးရှေ့၌ ရပ်၍ သူ့ကိုယ်သူ ကြည့်မိသည်။ သူ့ပုံရိပ်သည် သူ မဟုတ်တော့သလို ဖြစ်နေသည်။ အခြား မိန်းကလေး တယောက်များ ကိုယ့်နေရာမှာ အစားဝင်နေပြီ လားကွယ်။

အဝတ်တွေထည့်ရန် အံဆွဲကို ဆွဲဖွင့်တော့ အံဆွဲက ခပ်ကျပ်ကျပ် ဖြစ်နေသည်။ နယူးအော်လင်းအိမ်မှ သူ့ကိုယ်ပိုင် အခန်းကို ပြန်သတိရလိုက်၏။ ပရိဘောဂတွေမှာ အားလုံးအသစ်၊ ဖိတ်ဖိတ်တောက်။ ပြီးတော့ အမြဲထိတွေ့ သုံးစွဲနေသည် မဟုတ်လား။ အပွဲဂျွန်း မိသားစုသည် ဗီရိုအံဆွဲတွေ ကျပ်နေရလောက်အောင် ပရိဘောဂတွေကို အသုံးမပြုဘဲ ထားနိုင်သည့် မိသားစုမဟုတ်။ ရှေးဟောင်းမှန်ကြီးရှေ့တွင် ရပ်ပြီး အလှပြင်ချိန် ရှိကြသူတွေ မဟုတ်။ ခုတော့ ပဥ္စလက်အတတ်ဖြင့် ဖန်ဆင်းထားသော တကယ်မရှိသည့် ကမ္ဘာတခုကို ရောက်နေသူလို ဖြစ်နေ၏။ အရာတိုင်းသည် လှပနေ၏။ သို့သော် ဝိုးတဝါး။ အိပ်မက်လှလှ ထဲတွင် တွေ့ရတတ်သည့် အလှအပမျိုး။

※※※

# (၂)

အယ်လီနာ ဖေဖေ့ဆီသို့ စာရေးဖြစ်သည်။

“ပါပါရေ၊ သမီးလေ ခုကောင်းကောင်းကြီး အနားရနေတယ်၊ သိပ်ပျော်စရာ ကောင်းတဲ့ နည်းမျိုးနဲ့ ပါပါ့သမီး ပြောင်းလဲနေပုံကို မှန်းကြည့်စမ်းပါဦး။ မျက်နှာ ကြက် အမိုးပါတဲ့ ရေးဟောင်း ခုတင်ကြီးပေါ်မှာ အိပ်ရာက နိုးတာနဲ့ ပန်းဖွားတပ် ဆွဲကြိုးကို လှမ်းဆွဲရတယ်။

အချက်ပေး ခေါင်းလောင်းတွေကို ဝါယာကြိုးတွေ၊ စက်သီးတွေနဲ့ ၁၈၄၁ ခုနှစ် ဆောက်လုပ်ရေးစနစ်အတိုင်း ဆင်ထားတာ။ သမီး တခုခုကို လိုချင်လို့ ဆွဲလိုက်ရင် သက်ဆိုင်ရာ အစေခံတွေရဲ့ အခန်းတွေမှာ သွားမြည်တယ်။ အဲဒီ အိမ်စေအလုပ်သမား တွေ နေတဲ့ နောက်ဖေးဘက်ကို ခုထိ သမီး မရောက်ဖူးသေးဘူး။ ခဏ ပြန်နှပ်နေပြီး တအောင့်ကြာတော့ ကပ္ပလီမတယောက် ဝတ်ရုံဖားဖားကြီးနဲ့ ကော်ဖီလင်ပန်းကိုင် ဝင်လာရော။ ကော်ဖီလာပို့တဲ့ ကပ္ပလီအမျိုးသမီးကို တယောက်တည်း ဒိုင်ခံတာဝန် ပေးမထားဘူး၊ အလှည့်နဲ့ ခိုင်းတယ်။ ဝက်သစ်ချမြိုင်ကို စီမံဖို့ အစေခံတွေက အများ ကြီးရယ် ပါပါရဲ့။

သူတို့တတွေဟာ ဝက်သစ်ချမြိုင် လုပ်သားတွေက ဝါခင်းထဲမှာ မွေးခဲ့ကြတဲ့ ခြံပေါက်တွေချည်းပဲလို့ ကက်စတာက ပြောတယ်။ သူက အားလုံးကို ပြန်ပြီး အလုပ် ပေးထားတာတဲ့လေ။ နံနက်စာစားတဲ့ သီးသန့်ဝတ်စုံကို လဲပြီး အောက်ထပ်ကို ဆင်းရ တယ်။ နံနက်စာခန်းကလည်း သိပ်ခမ်းနားတာပဲ ပါပါ။ မဟော်ဂနီစားပွဲကြီးပေါ်မှာ ပန်းတွေကလည်း ဝေလို့။ နံနက်စာကတော့ ပြောင်းဖူးပေါင်မုန့်၊ ဝက်ပေါင်ခြောက်နဲ့ ဝေဖာဘီစကွတ်တို့လို ဟာမျိုးတွေပေါ့။ နံနက်စာ စားပြီးလို့ တအောင့်ကလေးနေတာနဲ့ ကပ္ပလီတွေက မြင်းနှစ်ကောင်ကို အသင့်ပြင်ထားပြီးပြီလေ၊ ကက်စတာနဲ့ သမီး ဝါခင်းတွေ ကြည့်ရှင်း လျှောက်စီးကြတယ်။ သမီးလေ ခု ဝါဂွမ်းအကြောင်း တော်တော် နားလည်နေပြီ။ သမီးက မြင်းကို ခွစီးတော့ ကက်စတာ အထိတ်တလန့် ဖြစ်နေသေးတယ်လေ၊ ခုခေတ် တ္တန္ဒြေရှင်အမျိုးသမီးတွေတောင် ဒီလိုပဲ စီးနေကြပါပြီလို့ မနည်း ပြောရတယ်။ တင်ပါးလွှဲစီးဖို့လည်း သမီး မတတ်ပါဘူး။

သမီးက ဝါခင်းကို ခဏတဖြုတ် လှည့်ပတ်ကြည့်ပြီး အိမ်ကို အရင် စီးပြန် နှင့်တယ်၊ အိမ်ပြန်ရောက်တော့ နေထိမခံတဲ့ အမေရိကန်မကလေးလို သမီးကို လုပ်ကြပြန်ရော။ သိပ်ပင်ပန်းလာတဲ့ လူကို ဂရုစိုက်နည်းမျိုးနဲ့ ကပ္ပလီမကလေးတ ယောက်က သမီးကို အဝတ်လဲပေးတယ် တဲ့လေ၊ အဲဒီအခါမှာ ငှက်ကုလားအုတ်မွေး နဲ့ အနားကွပ်ထားတဲ့ ဝတ်ရုံပါးပါး ပေါ့ပေါ့ကလေးကို ဝတ်ရတယ်၊ ပြီးတော့ ဖောင်းကြွ ဇာခန်းဆီးတွေနဲ့ သမီးကိုယ်ပိုင် ဧည့်ခန်းကလေးမှာ ခဏနားပြီး သံပရာရည်တခွက် သောက်တယ်။ ပြီးတော့

မင်္ဂလာလက်ဖွဲ့ ပစ္စည်းရှင်တွေဆီကို ကျေးဇူးတင်ကြောင်း စာတွေ ပြန်ရတယ်။

လောလောဆယ် ဝက်သစ်ချမြိုင်ကို စီမံအုပ်ချုပ်ဖို့က ရောမတာဝန်ကြီးပဲ ပါပါ။ ဒါကြောင့် ကက်စတာတို့ အမေက နယူးအော်လင်းကို မပြန်သေးဘဲ တလလောက် နေပေးဦးမယ် တဲ့၊ သမီး အသားကျသွားတဲ့ အထိပေါ့။ ခုတော့ သမီးက မြင်းစီး၊ စာရေး လုပ်နေချိန်တွေမှာ အဘွားကြီးက စီမံစရာ အိမ်မှုကိစ္စတွေကို သူကိုယ်တိုင်ပဲ လုပ်နေ တယ်လေ။ ပါပါရေ၊ ခုထိတော့ အားလုံးက သမီးကို ကြွေရုပ်ကလေး အလှပျက်သွား မှာ စိုးသလို ဖူးဖူးမှုတ်ထား ကြလေရဲ့။

နေ့လယ် နှစ်နာရီမှာ ညနေစာအတွက် အဝတ်လဲရပြန်တယ်၊ နေ့လယ်စာကို ညစာခန်းမမှာ စားရတယ်။ အခန်းကြီးက ပြည်နယ် ထမင်းစားပွဲတွေ ကျင်းပတဲ့ခန်းမ ကြီး ကျနေတာပဲ၊ ဟင်းလျာတွေကတော့ အလျှံပယ်ပဲ ပါပါရေ။ နေ့တိုင်း “အံတိုနီ” ဟိုတယ်မှာ သွားစားနေရသလိုပါပဲ။ မျက်နှာကြက်ကနေ တွဲလဲကျနေတဲ့ “ဆွဲယပ်” ကြီးကို နီဂရိုးသူငယ်ကလေးတယောက်က ကြိုးဆွဲပြီး လွှဲပေးတယ်လေ။ ခြင်တို့၊ ယင်တို့ ဆိုတာ မြင်ချင်လို့တောင် မမြင်ရဘူး။ ပြတင်းပေါက်တွေကို ခြင်ကာ တပ်ထား ရင် ပြီးတာပဲနော်၊ ဒါပေမဲ့ ခေတ်ဟောင်းရဲ့ နူးညံ့သိမ်မွေ့တဲ့ အစဉ်အလာ အသုံး အဆောင်တွေကို သမီး သဘောကျစပြုနေပြီ ပါပါရေ။

ညနေစာ စားပြီးတော့ အဝတ်တခါလဲရပြန်ရော။ ဒီတော့မှပဲ ကိုယ်ဝတ်ချင် တာ ဝတ်ရတော့တယ်၊ လှလှပပကလေး ဝတ်ဆင်ပြီး လူတော တိုးရဦးမှာကိုး။

အောက်ထပ်ဧည့်ခန်းကို ဆင်းပြီး မစ္စက်လန်းရဲ့ နံဘေးမှာ သိမ်သိမ်မွေ့မွေ့ ကလေး ဗိုင်းကောင်းကျောက်ဖိ ပုံစံမျိုးနဲ့ ထိုင်ရင်း လာတဲ့ ဧည့်သည်တွေကို လက်ခံ တွေ့ဆုံရတယ်လေ။ မစ္စက်လန်းက စိန့်မာဂရက် နှစ်ခြင်းသာသနာပြု ဝတ်ကျောင်းတော် အတွက် ဘုရားဖိတာန်ထိုးရင်း ဧည့်သည်တွေနဲ့ စကားပြောလေ့ရှိတယ်။ သမီးလက်ထဲမှာတော့ ဘာမှမရှိဘူး၊ အချုပ်အလုပ် ပစ္စည်းတမျိုးမျိုး ကိုင်ထားရင်လည်း သူတို့က သမီးကို လှဖို့ပဖို့အတွက် အဝတ်ချုပ် နေတယ်၊ ဆွယ်တာထိုးနေတယ်ပဲ ထင်ကြမှာ။ သမီးမှာ ဒါမျိုး ဝါသနာမပါဘူး။ လာလည်ကြတဲ့ အမျိုးသမီးတွေကတော့ ပြည်နယ် အာဏာပိုင် အဖွဲ့အစည်းက ကတော်တွေ များပါတယ်။ လေသံတွေကတော့ သူတို့နဲ့ သိက္ခာမ်းရမှ သမီးက လူတောတိုးနိုင်မယ့် ပုံမျိုး ခပ်များများ။

ဧည့်သည်တယောက်ကို တနာရီတိတိ အချိန်ပေးရတယ် ပါပါ။ ဧည့်သည် တွေရှေ့မှာ မစ္စက်လန်းဟာ သမီးရဲ့ အထိန်းတော်ဟန်မျိုးနဲ့ နေလေ့ရှိတယ်၊ မိတ်ကောင်း ဆွေကောင်း ရွေးချယ်တတ်ဖို့ သိပ်ငယ်လွန်းပြီး လောကအကြောင်း ဘာမှ မသိရှာတဲ့ သတို့သမီးကလေးကို လမ်းညွှန်သွန်သင်နည်းမျိုးနဲ့ သမီးကို နားနားကပ်ပြီး ပြောလေ့ ရှိတယ်။ မစ္စတာ ဘယ်သူဟာ လူဝီစီးယားနားရဲ့ ဆွေကြီးမျိုးကြီးထဲက ဖြစ်ကြောင်း၊ မစ္စက်ဘယ်ဝါကတော့ အိမ်ထောင် မကျမီ ဘယ်လို ဘယ်လို ဇာတ်လမ်း ရှိခဲ့ဖူးကြောင်း၊ သူများ အတင်းပြောလို့တော့ မကောင်းကြောင်း၊

သို့သော် သတိနှင့် ဆက်ဆံနိုင်အောင် ပြောထားရခြင်းဖြစ်ကြောင်း ဘာညာ ဘာညာပေါ့ ပါပါရယ်။

သည်အနီးပတ်ဝန်းကျင်က လူတွေကတော့ အများအားဖြင့် ပြည်တွင်းစစ်ကြီး အပြီးမှ ပြောင်းလာတဲ့ လူတွေ များတယ် ပါပါ။ သူတို့ပြောတဲ့ စကားထဲမှာ "စစ်ပြီး ကတည်းက" ဆိုတာ မကြာမကြာ ထည့်ပြောလေ့ရှိတယ်။ စစ်ပြီးတာဟာ ပြီးခဲ့တဲ့ အင်္ဂါနေ့လောက်က ကျနေတာပဲ။

တချို့ အမျိုးသမီးတွေက ချစ်စရာ ကောင်းပါတယ်။ တချို့ကတော့ သိပ်ငြီးငွေ့ စရာ ကောင်းတာပဲ။ အောင့်သက်သက်နဲ့ ပြုံးပြီး ဆက်ဆံရတာတွေလည်း ပါရဲ့။ မနေ့ကအဖြစ် ပြောရဦးမယ်၊ သမီးတို့ ထမင်းချက်ကြီး ကာမီယိုက "ကလေးမကလေး သုံးယောက်" ရောက်နေကြောင်း လာသတင်းပို့တယ်။ သမီးက တွေ့ဖို့ ဆင်းလာတော့ ရောက်နေတဲ့ ဧည့်သည်တွေက အဘွားကြီးသုံးယောက်။ သမီးကို အမျိုးမျိုး အကဲခတ်ကြ တယ်။ တော်သေးရဲ့ မစ္စက်လန်း က သူနဲ့ရွယ်တူ အဘွားကြီးတွေနဲ့ တနင်္ဂနွေဝတ်ပြုပွဲ အကြောင်း စကားလက်ဆုံကျနေလို့။ ညနေကျတော့ သမီးက ကက်စတာကို မေးတာ ပေါ့ ၊ ဘာကြောင့် ဒီအဘွားကြီးတွေကို ကလေးမကလေးတွေလို့ ခေါ်ကြတာလဲလို့။ ကက်စတာက သည်တော့မှ ဇာတ်ကြောင်းပြန်ပြတယ်။ တနေ့ သူတို့အိမ်ကို မီးလောင် တယ်တဲ့လေ၊ အဲဒီတုန်းက ဒီအဒေါ်ကြီးတွေရဲ့ အသက်ဟာ ၅၀ ကျော်၊ ၆၀ အတွင်း လောက် ရှိပြီတဲ့။ အဖြစ်အပျက်ကို နောက်နေ့မှာ သူတို့အဖေက ပြန်ပြောတဲ့အခါ "ကိုယ်နဲ့ ကိုယ့်အမျိုးသမီးက လုံးဝ စိတ်မပူပါဘူး၊ အဲ- ကလေးမကလေးတွေကတော့ နည်းနည်းလန့်တာပေါ့" လို့ ပြောသတဲ့။ အဲဒီကစပြီး သူတို့ညီအစ်မသုံးယောက်ကို ကလေးမကလေးတွေပဲ ခေါ်ကြတော့တယ်တဲ့ ပါပါရေ။

ညစာကို သမီးတို့ အမြဲပဲ မုန့်အိမ်မီးရောင်နဲ့ စားလေ့ ရှိကြတယ်။ စားပြီးတာနဲ့ ကက်စတာတို့ အမေဟာ သမီးတို့ လွတ်လွတ်လပ်လပ်ရှိအောင် နေပေးလေ့ ရှိတယ်။ သူ့အခန်း သူပြန်ပြီး စာဖတ်ချင် ဖတ်၊ ဒါမှမဟုတ် တအိမ်အိမ်သွားပြီး အပျော်ဖဲကစား ချင် ကစားနေတတ်တယ် ပါပါ။

အဲဒီတော့မှ တနေ့လုံး မျက်နှာညှောင်းခဲ့သမျှ အတိုးချပြီး လာသွားတဲ့ ဧည့်သည် တွေ အကြောင်း ကက်စတ့ကို ပြန်ဖောက်သည်ချရင်း ဟားရတယ်လေ။

သမီး သိပါတယ်၊ သမီးစာဖတ်ပြီး ပါပါ နှာခေါင်းရှုံ့နေပြီ မဟုတ်လား။ လော့ဂရစ် သမ်တွေကို အလွတ်ရပြီး သင်္ချာသိပ်တော်တဲ့ ငါ့သမီး ဘယ်လိုဖြစ်သွားပါလိမ့် ဆိုပြီး တော့လေ။ အဲဒီလို မထင်လိုက်ပါနဲ့ ပါပါရယ်။ သမီး ပြောရဲပါတယ်၊ ကက်စတာနဲ့ သမီး လက်ထပ်တာ သိပ်မှန်တယ် ဆိုတာလေ။ သမီး သိပ်ပြီးတော့လည်း ပျော်နေ ပါတယ်။ အစဉ်အလာရှိတဲ့ အသိုက်အဝန်းထဲက မဟုတ်ဘဲနဲ့ ထိပ်တန်းကို ရောက်ပြီး ဘဝကို အောင်မြင်နေတဲ့ သူတွေထဲမှာ သမီးလည်း ပါနေပါပြီ။"

အယ်လီနာ အံ့သြစ ပြုလာသည်။

ဝက်သစ်ချမြိုင်သို့ လာသည့် ဧည့်သည်တွေက ကုန်နိုင်သည် မရှိတော့။ တွတ်ထိုးကြသူ တွေလည်း ပါရဲ့။ ကက်စတာရဲ့ ရည်းစားဟောင်းတွေအကြောင်း ပြောနေကြတာ ဆိုရင်တော့ အလကားပေါ့။ လက်ထပ်ပွဲက အဖြေပေးခဲ့ပြီပဲ။ ကြာတော့ ဧည့်သည်တွေကို ကြည့်ပြီး ရယ်ချင်ပက်ကျိ ဖြစ်လာသည်။ သို့သော် မိမိကိုယ်တိုင် ဝက်သစ်ချမြိုင်တွင် ရာသက်ပန်နေဖို့ ဆုံးဖြတ်ထားပြီမို့ အလိုက်အထိုက် ဆက်ဆံနေရ၏။ ပေါင်းအပ် သင်းအပ်သူကိုတော့ ရွေးထုတ် ရမည်။ စင်စစ် သည်ကိစ္စမှာ လွယ်သည့် ကိစ္စတော့ မဟုတ်၊ ဧည့်ခန်းထဲတွင် အားလုံး ပြုံး နေကြသည့် အပြုံးတွေကို အတု၊ အစစ် ခွဲရမည့် အလုပ် ဖြစ်၏။ မည်သို့ဖြစ်စေ အယ်လီနာက ကြိုးစား၍ ခွဲသည်။

သစ်ဖြူတောမှ မစ္စက် နီးလ်ရှာရမီ ဆိုလျှင် နုနယ်ပျို့မျစ်သလောက် ယဉ်ကျေးသိမ်မွေ့ သည်။ သို့သော် ချောင်းကလေး တဟွပ်ဟွပ်နှင့်။ အဆုတ်ရောဂါ ရှိမည့် ပုံ။

ကက်စတာ၏ အစ်မဝမ်းကွဲ ဆီလ်ဗီယာကတော့ လေးဆယ်ဝန်းကျင်၊ လည်ပင်း ရှည်ရှည်နှင့်၊ မျက်နှာက ခွေးပေါက်စကလေးတွေ၏ မျက်နှာမျိုး။ အတင်းအဖျင်း၊ သတင်းစုံ ပေးတတ်သူ။ သူ့အိမ်ထောင်ရေး မပြေလည်မှုကိုလည်း အရိပ်အမြွက် ပြောတတ်၏။ ဇာမျက်နှာ ဖုံးကလေးနှင့် နေသင့်သည့် အချိန် ဖြစ်ကြောင်း အယ်လီနာကို အကြံပြုသူမှာ ဆီလ်ဗီယာ ဖြစ်သည်။ တပြိုင်တည်းတွင် အိပ်ခန်းထဲက အတွေ့အကြုံတွေကို ပေါက်ပေါက်ရှာရှာ မေးတတ် သူမှာလည်း ဆီလ်ဗီယာပဲ ဖြစ်၏။ ရယ်ချယ်စိတ်ကို မနည်းမျိုသိပ်ထားရသည်။ ဆီလ်ဗီယာ သည် မစ္စက်လန်း၏ တိုးတိုးဖော်လည်း ဖြစ်၏။

ဝိုင်အိုလက်ပါစယ် ဆိုသူ အမျိုးသမီးကတော့ ခရမ်းပြာ အနုရောင်ကို ဆင်မြန်းလေ့ ရှိ၏။ စကားပြော အလွန်ကောင်းသည်။ သူနှင့်ဆိုလျှင် ကျန်သည့်လူတွေ ငေးပြီး နားထောင်နေရ တတ်သည်။ အယ်လီနာက ဘယ်လိုဧည့်သည်မျိုးလာလာ မမှုတော့။ ညနေကျရင် ကက်စတာ နှင့် သူတို့အကြောင်း ပြန်ဟားဖို့လောက်သာ စိတ်ကူးတော့သည်။ ကက်စတာ၏ ဟာသ ဉာဏ်နှင့် လူတွေအပေါ် မှတ်ချက်ချပုံက အလွန်စူးရှသည်။ အလွန်ထိရောက်သည်။

မေမေ မစ္စက်လန်း နယူးအော်လင်းကို ပြန်သွားတော့ သူတို့ဘဝသည် ဝါစိုက်ပျိုး ထုတ်လုပ်ရေးလုပ်ငန်း သံသရာတွင် ဖြည်းဖြည်းမှန်မှန် လည်ပတ်နေသည့် သာမန် ယာတော ဘဝအဖြစ်ဖြင့် ကျန်ရစ်ခဲ့ကြ၏။ ရုံဖန်ရံခါ အိမ်တွင် ပါတီပွဲများ ကျင်းပသည်။ ဖိတ်သည့် ပွဲများသို့လည်း တက်ရောက်သည်။ ဒါမှမဟုတ်လျှင် ရှည်လျားသည့် ညနေခင်းများကို နှစ်ယောက်တည်း

ကုန်လွန်စေသည်။ တယောက် အလိုကို တယောက် မပြောဘဲနှင့် သိသိနေကြသည့် ကာလများ။

ဝါကောက်ချိန်အပြီးတွင် ကက်စတာက နီဂရိုးလုပ်သားတွေကို ကောင်လုံးကင်ပွဲ ကျင်းပ ပေးသည်။ သည်ပွဲတွင် ကက်စတာနှင့် အယ်လီနာတို့က ဂုဏ်ထူးဆောင် ဧည့်သည်တော်တွေ အဖြစ် တက်ရောက် ချီးမြှင့်ပေးသည်။ ကက်စတာ၏ အပေါင်းအသင်းတွေကိုလည်း ဖိတ် သည်။ အထူးဧည့်သည်တော်တွေက ဝါဂွမ်းဘေထုပ်ကြီးတွေပေါ်တွင် ထိုင်ကြရသည်။ နီဂရိုး တွေက ဘီယာ၊ ဝက်သားညှပ်မုန့်များဖြင့် ဧည့်ခံသည်။ ပြီးတော့ တညနေလုံး ကကြ ခုန်ကြဖို့ ဝက်သစ်ချမြိုင်သို့ မြင်းရထားများဖြင့် ပြန်လာကြ၏။

ဝုဒရိုးဝီလ်ဆင် သမ္မတအဖြစ် အရွေးခံရသည့် နေ့က အစီအစဉ် မရှိဘဲ ကက်စတာက ဧည့်သည်တွေ တလှေကြီး အိမ်ခေါ်လာသည်။ အောင်ပွဲခံဖို့ တဲ့လေ။ သည်လို ဗရုတ်သုတ်ခ ပါတီမျိုးနဲ့ မကြုံဖူးသည့် အယ်လီနာက လင်လုပ်သူကို လူတောထဲမှ ဆွဲထုတ်ပြီး ကြိုမပြောဘဲနဲ့ ဒီလူအုပ်ကြီးကို ဘာကျွေးရမလဲ မေးတော့ ကက်စတာက သူ့ဝသီအတိုင်း ခပ်ပျော်ပျော် ပြုံးပြီး “အပြုတ်အသတ်ပဲ လီနာရေ၊ အပြုတ်အသတ်ပဲ။ ဗားမောင့်ရော၊ ယူတားရော ပြည်နယ်လုံး ကျွတ် နိုင်တာ” ဟု ပြောရင်း မီးဖိုဆောင်ဘက်သို့ လျှောက်သွားသည်။

အယ်လီနာက နောက်မှ လိုက်သွားပြီး “ကဲ ... ဝီလ်ဆင် နိုင်တဲ့အတွက် ဝမ်းသာတာက ဟုတ်ပါပြီ၊ ဝမ်းလည်း သာပါတယ်၊ အခု လောလောဆယ်ဆယ်က ဧည့်သည်တွေကို ဘာကျွေး မလဲ ဆိုတဲ့ ပြဿနာ” ကို မေးတော့ မမ်မီ ဆိုတဲ့ ထမင်းချက်ကြီးနှင့် သူ တွတ်တွတ်ထိုးနေပြန် သည်။ မမ်မီက ဝက်သစ်ချမြိုင်မှာ ထမင်းချက် လုပ်လာတာ ကက်စတာ မမွေးခင်ကတည်းက ဆိုပဲ။ ဒီကိစ္စမျိုးတွေမှာ နောကျေအောင် ကျွမ်းသည် တဲ့လေ။ ပြီးတော့ အယ်လီနာကို သည်ကိစ္စ တွေ ပြီးပြီးသားထားလိုက်။ ဘာမှ ပူမနေနဲ့ ဟူသည့် အမူအရာနှင့် ဧည့်ခန်းဆောင်သို့ ပြန်တွဲခေါ် လာသည်။

ဧည့်သည်တွေက စန္ဒရားအနီးတွင် ဝိုင်းပြီး သီချင်းဆိုနေကြပြီ။ တီးပေးနေသူက ဝိုင်အိုလက်ပါစယ်။ အရက်ခွက်တွေ လူတိုင်းလက်သို့ လိုက်ထည့်နေရင်း ကက်စတာက အယ်လီနာ့ကို ပြောင်စပ်စပ် အမူအရာလုပ်ပြီး စသည်။ အယ်လီနာ စိတ်မအေးနိုင်သေး၊ အသာ ကပ်ပြီး မေးမိပြန်သည်။

“ဖြစ်ပါ့မလား မောင်၊ အားလုံး အဆင်ပြေပါ့မလား ဟင်”

“အို... ဘာလို့ မပြေရမှာလဲ” ဟု အယ်လီနာအား နှစ်သိမ့်ပြီး “ဘယ်သူ အရက်ယူ ကြဦးမလဲဟေ့” ဟု အော်မေး နေပြန်၏။

ဘယ်သူမျှ အရက် ထပ်မတောင်းကြသေး။ သို့သော် သစ်ဖြူတောမှ နီးလ်ရှာရမီက-“ကက်စတာရေ၊ မင်းရဲ့ ဇနီးချောကလေးကို ငါနဲ့ ကခွင့်ပေးပါကွာ” ဟု လှမ်းတောင်း သည်။ ပရိသတ်က အကသရဲ နီးလ်နှင့် အယ်လီနာကို မျှော်လင့်နေကြသည်။ နီးလ်က “ဝက်သစ်ချမြိုင်ကို လာရတဲ့ အချိန်တိုင်း ပျော်ရတာချည်းပဲ အယ်လီနာ” ဟု ပြောတော့ “သားမှာ ညှော့သည်က ပြတ်တယ် မရှိဘူးလေ” ဟု ကက်စတာတို့ အမေ ပြောဖူးသည်ကို အယ်လီနာ အမှတ်ရလိုက်သည်။

ဝိုင်အိုလက်က “မစ္စစ်စပီ မြစ်ရေကြည်ကြည်” သီချင်းကို စတီးနေပြီ။ အယ်လီနာနှင့် နီးလ် တွဲပြီး ကကြသည်။ ဆက် မကနိုင်လောက်အောင် မောမှ ရပ်ပြီး နီးလ်၏ ဇနီး နံဘေးသို့ သွားထိုင်ကြသည်။ မစ္စက်နီးလ်မှာ သူကိုယ်တိုင် ကဖို့ နေနေသာသာ သူများ ကသည်ကို ကြည့်ပြီး မောနေတတ်သူ ဖြစ်၏။ သေးသေးကွေးကွေးကလေး၊ လေပြင်းပြင်းတိုက်လျှင် လဲမည့်ပုံ။ အယ်လီနာက မိမိ၏ ကျန်းမာရေးအတွက်ရော သည်လို ပါတီတွေ ပေးနိုင်သည့် အတွက်ပါ ဘုရားသခင်ကို ကျေးဇူးတင်နေမိသည်။

ညလယ်စာစားဖို့ ခေါင်းလောင်းထိုးသံ ကြားတော့ ထမင်းစားခန်းမသို့ သွားကြသည်။ စားပွဲပေါ်တွင် ကြက်ဥမွှေကြော်၊ ဘဲဥအကာနှင့် ထောပတ်မွှေ၊ ဝက်ပေါင်ခြောက်နှင့် ဘီစကွတ် ပူပူနွေးနွေး။ ပြီးတော့ အချဉ်နှင့် အသီးအနှံတွေကလည်း စုံလင်ဖွယ်ရာလှသည်။။ ကျွမ်းကျင်ရာ လိမ္မာ ဆိုသည်ကို အယ်လီနာ သဘောပေါက်လိုက်သည်။ သူ့ဟာနှင့် သူတော့လည်း အဆင်ကို ပြေလို့ပါလား။ ပျော်စရာ ညခင်းတခုပေပဲ၊ နောက်တော့ ထုတ်ပြောရတော့သည်။

“မောင်ရယ်၊ ပါတီ ကျင်းပချင်ရင် အယ်လီနာ့ကို အားမနာနဲ့နော်။ ကြိုက်တဲ့အချိန် လုပ်၊ အယ်လီနာ သိပ်ပျော်တာပဲ”

ကက်စတာက ပထမ အံ့ဩနေ၏။ နောက်မှ-

“ကောင်းပါပြီ အချစ်လေးရယ်၊ ကောင်းပါပြီ... စိတ်ချပါ” ဟု ပြောလိုက်သည်။

ထို့နောက်ပိုင်း ဝက်သစ်ချမြိုင်တွင် ထုံးတမ်းစဉ်လာ ညစာစားပွဲတွေ ရံဖန်ရံခါ ကျင်းပဖြစ်သည်။ အယ်လီနာသည် ရောင်စုံပရိသတ်ကြားတွင် ရွှင်လန်းချမ်းမြေ့စွာ ထိုင်တတ်၏။ ဆံပင်ကို လှလှပပ ပြင်လျက်၊ မို့မောက်နေသည့် ရွှေရင်အစုံတွင် ကက်စတာ ဝယ်ဆင်ထား သည့် အဖိုးတန်ရတနာတွေ ပြိုးပြိုးပြက်ပြက်နှင့်။ ဝက်သစ်ချမြိုင်တွင် ဆင်ယင်ကျင်းပသမျှ ပါတီပွဲတိုင်းသည် ပျော်မြူးကြည်နူးစရာအတိဖြင့် ပြီးဆုံးသည်သာ။ ခါတ်စက်ဖွင့်ပြီး ကဖြစ်လျှင် ကဖြစ်၊ မဟုတ်လျှင် ဝိုင်အိုလက်၏ စန္ဒရားလက်သံနှင့် ကကြ ခုန်ကြသည်။

ကက်စတာ၏ အပေါင်းအသင်းများသည် ပျော်တတ် ရွှင်တတ်ကြသလောက် အဆို အက ကောင်းသူတွေချည်း။ အများအားဖြင့် ကက်စတာ၏ ငယ်သူငယ်ချင်းတွေ ဖြစ်ကြ၏။ သူတို့တတွေနှင့် တုပြီး မပျော်တတ်သော်လည်း မိမိကို ပျော်စေ ရွှင်စေလိုကြသူများ၊ ပြီးတော့ ကက်စတာ့အပေါ်တွင်လည်း သံယောဇဉ်ကြီးသူများ ဖြစ်ကြောင်းကိုတော့ အယ်လီနာ အသိအမှတ်ပြုထားသည်။

သူတို့စုံတွဲများသည် တနေ့တွင် ကက်စတာ၏ အမေနှင့် အဖေကဲ့သို့ပင် ကြီးကျယ် ခမ်းနားသူများ ဖြစ်လာကြမည်ဟု အယ်လီနာ နားလည်ထားသည်။ ဆက်ဆံပေါင်းသင်းရ သည်မှာ အလွန်ပြေပြစ် ချောမွေ့သည်။ အလေးအနက်တော့ ရှိကြမည် မဟုတ်။ သည်အချက်ကို အယ်လီနာ နားလည်စပြုလာပြီ။ သည်လူတန်းစားနှင့် သူ့ဖခင် အပွဲ့ဂျွန်း၏ ခြားနားချက်ကို အယ်လီနာ ကြာလေ သဘောပေါက်လေ ဖြစ်လာသည်။ အားလုံးထဲမှ ဝိုင်အိုလက်ပါစယ်ကိုတော့ သဘောကျမိ၏။ ဝိုင်အိုလက်က အေးဆေးသည်။ ရှင်းသန့်စွာ နေတတ်သည်။ ပြီးတော့ အမြဲ ရွှင်ပြုံး လန်းဆန်းလျက် ရှိသည်။

အယ်လီနာ သူ့ဘဝကို သူ ပျော်ပိုက် မွေ့လျော်နေလေပြီ။ အပျိုဘဝမှ အလေ့အထများ ကို အလွယ်တကူပင် မေ့လျော့နိုင်ခဲ့လေပြီ။ ဝါရှင်တန်တွင် ပြုလုပ်သည့် သမ္မတ၏ မြစ်ကြောင်း ထိန်းသိမ်းရေး ကွန်ဖရင့်အကြောင်းကို ဖေဖေ ရေးလာတော့ ဖေဖေ့စာမှာ ပျင်းစရာကြီးဟု ထင်မိ၏။ သည်အတွက် အယ်လီနာ ကိုယ့်ကိုယ်ကိုယ် အံ့သြမဆုံး ဖြစ်မိ၏။ မနှစ်တုန်းကထိဖေဖေ့လုပ်ငန်းတွေ၊ တည်ဆောက်ရေး စီမံကိန်းတွေကို မမောမပန်းနိုင်ဘဲ စိတ်ဝင်တစား ကူညီခဲ့သေးသည် မဟုတ်လား။

ခုတော့ ခေါင်းထဲတွင် ဝက်သစ်ချမြိုင်ရယ်၊ ကက်စတာရယ်က လွဲပြီး ဘာမျှ မရှိတော့ ဘူးလေ။ ရှိဖို့လည်း မလိုတော့ဘူး မဟုတ်လား။ သူ့ဘဝမှာ ခုလောက် ဘယ်တုန်းကမှ မပျော် ခဲ့ဖူးဘူးလို့ တပတ်တွင် အကြိမ်ပေါင်း တဒါဇင်ထက်မနည်း ကက်စတာက ပြောနေမှ အခြား ဘာလိုတော့မည်လဲ။

တခါတော့ အငြင်းအခုံ ဖြစ်ကြဖူး၏။ အယ်လီနာက ဝက်သစ်ချမြိုင်၏ စရိတ်ကို ပုံမှန် သတ်မှတ်ထားသင့်ကြောင်း တင်ပြသည်။ ကက်စတာက ထုံးစံအတိုင်း “မိန်းကလေး ရယ် မလိုပါဘူးကွယ်၊ ကြိုက်သလို သုံးပေါ့၊ ကုန်သလောက် မောင် ပေးမှာပေါ့”ဟု ခပ်ပေါ့ပေါ့ပင် ပြန်ပြောသည်။ အယ်လီနာက သူ ဘယ်လောက် သုံးပိုင်ခွင့်ရှိသည်ကို မသိဘဲ သုံးရသည့် အတွက် အိမ်ရှင်မကောင်းပီသစွာ မလိုလားကြောင်း နှစ်နာရီခန့် ပြောတော့မှ ကက်စတာက *“ကဲ… ကဲ… ဒါဖြင့် အိမ်ရှင်မကောင်းက ဘယ်လောက် သတ်မှတ်ချင်သလဲ၊ ပြော” ဟု ဆိုလာသည်။

အယ်လီနာ သက်ပြင်းချ၏။ အိမ်စရိတ်ကို ကုန်ကျသလောက်သာ တိတိကျကျ အယ်လီ နာက သတ်မှတ်ချင်သည်။ ခုတော့ ကာမီယိုနှင့် မမ်မီတို့ ပြောသလောက် ကက်စတာက ထုတ်ပေးနေသည် တဲ့လေ။ စာရင်းမရှိ၊ အင်းမရှိ။ လချုပ်ဆိုသည်မှာ ဝေလာဝေး။ ဝက်သစ်ချ မြိုင်တွင် သည်လိုပဲ လုပ်နေကြောင်း ကက်စတာ ပြောပြစဉ်က အယ်လီနာ ထိတ်လန့်အံ့သြ ခဲ့ရသည်။

နောက်ဆုံး အယ်လီနာက လွန်ခဲ့သည့်နှစ် ဝါအထွက်ကို ကက်စတာ့ဆီမှ မရအရ မေးတော့သည်။ ယမန်နှစ်က ဘေထုပ် ၈၀၀ ထုတ်လုပ်နိုင်ခဲ့သည် ဆို၏။ တပေါင် ပျမ်းမျှ ပေါက်ဈေးမှာ ၁၀ ဆင့်ဖြစ်ရာ အကြမ်းဖျင်းအားဖြင့် ဝါခင်း၏ ဝင်ငွေမှာ ဒေါ်လာ ၄၀,၀၀၀ ထက် မနည်း ရှိရမည်။ ဘယ်လိုသုံးပြီး ဘယ်လောက်ကျန်သည်ကို အယ်လီနာ မသိ။ ကက်စတာ ကိုယ်တိုင် သိဖို့လည်း မလွယ်။ သည်တော့ အယ်လီနာက စိတ်ပျက်လက်ပျက်နှင့် ဝင်ငွေကို တဝက်ချပြီး တွက်ကြည့်သည်။ ယင်းသို့ ခေါက်ချိုးဖြင့် တွက်လျှင် ဝက်သစ်ချမြိုင်လို ဧရာမ ဝါလုပ်ငန်းကြီးအတွက် ဝင်ငွေအနေဖြင့် နည်းသည်ဟု ဆိုရမည် ဖြစ်သော်လည်း ဝက်သစ်ချ မြိုင်အတွက်ကား လုံးဝလုံလောက်သည့် ဝင်ငွေဟု အယ်လီနာ တွက်၏။ ဝက်သစ်ချမြိုင်အိမ်ကြီး သည် ကောင်းပေ့ ညွန့်ပေ့ဆိုသည့် ပစ္စည်းတွေနှင့် ဖြည့်တင်းစုဆောင်းထားသည် ဖြစ်ရာ၏။ ပြင်ဆင် ထိန်းသိမ်းစရိတ်သည် အလွန်အကျွံ မကျနိုင်။

အယ်လီနာက သူ့အတွက် အိမ်စရိတ် တလ ဒေါ်လာ ၆၀၀ သတ်မှတ်လိုက်၏။ ကဲ ကဲ မချော သဘောဟု ကက်စတာ သဘောတူ၏။ ပြီးပြီးပျောက်ပျောက် မေ့မေ့လျော့လျော့နှင့် ပစ်ထားဦးမည်ကို သိနေ၍ နောက်နေ့မနက်တွင် လင်တော်မောင်ကို တပါတည်းခေါ်၍ ဘဏ်သို့ မောင်းပို့ခိုင်း၏။ ပြီးတော့ ယခုလအတွက် အိမ်သုံးစရိတ်ကို အယ်လီနာက သူ့စာရင်းသို့ ပြောင်းပေးခိုင်း၏။ စိတ်ထဲတွင်တော့ တထင့်ထင့်။ ကက်စတာက ထုံးစံအတိုင်း မြူးထူး ရွှင်ပျစွာနှင့် ဘဏ်ထဲမှ ပြန်ထွက်လာသည်။ ချက်စာအုပ် လှမ်းပေးသည်။ အယ်လီနာ့ စာအုပ်သို့ စာရင်းပြောင်းပေးလိုက်သည်မှာ ဒေါ်လာ ၈,၀၀၀။ အယ်လီနာ ပါးစပ် အဟောင်းသား ဖြစ်သွား ၏။ ဒီတော့ သူက “မောင် တနှစ်လုံး နားအေးပါးအေး နေရတန် ကောင်းပါတယ် နော်”တဲ့။ သည်လို ဆိုပြန်တော့ စိတ်မကောင်း ဖြစ်ရပြန်သည်။

“မောင် အယ်လီနာကို စိတ်ဆိုးနေတာလား ဟင်”

“ဗျာ ဗျာ မဟုတ်ရပါဘူး အချစ်ရယ်၊ ကတ်သီးကတ်သတ်။ မင်း သိပါတယ်၊ ကိုယ်ဟာဘယ်တော့မှ လစဉ်စာရင်း ပြောင်းဖို့ သတိရမှာ မဟုတ်ဘူး ဆိုတာလေ။ ဒီတော့ တနှစ်စာ တခါတည်း ပြောင်းပေးထားလိုက်တော့ ဒုက္ခအေးတာပေါ့။

ပြီးတော့ ဒီမှာလာပြီး စောင့်ရ၊ နာမည်ခေါ်တာ နားထောင်ရနဲ့ မောင် ခဏခဏ မလာနိုင်ဘူး။ ဘာဖြစ်လို့ အချိန်မပေးနိုင်ရလဲ မေးရင်တော့ မောင်ဟာ ကက်စတာမို့လို့ပဲ ဖြေရမယ်။ မောင့်အချစ်ကတော့ အဲဒီဘက်မှာ တော်ပါတယ်။ ဘာတဲ့ ခုခေတ် စက်ရုံ အလုပ်ရုံတွေမှာ ခေတ်စားနေတဲ့ စကားလုံး၊ အဲ...စံချိန်ပြည့်တဲ့”

အယ်လီနာ ဝက်သစ်ချမြိုင်ကို သဘောကျ စီမံအုပ်ချုပ်တော့သည်။ တိတိပပ။ အသုံး စရိတ်စာရင်းကို အပတ်စဉ် ရှင်းတမ်း ထုတ်သည်။ စနစ်တကျ။ ဝက်သစ်ချမြိုင် မီးဖိုဆောင်ကို မှောင်ရိပ်ခိုပြီး စားသောက်နေကြသည့် မမ်မီတို့ တပြုံတောင်လုံးရဲ့ကိစ္စ အလိုလို ရှင်းသွား သည်။ မမ်မီ ဆိုသည့် အမျိုးသမီးသည် အလွန် အကိုင်အတွယ်ရ ခက်သည့် ကပ္ပလီမ ဖြစ်သည်။ သို့သော် သူ့လို ထမင်းချက်မျိုးက တထောင်တွင် တယောက် မတွေ့နိုင်။ ပြီးတော့ ပညာမာန အလွန်ကြီးသည်။ ဝက်သစ်ချမြိုင်တွင် အစေခံ ဆယ့်တယောက် ရှိသည်။ အယ်လီနာ့ အမြင် တွင် ငါးယောက် ဆိုလျှင်တောင် များနေသေးသည်။ သို့သော် ကက်စတာ အနူးအညွတ် တောင်းပန်သဖြင့် သည်အတိုင်း ဆက်ထားရ၏။

သည်အစေခံ ဆယ့်တယောက်အပြင် ဝါခင်းထဲမှ ငမည်းကောင်ကလေးတွေက အိမ်ကို ယောင်လည်လည်နှင့် မကြာမကြာ ရောက်လာတတ်ကြသေးသည်။ မမလေး ဘာများ ခိုင်းစရာ ရှိပါသလဲ ဆိုပြီးတော့လေ။ စင်စစ် သူတို့တတွေ ဝေယျာဝစ္စရာ လက်သစ် မမ်မီဆီကို ဘီစကွတ် မုန့် လာစားကြခြင်းသာ ဖြစ်၏။ သည်အသုံးစရိတ်တွေကို အယ်လီနာက ငွေစာရင်းခေါင်းစဉ် အသစ်တခု ဖွင့်ပြီး ကျခံစေသည်။ “မလွှဲမရှောင်သာသော အခိပ္ပာယ်မရှိ ကုန်ကျစရိတ်များ” ဟူ၍။ မတတ်နိုင်ဘူးလေ၊ ကက်စတာက ရှေ့မှ ကန့်လန့်ကန့်လန့် လုပ်နေတော့ သည်အတိုင်း ကြည့်နေရသည်ပေါ့။

“မင်းဟာ တကယ်တော့ အံ့ဩစရာကောင်းတဲ့ မိန်းကလေးပါပဲ အယ်လီနာ”

ဝိုင်အိုလက်က အယ်လီနာ့ကို ဝေဖန်သည်။

“အံ့မယ်၊ အမေရိကန်ပြည်မှာ ရည်းစား အများဆုံး အသည်းစားဘုရင်ကို မင်း လက်ထပ် ထားတယ် ဆိုတာကို မသိကျိုးကျွန် လုပ်မနေစမ်းပါနဲ့။ ဝါရှင်တန်အိုင်ဗင်း ပြောတာ ကြားဖူး လား”

အယ်လီနာ ခေါင်းခါသည်။

“သာမန်အသည်း ၁,၀၀၀ ကို ရယူနိုင်သူသည် ထင်ရှားကျော်ကြားသူ ဖြစ်သည်တဲ့။ ဒါပေမဲ့ တယောက်ဆို တယောက် စွဲစွဲမြဲမြဲ ချစ်တတ်သူကမှ

သူရဲကောင်းတဲ့။ ကဲ... ဘယ်လို သဘောရသလဲ”

အယ်လီနာ ရယ်၍သာ နေသည်။ ဘာတွေမှန်းတော့ မသိ။ သူ့ဘဝ သူ ပျော်နေတာပဲ သိသည်ဟု ပြန်ပြော၏။ ကက်စတာကို အရူးအမူး ချစ်မိနေပြီဖြစ်၍ ဘာကြောင့် သည်လို အချစ်စိတ် ဖြစ်ပေါ်လာရသည်ကို ဆန်းစစ်စောကြောနေခြင်း မပြုတော့။ သည်လောက် ချစ်စရာ ကောင်းလှသည့် ကက်စတာ့ကို အခြားမိန်းမတွေ မချစ်ဘဲ နေနိုင်ကြပါ့မလား ဟူ၍တော့ စဉ်းစားဖူးသည်။ သို့သော် ကက်စတာ မိမိကို ချစ်သည့် အချစ်က အဆုံးမရှိဘဲ အစဉ်တိုးတက် ဆန်းသစ်နေသည့် အချစ်မျိုးလေ။

သည်အဖြစ်တွေကို လက်တွေ့ကြုံနေရတော့ အယ်လီနာ ဘယ်မှာ မကြည်နူးဘဲ နေနိုင် ပါမည်နည်း။ ကက်စတာက နယူးအော်လင်းသို့ မကြာခဏ သွားရတတ်သည်။ တယောက် တည်း သွားရသည့်အခါ ရှိသလို လင်မယားနှစ်ယောက် အတူ သွားရသည့်အခါလည်း ရှိသည်။ ပြန်လာသည့်အခါတိုင်း အယ်လီနာအတွက် အဖိုးတန်ပစ္စည်းတွေ တပွေ့တပိုက်ကြီး ပါလာ တတ်သည်ချည်း။ ခေါင်းဖြီးဖို့ စိန်စီဘီးကလေးကအစ အတွင်းခံအင်္ကျီအထိ ဂရုတစိုက် ဝယ်ပေးတတ်၏။ တာဖက်တာ ခါးတို ကုတ်အင်္ကျီ ဝယ်လာတုန်းက အယ်လီနာ ဝတ်ပြီး လမ်းလျှောက်ကြည့်သည်။ ပျံတက်တော့မည့် ခိုငှက်မကလေးလို မြူးကြွနေ၏။ ခရစ္စမတ်တုန်း ကတော့ ဆွဲကြိုးရှည်ကြီးနှင့် လည်ဆွဲနာရီတလုံး ဝယ်ပေးသည်။ လည်မှာဆွဲပြီး ခါးပတ် မှာ ချိတ်ရသည့် နာရီမျိုး။ သည်နာရီကို ခရစ္စမတ်လက်ဆောင်အဖြစ် ပေးတုန်းက ကက်စတာ တယောက် ကတ်ပြားတွင် စာတန်းရေးဖို့ တမနက်ခင်း ကုန်သည်။

“အချစ်အတွက်” ဟူသည့် စကားလုံးကို ဘာသာ ၉ မျိုးနှင့် ကမ္ပည်းထိုးသည် တဲ့လေ။ သည်တော့ သူတမနက်လုံး စာကြည့်ခန်းထဲက မထွက်ရဘူးပေါ့။

နှစ်ဦးပိုင်းတွင် အယ်လီနာ ကိုယ်ဝန်ရှိလာသည်။ ကလေးရှိလာမှန်း သိတော့ အထိတ် တလန့် ဖြစ်သွား၏။ သားသမီး မွေးရမည်ကို ကြိုတင်သိထားသော်လည်း လွတ်လပ်ပျော်ရွှင် သည့် ဘဝဖြင့် ဆက်နေချင်သေးသည်။ တနှစ်တန်သည်၊ နှစ်နှစ်တန်သည်ပေါ့။ နောက် တချက်က ကက်စတာတယောက် ကလေးအဖေ ဘဝကို ခံယူလိုသည့် ဆန္ဒ ရှိမှ ရှိပါ့မလား ဟု အယ်လီနာ သံသယ ရှိနေ၍ ဖြစ်သည်။

သူကတော့ ကလေးတွေကို ချစ်တတ်ပါသည်ဟု ဆိုသည်။ အယ်လီနာ သိပ်မယုံချင်။ ကက်စတာ့အတွက် ကလေးတွေသည် ခရစ္စမတ်ကတ်ထဲက တွန့်တွန့်လိမ်လိမ် အရုပ်ကလေး တွေထက် ဘာမျှ မပိုဟု အယ်လီနာ ထင်နေ၏။ မိမိအနေဖြင့်မူ ကလေးခြောက်ယောက် မွေးသည့် မိသားစုတွင် အကြီးဆုံး ဖြစ်ခဲ့၍ ကလေးတွေအကြောင်း ကက်စတာထက် အပုံကြီး ပိုသိသည်။ ပို၍ ချစ်တတ်သည်။

မည်သို့ ဖြစ်စေ ကိုယ်ဝန်အကြောင်းကို ထုတ်ပြောလိုက်သည့်အခါ ကက်စတာ တယောက် ဝမ်းသာအားရ ဖြစ်နေသည်ကို မမျှော်လင့်ဘဲ တွေ့ရသည်။ တွေ့သမျှ လူကို ဝမ်းသာအားရ ဖောက်သည်ချနေသည်။ စက်ဘီးဝယ်ပေးမယ်လို့ ပြောလိုက်ရုံနှင့် ခုန်ဆွခုန်ဆွ နှင့် ဝမ်းသာအားရ ဖြစ်နေသည့် ကလေးငယ်နှင့် တူနေသည်။ ထပ်ခိုးပေါ်မှ တောနှင်းဆီသား ဖြင့် ပြုလုပ်ထားသည့် ရှေးဟောင်း ပုခက်ကြီးကို ယူဆင်းလာသည်။ ပန်းခက် ပန်းနွယ်တွေက ရုပ်လုံးကြွ။ နှစ်ပေါင်းရာနှင့် ချီပြီး လန်းမျိုး အဆက်ဆက် ထည့်လွှဲခဲ့သည့် ပုခက်။ ဗိုက်ထဲမှ ကလေးက ပုံမပေါ်သေးမီ ရှေးဟောင်း မီးနေခန်းကြီးတွင် ကက်စတာတယောက် ပုခက်ဆင် နေလေပြီ။

ဗိုက်သတင်းမေးရန် လာကြသည့် ဧည့်သည်တွေနှင့် ဝက်သစ်ချမြိုင်သည် စည်ကားလျက် ရှိပြန်သည်။ ကလေးအတွက် အဝတ်စတွေ လက်ဆောင်ယူလာကြသည်။ ငွေဖြင့် ပြုလုပ်ထား သည့် ထိပ်ကွင်းကလေးများမှအစ လက်ဆောင်ပေးကြ၏။ အချုပ်အလုပ်ဆို၍ ခေါင်းအုံးစွပ် တောင် ဖြစ်အောင် မချုပ်တတ်သည့် အယ်လီနာက အားလုံး ဗီရိုထဲ၊ အံဆွဲထဲ ပစ်ထည့်ထား လိုက်ပြီး မွေးစကလေး အသုံးအဆောင် အားလုံးကို နယူးအော်လင်းမှ မှာယူလိုက်သည်။

ပြဿနာတွေကို ခပ်ပြုံးပြုံး ရင်ဆိုင်သည်။ ခပ်ပြတ်ပြတ် ရှင်းသည့်အခါ ရှင်းသည်။ သည်တော့ အယ်လီနာသည် ပုံပြင်တွေထဲက သူရဲကောင်းမကလေးလို ဖြစ်လာ၏။ သည်အဖြစ် မျိုးသည် ကြည်နူးစရာလည်း ကောင်းကြောင်းကို အံ့ဩဖွယ်ရာ တွေ့ရ၏။ ကက်စတာ၏ အရိပ်တကြည့်ကြည့် မြတ်နိုးစောင့်ရှောက်မှုကလည်း တဖက်တွင် ရှိနေသေး၏။ သည်ထက် ချမ်းမြေ့သည့် ဘဝ ဘယ်မှာ ရှိနိုင်တော့မည်နည်း။ ကက်စတာသည် တစုံတရာကို မျက်စိကျမိပြီ ဆိုလျှင် အယ်လီနာအတွက် ဝယ်ပြီးသား ဖြစ်နေပြီ။ အယ်လီနာ ကြိုက်မည် မကြိုက်မည်၊ အသုံးတည့်မည် မတည့်မည် စဉ်းစား မနေတော့။ အယ်လီနာကို လှုပ်လှုပ်ရှားရှား သိပ်မလုပ်စေ ချင်။ သည့်အတွက် လိုလေသေးမရှိ အားလုံးအသင့်ချည်း ဖြစ်နေရန် ကက်စတာက စီမံသည်။ တယ်လီဖုန်း လိုင်းခွဲတခု ဆွဲစေပြီး အယ်လီနာ့ အိပ်ရာနံဘေးတွင် ဆင်ပေးထားသေးသည်။ ဖုန်းပြောစရာ ရှိလျှင် အောက်ထပ် ဆင်းစရာ မလိုတော့။

ဒါတွေနှင့် မပြည့်စုံသေးသလို ဘာလိုသေးလဲ၊ ဘာလုပ်ပေးရမလဲ ဆိုသည်ကို ကက်စတာ နေ့စဉ် မေးရသည်မှာ အမော။ မေးလွန်းမက မေးတော့ စိတ်ထဲတွင် ညားကတည်းက လိပ်ခဲ တည်းလည်း ဖြစ်ခဲ့ရသည့် ကိစ္စကို အရဲစွန့်၍ အယ်လီနာက ပြောချလိုက်တော့သည်။

ကက်စတာ၏ ပစ်စလက်ခတ် နေထိုင်မှုကြောင့် အယ်လီနာ့စိတ်

အနှောင့်အယှက် ဖြစ်ရသလို သူ ဇရုန်းသုန်းကား ထားခဲ့သည့် အရာမှန်သမျှကို အယ်လီနာက လိုက်ပြီး အိမ်တွင်းမှု လုပ် သိမ်းထုပ်သေချာ လုပ်နေသည်ကိုလည်း ကက်စတာက အောင့်သက်သက်နှင့် ခံနေရ သည်။ အိပ်ခန်း တခန်းထဲတွင် သည်နှစ်ယောက် အတူဆက်နေလျှင် တနေ့ မုန်တိုင်းကြီးစွာ ကျတော့မည်ဟု အယ်လီနာက ကြိုမြင်နေပြီ။

"ဘာမဟုတ်တဲ့ အသေးအဖွဲ့ ကိစ္စကလေးတွေကြောင့် မောင်နဲ့ အယ်လီနာ ရန်မဖြစ် ချင်ဘူးကွယ်"

အယ်လီနာက နူးနူးညွတ်ညွတ် ရှင်းပြသည်။

"ဒါပေမဲ့ အမြဲတမ်း သူပုန်ဝင်မွှေထားသလို ဖြစ်နေတဲ့ အခန်းထဲမှာတော့ အယ်လီနာ မနေတတ်ဘူး၊ ဒါကို ဘာမှ မတတ်နိုင်တော့ ဒီအတိုင်း လက်ပိုက်ကြည့်နေခဲ့ရတယ်။ အိမ်ခန်း တွေ အများကြီးပဲ မောင်ရယ်၊ အယ်လီနာ အခန်းတခန်းမှာ နေပါရစေလား ဟင်"

နှစ်ယောက်သား အဝတ်လဲနေကြစဉ် ဖြစ်၏။ ကက်စတာ၏ အင်္ကျီတထည်မှာ ဖန်မီး ဆိုင်းကြီးတွင် တွဲလဲချိတ်လျက်။ ကြမ်းပြင်ပေါ်တွင်လည်း သူ့အတွင်းခံတွေက နေရာအနှံ့။ အယ်လီနာက အခန်းကို ကြည့်ပြီး စိတ်ပျက်လက်ပျက် ပြောနေခြင်း ဖြစ်သည်။ အယ်လီနာ့ စကား ဆုံးတော့ ကက်စတာ ရယ်သည်။

"ဟုတ်တာပေါ့၊ အချစ်ကို သီးသန့်ခန်း လုပ်ပေးမယ်နော်"ဟု ပြော၏။ ကက်စတာ့ ဘက်ကလည်း အယ်လီနာ၏ စည်းစနစ်ကြီးခြင်း ဝဋ်ဒုက္ခမှ ကျွတ်ပြီဖြစ်၍ ဝမ်းသာနေသည်။ အယ်လီနာကို အခန်းမပြောင်းစေဘဲ ကက်စတာက အခြား တခန်းသို့ ပြောင်းပေးသည်။ အယ်လီနာတယောက် ကျေးဇူးတင် ဝမ်းသာလို့ မဆုံးတော့။

တခုတည်းသော ခိုးလိုးခုလု ကိစ္စကလေး ရှင်းသွားလေ၏။ နွေဦးသည် ဝက်သစ်ချ မြိုင်ကို အပူရောင်ဖြင့် ဆေးခြယ်လေပြီ။ အားလုံး တောက်တောက်ပပ။ ရှည်လျားသည့် နေ့များ ကို အယ်လီနာ ကြည်နူးစွာဖြင့် ကုန်လွန်စေ၏။ လူငယ်ဆရာဝန် ဒေါက်တာ ဘော့ပါ စယ်က တပတ်လျှင် နှစ်ကြိမ် လာကြည့်ပေး၏။

ဘော့ပါစယ်မှာ ဝိုင်အိုလက်၏ မောင် ဖြစ်သည်။ သူတို့က ဆရာဝန်မျိုး။ ဘော့ပါစယ် ၏ အဖေမှာ ကက်စတာနှင့် ကက်စတာတို့ အဖေကို မွေးဖွားပေးခဲ့သည့် ဆရာဝန်ကြီး ဖြစ်သည်။ ဆရာဝန်ကလေး ဘော့ပါစယ် ဝက်သစ်ချမြိုင်သို့ လာခြင်းမှာ တာဝန်ဖြင့် လာခြင်းနှင့် မတူဘဲ အလည်အပတ် လာသည်နှင့် ပို၍

တူနေသည်။ ကက်စတာနှင့် ထိုင်ပြီး အရက်ချို သောက်ရင်း အာလာပသလ္လာပ ပြောနေတတ်သည်။ အိမ်နီးနားချင်းတွေ အကြောင်း၊ ဝါဂွမ်း အကြောင်း၊ ဝီစကီအမျိုးမျိုးအကြောင်း စုံနေအောင် ပြောတတ်ကြသည်။ ဒေါက်တာပါစယ် သည် ပညာတော်သလောက် ဟာသဉာဏ်ရွှင်သည့် ပုဂ္ဂိုလ်ဖြစ်၍ သူလာလျှင် အားလုံး ပျော်ကြ ရသည်။

"ကလေးမကလေးသုံးယောက်" လည်း အယ်လီနာ့ဆီ ဗိုက်သတင်းမေး ရောက်လာကြ သေးသည်။ ကလေးမွေးဖို့ ပြင်ဆင်နေခြင်းသည် သူတို့အတွက် ရောမ စိတ်ဝင်စားစရာ ကိစ္စကြီး ဖြစ်နေသည်။ အယ်လီနာက အဘွားကြီးတွေနှင့် အလိုက်သင့် အလျားသင့် စကားမပြောတတ်။ သို့သော် ကြိုးစားပြီး ရေလိုက် ငါးလိုက် လုပ်ရသည်။

ကလေးမကလေး သုံးယောက်ထဲမှ အကြီးဆုံးက ကြိုးစားပမ်းစား ချုပ်လာသည့် အင်္ကျီပွကလေးတထည် ယူလာသည်။ ချုပ်ရိုးက အပြိုင်းပြိုင်းထလျက်၊ ရှားစောင်းလက်ပပ် ဆူးတွေအတိုင်း။ နောက်တယောက်က တချောင်းထိုးအပ်ဖြင့် ထိုးထားသည့် ကလေးဖိနပ် တရန်။ အငယ်ဆုံး မစ္စအာဂါသာကမူ ရုက်သွေးဖြာနေသည့် အမူအရာနှင့်။ သိပ်စိတ်လှုပ်ရှား နေလို့ ခေါင်းမငုံ့နိုင်ကြောင်း၊ သို့သော် ရုပ်ပုံတွေပါတဲ့ နတ်သမီးပုံပြင် စာအုပ်ကလေး ယူလာ ကြောင်း ပြောသည်။ သူတို့ညီအစ်မ သုံးယောက်စလုံးသည် ကလေးကို သူတို့ကိုယ်တိုင် မွေးရမလို စိတ်ဝင်စားနေကြကြောင်း အယ်လီနာ သဘောပေါက်လိုက်သည်။ သည်တော့လည်း သူတို့အပေါ် ကြင်နာသနားစိတ် ဖြစ်ပေါ်လာပြီး ကလေးမကလေး သုံးယောက်ကို နမ်း၍ပင် နှုတ်ဆက် မိလိုက်သေးသည်။ ကက်စတာတယောက် သည်လောက် ချစ်ဖို့ ကောင်းတဲ့ မိန်းကလေးနဲ့ အိမ်ထောင်ကျခြင်းကို သူတို့ ဝမ်းသာမဆုံး ဖြစ်နေကြောင်း ပြောသွားကြသည်။ သူ့ကို ချစ်စရာကောင်းသည်ဟု မှတ်ချက်ချခြင်းကို ပထမဆုံး အယ်လီနာ ကြားဖူးခြင်း။

တနေ့တွင် မစ္စစ်စပီမြစ်ညာ၌ ရေကာတာကိစ္စတွေ ပေါ်လာ၍ ခရီးထွက်ရင်း ဖရက် အပ္ပဂျွန်းတယောက် ဝက်သစ်ချမြိုင်သို့ ရောက်လာ၏။ သူ့ကိုယ်ပိုင်ဧည့်ခန်းထဲတွင် ဆိုဖာပေါ် ခွေခွေကလေး လှဲနေသော အယ်လီနာကို တွေ့ရသည်။ အဖြူရောင် ဝတ်ရုံရှည်ကြီးကို ဝတ်ထား ၏။ ဖရက်အပ္ပဂျွန်း အထိတ်တလန့် ဖြစ်သွား၏။ သမီးလုပ်သူကို တယုတယ ဖက်ပြီး နေမကောင်း တာကို ဘာကြောင့် အကြောင်းမကြားသလဲဟု အပြစ်ဆိုသည်။

"ပါပါ ကက်စတာနဲ့ တွေ့ပြီလား၊ သူ ဘာတွေ ပြောလိုက်လို့လဲ၊ သမီး ဘာမှ မဖြစ် ပါဘူး၊ နေကောင်းပါတယ် ပါပါရဲ့" ဟု ဆိုမှ သမီးကို ခြေဆုံး ခေါင်းဆုံး

ကြည့်သည်။ ဖရက်အပ္ပဂျွန်း အံ့သြလွန်းသဖြင့် ကြောင်နေ၏။

"ဟင်း .. ညည်း အဲဒီလိုတောင် ဖြစ်နေပြီလား"

တယောက်မျက်နှာ တယောက်ကြည့်ပြီး သားအဖနှစ်ယောက် ရယ်ကြသည်။

"ပါပါ မြေးကလေး ရတော့မယ် ပါပါရဲ့"ဟု အယ်လီနာက ကြေညာသည်။

"သမီး၊ တကယ် နေလို့ ကောင်းတယ်နော်"

အယ်လီနာ ခေါင်းကို သွက်သွက်ညိတ်သည်။

"ကောင်းပါတယ် ပါပါရဲ့၊ သမီး ကျန်းမာရေးက ဒေါင်ဒေါင်မြည်နေတာပဲ"

ဖရက်အပ္ပဂျွန်းက မကျေနပ်သေးသည့် အမူအရာနှင့် -

"သမီး ကားစီးသေးသလား၊ ပါပါက စိတ်ပူလို့ပါ"

"အို... ပါပါကလည်း၊ သမီးလို ဝက်သစ်ချမြိုင် သခင်မကလေးဟာ သူ့ရဲ့မလှမပ ခန္ဓာကိုယ်ကြီးကို ဘယ်မှာ အိမ်တကာ လည်ပြပါ့မလဲလို့။ သမီးလေ ခြံစည်းရိုး အပြင်တောင် မထွက်ဘူး"

"သမီးကို သူတို့က ပေးမထွက်တာလား၊ ဒါဖြင့် ဘာလေ့ကျင့်ခန်း လုပ်သလဲ"

"ပန်းခြံထဲမှာ ပန်းခူးတယ်လေ၊ ဒါတောင် အိမ်ဖော်မတယောက်က သမီးနောက်က တကောက်ကောက် လိုက်နေသေးတယ်၊ နှံကောင်တွေကို မြင်ရင် သမီးက လန့်ပြီး သေမှာ ကျနေတာပဲ"

ဖရက်က ကုလားထိုင်ကလေး တလုံးတွင် ဝင်ထိုင်သည်။

"ပါပါ မှတ်မိနေသေးတယ်၊ သမီး ကိုယ်ဝန်ကြီးနဲ့တုန်းက သမီး မေမေဟာ ပါပါတို့ အဖွဲ့သား ခြောက်ယောက်ကို တနေ့ သုံးကြိမ် ထမင်းချက်ကျွေးတာပဲ"

"မေမေလား၊ မေမေက ကက်စတာလိုလူမှ ရွေးပြီး လက်မထပ်ဘဲကိုး"

အယ်လီနာက ပြောပြီး ရယ်နေသည်။

"ပါပါရယ်၊ အဲဒီမျက်နှာထားကြီးနဲ့ ကြည့်မနေစမ်းပါနဲ့၊ ဖန်ပေါင်းချောင်ထဲမှာ နေရတဲ့ ဘဝကို သမီး ပျော်နေပါတယ်"

ဖရက်က ရှေ့သို့ ကိုင်းလိုက်သည်။ ခုထိ နေသား မကျသေး။ သူ့ခန္ဓာကိုယ်နှင့် ကုလား ထိုင်မှာ မမျှ ဖြစ်နေ၏။

“အင်း. . . ပါပါ့သမီးနဲ့ နည်းနည်းကလေးမှ မတူတော့ပါလား”ဟု ဖရက်အပ္ပဂ္ဂျန်း က ညည်းညည်းတွားတွား ပြောလိုက်၏။

အယ်လီနာက လက်ညှိုးကလေးကို ကိုက်ပြီး ရယ်နေပြန်သည်။ ဖရက်အပ္ပဂ္ဂျန်းက ထပ်ဖြည့်ပြောသေးသည်။

“ဟိုတုန်းကတော့ သမီးဟာ ပါပါ တွေ့ဖူးသမျှ မိန်းကလေးတွေထဲမှာ အတော်ဆုံး မိန်းကလေးပဲ”

အယ်လီနာ ဝမ်းနည်းသွားသည်။ သားအဖနှစ်ယောက် ရယ်စရာတွေ၊ ပျော်စရာတွေကို အတူရယ်၊ အတူပျော်ခဲ့ကြသည် မဟုတ်လား။ ခု သူ့ပျော်ရွှင်မှုကို ဖေဖေတယောက် မျှဝေ ခံစားဖော် မရတော့ပါကလား။ ဖေဖေ နားလည်အောင် ဘယ်လို လုပ်ပြီး ရှင်းပြရပါ့မလဲ။

ကက်စတာ ပြန်လာလျှင် အခန်းထဲသို့ ပြုံးပြီး ဝင်လာတတ်သည်။ သူတို့ နှစ်ယောက်ကြား တွင် အပြုံးတွေက ကူးစက်လွယ်ကြသည်။ တယောက်ကို တယောက် စကြသည်။ မခံချင် အောင် ပြောကြသည်။ ကြံဖန်ပြီး တယောက်နှင့် တယောက် အပြစ်ရှာကြသည်။ သည်ကျီစယ် မှုတွေ၏ နောက်ကွယ်တွင် ရှိနေသည့် ပြောစရာ မလိုသည့် အပြန်အလှန် နားလည်မှုတွေ အကြောင်း ဖေဖေ့ကို ဘယ်လို ပြောရမလဲ။ သူ့ရင်ဘတ်ပေါ်ကို မျက်နှာမှောက်ချပြီး ကြည်နူးနေ ရသည့် အဖြစ်မျိုး။ သူ့အယုအယတွင် ချစ်စိတ်ကို မမျိုသိပ်နိုင်သဖြင့် ရှိုက်ငိုမိသည်အထိ ဖြစ်ရ သည့် အခါမျိုးတွေကို ဖေဖေ ဖရက်အပ္ပဂ္ဂျန်း နားလည်အောင် ဘယ်လို ပြောရမလဲကွယ်။ ဒါတွေ ကို အဖေလုပ်သူက နားမလည်နိုင်တော့ အယ်လီနာ ဝမ်းနည်းရသည်ပေါ့။ ဒီနေရာမှာ တော့ ဖေဖေ မှားနေပြီလို့ အယ်လီနာ ရဲရဲကြီး ပြောနိုင်သည်။ ဖေဖေပြန်သွားတော့ ရင်ထဲ ပေါ့သွား သလို ဖြစ်ကျန်ရစ်သည်။ သည့်အတွက် မိမိကိုယ်မိမိ အပြစ်ရှိနေသူလိုလည်း ခံစားလိုက်မိ၏။

※※※

# (၃)

## အောက်တိုဘာလ၊ ကလေး မျက်နှာမြင်သည့် နေ့။

ကက်စတာတယောက် ဘယ်လို ပြုမူနေထိုင်ရမည်ကို ကြားဖူးနားဝ ရှိသလောက် လိုက်နာပါ၏။ သို့သော် စိတ်ငြိမ်အောင်ထား၍ မရ ဖြစ်နေသည်။ ဘာမျှ စားခိုင်း၍ မရ။ ကလိုရိုဖောင်းအနံ့ကြောင့် စိတ်ညစ်ရသည်က တမျောင့်။ အယ်လီနာ အသက်မှ ရှိသေးရဲ့လားဟု သွေးရူးသွေးတန်းနှင့် မွေးခန်းထဲသို့ ခဏခဏ ဝင်နေသည်။ ဆောက်တည်ရာမရ ဖြစ်သည်ထက် ဖြစ်လာ၏။ ညနေ ၆ နာရီတွင် မိန်းကလေး မွေးကြောင်း သူနာပြုဆရာမတယောက် လာပြော မှ သူ့ရင်ထဲမှ အလုံးကြီး ကျသွားပြီး-

"ဘုရား... ဘုရား၊ နောက် ကျုပ်မိန်းမကို ဒါမျိုး ဘယ်တော့မှ မခံစားစေရဘူး" ဟု ပြောပြောဆိုဆို မွေးခန်းထဲသို့ ဝင်သွားပြီး ဆရာဝန် တားသည့်ကြားမှ အယ်လီနာ့ ပါးပြင် ပေါ်ကို အနမ်းမိုးတွေ ရွာချနေသည်။

အယ်လီနာက နွမ်းနယ်စွာဖြင့်-

"သွားပါ မောင်ရယ်၊ အယ်လီနာ နားချင်လှပြီ" ဟု နှင်သည်။

ကက်စတာ အကြီးအကျယ် စိတ်ခုတ် ကျသွားသည်။ ပထမဆုံး ချစ်သူ၏ အနှင်ခံရ ခြင်း။ အယ်လီနာ သူ့အပေါ် အချစ်ပြယ်လေပြီလား။ သမီးငယ်ကို တချက်ကလေးမျှ ‌ငေ့ကြည့် ဖော် မရဘဲ စိတ်ပျက်လက်ပျက် ဆင်းလာခဲ့၏။ ညီအစ်ကိုတော်တယောက်နှင့် အချစ်တော် သူငယ်ချင်း နီးလ်ရှာရမီကို လှမ်းခေါ်သည်။ နှစ်ယောက်လုံး မရှိကြ။ သည်တော့ တယောက် တည်း အမူးသောက်သည်။ တညလုံး သောက်သည်။ မိုးစင်စင်လင်းမှ အိပ်ခန်းထဲသို့ ကာမီယို က တွဲပို့ရ၏။

မည်သို့ဖြစ်စေ ကက်စတာသည် ကလေးအဖေ ဘဝကို ဝမ်းပန်းတသာ ခံယူလျက် ရှိသည်။ ပျော်လည်း ပျော်နေ၏။ သမီးဦးရတနာ ဖွားမြင်သည့် သတင်းကို ရပ်နီးရပ်ဝေး အပေါင်း အသင်း အားလုံးဆီသို့ သံကြိုးပို့၏။ ဝက်သစ်ချမြိုင်ကို တံခါးမရှိ ဓားမရှိ ဖွင့်ထားပြီး လာသမျှ ဧည့်သည်တွေကို ခုနစ်ရက် ခုနစ်လီ ဝိုင်နှင့် ကြက်ဥ အရက်တို့ဖြင့် ဧည့်ခံသည်။ ဝက်သစ်ချမြိုင် သည် နှစ်ကူးပွဲတော်တမျှ စည်ကားလျက်။

ဖေဖေ ဒင်းနစ်လန်းနှင့် မေမေ မစ္စက်လန်းတို့လည်း မြေးဦးကလေးကို ကြည့်ရန် ရောက် လာကြသည်။ ဖရက်အပ္ပဂျွန်းက အလုပ်များနေ၍ ကက်စတာ အလောတကြီး ဖိတ်ခေါ်သော် လည်း နောက်တနင်္ဂနွေနေ့မှ လာဖြစ်တော့သည်။ မေမေ မော်လီအပ္ပဂျွန်းနှင့် အယ်လီနာ၏ ညီမ ဖလောရင့်စ်တို့ ပါလာ၏။ ကလေးဟုခေါ်သည့် ပန်းနုရောင် နီတာရဲကလေးနှင့် သူတို့ တတွေ အပျော်ကြီး ပျော်နေကြသည်။

"ကလေး"အတွက် နာမည်ရွေး၍ မပြီးနိုင်အောင် ဖြစ်နေကြပြန်၏။ ကက်စတာနှင့် အယ်လီနာတို့မှာ သမီးနာမည် မှည့်ရေးတွင် တော်တော်နှင့် စိတ်ကြိုက်နာမည် ရွေးမရ ဖြစ် နေသည်။

ပန်းနုရောင် အမိုးအောက်မှ ရောမ ခုတင်ကြီးပေါ်တွင် လဲလျောင်း၍ အယ်လီနာသည် အားလုံး၏ ယုယကြင်နာမှုအတွက် အကျေနပ်ကြီး ကျေနပ်နေ၏။ ဖေဖေနှင့် မေမေတို့ ရောက် လာသည့် အတွက်လည်း အားတက် ဝမ်းသာနေသည်။ ဖေဖေနှင့်မေမေသည် ခွန်အပြည့် အားအပြည့်။ ရိုးသားပွင့်လင်း၏။ လွတ်လပ်စွာ ရယ်မော၏။ တဲငယ်တလုံးထဲတွင် မွေးဖွား ခဲ့သော သမီးကြီး၏ အဆောင်အယောင်တွေကို ကြည့်ပြီး ရယ်မောနေကြသေးသည်။

ဒဏ္ဍာရီဆန်လှစွာ ဆိတ်ငြိမ်သော ဝက်သစ်ချမြိုင်တွင် ဖေဖေ၊ မေမေနှင့် ညီမလေးတို့ လန်းဆန်း ပျော်ရွှင်နေကြဟန် တူ၏။ ဝက်သစ်ချမြိုင်၏ သွေးမျိုးဆက်ကို မွေးဖွားပေးရခြင်း အတွက် မိဘများ၏ ရှေ့တွင် အယ်လီနာ ဂုဏ်ယူ ဝမ်းသာနေဟန် တူသည်။ သူတို့တတွေ ညရထားနှင့် ပြန်သွားကြတော့ ပင်ပန်းနွမ်းနယ် ကျန်ခဲ့သည်။ သို့သော် အိပ်ရာမဝင်မီ ကက်စတာ နှင့် စကားပြောချင်သေးသည်ဟု သူနာပြု ဆရာမကို ပြောလိုက်သည်။

ဆရာမက ကက်စတာ့ကို ခေါ်လာပေးပြီး အခန်းထဲမှ ထွက်သွားသည်။ ကက်စတာက အယ်လီနာ့ အိပ်ရာနံဘေးတွင် ဝင်ထိုင်သည်။ ကလေးနာမည် ရွေးလို့ရပြီ ဖြစ်ကြောင်း အယ်လီနာ ပြောသည်။

"မောင် သဘောတူမယ် ဆိုရင် သမီးလေးကို သိပ်သတ္တိ ကောင်းတဲ့ အယ်လီနာတို့ အဘွားရဲ့ နာမည်ကို မှည့်ချင်တယ်၊ ဖေဖေရဲ့ အမေလေ"

ကက်စတာက အယ်လီနာ၏ ခေါင်းအုံးကို မှီထိုင်နေရင်း-

"ဩော်.. မိန်းကလေးရယ်၊ မောင် ဘာလို့ သဘောမတူရမှာလဲကွယ်"

"ဖေဖေက ကိလိဋ္ဌသားလေ၊ မောင် မေ့နေပြီလား၊ မောင်တို့က ဒါ တွေ

အလေးအနက် ထားတတ်လို့ပါ”

“အို. . . အချစ်ကလည်းကွယ်၊ မောင် မမေ့ပါဘူး၊ ဒါပေမဲ့ ဒါတွေ ဂရုမစိုက်ပါဘူး၊ စစ်ပြီးစက မှောင်ခိုတွေ သောင်းကျန်းခဲ့တဲ့ ခေတ်အကြောင်း ဘာထည့်စဉ်းစားစရာလိုလဲ”

“အယ်လီနာ ဒီအကြောင်းကို ဟိုတုန်းက အလေးအနက် မစဉ်းစားခဲ့ဖူးဘူး မောင်၊ အဘွားဟာ သိပ်ကို ဆင်းရဲခဲ့တယ် တဲ့။ ကောင်းကောင်း ဝတ်ရမလား၊ ကောင်းကောင်း စားရ မလား ဆိုပြီး လူတယောက်ရဲ့ အချစ်ကို လက်ခံမိတယ်တဲ့ မောင်။ ဖေဖေ့ကို မမွေးခင် အဲဒီလူ က ဘွားဘွားကို စွန့်သွားတယ်။ ဖေဖေ ကလေးဘဝမှာ ဘွားဘွားဟာ ပန်းကန်ဆေး၊ အဝတ် လျှော် အလုပ်ကို လုပ်ပြီး သားကို ပြုစုပျိုးထောင်ပေးခဲ့တယ်။ ကျောင်းထားပေးခဲ့တယ်။ ဘွားဘွားဟာ စာလည်း တလုံးမှ မတတ်ဘူး။ ဒါပေမဲ့ အယ်လီနာ ထင်တယ်လေ၊ အယ်လီနာ တို့မှာ ရှိတဲ့ ဗဟုသုတတွေ သူ့မှာ မရှိပေမဲ့ ဘွားဘွားဟာ သိပ်ကို ထက်တဲ့ အမျိုးသမီး ဖြစ်မယ်လို့။

အယ်လီနာ ငယ်ငယ်ကလေးမှာ အဘွား ဆုံးသွားတယ်။ ဘဝကို အောင်မြင်စွာနဲ့ အဆုံးသတ် သွားတာလေ။ ဖေဖေဟာ သူဖန်ဆင်းခဲ့လို့ လူတလုံး သူတလုံး ဖြစ်နေတာ သူ မြင်သွားရတယ် မဟုတ်လား။ ဒါကြောင့် မိခင်တိုင်း ဂုဏ်ယူထိုက်တဲ့ သတ္တိခဲ ဘွားဘွားရဲ့ နာမည်ကို အယ်လီနာ တို့ သမီးကလေး ဆက်ခံစေ့ချင်တာပါ မောင်”

ကက်စတာက ပြုံးသည်။

“မင်းလည်း မင်းအဘွားနဲ့ တူတာပါပဲ အယ်လီနာ၊ ကဲ.. ပြောပါဦး၊ ဘွားဘွား နာမည်က ဘာတဲ့လဲ”

“ကိုရီမေ အပွဂျွန်း တဲ့”

ကက်စတာက သက်ပြင်းချသည်။

“အယ်လီနာရယ် မရှည်လွန်းဘူးလားကွယ်၊ မောင့်ကို စိတ်မဆိုးနဲ့နော်”

“သိပါတယ်၊ အယ်လီနာက ဒီအတိုင်း မှည့်ရမယ်လို့ မဆိုလိုပါဘူး မောင်ရဲ့”

ကက်စတာ ခဏ တွေပြီး စဉ်းစားသည်။

“ကိုရီ ဆိုတဲ့ နာမည်ဟာ ကော်နယ်လီယာရဲ့ အတိုကောက် မဟုတ်ဘူးလား”

"ဟုတ်တယ် မောင်၊ ကော်နယ်လီယာ။ အယ်လီနာ သဘောကျတယ်"

"မချော သဘောကျရင် မှည့်စေဗျား"

အယ်လီနာက သူ့မျက်နှာကလေးကို ခေါင်းအုံးပေါ် ထောက်ထားသည့် ကက်စတာ့ လက်ပေါ်တွင် မှေးတင်ထားလိုက်သည်။ သမီးလေး အကြောင်းကို ဆက်ပြောနေကြသည်။ ကက်စတာက သူ့သမီး၏ အနာဂတ်ကို တွေးပြီး စိတ်ကူးယဉ်နေသည်။ သူ့သမီးကို ကစား တတ်သည့် အရွယ်ရောက်လျှင် တကယ့် မြင်းလည်ဆံမွေး တပ်ထားတဲ့ မြင်းရုပ်ကလေး ဝယ် ပေးမည် တဲ့လေ။ အယ်လီနာကတော့ သတို့သမီးဝတ်ရုံဖြူကို ဆင်မြန်းပြီး ဝက်သစ်ချမြိုင် အိမ်ကြီး၏ အပေါ်ထပ်မှ ဆင်းလာသည့် သမီး၏ပုံကို တွေးကြည့်နေသည်။

"သူ့ခေတ်ကျရင် မင်္ဂလာခရီးကို ပန်းကန်ပြားပျံနဲ့ သွားချင် သွားရမှာ" ဟု ကက်စတာ က ဖြည့်ပြီး စိတ်ကူးထပ်ယဉ်သည်။

အယ်လီနာက ပခုံးတွန့်ပြပြီး-

"ကြောက်စရာကြီးကွယ် မောင်ကလည်း၊ ပန်းကန်ပြားပျံဆိုတာ တကယ်ကော ဖြစ်မှာ တဲ့လား ဟင်"

" ဘာလို့ မဖြစ်ရမှာလဲ အယ်လီနာရဲ့၊ လွန်ခဲ့တဲ့ နှစ်နှစ်ဆယ်က မော်တော်ကား ဆိုတာ ဘယ်မှာ ရှိသေးလို့လဲ။ ဒီမယ် အယ်လီနာ၊ သမီးတို့ခေတ်မှာ လကမ္ဘာကို ဒုံးပျံတွေ သွားတာ နဲ့တောင် ကြုံချင် ကြုံမှာ"

ကက်စတာတယောက် စိတ်ကူးယဉ်လွန်းရန်ကောဟု တွေးပြီး အယ်လီနာ မရယ်ဘဲ မနေနိုင်အောင် ဖြစ်ရသည်။

"တကယ်ပြောတာ အယ်လီနာ၊ ကမ္ဘာကြီးဟာ တနေ့တခြား တိုးတက်နေတာ။ ဂျာမန်ဘုရင် ကိုင်ဇာရဲ့ ငွေရတုသဘင် မိန့်ခွန်းကို မဖတ်လိုက်ရဘူးလား၊ သူတို့ တီထွင်မှုတွေ အများကြီးရယ် အယ်လီနာ"

"ဟင့်အင်း၊ မဖတ်လိုက်မိဘူး မောင်"

"သိပ် အင်အားတောင့်တဲ့ပွဲပဲ သိလား။ ဥရောပမှာ ရှိသမျှ ဘုရင်တွေ၊ ဘုရင်မတွေ၊ သိပ္ပံပညာရှင်တွေ အားလုံးရဲ့ ချစ်ကြည်ရေး အောင်ပွဲကြီး တမျိုးလို့ပြောရမယ်။ ဂျာမန်ဘုရင် ကိုင်ဇာဟာ အဲဒီချစ်ကြည်ရေး အောင်ပွဲကို သူ့ရဲ့ သမီးတော် လက်ထပ်ပွဲနဲ့ တပါတည်း တွဲပြီး ကျင်းပတယ်လေ။ အပျိုရုံတွေက အင်္ဂလန်၊ ရုရှားနဲ့ အီတလီက မင်းသမီးတွေ။ ရုမေးနီးယား ဘုရင့်သမီးတော်လည်း

ပါတယ်။ ဥရောပ ချစ်ကြည်စည်းလုံးရေးရဲ့ ရှေ့ပြေးသင်္ကေတပဲပေါ့ ။ အခမ်းအနားကို တက်လာကြတဲ့ ဘုရင်တွေက ဂျာမနီပြည့်ရှင် ဘုရင်ကိုင်ဇာကို ငြိမ်းချမ်းရေး ဗိသုကာလို့ တညီတညွတ်တည်း အသိအမှတ်ပြုကြတယ်။ မောင်က ဒိုးပျံအကြောင်း ပြောတော့ အယ်လီနာ ရယ်တယ်နော်။ “နှစ်ဆယ်ရာစုနှစ် မဟာဂျာမန်လူသားဘွဲ့” ကို ကိုင်ဇာက ဘယ်သူ့ ကို ပေးတယ် အောက်မေ့လဲ။ မြို့စားကြီး ဗွန်ဇက်ပလင်ကို ပေးတယ် ခင်ဗျ”

“ဘယ်သူလဲ ဇက်ပလင် ဆိုတာ”

“မိုးပျံဘောလုံး လေယာဉ်ကို တီထွင်တဲ့ ပုဂ္ဂိုလ်ကြီးလေ၊ ကြိုက်တဲ့ နေရာကို သွားနိုင် တယ် ဆိုပဲ”

“လကမ္ဘာကိုတော့ မရောက်နိုင်ပါဘူး၊ အဓိပ္ပာယ် မရှိ။ ခု မောင် ပြောနေတာက ဘယ်တုန်းက ဖြစ်တာလဲ”

“ရော်… ပြီးခဲ့တဲ့ နွေကလေ။ ဒီမယ် အယ်လီနာ၊ ဘာဖြစ်လို့ သိပ်ပြီး လက်တွေ့ ဆန်ချင်နေရတာလဲ။ တို့သမီးကလေး ကြီးလာတဲ့အခါ ခုထက် ပိုပြီး အံ့ဩစရာကောင်းတဲ့ ကမ္ဘာကြီးမှာ နေရရင် ပိုပြီး မကောင်းဘူးလား”

“မသိဘူးလေ၊ ကြောက်စရာကြီးတွေများ ဖြစ်နေမလားလို့။ ဒါပေမဲ့ မိုးပျံဘောလုံးကြီး နဲ့ ပျံတက်ရတာတော့ ပျော်စရာကြီး နေမယ် ထင်တယ်”

“ဟုတ်တယ်၊ မောင်လည်း ပျံကြည့်ချင်တယ်”

ရေးဟောင်း ပုခက်ကြီးထဲမှ ကော်နယ်လီယာကလေးက ခြေကားရား လက်ကားရား နှင့် ကန်ကျောက်လျက်။ အယ်လီနာက မျက်နှာနှင့် အပ်ထားသည့် ကက်စတာ၏ လက်ကို နမ်းလိုက်သည်။ သည်နေ့ တော်တော်ပင်ပန်းသွားပြီ။ မှူးနောက် ရီဝေနေသည်။ သို့သော် ပျော်နေ သည်တော့ အမှန်။

※※※

# အခန်း (၄)

## (၁)

ပင်ကိုစရိုက်အားဖြင့် အယ်လီနာသည် မိခင်စိတ် ရှိလှသည့် မိန်းကလေး မဟုတ်ပါဘဲ လျက် သမီးဦးကလေးကို ချစ်လို့ မဝနိုင်အောင် ဖြစ်နေ၏။ ပြီးတော့ သမီးငယ်ကလေးကို ကက်စတာ သည်ရွေ့သည့်မျှ ပုံအောပြီး ချစ်လာလိမ့်မည်ဟု အယ်လီနာ လုံးဝ မမျှော်လင့်ခဲ့။ ကစားစရာတွေနှင့် အဝတ်အစား ဆိုသည်မှာ ထားစရာပင် နေရာ မရှိတော့။ အဖြစ်သည်းလိုက် သည်မှာလည်း ဆိုဖွယ်ရာ မရှိ။ ကလေး၏ မပီမသ အသံတွေကို အမျိုးမျိုး အဓိပ္ပာယ်ကောက် ၏။ ရှာမှ ရှားမည့် ကလေးမျိုး ဖြစ်လာမည်ဟု နိမိတ်ဖတ်၏။ သူ့ဘာသာသူ အဖြစ်သည်းနေလျှင် ကိစ္စမရှိ။ ခုတော့ လူတကာကို သမီးအကြောင်း လျှောက်ပြောနေတော့ အယ်လီနာက တားမြစ် ရတော့သည်။

"မောင်၊ တော်ရုံ ကောင်းတယ်နော်"

ပါစယ်မိသားစုထံမှ ညစာစားပြီး အိမ်ပြန်အရောက်တွင် အယ်လီနာက စကားစသည်။

"ကော်နယ်လီဟာ မွေးစတုန်းက ပန်းရောင်လည်း မဟုတ်ဘူး၊ အဖြူကြီးလည်း မဟုတ်ဘူး၊ ပြီးတော့ ပါးချိုင့်လည်း မပါဘူး၊ နီလိုက်တာမှ ပန်းရန်သမားရဲ့ ဇက်ပိုးကျနေတာပဲ။ ကလေးတိုင်း မွေးစဆို ဒီလိုချည်းပဲ။ မောင်ဟာ သမီးနဲ့ ပတ်သက်လာရင် ပိုကို ပိုလွန်းတယ်"

ကက်စတာက မီးဖိုနံဘေးတွင် ဒူးထောက်ပြီး မီးမွှေးနေရင်း ပြန်ပြောသည်။

"ကော်နယ်လီယာဟာ ဘယ်ကလေးနဲ့မှ မတူဘူး၊ ထူးကို ထူးခြားတယ်"

"လုပ်မနေနဲ့၊ ကလေးတိုင်းဟာ မွေးစမှာ ကြွက်စုတ်ကလေးတွေလို အရုပ်ဆိုးတာ ချည်းပဲ။ အဲ- မိဘတိုင်းကလည်း သူတို့ကလေး တမိုးအောက် တယောက်။ တခေတ်မှာ တခါ ပေါ်ဖူးသလို ထင်ကြတာချည်းပဲ။ အဲဒီလို ပြောတဲ့ လူတွေ တွေ့တိုင်း အယ်လီနာ သိပ်ရယ် ချင်တာပဲ။ ဒါကြောင့် ငါကလေးမွေးရင် ဘယ်တော့မှ အဲဒီလို မပြောဘူးလို့ ဆုံးဖြတ်ထား တယ်"

“အင်း .... အမိကတော့ ရှားပါတယ်”ဟု ပြောပြီး မတ်တတ်ထသည်။ လက်မှ ဖုန်တွေ ကို ခါသည်။ မီးဖိုထဲတွင် ဖျစ်ဖျစ်မြည်ပြီး မီးလျှံတွေ တက်လာသည်။

ကက်စတာက အယ်လီနာနှင့် မျက်နှာချင်းဆိုင် ကုလားထိုင်တလုံးတွင် ထိုင်လိုက် သည်။ နောက်သို့ မှီပြီး အပျင်း ဆန့်သည်။ ဇက်ပိုးပေါ်တွင် လက်နှစ်ဖက် ပတ္တာဆက်လျက်။ ဩော်... ကက်စတာ ကက်စတာ။ လင်တော်မောင်ကို ငေးရင်း အယ်လီနာ တွေးနေမိသည်။ သိပ်ချစ်ဖို့ ကောင်းတဲ့ လူ၊ လောကကြီးဟာ ဒုက္ခဘုံကြီး၊ အနိဋ္ဌာရုံကမ္ဘာကြီးဟု လူတွေ မြင်ကြ သလို သူ့ကို မြင်လာအောင် ဘယ်သူမျှ စွမ်းဆောင်နိုင်မည် မထင်။

ကက်စတာသည် အယ်လီနာကို ရွှေလို ဥထားဆဲ။ ဇန်နဝါရီလသို့ ရောက်ခဲ့ပြီ။ စတွေ့ သည့် အချိန်မှဆိုလျှင် နှစ်နှစ် ပြည့်လုပြီ။ စားပွဲနိမ့်ကလေးပေါ်တွင် အစုလိုက် အပြုံလိုက် ရောက်နေသည့် စာတွေကို မဖောက်သေးဘဲ အပျင်းထူနေသည့်အတွက် အယ်လီနာက မကျေ မနပ် ပြုံးလိုက်သည်။

“အယ်လီနာ့ စာတွေကို မောင် ဂရုမစိုက်တော့ဘူးပေါ့ ဟုတ်လား”

“စာပုံးထဲကို ခဏခဏ သွားကြည့်နေတာပါ အယ်လီနာရယ်၊ စာတွေ ရောက်တာ တွေ့တွေ့ချင်း အလုပ်တွေ ပစ်ထားခဲ့ပြီး ယူလာခဲ့တာပါကွာ”

ကက်စတာက စာတွေ ရွေးနေသည်။

“ဒါက မောင့်ညီမလေး အဲလစ်ဆီက စာလေ။ သူက ဖွဲ့ဖွဲ့နွဲ့နွဲ့တော့ မရေးတတ်ဘူး၊ ဒါပေမဲ့ တအိမ်လုံးရဲ့ ကိုယ်စား သူပဲ တလတစောင် ရေးဖော်ရနေတယ်။ အဲဒါက ဘယ်သူ့ ဆီက စာလဲ အယ်လီနာ၊ ဖွင့်ရက်ကြီးပါလား”

“မောင်နဲ့ အယ်လီနာကို နှစ်ယောက်လုံး လိပ်စာတပ်ထားတယ်။ မစ္စတာ နီးလ်ရှာရမီ ဆီက ဖိတ်စာပါ၊ မနက်ဖြန် သူတို့အိမ်မှာ ညစာ လာစားပါတဲ့”

“ဩော်... အင်း- ညစာစားပြီးရင် နီးလ်နဲ့ မောင်နဲ့တောင် သွားစရာ ရှိသေးတယ်။ သူ ကားဝယ်ဖို့ မောင် လိုက်လုပ်ပေးရဦးမယ်။ ဒါတွေက နယူးအော်လင်းဘဏ်က ငွေတောင်းခံ လွှာတွေပါ။ မောင် အဲဒါတွေ ကြည့်နေတုန်း အဲလစ်ရဲ့စာကို ဖတ်ကြည့်စမ်းပါ အယ်လီနာ၊ ဘာများ ထူးလဲလို့”

ကက်စတာက အဲလစ်၏စာကို အယ်လီနာ့ပေါင်ပေါ် ပစ်တင်ပေးလိုက်၏။ ကက်စတာ ပြောသည့် အတိုင်းပင် အဲလစ်၏ စာမှာ ဘာမျှ စိတ်ဝင်စားစရာ မပါ။ အဲလစ်က သူနေကောင်း ကြောင်း၊ သူ့ယောကျ်ား နေကောင်းကြောင်း၊ နယူးအော်လင်းတွင် တပတ်လုံး မိုးရွာနေ ကြောင်း၊ မေမေ မစ္စက်လန်း ဗုဒ္ဓဟူးနေ့က

အပျော်ဖဲကစားပွဲ လုပ်ဖို့အတွက် အိမ်တွင် ပါတီ ကျင်းပကြောင်း... စသည်များ။

အယ်လီနာက စာကို ဖတ်ပြီး စာအိတ်ထဲ ပြန်ထည့်မည်ပြုစဉ် ကက်စတာ အလန့်တကြား ထရပ်လိုက်သည်။

အယ်လီနာ သူ့မျက်နှာကို မော်ကြည့်လိုက်သည်။ လက်ထဲမှ စာရွက်ခေါက် လွတ်ကျ သွား၏။

ကက်စတာ့ လက်ထဲတွင် ဘဏ်မှ လာသည့် စာရွက်စာတမ်းတွေကို ကိုင်လျက်၊ သူ့ မျက်လုံးအိမ်တွေ အတွင်းသို့ ချိုင့်ဝင်သွားသည်ဟု ထင်ရ၏။ လက်ထဲမှ စာရွက်တွေကို စိုက်ကြည့် နေသည်။ သူ့မျက်နှာသည် အဆိပ်သင့်နေသည့် လူတယောက်၏ မျက်နှာမျိုး ဖြစ်နေ၏။

အယ်လီနာ အလန့်တကြား အော်သည်။

“မောင် . . . မောင် ဘာဖြစ်တာလဲ ဟင်”

ကက်စတာက ရုတ်တရက် ပြန်မဖြေ။ အတန်ကြာမှ သူတခါမျှ မပြောဖူးသော အသံဖြင့်-

“ဝက်သစ်ချမြိုင်ကို ဘဏ်က သိမ်းတော့မလို့တဲ့၊ နို့တစ် ပေးနေပြီ”

လည်ချောင်းထဲမှာ အသံတသံ ဗလုံးဗထွေး တိုးဖော့ထွက်သွားကြောင်း မိမိကိုယ်တိုင် ပြန်ကြားလိုက်သည်ဟု အယ်လီနာ ထင်မှတ်လိုက်၏။ ဘာပြောလိုက်မိမှန်းတော့ မသိ။ ခေါင်းထဲ တွင် မိုက်ခနဲ ဖြစ်သွားသည်။ သူ့အသိအာရုံကို တစုံတခုနှင့် ထိုးနှက်လိုက်သလို ခံစားလိုက် ရ၏။ ဘာမျှ မပြောနိုင်။ ဝက်သစ်ချမြိုင်၏ မြင်ကွင်းကျယ်ကြီး စိတ်အာရုံတွင် ထင်လာ သည်။ ဝက်သစ်ချနှင့် တောင်ထန်းပင်တွေ စီရရီ ခြံရံနေသည့် ဝက်သစ်ချမြိုင်၊ ဝါဂွမ်းဘေထုပ် တွေ သိုလှောင်သည့် ဂိုဒေါင်တွေ၊ နီဂရိုးလုပ်သားတွေ လှုပ်လှုပ်ရွရွနှင့် အသက်ဝင်နေသည့် ဝက်သစ်ချမြိုင်။

ဝက်သစ်ချမြိုင်၏ ရင်ခွင်တွင် အမြဲတမ်း ပျော်နေသည့် ချစ်လင် ကက်စတာ၊ မင်္ဂလာ ဝတ်ရုံဖြူကို ဆင်မြန်းပြီး တဆစ်ချိုး လှေကားကြီးမှ ဆင်းလာမည့် သမီးကလေး ကော်နယ် လီယာ၊ ကြောင်လိမ်လှေကား ခြေရင်းမှ မြင်းခွာရာ... စသည် စသည်။

သူ့မျက်နှာကို မည်မျှကြာအောင် ငေးကြည့်နေမိသည် မသိ။ နဖူးပြင်ကို သူက ငုံ့နမ်းမှ အယ်လီနာ အသက်ပြန်ဝင်လာသည်။

"မောင် စိတ်မကောင်းပါဘူးကွယ်၊ ဒါတွေ အချစ် သိဖို့ မကောင်းပါဘူး။ မောင် နယူးအော်လင်းကို ဆင်းသွားမယ်၊ ပြီးတော့ အချိန်ထပ်ပေးဖို့ ဆွေးနွေးမယ်"

နဖူးပြင်ကို လက်ဖြင့် ထောက်ထားလိုက်ရသည်။ မွန်းကျပ်ကျပ်ကြီး ဖြစ်နေသလိုပဲ။ မချစ်မနှစ်သက်သော သူ၏ အနမ်းခံရသည့်အလား။ အခြေအနေတွေ ရုတ်ခြည်း ပြောင်းလဲသွား လေပြီ။

"အချိန်တိုးပေးဖို့၊ ဟုတ်လား မောင်၊ ရပါ့မလား ဟင်"

ကက်စတာက ပခုံးတွန့်ပြသည်။ အယ်လီနာ သူ့ကို သေသေချာချာ အကဲခတ်နေသည်။ တဖြည်းဖြည်း သူ ဣန္ဒြေ ပြန်ဆည်နိုင်၏။ ချက်ချင်းပင် သူ့ကိုယ်ပိုင်အမူအရာဖြစ်သည့် အရာတိုင်းကို လိုတရနေဟန် ခပ်မြူးမြူးပုံ ပြန်ပေါ်လာသည်။

"ဒါတွေက အသေးအဖွဲတွေပါ အချစ်ရယ်၊ ဘာမှ စိုးရိမ်စရာ မရှိပါဘူး။ ထုံးတမ်းစဉ်လာ အရ ရေးလိုက်တဲ့ စာပါ"

ပြီးတော့ အယ်လီနာကို ချော့သည်။

"ဟေး . . မောင့်မယားကလေးကလည်းကွာ၊ ဘာလို့ အဲဒီလို စိုက်ကြည့်နေတာလဲ။ အချစ်ကို လန့်သွားအောင် လုပ်မိတာ မောင် စိတ်မကောင်းပါဘူး။ ကြွေး ဘယ်လောက်ထူထူ ဂရုစိုက်စရာ မလိုပါဘူး။ မောင့်မှာ ပါရမီတခု ရှိတယ်၊ ငွေကို ဘယ်သူ့ဆီက ချေးချေး ဘယ်တော့ မှ မရ မရှိဘူး"

အယ်လီနာက ထိတ်လန့်ခြင်း၊ အံ့သြခြင်းဖြင့် တုန်လှုပ်လျက်။

ကက်စတာက ထပ်ပြောသည်။

"မောင့်အခြေအနေကို လက်မထပ်ခင် ကတည်းက အချစ် သိပါတယ်နော်"

ကိုယ့်ကိုယ်ကိုယ် ယုံကြည်မှုအပြည့်ဖြင့် ပြောနေသည့် လင်တော်မောင်၏ အမေးကို အေးစက် မောကျော့စွာ အယ်လီနာ ဖြေ၏။

"မသိဘူး"

ကက်စတာ ဘာမျှ ဆက်မပြောနိုင်။ နောက်တလှမ်း ဆုတ်လိုက်ပြီး မျက်နှာပျက်သွား သည်။ သူ့ဘဝတခုလုံးကို ခေါးထက်ထက်ဖြင့် နုပ်နုပ်စဉ်းခံလိုက်ရဘိသို့။ အယ်လီနာ သူ့ကို စိုက်ကြည့်နေသည်။ သူ့အဖြစ်မှန်ကို

အယ်လီနာ ရှင်းရှင်းလင်းလင်း မြင်နေရပြီ။ ရင်ထဲတွင် နင့်နေ၏။ တခါမျှ ကက်စတာကို သည်ပုံစံမျိုးနှင့် မမြင်ဖူးခဲ့။ အယ်လီနာ့ ဘဝတခုလုံးကို လိုလေသေးမရှိ ဖန်ဆင်းပေးနေသည့် ကက်စတာ၊ ထိပ်ဆုံးက နေခဲ့သည့် ကက်စတာ၊ ဝက်သစ်ချ မြိုင်၏ အမွေစား အမွေခံ ကက်စတာ၊ လက်ညှိုးညွှန်ရာတွင် ရေဖြစ်သည့် ကက်စတာ။ ခုတော့…

ငွေသည် သူ့ဘဝအတွက် အဓိက ဖြစ်နေပါလျက် ငွေ၏ တန်ဖိုးကို သူ အလေးမမူခဲ့။ မစ္စစ်စပီမြစ် နံဘေးမှ တဲထဲတွင် ဖေဖေ တူးတူးခါးခါး ပြောခဲ့သည်ကို ကြားယောင် လာသည်။

"သူ ဘာဖြစ်ခဲ့တယ် ဆိုတဲ့ အကြောင်းတွေကို ပါပါ ပြောနေတာ မဟုတ်ဘူး၊ သူ ဘယ်လို လူစားမျိုးလဲ ဆိုတာ ပါပါ ပြောနေတာ"

အယ်လီနာ မတ်တတ် ထရပ်သည်။ တောင့်တင်းနေ၏။ နာရီပေါင်းများစွာ ထိုင်ထား သည့်အလား။ ကက်စတာက မျက်နှာပျက်နေဆဲ။

"အယ်လီနာတော့ နားမလည်နိုင်အောင်ပဲ။ အယ်လီနာတို့ ဘာတွေများ သုံးနေလို့လဲ ဟင် ကက်စတာ ပခုံးတွန့်သည်။

"မောင်ကိုယ်တိုင် အဲဒါကို နားမလည်နိုင်အောင် ဖြစ်နေတယ်"

"ကြွေးက ဘယ်လောက်များလဲ"

"အဲဒါလည်း မောင် မမှတ်မိဘူး အယ်လီနာ"

"အယ်လီနာ့ကို ပွင့်ပွင့်လင်းလင်း ပြောစမ်းပါ၊ ဘယ်သူ့ဆီက ချေးတာလဲ"

ကက်စတာက အခန်းပတ်ပတ်လည်ကို လက်နှင့် ဝှေ့ပြလိုက်ပြီး-

"ဒီ ဝက်သစ်ချမြိုင်ကပေါ့"

"ဆိုလိုတာက ဝက်သစ်ချမြိုင်ကို မောင် ဖွဲ့ဖွဲ့ပြီး ပေါင်နေတယ်ပေါ့၊ ဟုတ်လား"

"အင်း… ဆိုပါတော့၊ ဝက်သစ်ချမြိုင်ကို မောင် ကြီးကြပ်ကတည်းက နည်းနည်း ဖွဲ့ပေါင်ထားပြီးသား။ အဘွား လက်ထက်တုန်းက ကြွေးမြီ ကင်းခဲ့တယ်။ ဖေဖေ့လက်ထက်မှာ ကြွေးစတင်တာ။ ဖေဖေနဲ့ မောင်က သိပ်မထူးဘူး၊ လက်ဖွာတယ် ဆိုပါတော့။ ဖေဖေ အလုပ် က အနားယူပြီး ဟိုဘက်ကမ်းက ကြံခင်း

မြေငှားခတွေနဲ့ နယူးအော်လင်း အိမ်စရိတ် လုံလောက် တယ်လေ။ ဒါကြောင့် ဝက်သစ်ချမြိုင်ကို မောင့်အတွက် လွှဲပေးတယ်၊ အဲဒီကတည်းက ကြွေး ဇာတ်လမ်းက စခဲ့တာ”

“အဲဒီတော့ မောင် ဘယ်လိုက စပြီး စခန်းသွားခဲ့သလဲ”

“ဒီလိုပဲပေါ့ ၊ ဘာရယ်လို့ မဟုတ်ပါဘူး”

ကက်စတာက ခပ်အေးအေးပင်။

“မောင် ဒါလောက်ကြီး အလေးအနက် မထားခဲ့ဘူး။ ဝါစိုက်ချိန်မှာ ပိုက်ဆံချေးတယ်၊ ကိုယ့်တွက်ကိန်းနဲ့ ကိုယ်ပေါ့။ ဒါလောက် ထွက်မယ်၊ ဒီဈေးနဲ့ ရောင်းရင် ဒါလောက်တော့ ရမှာပဲ ဆိုပြီးတော့ပေါ့။ ဒါပေမဲ့ ငွေက အသုံးမခံတော့ အပြည့် ပြန်မဆပ်နိုင်တာတွေ ရှိမှာပေါ့ ၊ ဒီတော့ မြေကလေး နည်းနည်းဖွဲ့ပေါင်ပေါ့။ ကြာတော့ မထင်မှတ်ဘဲနဲ့ ခုလို ဖြစ်တော့တာပဲ အယ်လီနာ”

သူ့ ရှင်းပြပုံက ဣန္ဒြေသာ။

“မောင့်ကို လူသတ်မှုတရားခံ ကြည့်နည်း ကြည့်မနေပါနဲ့ အယ်လီနာ။ မောင်ပြောပြီး ပြီပဲ၊ ဘာမှ မဖြစ်စေရပါဘူးလို့။ လမ်းရဲ့ ဟိုဘက်မှာ ထင်းရှူးတောမြေ ရှိတယ်၊ တန်ဖိုးတော့ မရှိလှဘူး။ ဒါပေမဲ့ မစ္စတာ ရိုဘီဟောက်စ်ကို အဲဒီမြေ ထိုးပေးရမှာပဲ။ သူတို့ မြေရဲ့တန်ဖိုး နားမလည်ပါဘူး”

အယ်လီနာက ကက်စတာ့ကို ခြေဆုံးခေါင်းဆုံး ကြည့်သည်။ ရင်ထဲမှာ ဒေါသတွေ ကြွတက်လာ၏။ အသံမာမာဖြင့် မေးသည်။

“အယ်လီနာ မေးတာကို ဖြေပါ ကက်စတာ၊ ဝက်သစ်ချမြိုင်မှာ ကြွေး ဘယ်လောက် ရှိလဲ”

“ဩော်... မောင် ပြောပြီးပါပကော အယ်လီနာရယ်၊ မသိပါဘူးလို့”

ကက်စတာက မီးလင်းဖိုရင်တားကို မှီရပ်လျက်။ အယ်လီနာ ရှေ့တလှမ်း တိုးသွား သည်။

“အယ်လီနာနဲ့ လက်ထပ်ကတည်းက မောင့်မှာ ကြွေးတွေနဲ့ပေါ့ ဟုတ်လား”

ကက်စတာက ပခုံးလှုပ်ပြီး ဖြေသည်။

“ဩော် . . . အယ်လီနာရယ်၊ မောင့်မှာ ကြွေးက အမြဲ ရှိခဲ့တာပဲ၊ အဲဒါ

မောင့်အတွက် အဆန်းမှ မဟုတ်တော့တာ”

သူ၏ ပေါ့ရွှတ်ရွှတ် အဖြေက အယ်လီနာ့ကို ပိုပြီး ဒေါသထွက်စေသည်။

“မင်္ဂလာခရီးမှာ အကောင်းဆုံး ဟိုတယ်ခန်းကြီးကို ငှားနေကတည်းက ကြွေးပတ်လည် နဲ့ပေါ့၊ ဟုတ်လား”

အယ်လီနာက အော်မေးသည်။

“ဟိုတယ်မှာ ပေးလိုက်တဲ့ ဘောက်ဆူးတွေ၊ ဒေါ်လာတွေ၊ အပေါင်းအသင်းတွေကို အရက်တိုက်တော့ ဆယ့်ခြောက်နှစ်ချို့ ဘာဘွန်းဝီစကီ၊ ကော်နယ်လီယာအတွက် ဝယ်ပေး လိုက်တာလဲ..”

“တော်စမ်းပါ အယ်လီနာရယ်၊ တိုးတိုးပြောပါ”

ကက်စတာက အသံကို နှိမ့်ပြီး အယ်လီနာ့ကို တားသည်။

“အယ်လီနာက တမင်အော်ပြောတာ မဟုတ်ပါဘူး မောင်၊ အသံကျယ်သွားလား၊ ဒါပေမဲ့ ဒီကိစ္စဟာ တသက်လုံး ဖုံးထားလို့ရမယ့် ကိစ္စ မဟုတ်ပါဘူး။ လက်စသတ်တော့ အယ်လီနာတို့ အသက်ရှင်နေကြတာဟာ မောင့်ပိုက်ဆံနဲ့မှ မဟုတ်ဘဲ။ မောင့်ရဲ့ အပြုံးတွေ၊ မောင့်ရဲ့ မရိုးသားမှုတွေ၊ အင်း... ရယ်စရာတော့ အကောင်းသား။ ဖေဖေ အကြိမ်ကြိမ် သတိပေးခဲ့တာ အယ်လီနာ နားမထောင်ခဲ့ဘူး”

“ဘာလို့ မင်း နားမထောင်သလဲ၊ မင်းအဖေ စကားကို အဲဒီတုန်းကတည်းက နားထောင် ခဲ့ဖို့ ကောင်းတာ”

ကက်စတာ အခန်းတဖက်စွန်းရှိ အရက်ကောင်တာဆီသို့ လျှောက်သွားသည်။ အရက်တခွက် မှဲ့သည်။

“နားမထောင်ခဲ့ပါဘူး၊ ဘာလို့ နားထောင်ရမှာလဲ၊ မောင့်ကို ချစ်နေမိပြီကိုး၊ မောင့်ကို ချစ်တဲ့ အချစ်က ဘာကိုမှ မမြင်နိုင်အောင် ချစ်တဲ့ အချစ်မျိုး။ ဒါပေမဲ့ ဖေဖေက အယ်လီနာ့ အကြောင်းကို အယ်လီနာထက် နားလည်တယ်လေ။ သူ့သမီးဟာ သူများအိမ်မှာ ကြမ်းတိုက် တဲ့ အလုပ်ကို ဝင်လုပ်ချင် လုပ်မယ်၊ သူ မပိုင်တဲ့ ပိုက်ဆံကိုတော့ ဘယ်တော့မှ မသုံးဘူး ဆိုတာလေ”

ကက်စတာ ဘာမျှ ဝင်မပြော၊ ဝီစကီကို ငြိမ်ငြိမ်ကလေး သောက်နေသည်။ “ဝီစကီ ပုလင်းကိုလည်း ကြွေးဝယ်သောက်နေတယ် ထင်ပါရဲ့” ဟု အယ်လီနာ

တွေးလိုက်မိသေးသည်။

လက်ရှိ ဘဝမှန်၏ ဝန်ထုပ်ဝန်ပိုးကြီးသည် သူ့ကိုယ်ပေါ်တွင် ပိနေသည်ဟု တွေးမိပြန်၏။ လက်ဆစ်ကလေးတွေကို အမှတ်မထင် ချိုးနေသည်။

“တနေ့တော့ မောင် နားလည်မှာပါ၊ မောင့်အကြောင်းကို သိရတဲ့အတွက် ဒီက မိအယ်လီနာ ဘယ်လောက် ခံစားရတယ် ဆိုတာ”

ကက်စတာက ဖန်ခွက်ကို ကျော်ပြီး မလိုတမာ လှမ်းကြည့်သည်။

“သိပ် နားလည်တာပေါ့၊ ဒီကမ္ဘာမှာ ကိုယ့်ကို အထင်သေး အမြင်သေး ဖြစ်နေတာ မင်းတယောက်တည်းပဲ ရှိတယ် ဆိုတာလေ”

“မောင့်အကြောင်းကို အမှန်အတိုင်း ပြောမိတာက လွဲပြီး အယ်လီနာ ဘာမှ မကျူးလွန် ရပါလား”

“အယ်လီနာ၊ တဆိတ် အပေါ်ထပ်ကို သွားပါတော့”

သူ့စကားလုံးက ယဉ်ကျေးသော်လည်း အသံက အေးစက်လှသည်။ အယ်လီနာ ဘာ တခွန်းမျှ မပြောဘဲ လှည့်ထွက်လာခဲ့၏။ အပေါ်ထပ်သို့ တက်လာခဲ့ပြီး အခန်းထဲသို့ ဝင်ခဲ့ သည်။ ရေညှိမျှင် တိုးလိုးတွဲလောင်းနှင့် ဝက်သစ်ချပင်တွေကို ပြတင်းပေါက်မှ ခပ်ရေးရေး လှမ်းမြင်နေရ၏။ နှင်းပွင့် နှင်းဖတ်တွေက တဖွဲဖွဲ စွေဝဲ ကျဆင်းလျက်။ မီးဖိုနံဘေးတွင် ထိုင်သည်။ ငိုချလိုက်ချင်၏။ ပြီးတော့ နေ့လယ်နေ့ခင်း ဖြစ်လိုက်စေချင်၏။ ခြေဦးတည့်ရာသို့ မိုင်ပေါင်း များစွာ လျှောက်သွားပစ်လိုက်ချင်သည်။ တခုခုကို ကိုယ်ထိလက်ရောက် လုပ်လိုက်ရခြင်း သည် စိတ်ပျက်စရာ ကောင်းလှသည့် တိတ်ဆိတ်ခြင်းတွင် ယခုလို ငြိမ်သက်နေရခြင်းထက် တော့ သက်သာဖွယ်ရှိသည် မဟုတ်လား။

အတော်ကြီးကြာမှ ကက်စတာ အပေါ်ထပ်သို့ တက်လာသည့် ခြေသံကြားရ၏။ သူ့ အခန်းဆီသို့ တန်းလျှောက်သွားသည်။ ကက်စတာ၏ အခန်းတံခါး ပိတ်လိုက်သံကြောင့် ပို၍ ရင်ထဲ ဟာသွားသည်။ ပို၍ အထီးကျန်နိုင်လွန်းသွားသည်။ ဘယ်တုန်းကမှ ရန်ဖြစ် စိတ်ဆိုး ခြင်းဖြင့် ခွဲခွာအိပ်စက်ခြင်း မပြုခဲ့ဖူးကြ။ ပထမတော့ မယုံ၊ အနည်းဆုံး နူတ်ဆက်အနမ်း ကလေးတော့ လာမွှေးလိမ့်ဦးမည် ထင်နေ၏။ သို့သော် နောက်ထပ် ဘာလှုပ်ရှားသံမျှ မကြားရ တော့၊ သည်တော့လည်း အခန်းခွဲအိပ်ဖို့ တောင်းဆိုမိသည်ကို နောင်တရနေပြန်သည်။ အတူတူ သာ အိပ်ကြရင် မပြေလည်စရာ အကြောင်း မရှိ။ မတ်တတ်ရပ်လိုက်မိသည်။ မောင်ရယ်၊

အယ်လီနာ့ကို ခွင့်လွှတ်ပါကွယ်ဟု သွားပြောတော့မည့်ဆဲဆဲ။ ရှေ့မတိုးဘဲ တွေတွေကြီး ရပ်နေ မိ၏။ အို . . ကိုယ့်အပြစ်မှ မဟုတ်တာ၊ ဝက်သစ်ချမြိုင်ကို အပေါင်ထားပြီး ကြွေးလည်ပင်းနစ် နေသည့် ဘဝတွင် စည်းစိမ်ချမ်းသာနှင့် အငြိမ့်သားနေနေတာ၊ သုံးစွဲခွင့်မရှိတဲ့ ပိုက်ဆံတွေ သုံးနေတာ အယ်လီနာ့ အပြစ်မှ မဟုတ်ဘဲ။ စိတ်နှလုံး တုံးတုံးချကာ အဝတ်အစားတွေကို ချွတ်လိုက်သည်။ ပြတင်းပေါက်ကို ပိတ်သည်။ ပြီးမှ အိပ်ရာပေါ်သို့ တက်လိုက်၏။

ဘယ်ပြောင်း ညာပြန်နှင့် ဘယ်လိုမျှ အိပ်၍ မပျော်နိုင်။ စက်ပါသော် မပျော်ရနိုင်သည့် အထဲတွင် မစ္စစ်စပီဆောင်းက နှိပ်စက်ကလူ ပြုနေပြန်သည်။ ဘယ်လိုမှ မနွေးနိုင်ပါလားကွယ်။

ထွေးထွေးနွေးနွေးရှိမည့် အခြားတနေရာကို ဘယ်လိုမျှ စဉ်းစားမရ။ အာရုံတွေ ထွေပြား ပိုးဝါးနေ၏။ အိပ်ရာနံဘေး စားပွဲပေါ်မှ နာရီကလေး၏ စက်သံသည် ပို၍ ကျယ်လောင်နေ၏။ နာရီက အိပ်ရာနံဘေးတွင် မထား၍ မဖြစ်။ ကော်နယ်လီယာကို နှိုးစက်ချိန်မှန်ဖို့ အရေးကြီး သည် မဟုတ်လား။ ထူးထူးခြားခြား သည်ညကျမှ နာရီစက်သံက စိတ်ချောက်ချားစရာ ဖြစ်နေ၏။ တဖြည်းဖြည်းနှင့် စိတ်ငြိမ်စ ပြုလာသည်။ သည်တော့မှ ကိုယ့်ကိုယ်ကိုယ် ဆန်းစစ်ရ၏။

ပြဿနာကို ဖြေရှင်းဖို့ နည်းလမ်း မရှာဘဲ၊ ထွက်ပေါက်မရှာဘဲ ကက်စတာကို သက်သက် ရန်လုပ်သလို ဖြစ်နေပါသလား။ ရှည်လျားလှသော အိပ်စက်ခြင်းမဲ့ ညဉ့်လယ်တွင် မိမိကိုယ် မိမိ သေသေချာချာ နားလည်လိုက်သည်။ ကက်စတာ ထိခိုက်နစ်နာမည်ကို ဘယ်လိုမျှ ကြည့်မနေနိုင် ဟူ၍။ သူ့ကို ချစ်သည့် အချစ်က သူငယ်ချင်းလိုလည်း ခင်သည်၊ အစ်ကိုလို လည်း မြတ်နိုးသည်၊ ရမ္မက်နှင့် ယှဉ်၍လည်း အရူးအမူး ချစ်သည်။ ဘယ်အကြောင်းကြောင့်မျှ မလျော့နိုင်၊ တသက်လုံးလည်း လျော့မည် မထင်။ ချစ်သူအတွက်ဆို ဘာပဲ လုပ်ပေးရ လုပ်ပေး ရ၊ အိုး... မောင်နဲ့ အရင်အတိုင်း ပြန်ဖြစ်ဖို့အတွက် ဆိုရင် အယ်လီနာ အသက်လည်း စွန့်ရဲ တယ် မောင်။

နောက်တဆင့် ဆက်လုပ်စရာကို စဉ်းစားသည်။ ရှင်းရှင်းကလေးရယ်၊ နယူးအော်လင်း ကို လိုက်သွားမည်၊ ဘဏ်ကို မေးမည်၊ ဝက်သစ်ချမြိုင်၏ အခြေအနေမှန်ကို မရရအောင် စုံစမ်းမည်။ သည်အကျပ်အတည်းမှ လွတ်မြောက်ဖို့ လမ်းစတွေ့လျှင် ကိုယ်စွမ်းရှိသမျှ၊ ဉာဏ်စွမ်း ရှိသမျှ ကြိုးစားမည်။ ဘယ်သူနဲ့ပဲ နပန်းသတ်ရ သတ်ရ။ ကက်စတာ၏ အပြစ်ကြောင့် သည်လို ဖြစ်ရသည် ဆိုလျှင် သည်အဖြစ်မှ ရုန်းထွက်နိုင်အောင် အပြင်းအထန် ဆန္ဒပြုရမည် မဟုတ်လား။

ကလေးခန်းဆီမှ ကော်နယ်လီယာကလေး ငိုသံသဲ့သဲ့ ကြားလိုက်သည်။ မတ်တတ်ထရပ် လိုက်၏။ ဟင် . . . လေးနာရီတောင် ထိုးပါပေါ့လား၊ နှိုးစက်မမြည်၊

ညက သော့ပေးထားဖို့ မေ့သွားတာကိုး။ ညဝတ်အင်္ကျီကို ကမန်းကတန်း ကောက်စွပ်ပြီး ကလေးခန်းဆီသို့ ထွက်ခဲ့၏။ ကော်နယ်လီယာကလေးက ပုခက်ထဲတွင် ကန်ကျောက် အော်ဟစ်နေသည်။ သူ့ကို မေ့ထားကြ သည့် လောကကြီးကို မကျေမနပ် ဆန္ဒပြနေသည့်အလား။

ရင်ခွင်ထဲ သမီးကလေး ရောက်လာတော့ မေတ္တာအကြည်ဓာတ်ဖြင့် ထွေးနွေးသွား သည်။ တပြိုင်တည်းတွင် ပူလောင်နေသည့် ရင်မှာ အေးမြသွားသည်။ သမီးကလေးကို ဘယ်လောက်ချစ်မှန်း ကိုယ့်ကိုယ်ကိုယ် သတိပြုလိုက်မိသည်။ ကက်စတာလို လူသိရှင်ကြား ချစ်သည့် အချစ်မျိုး မဟုတ်။ သမီးကို အယ်လီနာ ချစ်ပုံက ရိုးသားသည်။ မိခင်မေတ္တာဖြင့် ကျိတ်၍ ချစ်သည့် အချစ်မျိုး၊ ကြက်သားအုပ်မလို သမီးငယ်ကို ရင်ခွင်ထဲ ထည့်ပြီး အန္တရာယ် အသွယ်သွယ်မှ အကာအကွယ် ပေးမည့် အချစ်မျိုး။ ဘဝကို အနိုင်မခံ အရှုံးမပေးခဲ့သည့် အဘွားလုပ်သူကို အမှတ်ရလိုက်သည်။ သမီးကလေး ကြီးလာရင် အဘွားလိုပင် ဘဝကို အောင်နိုင်ရမည်။ ဒါကြောင့် အဘွား နာမည်ကို ရွေးပြီး မှည့်ထားခဲ့သည် မဟုတ်လား။

ကက်စတာက ရွှေလင်ပန်းနှင့် အချင်းဆေးပြီး မွေးလာသူ၊ အယ်လီနာက ဘဝကို ရုန်းကန်တိုက်ခိုက်ခဲ့သည့် မိသားစုမှ ဆင်းသက်လာသူ၊ ကော်နယ်လီယာကို ဖအေတူကလေး မဖြစ်စေချင်။ အို.... အမေ့နို့ကို တိုက်နေတာပဲ၊ အမေမျိုးကို တူရစေမှာပေါ့။

ကလေးကို ပုခက်ထဲ ပြန်ထည့်ပြီး အသာ စောင်ခြုံပေးခဲ့သည်။ ခန်းမထဲတွင် ရပ်ပြီး တွေနေသည်။ ချီတုံချတုံ ဖြစ်နေ၏။ ပြီးတော့မှ ကက်စတာ့ အခန်းဆီသို့ လျှောက်လာခဲ့သည်။ တံခါးကို အသာဖွင့်ပြီး ဝင်ခဲ့၏။ ထုံးစံအတိုင်း အဝတ်အစားတွေက ကုလားထိုင်ပေါ်တွင် တိုးလိုးတွဲလောင်း၊ ကြမ်းပြင်ပေါ်တွင်လည်း အနှံ့အပြား။ သူ နှစ်နှစ်ခြိုက်ခြိုက် အိပ်ပျော်နေ သည်။ မကျေမနပ်လည်း ဖြစ်မိ၏။ အံ့လည်း အံ့သြမိ၏။ ကြည့်လေ၊ အိပ်နေလိုက်ပုံမှာ မည်သည့်ပြဿနာကမျှ သူ့ရဲ့ ငြိမ်းချမ်းပျော်ရွှင်ဖွယ် ဘဝကို အနှောင့်အယှက် မပြုနိုင်သည့် အလား။ မည်သို့ဖြစ်စေ ငုံ့ပြီး မွှေးမွှေးတော့ ပေးလိုက်မိသေးသည်။ သူက အသာ လူးလွန့် လိုက်၏။ နိုးတော့ မနိုး၊ တိတ်တိတ်ကလေး ပြန်ထွက်လာခဲ့သည်။

သို့သော် စိတ်၏ ငြိမ်းချမ်းမှုကိုကား မရနိုင်သေး။ ကုတ်အင်္ကျီတထည်ကို အခန်းထဲ ဝင်ယူသည်။ ပခုံးပေါ်ကို ပစ်လွှမ်းပြီး ဆိတ်ငြိမ် အေးစက်နေသော ခပ်မှောင်မှောင် လှေကားမှ အောက်ထပ်သို့ ဆင်းခဲ့သည်။ ကက်စတာ၏ အလုပ်ခန်းဟု ဆိုသော အခန်းကလေးထဲသို့ ဝင်ခဲ့၏။ ရောမ စားပွဲကြီးပေါ်တွင်

လယ်ဂျာစာအုပ်တွေက တောင်လိုပုံလျက်၊ အံဆွဲတွေက စာရွက်တွေ ပြွတ်သိပ်နေ၍ ရုတ်တရက် ဖွင့်လို့မရ၊ အတင်းဆွဲဖွင့်ပြီး စာရွက်တွေကို မွှေတော့ ၏။ အမိန့်ကြော်ငြာစာရွက်တွေ၊ ဟိုတယ်က ဟင်းလျာစာရင်းတွေ၊ စာရွက်စာတမ်း အဟောင်း တွေ၊ ကားပြိုင်ပွဲ ပုံစံတွေ၊ ရုပ်ရှင် အစီအစဉ်တွေနှင့် အများဆုံးမှာ ငွေတောင်းခံလွှာတွေ၊ ကြွေးဟောင်းစာတွေ။ အေးလွန်းသဖြင့် ကျဉ်နေသည့် လက်ချောင်းတွေနှင့် ငွေတောင်းခံလွှာကို ရွေးထုတ်နေသည်။

မျိုသိပ်နေသည့်ကြားမှ မကျေနပ်မှုတွေက ရင်ထဲတွင် လှိုင်းထလာပြန်၏။ ကက်စတာ တယောက် လာသမျှ ဘီလ်တွေကို ခေါက်ထားခဲ့တာပါလား။ ဘာဆို ဘာတခုမျှ မပေး၊ ဘယ်သူ့ကိုမျှ မဆပ်၊ သူ ဝယ်ပေးခဲ့သမျှ လက်ဆောင်ပစ္စည်းတွေက ကြွေး၊ ကော်နယ်လီယာ အတွက် ဝယ်ပေးခဲ့သည့် ကစားစရာတွေနှင့် ကလေးအဝတ်ကလေးတွေကအစ ကြွေး၊ လွန်ခဲ့ သည့် သုံးလကျော်က ဆေးဖိုးဝါးခတွေနှင့် မီးဖွားပေးသည့် ဒေါက်တာပါစယ်၏ ပိုက်ဆံကို မဆပ်ဘဲ ထားသည်ကတော့ တဆိတ် လွန်လွန်းသည်။ ကလေးမွေးသည်ကိုပင် အကြွေးမွေး ခြင်းပါကလား။ ဒေါသဖြစ်လွန်းသဖြင့် တုန်တုန်ယင်ယင် ဖြစ်သွားသည်။ သည်ငွေတောင်းခံ လွှာကို ယူလိုက်ပြီး ကုတ်အင်္ကျီအိတ်ထဲ ထည့်သည်။ တော်ပါသေးရဲ့၊ ပိုက်ဆံ အနည်းအကျဉ်း ရှိနေလို့။ သည်နေ့အထိဆိုလျှင် သစ်သီးကုမ္ပဏီမှ ရသည့် ဝင်ငွေမှာ ဒေါ်လာ ၉၀၀ ထက်မနည်း တော့ပြီ။ ဘဏ်တွင် သည်အတိုင်း အိပ်နေသည့် ငွေ။ ကိုယ်ပိုင်ကားတစီးဝယ်ဖို့ စိတ်ကူး ထားသည့် ငွေ။ ခုတော့ ကြွေးဆပ်ဖို့ ဖြစ်သွားပြီ။ သည်ကြွေးကို မနက်ဖြန် ကိုယ်တိုင် သွားဆပ် မည်။ အို... ဘယ်က မနက်ဖြန်ရမှာလဲ၊ သည်နေ့ပေါ့၊ မနက် လင်းအားကြီး ရောက်နေပြီပဲ။

ရှက်လည်း ရှက်ဖို့ ကောင်းသည်။ စိတ်လည်း ပျက်မိ၏။ ဒေါက်တာပါစယ်လို အတွင်း လူ တယောက်ကိုပင် ကက်စတာက ခါးဆီးပတ် အတင်ခံပြီး မသိကျိုးကျွန် ပြုခဲ့သည်။ စိတ်ဆုံးဖြတ်ချက်တခု ကျိတ်ချလိုက်သည်။ ဝက်သစ်ချမြိုင်တွင် ခုချိန်မှစ၍ မည်သည့်ကိစ္စမျှ မသိကျိုးကျွန် အပြုမခံစေရ၊ ပစ်စလက်ခတ် မဖြစ်စေရ။ ဝက်သစ်ချမြိုင်ကို ထိန်းထားနိုင် လောက်သည့် ဦးနှောက်ရှိသည် ဖြစ်စေ၊ မရှိသည်ဖြစ်စေ အလုပ်ကို ကြိုးကြိုးစားစား လုပ်တတ် သည့် ဗွဲရှိသည်ဟုတော့ ကိုယ့်ကိုယ်ကိုယ် သိသည်။ ဘားနဒ်တက္ကသိုလ်တွင် သင်္ချာအဓိက ဘာသာရပ်ကို အလကား ယူလာတာမှ မဟုတ်ဘဲ။

သုန်မှုန်နေသည့် မျက်နှာထားဖြင့် မထူးတော့ပါဘူး ဆိုပြီး နောက်ထပ်အံဆွဲတခုကို ဖွင့်ပြန်သည်။ နောက်ထပ် အကြွေးစာရွက်တွေ အထပ်လိုက် အထပ်လိုက် ထွက်လာပြန်သည်။ စိတ်ဓာတ်အကျကြီး ကျသွားသည်။ ပြီးတော့ ကြောက်ရွံ့ အားငယ်စ ပြုလာသည်။ ဝက်သစ်ချ မြိုင် ယာတောပိုင်နက်

တခုလုံး ပေါင်ထားသည့်အပြင် နောက်ထပ် တင်ရှိနေသည့် ကြွေးတွေ။ စုစုပေါင်း တင်သည့်ကြွေးမှာ ကြောက်ခမန်းလိလိ ငွေပမာဏ ဖြစ်နေမည်မှာ မုချ။ အံဆွဲ နောက်ပိုင်းသို့ လက်နှိုက်ကြည့်သည်။ အဖြူရောင် စက္ကူဖာကလေးတလုံး တွေ့၏။ အဖုံးကို ဖွင့်ကြည့်သည်။ ဟင်- ကက်စတာထံသို့ ရေးခဲ့သည့် မိမိလက်ရေးတွေ၊ ရည်းစားစာဟောင်း တွေ။ ကြည့်စမ်း... ပိုးလက်ကိုင်ပဝါကလေးနဲ့ စည်းလို့၊ သီးသီးသန့်သန့် သိမ်းထားသည်။ ပြီးတော့ သေသေသပ်သပ်။ သူ့အပေါ် မကျေနပ်မှုတွေ၊ ဒေါသတွေ ဘယ်ရောက်ကုန်သည်မသိ၊ ကြည်နူးဆွတ်ပျံ့ခြင်းဖြင့် တကိုယ်လုံး နွေးသွား၏။ ခေါင်းကို ငိုက်ချလိုက်သည်။ အေးစက် နေသည့် လက်ချောင်းများဖြင့် ဆံပင်ကို သပ်တင်သည်။ ဩော်. . . မောင်ရယ်၊ အယ်လီနာ သိပ်ချစ်ပါတယ်၊ မောင်သည် တွေ့ဖူးသမျှ လူသားများထဲတွင် ချစ်စရာ အကောင်းဆုံး၊ မြတ်နိုး စရာ အကောင်းဆုံး။ အမှန်အတိုင်း တန်ဖိုးဖြတ်ကြစတမ်း ဆိုရင်တော့ သူ့မှာ ကုန်းကောက်စရာ မကျန်လောက်အောင် မွဲပြီး ဖွတ်ကျောပြာစု လူပေါ်ကြော့ ဖြစ်နေတာက တပိုင်းပေါ့လေ။

အဖြူရောင် စက္ကူဖာကလေးကို နေရာတကျ ပြန်ထားလိုက်သည်။ ပေးရန် မြီစားလွှာ အားလုံးကို အယ်လီနာက သူ့အခန်းထဲသို့ ယူလာပြီး ဖိုင်တွဲ၍ အံဆွဲထဲတွင် သိမ်းထားလိုက် သည်။ လက်ချောင်းကလေးတွေ ထုံကျဉ်ကိုက်ခဲနေသော်လည်း ချက်လက်မှတ်တစောင်ကို ရေးဖြစ်အောင် ရေးသည်။ စာအိတ်ထဲ ထည့်သည်၊ တံဆိပ်ခေါင်း ကပ်သည်၊ ပြီးမှ လိပ်စာ ရေးသည်။ ဒေါက်တာဘော့ပါစယ်၊ သစ်ဖြူတော။

အိပ်ရာဆီသို့ လျှောက်လာပြီး စားပွဲတင်မီးကို ငြိမ်းတော့ နံနက် ခြောက်နာရီ ထိုးနေပြီ၊ ပင်ပန်းနွမ်းနယ်လှပြီ၊ ခုတင်ပေါ်သို့ လှဲချလိုက်သည်နှင့် အိပ်ပျော်သွားတော့၏။ ဒစ်စီက ကလေးနို့တိုက်ဖို့ ခေါ်လာမှ နိုး၏။ နို့တိုက်ပြီးတော့ ပြန်အိပ်သည်။ နောက်တခါ နိုးလာတော့ မွန်းတည့်နေပြီ။ အပြင်ဘက်မှ ကက်စတာ့ အသံကို ကြားနေရ၏။ ဒစ်စီနှင့် စကားပြောနေခြင်း ဖြစ်သည်။

"အေးတော့ အေးတယ်၊ ဒါပေမဲ့ ကိစ္စမရှိဘူး၊ နေရောင်ခြည်နဲ့ ထိတွေ့ဖို့လည်း လိုသေး တယ်လေ။ အပြင်ကို ခေါ်သွားပြီး ခြံထဲမှာ လျှောက်နေ... ကြားလား။ ဒါထက် နင့်မလေး အိပ်တုန်းလား"

ဒစ်စီက အကျောက်အကန် ခံငြင်းနေသံ ကြားရသည်။ ကလေးငယ်များကို လေစိမ်း အတိုက်မခံရ ဟူသည့် မိခင်တိုင်း၏ တားမြစ်ချက်အရ ဒစ်စီက ကက်စတာ့ကို ဆန့်ကျင်နေခြင်း ဖြစ်၏။ ကက်စတာက ထပ်ရှင်းပြနေသည်။ အယ်လီနာက တံတောင်ဆစ်ထောက်၍ ကိုယ် အပေါ်ပိုင်း ကြွပြီး ကက်စတာ့ကို လှမ်းခေါ်လိုက်သည်။

အခန်းထဲသို့ ခေါင်းပြူကြည့်ပြီး-

"ဟဲလို၊ အချစ် ဒီနေ့ အိပ်လှချည်လား ဟင်"

သူ့ကြည့်ရသည်မှာ ရွှင်ရွှင်လန်းလန်း၊ အပြုံးမပျက်။ မနေ့ညက ဘာမျှ မဖြစ်ခဲ့သလို။ သူ အခန်းထဲ ဝင်လာနေတုန်း အယ်လီနာက ကော်ဖီမှာသည့် အချက်ပေးကြိုးကို ဆွဲလိုက် သည်။ ပြီးတော့ ပြန်လှဲနေလိုက်၏။ မိမိ ပူပင်သောက ရောက်သလောက် ကက်စတာက အကြေ့သား ရှိနေပုံကို တွေးနေမိသည်။ သူက ခုတင်စွန်းတွင် တင်ပါးလွှဲ ထိုင်သည်။

"ညက အိပ်တာ နောက်ကျတယ် ထင်တယ်၊ ဟုတ်လား"

အယ်လီနာ ခေါင်းညိတ်၏။

"မောင့်ကို သိပ်ဒေါပွနေတယ်ပေါ့ ဟုတ်လား"

သူက ပြုံးလျက်။ အယ်လီနာ ခေါင်းညိတ်လိုက်ပြန်သည်။

"မောင်လည်း စိတ်ဆိုးတာပဲ၊ ဒါပေမဲ့ ခု ပြေသွားပြီ"

အယ်လီနာ့ လက်ကို ဆုပ်ထားလိုက်သည်။

"မောင့်ကို အော်တဲ့အတွက် စိတ်မကောင်း ဖြစ်မနေဘူးလား"

"အယ်လီနာ တောင်းပန်ပါတယ် မောင်"

သူ့လက်ကို ဆုပ်ထားသည့် ကက်စတာ၏ လက်ကို အယ်လီနာ ငုံ့နမ်းသည်။ အပြုံးငယ် ကလေးတခု သူ့နှုတ်ခမ်း အစုံတွင် ရိပ်ခနဲ ထင်သွား၏။

"မောင့်ကို အကြာကြီး စိတ်မဆိုးနိုင်ပါဘူးကွယ်။ မောင်ဟာ အလကားလူ၊ ဒါပေမဲ့ မောင့်ကို ချစ်တယ်၊ ဟောဒီ ကမ္ဘာပေါ်မှာ ရှိရှိသမျှ အရာအားလုံးထက် မောင့်ကို ပိုချစ် တယ်"

"မောင်လည်း အချစ်ကို ချစ်ပါတယ်ကွယ်"

ဘက်စီ ကော်ဖီဗန်း ကိုင်ပြီး ဝင်လာစဉ် ခဏ စကားပြတ်သွားသည်။ အယ်လီနာက ကော်ဖီသောက်သည်၊ ကြည်ကြည်လင်လင် ဖြစ်သွား၏။

"ကဲ . . . ခု အယ်လီနာ စိတ်မဆိုးတော့ဘူး၊ မောင့်ကို ခံလည်း

မအော်တော့ဘူးနော်။ ကဲ . . . ကြွေးတွေအကြောင်း ပြောကြရအောင်”

ကက်စတာ ရယ်သည်။

“ကောင်းပြီလေ၊ မောင်ဟာ အလကားလူ၊ လူညံ့၊ လက်ကြော မတင်းတဲ့လူ၊ မောင်သိပါတယ်။ ကဲ… အဲဒီက စဆွေးနွေးကြရအောင်”

ကက်စတာသည် အလိုလိုက်တတ်သည့် မိခင်ရှေ့တွင် အပြစ်ရှိသမျှ ဖွင့်ဟဝန်ခံနေ သည့် သူငယ်ကလေးနှင့် တူနေ၏။ အယ်လီနာက ချက်ချင်း စကားလမ်းကြောင်း ပြောင်း လိုက်သည်။

“အယ်လီနာတို့ နယူးအော်လင်းကို အမြန်ဆုံး သွားကြမယ်။ ဘယ်သူ၊ ဟိုဘဏ်က လူကြီးနာမည်”

“မစ္စတာ ရိုဘီဟောက်စ် လေ”

“သွားပြီးတော့ ပေးစရာ ဘယ်လောက် ရှိတယ်၊ စာချုပ်ပါ အချက်အလက်တွေက ဘာတွေ ဆိုတာ လေ့လာရမယ်။ ဆိုင်းငံ့ကာလကို မရရအောင် တောင်းပြီး နည်းနည်းချင်း ဖွဲ့ဆပ်သွားမယ်”

“အချစ်ပြောတာ မှန်တယ်၊ အဲဒီအတိုင်း လုပ်ရမှာ၊ လွယ်တော့ လွယ်မှာ မဟုတ်ဘူး သိလား၊ ဒါပေမဲ့ လက်လျှော့ ရလောက်အောင်တော့ မဟုတ်ပါဘူး။ တိတိကျကျ မသိရသေးခင် ကြိုပြောလို့တော့ မရဘူးပေါ့လေ၊ မောင် နယူးအော်လင်းကို သွားပါ့မယ်”

“အယ်လီနာလည်း လိုက်မှာ”

“လိုက်ချင်လည်း လိုက်လေ၊ ဒါပေမဲ့ လိုတော့ မလိုပါဘူး”

“ဟင့်အင်း . . . လိုက်မယ်၊ မောင့်ပြဿနာကို အတတ်နိုင်ဆုံး ကူရှင်းမယ်။ အနည်းဆုံး ကိုယ့်အခြေအနေမှန်ကိုတော့ သိထားရမယ် မောင်”

“ကောင်းပါပြီတဲ့ ဗျာ”

နောက်ဆုံး ကက်စတာ သဘောတူရတော့သည်။

အယ်လီနာက ကော်ဖီနောက်တခွက် ထပ်ငှဲ့သည်။ ပြီးတော့ ရှေ့ဆက် လုပ်ရမည့် အစီအစဉ်တွေကို ဆွေးနွေးကြသည်။ အခက်အခဲ မှန်သမျှ အားလုံး လက်တွဲ ကျော်ဖြတ်ကြမည် ဖြစ်၍ တယောက်နှင့်တယောက် ပို၍ ပို၍

ပွင့်လင်းရင်းနှီးသော အသိတမျိုး တိုးလာ၏။ ကက်စတာသည် လူအနွံတယောက် မဟုတ်။ အရေးကြုံပြီ ဖြစ်၍ သူ၏ အစွမ်းအစတွေ ထကြွ နိုးကြားလာသည်။ လပေါ်သရေ နေခဲ့၍သာ ချောက်ထဲ ကျခဲ့ခြင်း ဖြစ်၏။ ခုတော့ တိုက်ပွဲဝင်ဖို့ စိတ်ထက်သန်နေပြီ။ အယ်လီနာက ခြံုထားသည့် စောင်ကို ခွာချလိုက်ပြီး-

"အခန်းထဲမှာ မီးမမွှေးခိုင်းတော့ဘူး။ အဝတ်လဲ အထုပ်အပိုးပြင်ပြီး သွားမယ်၊ ညနေ သုံးနာရီရထား မီသေးတယ်"

"နေဦးလေ၊ ဒီနေ့ သွားလို့တော့ ဘယ်ဖြစ်ပါ့မလဲ အယ်လီနာရဲ့"

"ဘာလို့ မဖြစ်ရမှာလဲ"

အယ်လီနာက တအံ့တသြ ပြန်မေးသည်။

ကက်စတာက သည်နေ့ညနေ ညစာစားပွဲ ရှိကြောင်း၊ ပြီးတော့ နီးလ်ရှာရမီ ကားဝယ်ဖို့ ကိစ္စလည်း လိုက်လုပ်ပေးရဦးမည် ဖြစ်ကြောင်း ပြောသည်။ အယ်လီနာက အမျိုးမျိုး ဖျောင်းဖျ သည်၊ ကန့်ကွက်သည်။ ကက်စတာကမူ ရက်ရွှေ့ဖို့သာ ဇွတ်ပြောနေ၏။

"ရှာရမီ မိသားစုက နှစ်နာရီမှာ ဖိတ်ထားတာ အယ်လီနာရဲ့၊ မျှော်နေကြမှာပေါ့၊ မောင်ကြိုက်တတ်တဲ့ အခွံပျော့ ကဏန်းဟင်းလည်း ပါမယ်လေ၊ ညနေစာစားပြီးတာနဲ့ ကားဝယ် ဖို့ကိစ္စ တဆက်တည်း လုပ်ရမှာ"

ဘာမှ မဟုတ်၊ သူ ကားသစ်ကို မောင်းကြည့်ချင်နေတာဟု အယ်လီနာ တွေးမိသည်။ နီးလ်ရှာရမီက ပါးပါးလျားလျား ရှိလှသည့် သူ့မိန်းမ ကလယ်ရာရှာရမီအတွက် ဘက်ထရီသုံး မော်တော်ကားသစ် ဝယ်ပေးမည့် အကြောင်း အယ်လီနာ သိထားသည်။ ကားအကြောင်း နားလည်သည့် ကက်စတာကို ဆရာတင်ပြီး အရောင်းအဝယ် လုပ်မည်။ သည်အခါ ကက်စတာ သည် ဘက်ထရီသုံးကားကို သည်နယ်တဝိုက်တွင် ပထမဆုံး မောင်းဖူးသူ ဖြစ်မည်။ ကက်စတာ့ ဘက်က အလွန်အရေးကြီးသည့် ကိစ္စကြီး ဖြစ်နေ၏။ နယူးအော်လင်းက ဘယ်အချိန် သွားသွား ရသည်ပဲ။ ဘာကိစ္စ ဒါလောက် အလောတကြီး လုပ်စရာလိုလဲ။

အယ်လီနာ သက်ပြင်းချ၏။

"နီးလ်ရှာရမီကို ဖုန်းဆက်ပြီး တောင်းပန်လိုက်ပေါ့ မောင်ရယ်၊ ကိုယ့်အရေးက ရှိသေးတယ် မဟုတ်လား"

“နယူးအော်လင်းကို ဒီနေ့အစား မနက်ဖြန်မှ သွားရင် တိုင်းပြည်ပျက် မသွားပါဘူး ကွာ”

“နီးလ်က ကားဝယ်တာ ဘာလို့ သူ့ဘာသာသူ မဝယ်နိုင်ရမှာလဲ၊ သူက ငတုံးမှ မဟုတ်တာ”

“အယ်လီနာရယ်၊ မင်း ဘာလို့ ဒါလောက် လောနေရလဲကွာ။ မောင်က လုပ်ပါ့မယ်လို့ ကတိပေးထားပြီပဲ”

“ကောင်းပြီလေ၊ သွားပေါ့၊ အယ်လီနာ မလိုက်ဘူး”

အယ်လီနာက သံပြတ်နှင့် ပြောလိုက်၏။

ကက်စတာက အယ်လီနာ စိတ်လိုက်မာန်ပါ ပြောလိုက်သည်ဟုပဲ ထင်၏။ သူ့အတွက် မူ ဖိတ်စာရပြီးသား ညစာစားပွဲ သို့ သွားရောက်ရေး ကိစ္စမှာ မလုပ်မဖြစ်သည့် လောကနီတိလာ လူမှုရေးကိစ္စကြီး တရပ် မဟုတ်လား။ အခန်းထဲမှ သူ ထွက်သွားတော့ အယ်လီနာက ဒူးကို ပိုက်ပြီး စဉ်းစားရင်း ကျန်ရစ်သည်။ ညစာစားပွဲ သွားဖို့ကိစ္စနှင့် အကြွေးဆပ်ဖို့ကိစ္စ၏ အတိမ် အနက်။

အိပ်ရာပေါ်မှ ဆင်းသည်။ ကတိုက်ကရိုက် အဝတ်လဲသည်။ ယူသွားမည့် အဝတ်တွေ ကို စုသည်။ ကော်နယ်လီယာကလေး၏ အဝတ်အစားများပါ ယူထည့်သည်။ လက်ဆွဲ သေတ္တာကို ဒူးထောက်လျက်သားက ပိတ်နေစဉ် ကက်စတာ အခန်းဝတွင် ရပ်လာသည်။

“ဒီနေ့ နယူးအော်လင်းကို သွားဖြစ်အောင် သွားမယ်ပေါ့ ဟုတ်လား”

“အင်း”

“ရှာရမီတို့ကို ဘယ်လို ပြောရမလဲ”

“အလုပ်ကိစ္စနဲ့ ခရီးထွက်သွားတယ် ပြောလိုက်ပေါ့”

“သူတို့တွေ ကိုယ့်ကို ကျောရိုးမဲ့ သတ္တဝါလို ထင်ကြအောင်လား”

“အို…… မဆိုင်လိုက်တာ”

“ဒီမယ် အယ်လီနာ၊ အလုပ်ကိစ္စ ဆိုတာ အိမ်ထောင်ဦးစီးက လုပ်ရတာ။ မင်း မိဘ အိမ်ရဲ့ အလုပ်ကိစ္စကို မင်းအဖေ လုပ်လိမ့်မယ်၊ ဝက်သစ်ချမြိုင်ရဲ့ ကိစ္စကို ကက်စတာလန်း လုပ်မယ်”

“အင်းလေ၊ ကက်စတာလန်းက မလုပ်လို့ ဒီက ဝင်လုပ်ရတာပေါ့”

“ဩော်... အယ်လီနာရယ်၊ မောင် သွားပါ့မယ်လို့ ပြောနေပြီပဲကွယ်”

“အယ်လီနာ မစောင့်ချင်ဘူး”

“ဘာလဲ၊ ကော်နယ်လီယာကို ခေါ်သွားမလို့ ဟုတ်လား”

“ခေါ်မသွားလို့ ဖြစ်မလား၊ နို့တိုက်နေရတဲ့ ဥစ္စာ”

ကုတ်အကျႌအိတ်ထဲသို့ လက်နှိုက်ပြီး တံခါးပေါက်ကို မှီရပ်နေရာမှ နောက်ဆုံး ခါးပတ် ကွင်းကို ဆွဲချိတ်၍ အဝတ်သေတ္တာကို ပိတ်နေသည့် အယ်လီနာကို သူ စောင့်ကြည့်နေသည်။

“လောကကြီးကို ခါးစောင်းတင်ချင်ဦးဟဲ့ ဆိုပြီး ကြိမ်ဒဏ်ပေး၊ ဗီရိုထဲထည့်၊ သော့ခတ် ထားဖို့ ကောင်းတယ်”ဟု အငေါ်တူး၏။

“သွားစမ်းပါ . . . အဓိပ္ပာယ်မရှိ၊ ဒါ မောင့်အိမ်၊ မောင့်အတွက် သူများက ပူနေတာ”

“ဩော်... ဒုက္ခပါပဲ၊ ကိုယ့်အလုပ် ကိုယ် လုပ်ပါ့မယ် ဆို”

“အင်း. . . အဲဒီ လုပ်နည်းလုပ်ဟန်တွေနဲ့ လုပ်ခဲ့လို့ ဒီဘဝ ရောက်တာပေါ့”ဟု အော် ပြောလိုက်သည်။

ပြီးမှ နှုတ်ခမ်းကို ကိုက်ပြီး-

“ဆောရီး”ဟု တောင်းပန်လိုက်၏။

“အို... ဘုရားသခင်၊ မင်းမှာ အဲဒီလို ခုနစ်သံချီ မီတဲ့ အသံမျိုး ဘယ်ကရလဲ ဟင်”

“တောင်းပန်ပါတယ် ဆိုမှပဲ၊ အော်ပြောဖို့ မရည်ရွယ်ပါဘူး၊ ဒါပေမဲ့ နယူးအော်လင်း ကိုတော့ သွားကို သွားရမယ်”

ကက်စတာက မျက်ခုံး ပင့်လိုက်သည်။ စိတ်ပျက်လက်ပျက် လေသံနှင့်-

“တဖက်စွန်းကို သိပ်ရောက်လွန်းရင် မကောင်းဘူးနော် အယ်လီနာ”

“ရှင် ပူစရာ သိပ်မလိုပါဘူး”

“ဒါဖြင့် မပူဘူးကွာ.... မပူဘူး၊ မင်း ကြိုက်သလိုသာ လုပ်တော့”

ချာခနဲ လှည့်ထွက်ခဲ့ပြီးမှ ပြန်လှည့်ပြီး-

“တခုတော့ ရှိတယ်နော်၊ ကိုယ် နယူးအော်လင်းကို သွားရင် စိန့်ချားလ်စ် ဟိုတယ်က လွဲပြီး ဘယ်မှ မတည်းဘူး”

ပြောပြောဆိုဆို တံခါးပိတ်ပြီး ထွက်သွားသည်။ အယ်လီနာ တယောက်တည်း အခန်း ထဲတွင် ငေါင်စင်းစင်း ရပ်လျက်သား ကျန်ရစ်သည်။ ကိုယ့်ကိုယ်ကိုယ်လည်း မုန်းတီးရွံရှာ၏။ သူ့ကိုလည်း တခါမျှ မထွက်ဖူးသည့် ဖရုသဝါစာ စကားလုံးတွေနှင့် ရေရွတ်ဆဲဆိုနေမိ၏။ ပုံပြင်ထဲမှ ကျိန်စာသင့်နေသော စဉ်းလဲသည့် ကောင်မကလေး ပါးစပ်ထဲမှ ဖားပြုပ်တွေ ထွက်ကျ နေသည့် အလား။

ပုံပြင်ထဲက ကောင်မကလေး၏ ကျိန်စာဒဏ်သည် မိမိ ခံစားရချက်လောက် ပြင်းထန် ပါ့မည်လားဟု တွေးနေသည်။ သူ့ပါးစပ်မှ ဖားပြုပ်တွေ ထွက်ကျစေသည့် ဒဏ်ခတ်မှုထက် ပြင်းစွာ ခံစားလိုက်ရ၏။ အချစ်ဆုံး ချစ်သူကို ရိုင်းပျစွာ စော်ကားမိသည့် အတွက်လေ။ ဘာပြု လို့ ကက်စတာကို သည်လို ပြောမိပါလိမ့်၊ သူ့ကို မုန်းနိုင်လို့လား၊ ကိုယ့်ကိုယ်ကိုယ်လည်း နားမလည်တော့။ ဘာပဲဖြစ်ဖြစ် သည်အဖြစ်ကိုတော့ ခွင့်လွှတ်ဖို့ ပြေးပြီးတော့ တောင်းပန်မည်။ အို.... ရှာရမီအိမ်သို့ သူနှင့်အတူ လိုက်မှ ကျေနပ်မည် ဆိုလျှင်လည်း အပြစ်ကို တောင်းပန် သည့်အနေဖြင့် လိုက်သွားတော့မည်။

ဟင် . . . သူ့အခန်းထဲမှာ မရှိတော့ပါလား၊ အောက်ထပ်သို့ ပြေးဆင်းနေစဉ် တံခါးမကြီး ပိတ်သံ ကြားလိုက်ရ၏။ အိမ်ရှေ့ မြက်ခင်းပြင်ကို စီးမြင်နေရသည့် ပြတင်းပေါက်ဆီသို့ ပြေးသွား ပြီး ငုံ့ကြည့်သည်။ ကားကို တအားမောင်းထွက်သွားသော ကက်စတာ့ကို လှမ်းမြင်ရုံသာ မြင်လိုက်ရတော့၏။ အရှိန်ပြင်းလှချည်လား၊ အန္တရာယ်ဖြစ်မှာကို တွေးပူရပြန်သည်။ ကျောထဲ စိမ့်သွားအောင် ကြောက်ရွံ့ စိုးရိမ်သွားသည်။

တောင်းပန်ဖို့ နောက်ကျခဲ့လေပြီ၊ နောင်တကြီးစွာ ရမိတော့၏။ ခါးပတ်တွင် ချိတ်ထားသည့် ကက်စတာ၏ ခရစ္စမတ် လက်ဆောင် နာရီကလေးကို ထုတ်ကြည့်သည်။ ၁၂ နာရီခွဲပြီ၊ နှစ်နာရီတွင် စမည့် ညစာစားပွဲအတွက် မိနစ် ၂၀ သာ မောင်းရသည့် သစ်ဖြူတောသို့ ယခု ကတည်းက ထွက်သွားခြင်းမှာ စောလွန်းလှသည်။ ဦးခေါင်းငိုက်စိုက်ဖြင့် မိမိအခန်းသို့ ပြန်လာ ခဲ့၏။ ခရီးထွက်ဖို့ ဆက်လက်ပြင်ဆင်၏။ နယူးအော်လင်းသို့ အလောတကြီးသွားဖို့ လိုအပ်သည် မှာ အမှန် ဖြစ်သည်။ ဒါကို ဘာကြောင့် ကက်စတာ လက်ခံအောင် ရှင်းမပြနိုင်ရပါလိမ့်၊ ဘာကြောင့် ကိုယ့်ချစ်သူ မျက်နှာညို အလိုမကျဖြစ်အောင် ပြုခဲ့မိပါလိမ့်။

နှစ်နာရီထိုးဖို့ ၁၅ မိနစ်အလိုတွင် အခန်းတံခါး ပိတ်သည်။ သစ်ဖြူတောသို့ ဖုန်းဆက် သည်။

ကလယ်ရာရှာရမီ ဖုန်းကိုင်သည်။ လိုက်မလာနိုင်သည့် အကြောင်း ရှင်းပြတောင်းပန် သည်။ နယူးအော်လင်းသို့ သွားရန် ကိစ္စမှာ အရေးကြီးနေကြောင်း ပြောပြသည်။ ကလယ်ရာက အလွန် စိတ်မကောင်း ဖြစ်နေကြောင်း ပြောသည်။ ကလယ်ရာ၏ အသံမှာ သူ့ခန္ဓာကိုယ် ဖွံ့စည်း ပုံအတိုင်း နွဲ့နောင်းလှ၏။ ဆွဲဆောင်မှုရှိ၏။ ငါလည်း သည်အသံမျိုးနဲ့ ပြောတတ်ပါတယ်၊ ဒေါပွ မနေတဲ့ အချိန်မျိုး ဆိုရင်လေ။ အယ်လီနာ တွေးရင်း နောင်တကြီးစွာ ရနေ၏။

ဘုရားသခင် ကယ်မတော်မူပါ၊ တပည့်တော်မ၏ ဒေါသအမျက်တွေကို ငြိမ်းအေးအောင် ဖေးမတော်မူပါ ဘုရား။

“ကလယ်ရာရေ၊ ကိုယ် ကက်စတာနဲ့ ခဏ ပြောပါရစေကွာ”

တောင်းတောင်းပန်ပန် ပြောလိုက်သည်။

“အို… ရပါတယ်ကွယ်၊ ခဏကလေးနော်၊ သူတို့ ဝိုင်းစနေကြပြီ၊ ကိုယ် သွားခေါ်ပေး မယ်နော်”

ခဏအတွင်း ဖုန်းထဲမှ ကက်စတာ့ အသံကို ကြားရသည်။

“မောင်၊ အယ်လီနာ တောင်းပန်ပါတယ်ကွယ်၊ မောင့်ကို ဘာလို့ အဲဒီလို ပြောမိပါလိမ့် ဆိုတာ ကိုယ့်ကိုယ်ကိုယ် နားမလည်နိုင်အောင် ဖြစ်နေတယ်။ အယ်လီနာ့ကို ခွင့်လွှတ်ပါ မောင်၊ နောက် အဲဒီလို မဖြစ်စေရတော့ပါဘူးကွယ် နော်”

သူက အလေးအနက် မထားသည့် အသံဖြင့် ပြန်ပြောသည်။ စိတ်ဆိုးပြေသွားလို့ပဲလား၊ အရက်ကြောင့် ရွှင်ပျနေသည်လား မသိ။

“တကယ်ပဲလားကွယ်”တဲ့။

“တကယ်ပါ မောင်ရယ်၊ ညက အိပ်ပျက်ထားလို့ စိတ်သိပ်လှုပ်ရှားနေတာပါ။ ဒါကြောင့် ချောင်ပိတ်မိနေတဲ့ ကြောင်မကလေးလို စိတ်တိုနေမိတာပါ မောင်။ အချစ်ကို စိတ်မဆိုးပါနဲ့နော်”

“မဆိုးပါဘူး အချစ်ရယ်”

သူ့အသံက တကယ့် ရိုးရိုးသားသား အူလှိုက်သည်းလှိုက်။

“မောင့်အနားမှာ ဘယ်သူရှိလဲ ဟင်”

“ဟင့်အင်း . . . ဘယ်သူမှ မရှိပါဘူး”

“ဒါဖြင့် အယ်လီနာ့ကို ချစ်တယ်လို့ ပြောဦး မောင်ရယ်”

“အယ်လီနာ့ကိုလေ မောင် မိုးလောက်ကြီး ချစ်တယ်၊ မောင်က ဟန်ဆောင်ပြီး ချစ်နေတယ်များ အောက်မေ့နေလား”

“မအောက်မေ့ပါဘူးကွယ်”

ကက်စတာ၏ အချိန်ကို သိပ်မယူချင်၍ အယ်လီနာက ချက်ချင်း တောင်းပန်ဖို့ ပြေးထွက် ခဲ့ကြောင်းနှင့် မမီတော့ကြောင်းကို ကတိုက်ကရိုက် ရှင်းပြသည်။

“အယ်လီနာ လှေကားနား ရောက်တော့ မောင်က မောင်းထွက်သွားပြီလေ၊ ဒါနဲ့ အယ်လီနာလည်း ခရီးထွက်ဖို့ ဆက်ပြီး ပြင်နေတယ်”

“မောင်တို့နှစ်ယောက် ဘယ်သူ မှန်တယ်တော့ မသိဘူး၊ မောင်တော့ ခုလို ကတောက် ကဆတ်ဖြစ်ပြီး လာခဲ့ရတာ ဒီမှာ လုံးဝ မပျော်တော့ဘူး၊ ကဲ- သွားမှာဖြင့် ရထားနောက်ကျ နေမယ်”

နယူးအော်လင်းသို့ ညနေရထားဖြင့် လိုက်ခဲ့သည်။ ဒစ်စီက ကော်နယ်လီယာကို ချီ၍ မျက်နှာချင်းဆိုင်ခုံတွင် ထိုင်လျက်။ ဒစ်စီမျက်နှာက မနှစ်မြို့သည့် မျက်နှာ၊ ဝက်သစ်ချမြိုင်တွင် သူ အလုပ်လုပ်ခဲ့သည့်တလျှောက် သူ့သခင်မများသည် လင်ယောက်ျားကို တယောက်တည်း ပစ်ထားခဲ့သည့် အယ်လီနာလို သခင်မ တယောက်မျှ မတွေ့ဖူးခဲ့။

※※※

# (၂)

မိဘအိမ်မှာရော ယောက္ခမအိမ်မှာပါ မတည်းလို၍ စိန့်ချားလ်စ် ဟိုတယ်တွင် အခန်းယူ လိုက်သည်။ မစ္စတာရိုဘီ ဟောက်စ်ကို ဖုန်းဆက်ပြီး ချိန်းလိုက်သည်။ နောက်တနေ့ နေ့လယ် တွင် တွေ့ရမည် ဖြစ်၏။

ထိုညတွင် အိပ်ရေးဝအောင် အိပ်ပစ်လိုက်သည်။ အားပြည့် လန်းဆန်းနေ၏။ မနက်ပိုင်း တွင် ဖခင်လုပ်သူ၏ ရုံးခန်းဆီသို့ ထွက်ခဲ့၏။ အယ်လီနာထက် တနှစ်သာငယ်သည့် မောင်ဖြစ် သူ ဗန့်စ်နှင့် ပထမတွေ့သည်။ အသစ်စက်စက် အင်ဂျင်နီယာကလေး ဗန့်စ်က ခုန်ထပြီး တအံ့တသြ မေးသည်။

"ကြည့်စမ်း အယ်လီနာ၊ ဒါ ဘယ်တုန်းက ရောက်နေတာလဲ"

"ပါပါ ဘယ်မှာလဲ ဗန့်စ်"

"ပါပါ သူ့အလုပ်ခန်းထဲမှာပေါ့၊ သူ့အတွင်းရေးမှူးကို ရေးဖို့ စာတွေ ကြောင်းပေးနေ တယ်"

ဗန့်စ်က အယ်လီနာ့ကို ဖွတ်တားပြီး နယူးအော်လင်း အသိုက်အဝန်း၏ နောက်ဆုံး သတင်းများကို ပေးနေသည်။ လီနာတော်နယ်လီ စေ့စပ်ကြောင်းလမ်းပြီးပြီ၊ ဖလောရင့်စ်က သည်နှစ်မှ ပိုလှလာလို့ အိမ်မှာ လူပျိုတွေ အဝင်အထွက် များနေသည်။ အက်ချာဖာလျာမြစ်ရေ စိုးရိမ်မှတ်ထက် ကျော်နေပြီ. . . စသည် စသည်များ။ စိတ်ခါတ်ကျနေသည့်ကြားက အယ်လီနာ စိတ်ပါဝင်စားစွာ နားထောင်နေသည်။ ဗန့်စ်တယောက် မိမိတုန်းကလိုပင် မြစ်တွေအကြောင်း စိတ်ဝင်စားနေကြောင်း တွေ့ရသည်။ ဗန့်စ်ဟူသည့် နာမည်ကိုက ဖေဖေ့အား ပထမဆုံး အလုပ် ပေးခဲ့သည့် ဖိုမင်၏ အမည် မဟုတ်လား။ ဖေဖေက သူ့ကျေးဇူးရှင်၏ နာမည်ကို တမင်ယူပြီး သူ့သားကို မှည့်ပေးထားခြင်း ဖြစ်၏။ ခုတော့ ဗန့်စ်သည် မြစ်တွေနှင့် ရေကာတာတွေကို နောကျေ နေလောက်ပြီ။

သူ ပြောနေသည်ကို နားထောင်ရင်း ငယ်ဘဝကို ပြန်လည်မြင်ယောင်လာ၏။ မောင်နှမ တတွေ ရေကာတာ စခန်းများတွင် လွတ်လပ်ပျော်ရွှင်စွာ ဆော့ကစားခဲ့ကြပုံများ။ သည်တုန်းက အယ်လီနာက ၁၀ နှစ်သမီး၊ ဗန့်စ်က ၉ နှစ်သား၊ ဖလောရင့်စ် ကလေးက ၇ နှစ် သမီးသာ ရှိသေး၏။ ရေကာတာ ပုံစံငယ်ကလေးတွေ ဆောက်လုပ်တမ်း ကစားကြ၏။ တာဘောင်း မြေကျင်း

ကလေးတွေ စနစ်တကျတူး၏။ တကယ့် တာကြီးနှင့် တူအောင် ဖို့၏။ တာ၏ အောက်ခြေနှင့် အပေါ်ပိုင်း ဆင်ခြေလျှောကို တောက်လျှောက်ညီညာစေရန် အချုပ်အလုပ် အဖာအထေးတွေနှင့် အလုပ်ရှုပ်နေတတ်သည့် မေမေ့ဆီမှ ပေကြိုးငှားပြီး သေသေချာချာ တိုင်းထွာ၏။ ဖလောရင့်စ် ကလေးက ကျစ်ဆံမြီးကလေး တန်းလန်းတန်းလန်းနှင့် လိုသမျှပစ္စည်း ရှာပေး၏။

ခုတော့ ဗန့်စ်က အင်ဂျင်နီယာ ဖြစ်နေပြီ၊ ဖလောရင့်စ်က အလွန်လှသည့် အပျိုမကလေး တဲ့။ မိမိကိုယ်တိုင်ကမူ နဖူးတွေ့ ဒူးတွေ့ ဘဝ၏ အနိဋ္ဌာရုံများကြောင့် ရင်မောနေရသည့် ကလေးတယောက်အမေ။

နောက်ဆုံး ဗန့်စ်ကို ဖေဖေ့ဆီ ပို့ပေးဖို့ ပြောရသည်။ ဗန့်စ်က ဖေဖေ့ရုံးခန်း တံခါးကို ဖွင့်ပြီး ခေါင်းပြူဝင်လိုက်၏။

“ပါပါ၊ အယ်လီနာ ရောက်နေတယ်”

စားပွဲပေါ်တွင် ရေနွေးငွေ့နှင့် မောင်းသည့် မြေညှိစက် ပုံစံပြာကြီးကို ငုံ့ကြည့်ပြီး မျဉ်းတွေ ဒေါသတကြီး ထပ်ဖြည့် ဆွဲနေသည်။ အယ်လီနာ ဝင်လာသည်ကို မြင်တော့ ဝုန်းခနဲ ထရပ်သည်။

“အယ်လီနာ၊ သမီး ဘယ်တုန်းက ရောက်တာလဲ”

အယ်လီနာက အတွင်းရေးမှူးမကလေးကို လှမ်းကြည့်ပြီး-

“သမီး ပါပါနဲ့ နှစ်ယောက်တည်း ဆွေးနွေးချင်လို့”

“ကဲ . . . မစ္စလိုရင်း၊ အပြင် သွားနေစမ်း”

လက်မနှင့် အပြင်ရုံးခန်းဆီသို့ ဖရက်က ညွှန်ပြလိုက်သည်။ ဗန့်စ်နှင့် မစ္စလိုရင်း ထွက်သွားကြသည်။

“သမီး ထိုင်လေ”

“သမီး အချိန်သိပ်မရှိဘူး ပါပါ"

အယ်လီနာက ခပ်လောလော ပြောလိုက်သည်။

“သမီး ပါပါ့ဆီ လာတာ သစ်သီးကုမ္ပဏီက သမီးအစုတွေ ထုတ်ချင်လို့ ပါပါရဲ့”

“အို”

ဖရက်က ပြန်ထိုင်ချလိုက်သည်။ ပုံစံပြာပေါ်တွင် လက်ထောက်လျက် အယ်လီနာ့ကို ခြေဆုံး ခေါင်းဆုံး ကြည့်နေ၏။ ပြီးတော့ သားအဖနှစ်ယောက် မျက်လုံးချင်း ဆုံမိကြသည်။

“မထုတ်ရဘူး၊ ဘာလို့ ထုတ်ရမှာလဲ”

သူ့ကိုယ်ကို ဓားနှင့် အထိုးခံလိုက်ရသလို အယ်လီနာ နာကျင်စွာ ခံစားလိုက်ရ၏။ ဘာမျှ ထပ်မပြောနိုင်တော့။ အယ်လီနာ သိသည်။ အစကတည်းက ကက်စတာ့ကို မယုံ၍ အယ်လီနာ့နာမည်နှင့် အစုဝင်ပေးထားပြီး အစုကို ထုတ်မရအောင် ချည်ထား၏။ အစုမှ ရရှိသည့် အကျိုးအမြတ် ဝင်ငွေကိုသာ သုံးစွဲခွင့် ပေးထားသည် မဟုတ်လား။ တနှစ် ဒေါ်လာ ၁,၂၀၀ ဆိုသည့် ငွေမှာ သားအမိ နှစ်ယောက်အတွက် ကောင်းကောင်းကြီး ဖူလုံသည့်ငွေ မဟုတ်လား။

“ကောင်းပြီလေ၊ ပါပါ မပေးလည်း မရရုံပေါ့၊ သမီး ဘာမှ မပြောတော့ပါဘူး၊ သွားမယ် ပါပါ”

“အို…နေဦးလေ”

ဖရက်က စားပွဲမှ ထလာပြီး သမီးလက်ကို ဆုပ်ထားလိုက်သည်။

“သမီးမှာ ငွေရေးကြေးရေး အခက်အခဲရှိနေရင် ပါပါ့ကို အဖြစ်အပျက်တွေ ပြောပြလေ”

“ပြောလည်း မထူးပါဘူး ပါပါရယ်၊ ကိစ္စ မရှိပါဘူး၊ သမီးဘာသာ ရှင်းနိုင်ပါတယ်”

“ဘယ်လို ရှင်းမှာလဲ”

“အဲဒါ ပါပါနဲ့ မဆိုင်ပါဘူး”

“အရှေ့တောင် ငွေလဲဘဏ်က မစ္စတာရိုဆီဟောက်စ်နဲ့တော့ ဆိုင်မှာပေါ့ ဟုတ်လား”

ဖရက်အပွဲ့ဂျွန်းက ကြိုသိနေသည့် အမူအရာနှင့် ပြောလိုက်သည်။

“ပါပါ ဘယ်လိုလုပ် သိတာလဲ”

ဖရက်က ပြုံးလိုက်သည်။

"ပါပါ ဒါလောက် ဘယ်အ,မလဲ သမီးရယ်၊ မစ္စစ်စပီမြစ်ညာက ချွတ်ခြုံကျနေတဲ့ လုပ်ငန်းရှင်တွေရဲ့ ငွေတွေနဲ့ အဲဒီဘဏ်က လည်ပတ်နေတာပဲ။ ဘာပြုလို့ ပါပါ့ကို အဲဒီ အကြောင်း မပြောတာလဲ"

"ဟင့်အင်း မပြောပါဘူး"

"ကောင်းပြီလေ၊ သမီး မပြောချင်ရင် မပြောဘဲ နေနိုင်ပါတယ်၊ သမီး ခု လူကြီး ဖြစ်လာပြီလို့ ပါပါ ထင်တယ်"

ခဏဆိုင်းပြီးမှ ဖရက်က မေးသည်။

"တခုခုပေါ်မှာ ပါပါ လက်မှတ်ထိုး ပေးရမလား၊ အဲဒါဆိုရင် ပြေလည်မလား"

အယ်လီနာ့ကျောထဲ စိမ့်သွားသည်။ ဖေဖေသည် လူချမ်းသာတယောက်မဟုတ်သေး။ သို့သော် ဖေဖေ့မှာ ကြွေးတော့ တပြားသားမျှ မရှိ။ ဖေဖေသည် နယူးအော်လင်းတွင် လူရိုသေ ရှင်ရိုသေ ပုဂ္ဂိုလ်တယောက် ဖြစ်၏။ သစ္စာ၊ သမာဓိ ဂုဏ်သတင်းကြီးသူ ဖြစ်၏။ ဖေဖေ့ လက်မှတ်ပါလျှင် နယူးအော်လင်းတွင် ရှိသမျှဘဏ်တွေက အလုအယက်တောင် ချေးချင် ငှားချင်ကြလိမ့်ဦးမည်။ လောကတွင် သည်လိုဂုဏ်သိက္ခာမျိုး ရရှိဖို့ မလွယ်လှကြောင်း အယ်လီနာ ယခုမှပင် သဘောပေါက် တော့သည်။ ဘယ်လောက် မြတ်နိုး ကိုးကွယ်ချင်စရာ ကောင်းလှ သည့် အရည်အသွေးမျိုးပါလဲ။

"ဟင့်အင်း၊ မလိုပါဘူး ပါပါ၊ ဘာအတွက်မှန်းလဲ မသိဘဲနဲ့ ဒေါ်လာ သန်းနဲ့ချီပြီး ပါပါ့ကို အာမ မခံခိုင်းပါဘူး"

အသံ တုန်နေမည် စိုး၍ ခပ်သွက်သွက် ပြောလိုက်သည်။

"ဘာအတွက်လဲ ဆိုတာ ပါပါ သိပါတယ် ဆို"

"ဟင့်အင်း နေပေ့စေ၊ သမီးဟာ ပါပါ့ သမီးပါ"ဟု ပြောပြီး ကုလားထိုင်ပေါ်တွင် အရုပ်ကြိုးပြတ် ပျော့ခွေသွားသည်။ ဖရက်က စားပွဲပေါ်တွင် လက်မောင်းတဖက် တင်စေပြီး ဦးခေါင်းကို လက်မောင်းပေါ်သို့ မှေးထားပေး၏။ အယ်လီနာ မငို။ သည်ကိစ္စသည် အခက်ခဲဆုံး ဖြစ်မည်ကို အယ်လီနာ သိ၏။ သည့်အတွက် ဖေဖေနှင့် တွေ့ဖို့ ကိစ္စကို ပထမဆုံး စခြင်း ဖြစ်၏။ ဖခင်လုပ်သူ၏ မျက်မှောက်တွင် ဖုံးထားသမျှတွေ ဘူးပေါ်သလို ပေါ်ပြီး အရှက်ကြီး ရှက်နေ သည့် အယ်လီနာ။ ဖရက်က သမီးဖြစ်သူ၏ ပခုံးကို သိုင်းဖက်လိုက်သည်။ အယ်လီနာ ရင်ထဲတွင် နင့်သွား၏။ ငါ့စကား နားမထောင်တဲ့ ဟာမ၊ နင့်အပြစ် နင်ခံပေါ့ဟု စိတ်ဆိုးမာန်ဆိုး ဆူပူရင် အယ်လီနာအတွက် ပို၍ ခံသာမည် ထင်၏။

အစကတည်းက မလာရင် အကောင်းသား ဟုလည်း တွေးမိ၏။ သည်ကို လာလျှင် သည်လို ဖြစ်မည်ကို ကြိုသိဖို့ ကောင်း၏။ ခေါင်းတွေ ဆူဝေနေတုန်းတော့ အားထားစရာဆို၍ အမေ့အိမ်ကိုပဲ ဆိုပြီး လာခဲ့တာလေ။ အယ်လီနာ ခေါင်းထောင်ပြီး ဖအေလုပ်သူကို မော်ကြည့်သည်။ သားအဖနှစ်ယောက် မျက်လုံးချင်း ဆုံကြ ပြန်၏။

"အိမ်သားတွေ သမီးကို သိပ်တွေ့ချင်နေကြရော့မယ်၊ ပါပါ မေမေ့ဆီ ဖုန်းဆက်လိုက် မယ်နော်၊ ညနေစာ အိမ်မှာစား"

အယ်လီနာ ဘယ်သူနှင့်မျှ မတွေ့ချင်၊ ဘယ်ကိုမျှ မသွားချင်၊ ဘယ်လို ငြင်းရမှန်း မသိ၍သာ ခေါင်းညိတ်လိုက်ရခြင်း ဖြစ်သည်။

"ဒီအကြောင်းကို အိမ်သားတွေ မသိစေချင်ဘူး ပါပါ"

"မသိစေရပါဘူးကွယ်၊ သမီးဟာ အိမ်ထောင်သည် ဖြစ်နေပြီပဲ၊ ကိုယ့်ကိစ္စနဲ့ ကိုယ် လာတာပေါ့၊ လာလေ... ကော်ဖီ သောက်ရအောင်"

"ဟင့်အင်း၊ မသောက်တော့ဘူး ပါပါ ၊ ကလေး နို့တိုက်ချိန် နီးပြီ၊ မစ္စတာ ရိုဘီဟောက်စ် နဲ့လည်း တွေ့ရဦးမယ်"

"ကောင်းပြီလေ၊ ဒါဖြင့် ညနေမှ ဆုံမယ် ဟုတ်လား"

ဟိုတယ် ပြန်ရောက်တော့ ချိန်းဆိုထားသည့် အချိန် မရောက်မချင်း ဆောက်တည်မရ ဖြစ်နေ၏။

မွန်းတည့်ချိန်လောက်တွင် ဘဏ်သို့ ထွက်ခဲ့သည်။

မစ္စတာရိုဘီဟောက်စ်မှာ ဆံပင်တွေ ဖြူဖွေးနေပြီ။ ပြုံးရွှင်နေသည့် မျက်နှာသည် ဝက်သစ်ချမြိုင် ပေါင်နှံ့ထားသည့် ကိစ္စကို ကောက်မေးလိုက်သည့်အခါ ညှိုးမှိုင်း အုံ့ဆိုင်းသွား တော့၏။ အယ်လီနာက ငွေချေးယူသည့် နေ့စွဲတွေနှင့် ချေးသည့် ငွေပမာဏများကို အသေး စိတ် မေးသည်။

မစ္စတာရိုဘီဟောက်စ်က လည်ချောင်းရှင်းလိုက်ပြီး ကက်စတာ့ဆီသို့ မရေးမဖြစ်သည့် အခြေဆိုက်လာ၍ ယခုလို နို့တစ်စာ ရေးလိုက်ရကြောင်း၊ ကက်စတာ၏ အဖေ လက်ထက်က တည်းက ဝါစိုက်ပျိုးစရိတ် ချေးယူပြီးလျှင် ပြန်ဆပ်ဖို့ နှောင့်နှေးကြောင်း၊ နောက်တကြိမ် လည်ချောင်း ရှင်းနေပြန်သည်။ အတိုးပေးဖို့ကို ဘယ်တော့မျှ စဉ်းစားလေ့ မရှိကြောင်း။

"အဲ... ကက်စတာ့ လက်ထက်ကျတော့ ပိုဆိုးလာတယ်၊ ဝါအထွက်ကလည်း ကျလာတယ်၊ ချေးထားတဲ့ငွေနဲ့ ဝက်သစ်ချမြိုင်ရဲ့ တန်ဖိုးမမျှ ဖြစ်လာတယ်။ ဒါကြောင့် ပြဿနာကို ခုကတည်းက မရှင်းရင်.."

"ကျွန်မ နားလည်ပါပြီ၊ စုစုပေါင်း ပေးစရာ ဘယ်လောက်ရှိလဲ ဆိုတာရယ်၊ ပေးရမယ့် နောက်ဆုံးနေ့ရယ်ကို ကျွန်မ သိချင်ပါတယ်"

မစ္စတာရိုဘီဟောက်စ်က စာရေးတယောက်ကို ခေါ်ပြီး စာရွက်စာတမ်းတွေ တထပ် ကြီး တောင်းယူလိုက်သည်။ တနာရီအတွင်း အခြေအနေမှန်ကို သိရသည်။ လက်စသတ်တော့ ဘဏ်က လူကြီးတွေ သဘောကောင်း၍သာ သူတို့လင်မယား ဝက်သစ်ချမြိုင်တွင် ဆက်နေနိုင် ခြင်းပါကလား။

သူ့ဘဝတွင် လိုအပ်လွန်းလှသည့်ငွေကို ရမည်ဆိုလျှင် ကက်စတာသည် ဘယ်လို စာရွက် စာတမ်းမျိုးကို ဖြစ်ဖြစ် လက်မှတ်ထိုးဖို့ ဝန်မလေးသည့် ပုဂ္ဂိုလ်ပဲ။

အယ်လီနာက စာရွက်နှင့် ခဲတံ တောင်းပြီး ဂဏန်းတွေကို ကူးရေးသည်။ ကူးနေရင်း စိတ်နှင့် ပေါင်းသွားသည်။ အကြမ်းဖျင်း တွက်လို့ ရပြီ၊ အိမ်မှာ တင်နေတဲ့ ကြွေးတွေပါ ဆိုလျှင် ဒေါ်လာ တသိန်းထက် နည်းမည် မဟုတ်။

မစ္စတာရိုဘီဟောက်စ်က ပွင့်ပွင့်လင်းလင်း သတိပေးလိုက်သည်။ ကက်စတာက လုပ်ငန်း ကို အစုစပ် စိုက်ပျိုးရေးသမားတွေနှင့် ပစ်စလက်ခတ် ထားကြောင်း၊ ခုတော့ မြေတွေမှာ မြည်းတကောင်ထွန် ယာခင်းတခုသဖွယ် ပျက်စီး ဆုတ်ယုတ်စ ပြုနေပြီ ဖြစ်ကြောင်း။

"ကျွန်မကို ခုလို အချိန်ပေးပြီး ဆွေးနွေးတဲ့အတွက် ကျေးဇူးတင်ပါတယ် မစ္စတာ ရိုဘီဟောက်စ်"

နှုတ်ဆက်ပြီး ပြန်လာခဲ့၏။ လမ်းပေါ်တွင် အနွေးခာတ်မဲ့ ဇန်နဝါ ရီ နေရောင်ခြည်သည် တောက်ပစွာ ဖြာကျနေ၏။ ခါးကြားထဲမှ နာရီကို ထုတ်ကြည့်သည်။ (သည်နာရီကြွေးကိုလည်း ခုထိ ဆပ်ရသေးဟန် မတူ၊ ရောင်းထုတ်လိုက်ရရင် သူ ဘာပြောမည် မသိ) အချိန်တွေ အများကြီး ပိုနေသည်။ ကျေးဇူးတင်စရာပေပဲ။

လက်ကားဆိုင်ကြီးတွေ ရှိသည့် လမ်းကို ဖြတ်လျှောက်လာခဲ့၏။ လမ်းတလျှောက် တွင် စက်ရုံတွေကလည်း အနံ့အပြား။ နှာခေါင်းနှင့် ရင်းနှီးနေသည့် ကော်ဖီနံ့နှင့် သကာနံ့က သင်းပျံ့နေသည်။ နယူးအော်လင်း မြို့လယ်ပိုင်းနှင့်လည်း ရင်းနှီးပြီးသား မဟုတ်လား။ ကမ်းနား ဆိပ်သို့ ရောက်တော့ နေခြည်တွင်

ရွှေရည်တဖိတ်ဖိတ် လက်နေသော မစ္စစ်စပီမြစ်ပြင်ကို ငေးနေမိ၏။ ဝက်သစ်ချမြိုင်ကို ရစ်ခွေစီးဆင်းလာသည့် မြစ်ရေ။ အမေရိကန်အလယ်ပိုင်းမှ လာကြသည့် လှေသင်္ဘောတွေက ကော်ဖီစေ့တွေ ချနေသည်။ အအေးခန်းကားကြီးတွေက နောက်နေ့တွင် ရောက်လာမည့် ငှက်ပျောသီးတွေ တင်ရန် စီရရီ စောင့်ဆိုင်းနေကြ၏။ မြစ်လယ် တွင်တော့ သောင်တူးသင်္ဘောကြီးတစင်း လူးလာခေါက်ပြန် ခုတ်နေသည်။ ပတ်ဝန်းကျင် တွင် လူသံ၊ စက်သံတွေဖြင့် ဆူညံနေ၏။ “တော်နယ်လီ သစ်သီးကုမ္ပဏီ” ဟူသည့် ရောမ ဆိုင်းဘုတ်ကြီးကို လှမ်းမြင်နေရသည်။

လီနာတော်နယ်လီ၏ အဘိုးသည် အီတလီမှ အမေရိကန်သို့ စျေးအပေါဆုံး သင်္ဘောကို ကြိုကြိုကြားကြားမှ စီးလိုက်လာခဲ့သူ ဖြစ်၏။ နယူးအော်လင်း ဆိပ်ကမ်းတွင် ပစ်ထားသည့် အမှည့်လွန် ငှက်ပျောသီးတွေကို ကောက်ပြီး တွန်းလှည်းနှင့် တင်၍ တဒါဇင်ကို နှစ်ဆင့်နှင့် ရောင်းချခဲ့၏။ တခုတော့ ရှိသည်ပေါ့လေ၊ သည်လုပ်ငန်း စစဉ်က သူ့တွင် ကြွေးမရှိ။

ကုန်စိမ်းတင် သင်္ဘောတွေကို ကျော်ခိုင်းပြီး ကမ်းနားလမ်းအတိုင်း လျှောက်လာခဲ့ သည်။ အနောက်ဘက်ကမ်း၏ ကောက်ကြောင်းများကို မှုန်ပျပျမြင်နေရ၏။ ကူးတို့သင်္ဘော တွေက ဥဒဟို ကူးသန်းနေကြ၏။ လေမှာ လတ်ဆတ် သန့်ရှင်း လှသည်။ ဟိုဘက်ကမ်းသို့ တခေါက်လောက် လိုက်စီးရကောင်းမလားဟု စိတ်ကူးမိသေး၏။ အို . . မဖြစ်သေးပါဘူး၊ ခြူးတပြားတောင် အပိုကုန်မခံနိုင်သေးဘူး။ တနေရာတွင် ရပ်ပြီး တငြိမ့်ငြိမ့် စီးဆင်းနေ သော မြစ်ပြင်ကို ငေးနေပြန်၏။

ငယ်ငယ်တုန်းက ဗန့်စ်နှင့် နှစ်ယောက်သား ပေါင်းပြီး ရေကာတာစခန်းသို့ ရောက်လာ ကြသည့် ဧည့်သည်တွေကို အကြောင်းရိုက်သည့် အကြောင်း သွားသတိရမိသည်။ နယူး အော်လင်းမှာ မစ္စစ်စပီမြစ်ရေ ဘယ်ဘက်ကို စီးသလဲ၊ အရှေ့လား၊ အနောက်လားဟု မေးတတ် ကြသည်။ အမှန် စီးဆင်းသည်က မြောက်ဘက်၊ အမှန်အတိုင်း ဖြေနိုင်သူ မရှိသလောက်ပင်။ သည်တော့မှ မောင်နှမနှစ်ယောက် ဧည့်သည်တွေကို မြေပုံဆွဲပြရသည်။ ပင်လယ်ကွေ့၏ မြစ်ဝ ခုနစ်သွယ်ဆီသို့ စီးဝင်သည့် မစ္စစ်စပီက မြစ်လက်တက်တွေ ဖြာမထွက်မီ နယူးအော်လင်း အထက်နားတွင် ကွေ့ပတ်ပြီး ပြောင်းပြန် ပြန်စီးသလို ဖြစ်နေသည်။ ဤတွင် လူတွေ မျက်စိလည်ကြခြင်း ဖြစ်၏။

အယ်လီနာသည် သဘာဝရှုခင်းကို ယခုလို ငေးငေးမောမော ကြည့်ဖြစ်ခဲလှသည်။ ယခုလို လွမ်းလွမ်းဆွတ်ဆွတ်လည်း တခါမျှ မဖြစ်ဖူးခဲ့။ ကမ်းနားလမ်းမှနေ၍ ဟိုတယ်ဆီ သို့ တန်းပြန်ခဲ့သည်။ အဝတ်အစား လဲ၏။ ဒစ်စီကို

ကလေးနှင့် ထားခဲ့ပြီး အမေ့အိမ်သို့ ထွက်လာ ခဲ့၏။

ညစာထမင်းဝိုင်းက စိုပြည်လှသည်။ ချစ်ချစ်ခင်ခင် ရင်းရင်းနှီးနှီး ပြောကြဆိုကြနှင့် ဆူနေသည်။ ညစာစားပြီးချိန်တွင် လီနာတော်နယ်လီ ရောက်လာ၏။ သူ့အမျိုးသားပါ ပါလာ သည်။ လီနာက အယ်လီနာ့ကို ကားမောင်းတတ်ပြီလားဟု မေးသည်။ အယ်လီနာက ကက်စတာ ဆီမှာ သင်နေဆဲဖြစ်ကြောင်း ပြန်ပြောသည်။

"ကိုယ်တော့ ကောင်းကောင်း မောင်းတတ်သွားပြီ အယ်လီနာ၊ စတတ်တာနဲ့ နှိုးရတာ သိပ်လွယ်တာပဲ၊ တချက်တည်းနဲ့ နိုးတာပဲကွ။ ပြီးတော့ ဟောဒီ ဘေးခွဲစကတ်တွေက ကလတ်နဲ့ ဘရိတ်ကို နင်းရတာ ရှင်းတယ်၊ လွယ်လည်း လွယ်တယ်ကွ"

ဖရက်အပွဂျွန်းက သူ ကြည့်ပြီးသည့် ရုပ်ရှင်ကားကောင်းတွေ အကြောင်း ပြောနေ သည်။ ဖလောရင့်စ်က နယူးအော်လင်းတွင် ရုပ်ရှင်ရုံပေါင်း ၃၀ ကျော်နေပြီ ဖြစ်ကြောင်း ပြောသည်။ အယ်လီနာ မသိတဲ့ရုံတွေ အများကြီး တိုးလာကြောင်း။ မေမေ မော်လီအပွဂျွန်းက အယ်လီနာ ကို အကြာကြီး ဆွဲမထားကြဖို့ သတိပေး၏။

"ကလေးက သုံးလပဲ ရှိသေးတာ၊ သမီး အယ်လီနာက နယူးအော်လင်း အကြောင်း လေ့လာဖို့ အချိန်ရှိချင်မှ ရှိမှာ"

ဖလောရင့်စ်က စန္ဒရားတီးသည်။ လီနာ၏ အမျိုးသား ဂေးရက်ကက်က အယ်လီနာကို ကဖို့ ဖိတ်ခေါ်သည်။ အယ်လီနာ့စိတ်ထဲတွင် အိမ်သားတယောက်လို ပြန်ဖြစ်နေသည်။ အပျို ဘဝကို ပြန်ရောက်နေသလို။ မိဘအရိပ်အာဝါသတွင် ထွေးနွေးနေသည်။ သည်ပတ်ဝန်းကျင် သည်သာ မိမိ၏ ကိုယ်ပိုင်ပတ်ဝန်းကျင်၊ ရိုးသားသည်၊ ပွင့်လင်းသည်၊ တည်ငြိမ်သည်၊ ယုံကြည်စိတ်ချရသည်။ လီနာတို့က ဟိုတယ်သို့ ပြန်ပို့ပေးသည်။ သူတို့စုံတွဲ ကားမောင်းထွက်သွားသည် ကို ငေးကြည့်ရင်း အားငယ်သလိုလို ဖြစ်ကျန်ရစ်သည်။ အခန်းတံခါးကို ဖွင့်လိုက်တော့ အထဲ တွင် ကက်စတာ ရောက်နှင့်နေသည်။ နေ့လယ်ပိုင်းထုတ် သတင်းစာကို ဖတ်လျက်။ အယ်လီနာ့ ကို မြင်တော့ ပျာပျာသလဲ ထလာသည်။ သတင်းစာက ကြမ်းပြင်ပေါ်တွင် ကျကျန်ရစ်၏။

"မောင့်ကို မှတ်မိပါတယ်နော်"

သူ့အသံက ထုံးစံအတိုင်း ကြည်လင် ရွှင်ပျလျက်။

အယ်လီနာက လက်ဆန့် ကြိုဆိုနေသော သူ့ရင်ခွင်သို့ ပြေးဝင်သည်။ သူ့ရင်ဘတ်တွင် ပါးအပ်ထားသည်။ စိတ်ထဲတွင် အံ့ဩနေမိ၏။ ဘာကြောင့်များ

ခုချိန်ထိ သူ့ရင်ခွင်သည် ထွေးနွေးနေပါလိမ့်၊ ဘာကြောင့်များ သူ့ရင်ခွင်ကို ခုချိန်ထိ ငြိမ်းချမ်းလုံခြုံရာ အရပ်ဟု ထင်နေမိပါလိမ့်။ မော့ကြည့်လိုက်တော့ သူက "မောင် လိုက်လာလို့ စိတ်ဆိုးနေလားကွယ်" တဲ့။

ပြီးတော့-

"မောင့်ကို စိတ်ဆိုးနေတော့လည်း ဘာအကြောင်း ထူးမှာလဲကွယ်၊ ကော်နယ်လီယာ ကလေးကော ခရီးထွက်ရတာ ပျော်နေရဲ့လား"

"ပျော်ပုံပါပဲ"

"ဟုတ်တယ်၊ မောင် ဟိုဘက်ခန်းမှာ သူနဲ့ ကစားနေတာ၊ ခုနမှ အိပ်သွားတယ်လေ"

အယ်လီနာ့ ကုတ်အင်္ကျီကို ကူချွတ်ပေးသည်။ ဦးထုပ်ကိုတော့ ကိုယ့်ဘာသာကိုယ် ခပ်သုတ်သုတ် ချွတ်လိုက်သည်။ သူ့လက်ထဲ ရောက်သွားရင် အိပ်ရာပေါ်သို့ ဖောက်ထိုးမိုးမျှော် ပစ်တင်လိုက်မှာ သေချာသည်။ ကတ္တီပါသားဖြင့် ချုပ်ထားသည့် ဦးထုပ်ကလေး၊ ရိုရိုသေသေ သုံးရမည်။ နောက် တော်တော်နှင့် ဒါမျိုး ဝယ်နိုင်ဖို့ လမ်းမမြင်။ ဦးထုပ်ကို စက္ကူဖာထဲသို့ ထည့်နေစဉ် သူက-

"ကဲ... မမလေး ဘာတွေ လုပ်ထားတယ်၊ ဘယ်အဆင့် ရောက်နေတယ် ဆိုတာ ကျွန်တော်မျိုးကို အမိန့်ရှိပါဦး"ဟု မအီထိုးသည်။

သူ့လေက ရွှင်ပျနေသော်လည်း အောင့်သက်သက် ဖြစ်နေသည်မှာတော့ ထင်ရှားသည်။ ပိုကာဆွဲကောင်းနေတုန်း အစိုးရိမ်ကြီးသည့် မယား၏ အနှောင့်အယှက်ပြုခြင်း ခံရသူ၏ လေသံမျိုး။

ပတ်ဝန်းကျင်ဟောင်းဖြစ်သည့် လုံခြုံနွေးထွေးလှသော အမေ့အိမ်မှ ပြန်ရောက်စ အယ်လီနာက ကက်စတာ၏ ဟာသကို ဟာသနှင့် တုံ့ပြန်ချင်စိတ်မရှိ ဖြစ်နေ၏။ သည်တော့ ခပ်တိုတိုပင် ပြန်ပြောလိုက်သည်။

"ကြွေးစာရင်းတွေ အားလုံး ပေါင်းခဲ့တယ်၊ အားလုံး ဒေါ်လာ တသိန်းလောက် ရှိတယ်"

"ဘာ . . ဒေါ်လာတသိန်း ဟုတ်လား၊ အယ်လီနာရယ် မဖြစ်နိုင်တာကွာ"

"မဖြစ်နိုင်ဘူး ဆိုရအောင် မောင်ပဲ ပြောတယ်၊ ဘယ်လောက်ရှိမှန်း မသိဘူး ဆို။ ခု အယ်လီနာ အတိအကျ သိလာပြီလေ"

ကက်စတာက ဖြုန်းခနဲ လေချွန်လိုက်ပြီး ကုလားထိုင်နောက်သို့ ပစ်မှီလိုက်သည်။ တွဲလောင်းကျနေသည့် ဖန်မီးဆိုင်းကြီးကို ငေးကြည့်ပြီး အလေးအနက် တွေးနေဟန်။ အယ်လီနာ က မစ္စတာရိုဘီဟောက်စ်နှင့် ပြောခဲ့သည့် အကြောင်းကို ပြန်ပြောပြသည်။

“ခဏကလေး နေဦးနော်၊ မောင် သူ့ကို သွားခေါ်ဦးမယ်”

ကက်စတာက ဖြုန်းစားကြီး ထပြီး ပြောသည်။

“ဆယ့်နှစ်နာရီ မထိုးသေးပါဘူး၊ သူ့အိမ်ကို ဖုန်းဆက်မယ်”

သူ့ကို ဘယ်သူမျှ ဒုက္ခမပေးနိုင် ဟူသည့် စိတ်ချယုံကြည်မှုမျိုးဖြင့် ကက်စတာ အခန်း ထဲမှ ခပ်သွက်သွက် ထွက်သွားသည်။ အယ်လီနာက နံဘေးအခန်းသို့ လျှောက်သွားပြီး ကော်နယ် လီယာ့ အခြေအနေကို ကြည့်သည်။ ကလေးက ပုခက်ထဲတွင် ခွေခွေကလေး အိပ်နေသည်။ လက်ထဲတွင် ကစားစရာအရုပ်ကို ကိုင်လျက်။ ဖိအိပ်မိလျှင် အသား နာနေမည်စိုး၍ အရုပ်ကို လက်ထဲမှ အသာ ဖြေယူလိုက်၏။ အခန်းကို ပြန်ရောက်တော့ အရုပ်ကလေးကို သေသေချာချာ ကြည့်သည်။ အသစ်စက်စက်ကလေး၊ လက်စသတ်တော့ ခုညနေမှ သူ ဝယ်လာသည့် အရုပ် ကလေးကိုး၊ စိတ်တိုတိုနှင့် လွှင့်ပစ်လိုက်သည်။ အရုပ်က အဖိုးတန် အရုပ်ကလေး၊ လှုပ်လိုက် လျှင် အသံထွက်သည်။ ကြွေးပတ်လည်ဝိုင်းနေ၍ လူတကာ လက်ညှိုးထိုးနေချိန်တွင်၊ ပြီးတော့ ဇိမ်ခံ ပစ္စည်းတွေအတွက် ပေးရန် ကြွေးပူတွေ တောင်လိုပုံနေချိန်တွင် သည်လို အဖိုးတန် ကစားစရာအရုပ်ကို ဝယ်လာရန် ဘာမျှ အကြောင်း မရှိ။ ကက်စတာက မှုံရသည့် မျက်နှာနှင့် ဝင်လာသည်။ မနက်ဖြန် သုံးနာရီတွင် မစ္စတာ ရိုဘီဟောက်စ်နှင့် တွေ့ဖို့ ချိန်းလိုက်ကြောင်း ပြောပြီး အယ်လီနာကို နမ်းသည်။ ပြဿနာအားလုံး ပိန်းကြာဖက်တွင် ရေမတင်သလို ကင်းစင် ပပျောက်သွားကြသည့်အလား။ အယ်လီနာက သူ့လက်နှင့် ပါးအပ်ပြီး အံ့သြကုန်နိုင်ဖွယ် သော လင်လုပ်သူကို ကြည့်ရင်း ပြုံးနေမိ၏။

“မောင် စိတ်မညစ်ဘူးလား ဟင်၊ ဒီကြွေးတွေကို တွေးပြီးတော့လေ”

“သြော်... အချစ်ကလည်း စိတ်တော့ ညစ်ရတာပေါ့၊ ဒါပေမဲ့ မောင်က ကျင့်သား ရနေပြီပဲ”

သူက ကုလားထိုင်တလုံးတွင် ဝင်ထိုင်သည်။ ပြီးတော့ အယ်လီနာကို ပေါင်ပေါ်က ဆွဲချပြီး ထိုင်ခိုင်းသည်။

“ဒီကြွေးတွေက မောင့်မှာ တသက်လုံး တင်နေခဲ့တာပေါ့ ဟုတ်လား”

အယ်လီနာက သိချင်စိတ်ဖြင့် မေးလိုက်၏။

“ဒါပေါ့”

သူက ခပ်တည်တည်ပင်။ ပြောပုံက ဂုဏ်ယူစရာ ကိစ္စတခုလိုလို။

“မောင့်အကြောင်း ပြောပြရဦးမယ်၊ မောင် ရှစ်နှစ်သားလောက်မှာ တပတ်ကို နှစ်ဆယ့် ငါးဆင့် မုန့်ဖိုးရတယ်၊ ဖေဖေ မောင့်ကို စာရင်းစာအုပ်တခု ဖွင့်ထားခိုင်းတယ် သိလား။ ချို့ချဉ် ဝယ်စားတာတို့၊ ဘာတို့ကစ စာအုပ်ထဲမှာ ရေးသွင်း ပုံလည်း ပြပေးတယ်။ မောင့်ကို ကုန်သည် ကြီးတယောက် ဖြစ်လာအောင် လုပ်တဲ့ ဖေဖေရဲ့ စီမံချက်လေ”

“အယ်လီနာလည်း အဲဒီလို လေ့ကျင့်ခဲ့ရတာပဲ”

ကက်စတာက သူ့ကိုယ်သူ ယုံကြည်မှုအပြည့်ဖြင့် ဆက်ပြောသည်။

“စစချင်း စာအုပ် ဘယ်ရှိမလဲ၊ ဒါနဲ့ ကုန်မျိုးစုံဆိုင်ကို သွားရတာပေါ့။ ဆိုင်က သေးသေး ကလေး၊ ဆိုင်ရှင်အဘိုးကြီး နာမည်က မစ္စတာပါဖက်စ် တဲ့။ စာရင်းစာအုပ်က ဆင့် သုံးဆယ် ပေးရမယ်၊ မောင့်ငွေရင်းက နှစ်ဆယ့်ငါးဆင့်ပဲရှိတော့ မောင် စာရင်းစာအုပ်မှာ ပထမဆုံး စာရင်းဖွင့်လက်ကျန် စရေးကတည်းက “မစ္စတာပါဖက်စ်သို့ ပေးရန်ရှိ၊ ငါးဆင့်”ဆိုပြီး ဖွင့်ခဲ့ ရတယ်”

သူ သက်ပြင်းတချက် ချသည်။

“အဲဒီကတည်းက မောင့် ကြွေးဇာတ်လမ်း စခဲ့တာပဲ အယ်လီနာ”

သူ့ပြောပုံကို ကြည့်ပြီး မရယ်ဘဲ မနေနိုင်တော့။ ခုလို ဆိုပြန်တော့လည်း သူ့မျက်နှာက သမီးကလေး၏ မျက်နှာလို အပြစ်ကင်းစင်နေသည်။

“မောင့်ဖေဖေကို ထောက်ပံ့နေရသေးလား”

“ဟင့်အင်း၊ ဟိုဘက်ကမ်း ကြံခင်းမြေတွေက ရတဲ့ ဝင်ငွေနဲ့ ဖေဖေတို့ ကောင်းကောင်း ကြီး လုံလောက်နေတာပဲ”

“မနက်ဖြန်ခါကျရင် မစ္စတာရိုဘီဟောက်စ်ကို မောင် ဘယ်လို ပြောမလဲ၊ သူက ဝက်အူတင်းလာရင် ဘယ့်နှယ် လုပ်မလဲ”

"ဒုက္ခပဲ၊ မောင်လည်း မသိဘူး၊ တခုခုတော့ ပြောရမှာပဲ။ မောင် ဒီကိစ္စကြောင့် သိပ်စိတ်အနှောင့်အယှက် ဖြစ်နေတယ် အယ်လီနာ၊ ညကလည်း အိပ်မရဘူး၊ ခေါင်းတွေလည်း ကိုက်နေပြီ၊ မောင် နောက်ထပ် စိတ်ရှုပ် မခံနိုင်တော့ဘူး အယ်လီနာရယ်။ ကဲ .. ညဥ့်နက်ပြီ၊ အိပ်တော့၊ မောင်လည်း အိပ်ချင်ပြီ။ ဒါလောက်ကြီး စိတ်ညစ်မနေနဲ့ အချစ်ရယ်၊ မျက်နှာကြီး ကလည်း သုန်မှုန်လို့၊ ဒီအတိုင်းဆို အချစ်ရဲ့ မျက်နှာလှလှကလေး အသက်သုံးဆယ်မှာ အရေး အကြောင်းတွေ ထင်လာလိမ့်မယ်"

※※※

# (၃)

နောက်တနေ့ နေ့လယ်ပိုင်းတွင် အရှေ့တောင်ပိုင်း ငွေလဲဘဏ်သို့ လင်မယားနှစ်ယောက် ထွက်ခဲ့ကြသည်။

မစ္စတာရိုဘီဟောက်စ်က ကက်စတာ့ကို လှိုက်လှဲစွာ ခရီးဦးကြိုပြုသည်။ မုန်တိုင်း၏ ရှေ့တော်ပြေး လေပြည်လေညင်း ဖြစ်မည်ဟု အယ်လီနာ ထင်လိုက်သည်။ ကက်စတာက စဆွေးနွေးသည်။

အလုပ်အကြောင်းကို ပြောမည် ဆိုပြီး သူစချီပုံက တမျိုးကြီးပါလားဟု အယ်လီနာ အံ့သြနေမိ၏။ မိမိသာဆိုလျှင် အခြေခံ အချက်အလက်တွေက စပြီး ကိုယ်တွယ် ဆွေးနွေးမည် ဖြစ်သည်။ ခုတော့ သူက မြင်းပွဲအကြောင်းက စပြောနေချေတော့၏။ ပြီးတော့ မစ္စတာ ရိုဘီ ဟောက်စ်၏ မြေးတွေအကြောင်း တယောက်မကျန် မေးနေသည်။ (ကလေးများ၏ နာမည် တွေကို သူ အားလုံး မှတ်မိနေ၏။)

ပြီးတော့ စစ်တုရင်ပြိုင်ပွဲတွင် မစ္စတာရိုဘီဟောက်စ် ဗိုလ်စွဲသွားခြင်းကို ဂုဏ်ပြုပြောဆို နေပြန်၏။ ဒီအကြောင်းကို သူ ဘယ်လိုလုပ်ပြီးများ သိနှင့်နေပါလိမ့်။ ကက်စတာသည် လူတကာ အကြောင်း သိနေသူပါကလား၊ အယ်လီနာ အံ့သြနေရပြန်၏။ ဘဏ်လုပ်ငန်းရှင်ကြီးအတွက် စစ်တုရင်ပြိုင်ပွဲသည် အလွန်အရေးကြီးနေပုံရ၏။ ကက်စတာ၏ ဝေဖန်ချီးကျူး စကားများကို နားထောင်ပြီး ကြည်နူးနေပုံရ၏။ သူ့အကွက်တွေကိုလည်း ကက်စတာအား ရှင်းပြနေ၏။ ပြောရင်း ပြောရင်းနှင့် နိုင်ငံရေးအကြောင်းသို့ ရောက်သွားကြပြန်၏။ မက္ကဆီကိုနယ်စပ် သူပုန် တွေနှင့် မသင့်မမြတ် ဖြစ်နေကြသည့် အမေရိကန်တွေ ပြည်မသို့ ပြန်လာသင့်ကြောင်း၊ သည်ကိစ္စ အတွက် အစိုးရအနေနှင့် စစ်တပ်လွှတ်ပြီး မနှိမ်နင်းသင့်ကြောင်းများကို မစ္စတာ ရိုဘီဟောက်စ် က စိတ်ပါလက်ပါ ဆွေးနွေးနေသည်။ သည်လိုကိစ္စမျိုးက စပြီး စစ်ဖြစ်နိုင်ကြောင်းကို ကက်စတာ က ပြန်လည် ဆွေးနွေးသည်။

"ဟုတ်ပါတယ် ခင်ဗျာ၊ နယ်ခြားစစ်ပွဲကို ဘယ်ဘက်ကမှ မလိုလားတော့ပါဘူး၊ မက္ကဆီကိုနဲ့ အမေရိကန်ဟာ အကြိမ်ကြိမ်လည်း ဖြစ်ခဲ့ပြီးပါပြီ၊ ၁၈၄၀ ပြည့်နှစ် တဝိုက် ကလေ"

"ဒါပေမဲ့ မပြောနိုင်ဘူး ကက်စတာ၊ အိမ်ဖြူတော်ထဲမှာ ရောက်နေတဲ့

တက္ကသိုလ် ပါမောက္ခက လွယ်တဲ့ လူ မဟုတ်ဘူး”

ကက်စတာက ခေါင်းညိတ်သည်။

“မစ္စတာဝီလ်ဆင် ကိုတော့ “ဒဿနိက စမ်းသပ်မှုဘုရင်” လို့ ပြောနေကြတယ် ခင်ဗျ၊ မစ္စတာရိုဘီဟောက်စ် ဘယ်လို သဘောရပါသလဲ”

အယ်လီနာကတော့ ပို၍ ပို၍ နားမလည် ဖြစ်နေသည်။ ဝက်သစ်ချမြိုင်၏ အကြွေးတွေ နှင့် သူတို့ ပြောနေကြသည့် အကြောင်းအရာတွေ ဘယ်လိုများ ဆက်စပ်နေလို့ပါလိမ့်။

မက္ကဆီကိုအကြောင်းမှ ပြီးခဲ့သည့် နွေက မစ္စတာရိုဘီဟောက်စ်၏ ကာလီဖိုးနီးယား ခရီးစဉ်အကြောင်း ရောက်သွားကြပြန်သည်။ ကန္တာရလွင်ပြင်ကို ဖြတ်ရသဖြင့် နိုင်ငံခြား တိုင်းပြည်တပြည်သို့ သွားနေရသည်နှင့် တူကြောင်း၊ လာမည့်နှစ်တွင် ကက်စတာလည်း စန်ဖရန်စစ္စကိုသို့ လေ့လာရေးခရီး ထွက်သင့်ကြောင်း ပြောနေရင်းမှ ပနားမားတူးမြောင်း အကြောင်း စကားစပ်မိကြပြန်၏။ ပနားမားတူးမြောင်း ဖွင့်တော့မည့်ဆဲဆဲ ဖြစ်ကြောင်း၊ အမေရိကန်အစိုးရကလည်း နယူးအော်လင်းမှ စန်ဖရန်စစ္စကိုသို့ တိုက်ရိုက် တူးမြောင်းဖောက်ဖို့ စီမံကိန်း ရေးဆွဲလျက်ရှိကြောင်း... စသည် စသည်များ။

ကက်စတာက ပြုံးပြီး ပခုံးတွန့်လိုက်၏။ မိမိအနေဖြင့် အပျော်ခရီးမျိုး ထွက်နိုင်မည့် အခြေအနေ မရှိကြောင်း မစ္စတာ ရိုဘီဟောက်စ်က မုချ သိပြီး ဖြစ်မည်။

“ကျွန်တော့်မှာ ဝက်သစ်ချမြိုင် ဝါခင်းတွေကိစ္စနဲ့ မသွားနိုင်ပါဘူး ခင်ဗျာ၊ ဪ. . . ဒါထက် ကျွန်တော် ခု လာခဲ့တာလည်း ဝက်သစ်ချမြိုင်က မစ္စတာရိုဘီဟောက်စ်ရဲ့ ဘဏ်ကို ပေးစရာရှိတဲ့ ကြွေးမြီကိစ္စ ဆွေးနွေးချင်တာလည်း ပါပါတယ်။ ကျွန်တော့်အပေါ် ခုလို သက်သက် ညှာညှာ သဘောထားတာကိုလည်း ကျေးဇူးတင်ကြောင်း ပြောပါရစေ ခင်ဗျာ”

“ဪ... အင်း အင်း၊ ရပါတယ် ကက်စတာရယ်”

သူတို့နှစ်ယောက် ပြောဆိုနေကြပုံမှာ ရင်းရင်းနှီးနှီး ရှိလှသည်။ မစ္စတာရိုဘီဟောက်စ် ကြွေးမြီအကြောင်း ပြောပုံမှာလည်း မိတ်ဆွေရင်းချာတွေကြားတွင် ဖြစ်ပေါ်တတ်သည့် မဖြစ် စလောက်ကိစ္စကလေး တခုအလား။ မနေ့က အယ်လီနာနှင့် ဆွေးနွေးစဉ်တုန်းကလို သူ့မျက်နှာ မှာ သုန်မှုန်၍ မနေတော့။

ကက်စတာက ဝက်သစ်ချမြိုင်ကို မည်သို့မည်ပုံ တိုးတက်အောင် လုပ်ဖို့ စီမံကိန်းတွေ ရှိကြောင်း၊ သို့သော် မင်္ဂလာဆောင်ကိစ္စ၊ အယ်လီနာ ကလေးမျက်နှာမြင်သည့် ကိစ္စတွေနှင့် ရှုပ်ပွေပြီး လုပ်ငန်းပိုင်းကို ဖိဖိစီးစီး မလုပ်နိုင်ခဲ့ကြောင်းများကို သိုင်းသိုင်းဖွဲ့ဖွဲ့ ပြောပြနေ၏။ ကိုယ်ကို ရှေ့သို့ တတ်နိုင်သမျှ ကိုင်းလျက်။ သည်တော့မှ တဖြည်းဖြည်းနှင့် သူ့မဟာဗျူဟာ ကို အယ်လီနာ သဘောပေါက်ရတော့သည်။

လက်ရှိကျင့်သုံးနေသည့် ဝက်သစ်ချမြိုင်၏ ဝါစိုက်ပျိုးထုတ်လုပ်မှုစနစ်ကို လုံးဝ ပြောင်းလဲပစ်မည့် သူ၏ စီမံကိန်းသစ်အကြောင်း သွေးအေးအေးနှင့် တင်ပြနေပုံကို နားထောင် ပြီး အယ်လီနာ အံ့သြမဆုံး ဖြစ်ရပြန်၏။ ဝက်သစ်ချမြိုင် မြေဆီလွှာအကြောင်းကို သူက ခွဲခြမ်း စိတ်ဖြာပြသည်။ ပြီးတော့ ဖြစ်နိုင်မည့် သီးထပ်သီးညှပ် စနစ်သစ် စိုက်ပျိုးပုံတွေကို ရှင်းပြသည်။ အစိုးရ စိုက်ပျိုးရေးဌာန၏ သိပ္ပံနည်းကျ စိုက်ပျိုးရေးစနစ်သစ်၊ ဝါထွက်တိုး စီမံကိန်းတွေ အကြောင်း ရှင်းပြ၏။ တိုးတက်နေသည့် ပိုးသတ်ဆေးဖျန်း စနစ်အကြောင်းနှင့် ဝါဖျက်ပိုးမွှား များအကြောင်းကို ချက်ကျလက်ကျ ရှင်းပြနေ၏။ အယ်လီနာ လုံးဝ မကြားဖူးသည့် ဝေါဟာရတွေနှင့် သုံးနှုန်းပြောဆိုသွားသည်။ သူ သုံးသွားသည့် စိုက်ပျိုးရေးသိပ္ပံ စကားလုံးတွေကို မစ္စတာရိုဘီဟောက်စ်လည်း အားလုံး နားလည်ပုံမပေါ်။ တခုတော့ သေချာသည်။ ဘဏ် လုပ်ငန်းရှင်ကြီးသည် ကက်စတာ့ကို သဘောကျနေပြီ။ မေးခွန်းတွေ ဖြတ်မေး၏။ အလေးအနက် နားထောင်၏။ ပြီးတော့ ခေါင်းတညိတ်ညိတ်နှင့် ထောက်ခံ၏။

ကက်စတာ၏အသံက ပို၍ လေးနက် တည်ငြိမ်နေ၏။ ညှို့ငင်အား များနေ၏။ မစ္စတာ ရိုဘီဟောက်စ် ရှေ့မှောက်သို့ အချက်အလက်တွေကို ပုံအောပြီး သွန်ချပြနေသည်။ ဝါစိုက်ခင်း လွှင်ပြင်တွင် ဆောင်းအခါ ဂေါ်ဖီထုပ် စိုက်နိုင်ကြောင်း၊ ယခု အလဟဿ ဖြစ်နေသည့် ထင်းရှူး တောတွင် ဟော်လီပင်များ ညှပ်စိုက်နိုင်ကြောင်း၊ ဟော်လီမှာ ခရစ္စမတ်ရာသီတွင် အလွန် ဈေးကောင်းကြောင်းများနှင့် အဖိုပင်နှင့် အမပင် ကိုင်းကူးမျိုးပွားပုံများပါ ခရေစေ့တွင်းကျ ရှင်းပြ၏။ ဟော်လီနှင့် ဂေါ်ဖီမှာ အပိုဝင်ငွေကလေး ရရုံသာ ဖြစ်ကြောင်း စသည်များ။

"တကယ်တော့ ဝက်သစ်ချမြိုင်ရဲ့ အဓိကထွက်ကုန်ဟာ ဝါဂွမ်းပါ၊ တနှစ်မှာ ဘေထုပ် ရှစ်ရာ ပျမ်းမျှလောက် ထွက်ပါတယ်၊ တကယ် ဖိဖိစီးစီး ကျွန်တော် ပြောတဲ့နည်းတွေ သုံးပြီး လုပ်ရင် ၁,၀၀၀ မကျော်စရာ အကြောင်း မရှိပါဘူး။ အစိုးရပိုင်း စိုက်ပျိုးရေး ပါရဂူတွေက အထွက်တိုးစနစ်နဲ့ စိုက်ရင် ဝါဂွမ်းဟာ ဒီ့ထက် နှစ်ဆထွက်နိုင်ကြောင်း သုတေသနပြုထားကြ ပါပြီ။ ဒီအတိုင်းဆိုရင် ဝက်သစ်ချမြိုင်မှာ အလေအလွင့် တော်တော်များနေတဲ့ သဘော ရှိပါတယ်။ အစုဝင်

စိုက်ပျိုးရေးစနစ်ကို ဖျက်ပြီး နေ့စားလုပ်သားတွေ ခန့်ထားမယ်၊ ပြီးတော့ ကျွန်တော်ကိုယ်တိုင် ဖိဖိစီးစီး ကိုင်မယ်”

ကက်စတာက စကားဆက်သည်။

“ကျွန်တော့်ကို နှစ်နှစ်ပဲ အချိန်ပေးပါ မစ္စတာ ရိုဘီဟောက်စ်၊ ဒီဆောင်းဦးကျမှာ ကျွန်တော် အတိုးအားလုံး ရှင်းပါ့မယ်။ ၁၉၁၅ ခုနှစ် ဆောင်းကျတာနဲ့ ကျွန်တော် အတိုးရင်း ပေါင်းဆပ်ပါ့မယ်”

မစ္စတာ ရိုဘီဟောက်စ်က မင်အိုးထည့်သည့် ခွက်ကလေးကို ဟိုရွှေ့သည်ရွှေ့လုပ်ရင်း အလေးအနက် စဉ်းစားနေဟန် တူ၏။

“ဝါအထွက်ကျမှာကို ဘဏ်အနေနဲ့လည်း မလိုလားသင့်ဘူး ခင်ဗျ”

ကက်စတာက ဆက်ရှင်းပြသည်။

“ဝက်သစ်ချမြိုင် မြေတွေကို ဘဏ်က သိမ်းပါပြီတဲ့၊ ဒီမြေအကြောင်းနဲ့ ဝက်သစ်ချမြိုင် အကြောင်း မသိဘဲ မြေငှားသမားတွေ လက်ထဲ ရောက်သွားရင် ပစ်စလက်ခတ် ပျက်စီးကုန် မှာပဲ၊ မြေတွေကို ခွဲခြမ်းစိတ်ဖြာပြီး ရောင်းရင်လည်း ဘဏ်အနေနဲ့ ရှုံးမှာပဲ။ ဒါ ကြောင့် ကျွန်တော့် တင်ပြချက်တွေအတိုင်း ကျွန်တော် ဆက်လုပ်ရင် လူကြီးမင်းတို့ လုံးဝ မနစ်နာစေရပါဘူး”

မစ္စတာ ရိုဘီဟောက်စ် ပျော့ကျသွားလေပြီ။

“ကိုရင့် စီမံကိန်းတွေကို ကျုပ် စောစောကမှ မသိဘဲကိုးဗျ။ ဒီအစီအစဉ်တွေ ရှိမှန်း ကျုပ်မှ မသိခဲ့တာ”

“ဟုတ်ကဲ့၊ စီမံကိန်းတခုကို အသေးစိတ် စဉ်းစား ရေးဆွဲရတာ သိပ်မလွယ်ဘူး ခင်ဗျ၊ အချိန်အများကြီး ယူရပါတယ်။ ကျွန်တော့်ဘက်က တိတိကျကျ ပုံစံချ မပြီးမချင်း ကျွန်တော် မတင်ပြချင်သေးလို့ပါ”

“ဒါပေါ့ ဒါပေါ့၊ အင်း… ဟုတ်ပါပြီ၊ ဒါပေမဲ့ စာရွက်စာတမ်းတွေကို တရားဝင် ပြင်ဆင်ဖို့တွေ၊ ဆိုင်းငံ့ကာလ တိုးပေးဖို့တွေကျတော့ ကျုပ်တယောက်တည်းနဲ့ မပြီးဘူးဗျ၊ ဒါရိုက်တာအဖွဲ့နဲ့ ညှိရဦးမယ်။ ဒီတော့ ကိုရင် မနက်ဖြန် ထပ်လာခဲ့ပါ၊ ကိုရင့် စီမံကိန်းတွေကို ဒါရိုက်တာအဖွဲ့ လက်ခံဖို့ သေချာပါတယ်”

ကက်စတာ မျက်လွှာကို ချထားပြီး-

“ကျွန်တော့်လို အလုပ်တွေကို လက်လွတ်စပယ် လုပ်ခဲ့တဲ့ လူတယောက်ဘက်က ခုလို ရပ်တည်ပေးတာ ကျွန်တော် အများကြီး လေးစားပါတယ် ခင်ဗျာ၊ ကျေးဇူးလည်း တင်ပါ တယ်”

“အို.. မဟုတ်တာ ကက်စတာရယ်၊ ကျုပ်တို့ ဘဏ်လုပ်ငန်းရှင်တိုင်းဟာ တစ္ဆေသရဲ တွေ မဟုတ်ပါဘူးဗျာ၊ ကျုပ်တို့ အလုပ်ကိုက ချေးငွေပေါ်မှာ ရပ်တည်ရတဲ့ အလုပ်ပါ။ အဲ… တခုတော့ ရှိတယ်ပေါ့၊ ကျုပ်တို့ငွေ ပြန်ရဖို့ကိုတော့ သေချာအောင် လုပ်ကြရပါတယ်၊ ဒါကြောင့် ကိုရင့် တင်ပြချက်တွေကို အားလုံး လေ့လာရမှာပါ၊ ဘယ်လိုမှတော့ မအောက်မေ့ ပါနဲ့။ ကိုရင် သဘောပေါက်ပါတယ်နော်”

နှစ်ယောက်သား လက်ဆွဲနှုတ်ဆက်ကြသည်။ အယ်လီနာက ရယ်ချင်စိတ်ကို မနည်း မျိုသိပ်ထားရ၏။ ဆွေးနွေးပွဲမှာ ပြောင်းပြိပြောင်းပြန် ဖြစ်သွားသည်။ နောက်ဆုံး ကက်စတာ အသာစီးက ဖြစ်နေပြီး မစ္စတာရိုဘီဟောက်စ်ပင် တောင်းပန်တိုးလျှိုးနေရသည်။ ဘဏ်ဒါရိုက် တာကြီးက အယ်လီနာ့ကိုလည်း လက်ဆွဲနှုတ်ဆက်ရင်း နယူးအော်လင်းသို့ ပွဲတော်ရက်မှာ လာလျှင် သူ့အိမ်တွင် နေ့လယ်စာ စားရန်လည်း တဆက်တည်း ဖိတ်သည်။

နှုတ်ဆက် ထွက်ခွာခဲ့ကြပြီး လမ်းပေါ်ရောက်လျှင်ရောက်ချင်း အယ်လီနာက မအောင့် နိုင်တော့ဘဲ-

“ကက်စတာ”

“လာ လာ မြန်မြန်လာစမ်းပါ၊ ဘာမှ မပြောနဲ့ဦး”

သူ့ကို ကြည့်ရသည်မှာ အပျော်ကြီး ပျော်နေပုံရသည်။ အယ်လီနာက ဟိုတယ်ကို ပြန်ရောက်သည်အထိ သူ့ကို အမီလိုက်ရ၏။ မပြေးရုံတမည်။ အခန်းထဲရောက်တော့ တံခါး ပိတ်ပြီး ကုလားထိုင်တလုံးတွင် ပစ်ထိုင်၍ အားရပါးရ ရယ်ပါလေတော့၏။ တယောက် တည်း အူတက်မတတ် ရယ်နေသည်။ အယ်လီနာက အကြောင်သား သူ့ကို ငေးကြည့်နေ၏။

“ကဲ.. မချော၊ ခင်ဗျား အလေသုံးဆယ် လုပ်တော့ကော ဘာထူးလဲ၊ ကျုပ်က ညစာ စားပွဲလည်း သွားဖြစ်တယ်၊ ကားအရောင်းအဝယ် ကိစ္စလည်း ကတိမပျက် လုပ်ပေး ခဲ့တယ်၊ ကားသစ်ကိုလည်း မောင်းကြည့်ခဲ့ရသေးတယ်။ ဟော.. ခုကိစ္စလည်း အားလုံး ပြီးသွားပြီ”

သူက အောင်နိုင်သူ တယောက်၏ အပြုံးမျိုးကို ပြုံးပြီး အယ်လီနာ့ကို

ကြည့်လျက်-

"မင်းတို့ ခုခေတ် မိန်းကလေးတွေကိုက တက်ကြွလွန်းပါတယ်ကွာ"

"ဒါထက် နေပါဦး မောင်၊ မောင့်မှာ ဝက်သစ်ချမြိုင်ကို ပြန်လည်ပြုပြင်ရေး လုပ်ဖို့ ဒါလောက်ကောင်းတဲ့ စိတ်ကူးစိတ်သန်းတွေ ရှိခဲ့ရက်နဲ့ ဘာဖြစ်လို့ အဲဒါတွေ တခုမှ မလုပ်ခဲ့ တာလဲ ဟင်။ ပြီးတော့ အယ်လီနာ့ကို ဘာလို့ အဲဒီအကြောင်းတွေ မပြောခဲ့တာလဲ။ သူများ မှာဖြင့် စိတ်ပူရလွန်းလို့ ရူးသွားမလား အောက်မေ့ရတယ်"

ကက်စတာက အူကြောင်ကြောင်နှင့် အယ်လီနာ့ကို ငေးကြည့်ပြီး-

"ဒီမယ် မိန်းကလေး၊ ဘယ်လိုလုပ်ပြီး ကြိုပြောနိုင်မလဲ၊ ဒီနေ့ နေ့လယ်ပိုင်းကမှ အဲဒါတွေကို ကတိုက်ကရိုက် စဉ်းစားပြီး ပြောချလိုက်တာ။ အဲဒါ မင်း မသိဘူး ဟုတ်လား"

"နို့ နေပါဦး၊ မောင့်မှာ..."

အယ်လီနာ ပါးစပ်အဟောင်းသား ဖြစ်နေသည်။

ကက်စတာက အယ်လီနာ့ကို ပေါင်ပေါ်သို့ ဆွဲတင်ပြီး အထိုင်ခိုင်းလိုက်သည်။

"မောင့်မှာ ဘာမှ ကြိုတင်ပြင်ဆင်မှု မရှိပါဘူး အချစ်ရယ်။ တကယ်ပြောတာပါ မောင့် ရွှေမင်းသမီးကလေးရယ်၊ မောင်လေ လက်တန်း ဆော်ထည့်လိုက်တာ"

အယ်လီနာက ခုထက်ထိ နားမလည်နိုင်သေး။

"ဒါပေမဲ့ မောင့်မှာ စိုက်ပျိုးရေး ဗဟုသုတတွေ အများကြီး ရှိနေသလိုပဲ"

"ဒါပေါ့ အချစ်ရဲ့၊ ဝါဂွမ်းအကြောင်း မောင် မသိတာ ဘာဆို ဘာမှ မရှိဘူး။ ခုမှ မဟုတ်ဘူး၊ လွန်ခဲ့တဲ့ ဆယ့်ငါးနှစ်ကတည်းက ဝါစိုက်ပျိုးရေး လုပ်ငန်းအကြောင်း မောင် နောကျေခဲ့တာ"

သူက အယ်လီနာ့လက်ကို ညှစ်လိုက်ပြီး-

"အချစ် ကြားဖူးမှာပေါ့၊ လူတချို့က ငွေဇွန်းကို ကိုက်မွေးလာကြတယ် ဆိုတာလေ၊ မောင်က ဝါစေ့တွေ လက်ထဲမှာ ဆုပ်ပြီး မွေးလာတာဗျ"

သူ့ပေါင်ပေါ်တွင် အယ်လီနာက ငြိမ်ပြီး ထိုင်နေဆဲ။ သူက ထုံးစံအတိုင်း

သူ့ဘာသာသူ သဘောကျပြီး ရယ်နေ၏။ အယ်လီနာ အလေးအနက် စဉ်းစားပြီး ပြောလိုက်သည်။

"မောင်က ပရိယာယ်ကြွယ်တယ်၊ အယ်လီနာက ဒါတွေ မတတ်ဘူး"

"မှန်တယ်၊ မောင့်အချစ်က ပရိယာယ်ဝေဝုစ်အကြောင်း ဘာမှ မသိဘူး"

အယ်လီနာက စဉ်းစဉ်းစားစား ပြောလိုက်ပြန်သည်။

"ပရိယာယ်ဆိုတာ လိမ်လည်ခြင်းတမျိုးပဲ မောင်။ ဟုတ်တယ်၊ ကိုယ်လိုချင်တာ ရအောင် ပရိယာယ်ကို သုံးချင်သုံး၊ မသုံးချင်ရင် အဓမ္မနည်းကို သုံးကြတယ်။ အဓမ္မနည်းကို သုံးပြီး ကိုယ်လိုချင်တာ ရယူရင် တဖက်သားရဲ့ အမုန်းကို ခံရမယ်၊ ပရိယာယ်နဲ့ ရယူရင်တော့ အလိမ်ခံရတဲ့ လူက အလိမ်ခံရမှန်း မသိဘဲ အပြုံးမပျက် လိုက်လျောတယ်"

"ကြည့်စမ်း၊ ငါ့မိန်းမ တကယ့်ကို တော်တာ"ဟု ပြောပြောဆိုဆို အယ်လီနာ၏ မျက်နှာ ကလေးကို ဆွဲလှည့်ပြီး မွှေးမွှေးပေးလိုက်သည်။

"အချစ်ရဲ့ နားအထက်မှာ ခွေကျနေတဲ့ ဟောဒီ ဆံနွယ်ခွေကလေးတွေက ပျော့ပျော့ အိအိကလေးတွေနော်။ ကဲ . . . အရှေ့တောင် ဌေလဲဘက်ကို မောင်တို့ အောင်နိုင်တဲ့ အထိမ်း အမှတ်အနေနဲ့ နည်းနည်းသောက်ကြရအောင်နော်"

အခြေအနေကို ထိန်းသိမ်းကိုင်တွယ်သည့် နေရာတွင် သူ ထင်ထားသည်နှင့် အပုံကြီး ကွာနေကြောင်း အယ်လီနာ လက်မခံ၍ မရတော့။ သည်တော့လည်း သူ့အလိုကို လိုက်ရ ပြန်ပြီပေါ့။ ဝီစကီနှင့် ရေရောထားသည့် ခွက်ကို လှမ်းယူလိုက်ရသည်။

တဖြည်းဖြည်းနှင့် ညနေစောင်း၍ အပုပ်ချိန်သို့ ရောက်လာခဲ့သည်။ အထင်နှင့် အမြင် လည်း လွဲခဲ့ပြီ ဖြစ်ကြောင်း အယ်လီနာ တဖြည်းဖြည်း နားလည်လာသည်။ အောင်မြင်မှု အထိမ်းအမှတ်ဟု ဆိုကာ သူ သောက်လိုက်သည်မှာ လူမှန်း သူမှန်း မသိတော့။ ဘာဘွန်းဝီစကီ တပုလင်းလုံး ကုန်တော့မည်။ မူးမူးနှင့် သူ ပြောသမျှကို အယ်လီနာ လိုက်မှတ်နေသည်။ သူ့စီမံကိန်းတွေ အကောင်အထည်ဖော်ဖို့ ကူညီမယ် ဆိုလျှင် ခုကတည်းက စပြီး အားလုံး နားလည်အောင် လေ့လာရတော့မည် မဟုတ်လား။

နောက်တနေ့ မနက်တွင် သူ ခေါင်းမထူနိုင်အောင် အရက်နာကျနေတော့၏။ တဝေ့ဝေ့နှင့် အန်ပြီး သူ့ခေါင်းမှာ ဘောလုံးကြီးလောက် ကြီးနေသည်ထင်ကြောင်း ညည်းတွား ပြောဆို၏။ သူ့အသိအာရုံတွင် ဘာမျှ မရှိတော့၊ ဘာဆိုဘာမျှ

မကျန်တော့။

ဒေါသဖြစ်လွန်း၍ တကိုယ်လုံး တဆတ်ဆတ် တုန်နေ၏။ ခုတင်နံဘေးတွင် ရပ်ပြီး စိတ်ထဲရှိသမျှ ပြောချလိုက်၏။ ပိဿာလေးနှင့် ဘေးပစ်သည့်အလား။ တားဆီး ချော့မော့မည့် သူလည်း တယောက်မျှ မရှိ။ သူကိုယ်တိုင်ကမူ အရက်နာတွင် အသက်ပါမလောက် ခံနေရပြီ ဖြစ်၍ ဘာမျှ မတုံ့ပြန်တော့။ ဆူဆူပူပူလုပ်ပြီး မောလို့ နားတော့မှ နာရီစက်သံကို သတိထား မိ၏။ မော်ကြည့်လိုက်သည်။ ဟင် . . . ၁၀ နာရီထိုးဖို့ ၁၅ မိနစ်ပဲ လိုပါတော့လား။

မှတ်စုစာရွက်တွေ လိုက်သိမ်းသည်။ တော်ပါသေး၏။ သူပြောသမျှ တော်တော်များများ လိုက်မှတ်ထားမိပေလို့။ ပြီးတော့ ခပ်သွက်သွက် ထွက်လာခဲ့သည်။

ညက ကမာဟင်းကို စားမိပြီး အစာမကြေရာမှ နေမကောင်း ဖြစ်နေ၍ ကက်စတာ မလာနိုင်တော့ကြောင်း အယ်လီနာက မစ္စတာရိုဘီဟောက်စ်ကို ပြောလိုက်သည်။ ဘဏ် ဒါရိုက်တာကြီးက တောက်တခေါက်ခေါက်နှင့် စိတ်မကောင်း ဖြစ်မိကြောင်း ပြောပြီး အစည်း အဝေးခန်းထဲသို့ ခေါ်သွားသည်။ အခန်းထဲတွင် လူတစုက အဆင်သင့် စောင့်လျက်။ အင်း... လူတွေကတော့ အလုပ်ဆို အလုပ်ပဲ ဟူသည့် လူစားမျိုးတွေ ထင်ရဲ့။ မျက်နှာထားတွေကလည်း တင်းလိုက်ကြတာ၊ မောင်းတင်ထားသမျှ သတ္တိတွေ ယိုင်ကျလာပြီး ပင်ကို မခံချင်စိတ်က ထောင်ထလာသည်။ စိတ်လိုက်မာန်ပါ လုပ်ရရင်တော့ ဒုက္ခ ဖြစ်ကုန်မည်ဟု ဒေါမနဿစိတ်ဖြင့် တွေးမိ၏။ ဘာကြောင့် ဒါလောက် အဖြစ်သည်း နေရမည်လဲ၊ ဝက်သစ်ချမြိုင် ဖြစ်ချင်ရာ ဖြစ်သွားတော့ကော အကြောင်းလား။ ဘုရား ဘုရား၊ သည်လို မတွေးကောင်းပါကလား၊ ဝက်သစ်ချမြိုင်ကို မျက်ကွယ်ပြုထားသည် ထားဦး၊ ကက်စတာ ရှိသေးတယ်လေ။ လူကြီး တွေ ရှေ့တွင် ထိုင်ချလိုက်ရင်း မောင့်မျက်နှာကို ကွက်ခနဲ မြင်လိုက်၏။

ကက်စတာ မနေ့က ပြောခဲ့သည့်အတိုင်း ဝက်သစ်ချမြိုင် ပြုပြင်ပြောင်းလဲရေး အစီ အစဉ်တွေကို ပြောချလိုက်သည်။ သို့ရာတွင် တင်ပြပုံ တင်ပြနည်း၊ ကျွမ်းကျင်မှု၊ စကားပရိယာယ်၊ အားလုံး ကက်စတာနှင့် တခြားစီ ဖြစ်နေကြောင်း မိမိဘာသာ သိလိုက်၏။ ဝါအကြောင်းကို သည်အရွယ်ကျမှ နဖူးတွေ့ ဒူးတွေ့ သိရသည် မဟုတ်လား။ ကျန်သည့် ဘဏ်လူကြီးတွေက မစ္စတာရိုဘီဟောက်စ်လို ကျေနပ်ပုံ မပေါ်။ မစ္စတာရိုဘီဟောက်စ်က ကက်စတာ၏ စီမံကိန်းကို ဝင်၍ ထောက်ခံဆွေးနွေး၏။ ဒါရိုက်တာ လူကြီးတွေ နားထောင်ကြ၏။ သူတို့ မျက်နှာတွေက ဇဝေဇဝါ ဖြစ်နေပုံ။

နောက်ဆုံး သူတို့အထဲမှ လူကြီးတယောက်က-

“ကဲ ... ထားပါတော့၊ အဲဒီ စီမံကိန်းကို တကယ် အကောင်အထည်ဖော်မှာက ဘယ်သူ တုံး”ဟု ကောက်မေးသည်။ စိတ်ထဲတွင် သိမ်ငယ်သွားသလို ခံစားလိုက်ရ၏။ ကက်စတာ အကြောင်းကို အတွင်းသိ ဖြစ်နေ၍ အောင့်သက်သက်နှင့်ပင် ခပ်ပြတ်ပြတ် ဖြေလိုက်ရသည်။

“ကျွန်မပါ”

သည်ကိစ္စတွင် သံသယ ဖြစ်နေပုံရသည့် ထိုဘဏ်လူကြီးက အယ်လီနာ၏ အေးစက် တည်ငြိမ်သည့် အဖြေကို သဘောကျ သွားပုံရသည်။ ပြုံးပြီးတော့-

“မင်းဟာ ဒီအလုပ်ကို ကောင်းကောင်းနားလည်ပုံ ရတယ်၊ ဟုတ်ကဲ့လား”

ပြန် မပြုံးမိ။

“သိပ် နားမလည်သေးပါဘူး၊ ကျွန်မ ကြိုးစားရမှာပါ၊ ကျွန်မမှာ အကျင့်တခု ရှိပါတယ်”

အသံက ပို၍ ရှင်းလင်းပြတ်သားလာသည်။

“အလုပ်တခုကို စမိရင် ငုပ်မိသဲတိုင် လုပ်တတ်ပါတယ်”

မေးခွန်းထုတ်သည့် ဒါရိုက်တာကြီးက ခေါင်းတညိတ်ညိတ် လုပ်နေပြီး-

“မင်းကို ကျုပ် တွေ့ဖူးသလိုလိုပဲ”

“ကျွန်မ ဖရက်အပွဂျွန်းရဲ့ သမီးပါ”

ရေကာတာ ကန်ထရိုက်တာကြီး အပွဂျွန်းလား”

အဘိုးကြီး၏ မျက်နှာမှာ သုန်မှုန်နေရာမှ ချက်ချင်း ဝင်းထိန်သွားသည်။

စားပွဲကို လက်ချောင်းကလေးတွေနှင့် တတောက်တောက် ခေါက်နေသည်။ ကျန် လူကြီး သုံးယောက်ကလည်း ဖေဖေ့သမီးအဖြစ် အသိအမှတ်ပြုကြ၏။ ဖရက်အပွဂျွန်းသည် အရှေ့တောင် ငွေလဲဘဏ်နှင့် ဆက်ဆံခဲ့သည်မှာ နှစ်ပေါင်း ၂၀ ရှိခဲ့ပြီ။ ဒါရိုက်တာကြီးက လည်ချောင်း ရှင်းလိုက်ပြီး-

“အင်း. . .ဒါဆို ဖြစ်နိုင်ပါတယ်ကွယ်၊ မင်း အဖေကို အာမခံသူအဖြစ် လက်မှတ်ထိုး ခိုင်းပေးပေါ့”

"ဒါတော့ မဖြစ်နိုင်ပါဘူး"

ခပ်ပြတ်ပြတ် ငြင်းပစ်လိုက်၏။

အားလုံး ငြိမ်ကျသွားသည်။ ထိုဒါရိုက်တာလူကြီးနှင့် မျက်လုံးချင်းဆိုင်ပြီး စူးစူးရဲရဲ အပြန်အလှန် ကြည့်နေကြ၏။ ဖြူဖွေးနေပြီ ဖြစ်သော မျက်ခုံးထူထူကြီးအောက်မှ မျက်တွင်း နက်နက်ထဲတွင် သူ့မျက်လုံး သေးသေးကလေးများ။ မျက်နှာက အလွန်တင်းမာသည့် သိမ်းငှက် မျက်နှာ။ စိတ်ထဲတွင် တကိုယ်တော် စွန့်စားခန်း ဖွင့်ချင်လာသည်။ ကက်စတာနှင့် စကတည်းက သဘောမတူခဲ့သည့် ဖေဖေ့ဆီမှ ဝက်သစ်ချမြိုင်ကို ကြွေးနှံ့ဗွက်ထဲက ဆွဲတင်ပေးဖို့ အကူ အညီ မယူလို။ ကိုယ်စွမ်းရှိသမျှ ဉာဏ်စွမ်းရှိသမျှ ရုန်းကန်မည်။ လိုအပ်လျှင် မိမိကိုယ်ကို ဝက်သစ်ချမြိုင်အတွက် စတေးရမည်။

သည်တွင် တခု အလေးအနက် နားလည်လိုက်သည်။ သည်မျှ အပြင်းအထန် နိုးကြွ လာခြင်းမှာ ဝက်သစ်ချမြိုင်ကို ကက်စတာက တွယ်တာလွန်း၍ မဟုတ်တော့။ မိမိ ကိုယ်တိုင်၏ ဘဝတိုက်ပွဲပုံစံ ဝင်လာပြီ ဖြစ်သောကြောင့် ဖြစ်၏။ လူ့ဘဝတွင် တွေ့ရတတ်သည့် တိုက်ပွဲမျိုး။ မိမိချစ်သူများနှင့် ပြန်တိုက်ရသည့် တိုက်ပွဲလေ။

စကားပြတ်သွားသည်မှာ ခဏငယ်မျှသာ၊ စကားလုံး ရွေးနေရ၍ ဖြစ်၏။

"ကျွန်မ အဖေ့ကို အကူအညီ တောင်းရင် ဘာမဆို ရနိုင်ပါတယ်၊ ဒါပေမဲ့ ကျွန်မ ဒုက္ခမပေးချင်ဘူး"

မေးခွန်း ဒိုင်ခံထုတ်ခဲ့သည့် လူကြီးက စိုက်ကြည့်နေဆဲ။ အခြားလူကြီးများလည်း စကား အဆက်ကို စိတ်ဝင်တစား နားထောင်နေကြ၏။

"ဖေဖေဟာ ကျွန်မအပေါ်မှာ မိဘဝတ္တရား ကျေပွန်ခဲ့ပြီး ဖြစ်ပါတယ်။ ကျွေးမွေးပြုစုခဲ့တယ်၊ ပညာသင်ပေးခဲ့တယ်။ ပြီးတော့. . . ကျွန်မ အထင်ပေါ့လေ၊ ကိုယ့်ခြေထောက်ပေါ်မှာ ကိုယ်ရပ်နိုင်တဲ့ သတ္တိမျိုးလည်း မွေးပေးခဲ့ပါတယ်။ မနေ့ကပဲ ဖေဖေ ကျွန်မကို လိုအပ်သမျှ အာမခံမျိုး ပေးမယ်လို့ ပြောခဲ့ပါသေးတယ်၊ ဒါပေမဲ့ ကျွန်မ သူ့အကူအညီကို ဘာမှ ထပ် မယူတော့ပါဘူး"

စိုက်ကြည့်နေသည့် ဒါရိုက်တာလူကြီးကို တည့်တည့်ကြည့်ပြီး ရှင်းလင်းပီသစွာ ပြောချလိုက်သည်။

"ကဲ ... ကျွန်မကို ဆိုင်းငံ့ကာလ တိုးပေးမလား"

ထိုလူကြီးက ဖြေသည်။

“မင်း အလိုအတိုင်း ဖြစ်ရပါစေ့မယ် မစ္စက်လန်း”

လက်မှတ်ထိုးဖို့ စာရွက်စာတမ်းတွေ တပုံကြီး ချပေးသည်။ ပြီးတော့ လူဝီစီးယားနား ပြည်နယ် ဥပဒေအရ ကက်စတာ၏ လက်မှတ်လည်း ပူးတွဲထိုးဖို့လိုကြောင်း ရှင်းပြကြ၏။ အချိန်မှာ ၁၉၁၄ ခုနှစ်၊ ဇန်နဝါရီလ၊ အတိုးကို သည်နှစ် နိုဝင်ဘာလတွင် ဆပ်ရမည်၊ အရင်းငွေ ထဲမှ ဒေါ်လာ ၂၀,၀၀၀ ကို ၁၉၁၅ ခုနှစ်၊ ဒီဇင်ဘာလတွင် ပေးဆပ်ရမည်။ စာရွက်တွေကို ထပ်ပြီး စာအိတ်ကြီးတလုံးထဲတွင် ထည့်၍ ဟိုတယ်သို့ ပြန်ခဲ့သည်။ လမ်းလျှောက်ပြန်လာရင်း ငွေဝယ်ကျွန်ခေတ်က ကျေးကျွန်တွေကို စာချုပ်စာတမ်းနှင့် ရောင်းချလေ့ရှိသည့် အဖြစ်ကို မိမိဘဝနှင့် ယှဉ်၍ တွေးလိုက်မိသည်။ အဲဒီ ငွေဝယ်ကျွန်တွေတောင် ငါ့ လောက် အနှောင်အဖွဲ့ များပါ့မလား မသိဘူးဟုလည်း စဉ်းစားမိသေး၏။

※※※

# အခန်း (၅)

## (၁)

ဝက်သစ်ချမြိုင်သို့ ပြန်ရောက်တော့ အယ်လီနာနှင့် ကက်စတာတို့သည် အရှည်လျား ဆုံးနှင့် အပွင့်လင်းဆုံး ဆွေးနွေး ဖြစ်ကြသည်။

ကက်စတာက ကုပ်ချောင်းချောင်း အမူအရာနှင့် သူ့ကိုယ်သူ ရှက်လို့မဆုံး ဖြစ်နေ ကြောင်း ပြော၏။ ဘဏ်ဒါရိုက်တာအဖွဲ့နှင့် အယ်လီနာ တကိုယ်တော် သွားဆွေးနွေးသည့် မနက်ကတည်းက ကက်စတာတယောက် အလေးအနက်တွေးပြီး ကိုယ့်ကိုယ်ကိုယ် ဝေဖန်ရေး လုပ်ဖြစ်သည်။ အရက်ဖြတ်ဖို့ အသင့်ဖြစ်နေပြီ၊ ပါတီ ပွဲလမ်းသဘင်ကိုလည်း မတက်တော့ဟု ဆို၏။ အလုပ်ကို ဖောက်ချလုပ်တော့မည်။ စာချုပ်ပါ ကတိခံဝန်ချက်အတိုင်း ဘဏ်ကို ပြန်ဆပ်ဖို့က ကုန်းရုန်းလုပ်မှ တန်ကာကျမည်။ အလုပ်ကို လက်ကြောတင်းအောင် လုပ်ဖို့ တသက်လုံးက အိပ်မက်ပင် မမက်ခဲ့သည့် ကက်စတာတယောက် ယခု ယခုတော့ နဖူးကချွေး ခြေမ ကျရပေတော့မည်။

“မောင်တထမ်း၊ မယ်တရွက်ပေါ့ မောင်၊ အယ်လီနာလည်း ကူလုပ်မှာပေါ့။ ဝါ လုပ်ငန်းအကြောင်း သင်ရင် ဘာလို့ မတတ်ရမှာလဲ။ မောင်က နည်းနာနိသျရည်းတွေကို အရင်းစိုက်၊ အယ်လီနာက လုပ်အား စိုက်မှာပေါ့”

ကက်စတာက သူ သဘောအကျဆုံး နေရာတွင် မှီရပ်လျက်၊ မီးလင်းဖိုနံဘေးမှာလေ။ မချိသွားဖြဲ ပြုံးသည့် အပြုံးမျိုးကို ပြုံးရင်း မျက်နှာကို ရှုံ့ပြီး-

“တကယ်လား၊ ကျေးဇူးတင်ရမှာပေါ့၊ မောင့်ကို အော်မဆဲဘဲ လုပ်အားပေးမယ် ဆိုရင် ပြောတာ”

“ဩော်. . . မောင်ရယ်၊ နောက် အဲဒီလို ဘယ်တော့မှ မလုပ်တော့ပါဘူးလို့ ကတိပေး ပါတယ်ကွယ်”

“မောင့်အပြစ်တွေ သေးငယ်သွားအောင် အယ်လီနာ့ကို အပြစ်ပြောနေတာ မဟုတ်ဘူး နော်။ ဒါပေမဲ့ မောင် ပွင့်ပွင့်လင်းလင်း ပြောရရင် သိက္ခာရှိတဲ့ မိန်ကလေးတွေဟာ မင်းစိတ်ဆိုးတဲ့အခါ အော်သလို အော်ဟစ်ပြောတာ မောင်

တခါမှ မတွေ့ဖူးဘူး။ အဲဒီလိုအခါမှာ မင်းရဲ့ အသံတွေဟာ နှာသံပါပြီးတော့ စကားအသုံးအနှုန်းကလည်း…”

“ပြောပါ မောင်”

သူက တုံ့နေ၍ အယ်လီနာက ထောက်ပေးလိုက်သည်။

“သိပ် အပေါ်စားဆန်တာပဲ”

ကက်စတာက တုံးတိတိ ပြောချလိုက်ပြီး အယ်လီနာ့ ပခုံးပေါ်သို့ လက်တင်လိုက် သည်။

“အချစ်ကို မောင် သိပ်ချစ်တယ်ကွယ်၊ ဒါပေမဲ့ မောင့်ကို အော်ဟစ် ဆူပူနေရင် မောင် စကား မပြောချင်တော့ဘူး”

စကား ပြတ်သွားကြသည်။ သူ့လက်ပေါ်တွင် မေးတင်ထားရင်း အယ်လီနာ မီးလျှံ တွေကို ငေးကြည့်နေသည်။

“မောင့်ကို အပြစ်အနာ မှန်သမျှ ဖော်ထုတ် အပုပ်ချပြီးပြီ၊ အယ်လီနာကိုယ် အယ်လီနာ ပြန်ပြီး ဆန်းစစ်ဖို့လည်း အချိန်တန်ပြီ ထင်တယ် မောင်”

ပြုံးကြည့်နေသည့် သူ့မျက်နှာကို မော်ကြည့်သည်။ သည်တော့ အပြုံးချင်း ကူးစက် သွား၏။

“မောင်နဲ့ အယ်လီနာက တယောက်နဲ့တယောက် ဘာမှ တူတာ မရှိဘူးနော်”

“ခုထက်ထိ အချစ်က အမေရိကန်၊ မောင်က တောင်ပိုင်းသားလို့ ပြောတုန်းပဲလား”

“ဟုတ်တယ်မောင်၊ အယ်လီနာရဲ့ စေတနာမှန် လုပ်ဆောင်ချက်တွေက ရုပ်ပျက် ဆင်းပျက် ဖြစ်နေပြီး မောင့်ရဲ့ အပြစ်အနာအဆာတွေက လှပတင့်တယ်နေတယ်”

ပခုံးပေါ်တွင် တင်ထားသည့် ကက်စတာ၏ လက်ကို ဆွဲယူပြီး ဆုပ်နယ်နေသည်။

“မောင့်ကို ရင်ထဲမှာ မတင်မကျ ဖြစ်တဲ့ အကြောင်းတွေ ဖွင့်ပြောချင်တယ်၊ မောင်နဲ့ အယ်လီနာကြားမှာ ဘာမှ အဆီးအတားတွေ၊ သံသယတွေ မရှိစေချင်ဘူး”

“သိပ်ကောင်းတာပေါ့၊ မောင်လည်း သဘောကျတယ်”

သူက မီးဖိုနံဘေးကို မှီပြီး သွားရပ်ပြန်သည်။

သူ့အနေအထားကို ကြည့်ပြီး ပထမဆုံး တွေ့စနေ့က အကဲခတ်မိခဲ့ပုံကို ပြန်သတိရ နေသည်။ လောကကို ထီမထင်သည့် ပုံနှင့် ခံ့ခံ့ထည်ထည် နေတတ်သည့် သူ့အမူအရာမှာ သံမဏိလို အင်အားရှိလှသည့် အသံဖြင့် ဖိုမင်တွေကို အမိန့်ပေးနေသည့် ဖေဖေ ဖရက်အပွဂ္ဂျန်း နှင့် ပြဒါးတလမ်း၊ သံတလမ်း။

“မောင့်ကို တခုမေးမယ်၊ ရိုးရိုးသားသား ဖြေနော်။ လက်မထပ်ခင် မောင် အယ်လီနာ့ ဆီ လာတွေ့တုန်းက အယ်လီနာ့ မိဘတွေကို မောင် ရိုင်းတယ်လို့ မထင်ဘူးလား”

သူက တုံ့ဆိုင်းစွာ ပြုံး၏။

“အဲဒါ မောင် ဖြေရမယ်၊ ဟုတ်လား”

“မဖြေလည်း အဖြေကို သိပါပြီလေ”

“ဩော်… မိန်းကလေးရယ်၊ အဲဒါ အကြောင်းလားကွယ်”

“ကဲ … ဒါ ဖြင့် အယ်လီနာလည်း ပြောမယ်နော်၊ မောင်နဲ့ ဒီကို လိုက်လာပြီး မောင့်မိဘ တွေနဲ့ တွေ့တုန်းကလေ။ မောင့်မိဘတွေကို အလကား ခပ်တုံးတုံးကြီးတွေလို့ ထင်ခဲ့တယ်၊ လက်ကြော မတင်းတဲ့ ရေပေါ်ဆီ လူတန်းစားလို့ ထင်ခဲ့တယ်။ ပြီးတော့ ကိုယ့်ကိုယ်ကိုယ် သူတို့ထက် အပုံကြီး သာတယ် လို့လည်း ထင်ခဲ့တယ်။ ဘာလို့လဲ သိလား၊ မွေးကတည်းက ကိုယ်ထူး ကိုယ်ချွန်ပြီး သုညက စတက်ခဲ့တဲ့ ဖေဖေ့လိုလူ ဇမ္ဗူမှာ မရှိဘူးဆိုတဲ့ အစွဲနဲ့၊ ဖေဖေ့ သမီးအနေနဲ့ပေါ့။ အယ်လီနာက ကိုယ့်ဘာသာ ကိုယ် သူများတွေထက် ဘဝမှန်တဲ့ မိန်းကလေး လို့ အမြဲ စွဲနေတာ သိလား”

ကက်စတာ၏ နဖူးရေတွေ တဖြည်းဖြည်း တွန့်သွားသည်။ ချစ်ဇနီးကို တအံ့တသြ ကြည့်သည်။ အနှစ်နှစ် အလလက စွဲမြဲယုံကြည်ခဲ့သည့် သီဝရီကို ချေဖျက်နိုင်သည့် တက္ကဗေဒ ဆင်ခြေတခု၊ အတွေးသစ်တခုကို စဉ်းစားမိသည့် ကျောင်းသား ကလေးနှင့် တူနေ၏။

အယ်လီနာက စကားဆက်သည်။

“ဒါပေမဲ့ တကယ်တော့ မောင့်မိဘ ဘိုးဘွားတွေလည်း တချိန်က ဖေဖေ့လိုပဲ

အောက်ခြေက စခဲ့ရတာပဲ မဟုတ်လား။ သူတို့ခေတ်က လူဝီစီးယားနားကို ရောက်လာကြချိန် မှာ ဒီတနယ်လုံးဟာ လမ်းမရှိတဲ့ တောရိုင်းမြေတွေ။ ဒီကို ရောက်လာကြတဲ့ အမေရိကန်တွေ ဟာ သူတို့လက်တွေ ကျွဲပခုံးထအောင် အလုပ်လုပ်ခဲ့ကြရတဲ့ လူဖြူဆင်းရဲသားတွေပါ၊ ပန်းခင်း လမ်းကို လျှောက်ခဲ့ကြသူတွေ မဟုတ်ပါဘူး။ ဒါကြောင့်လည်း သူတို့တွေဟာ တကယ့် လက်တွေ့ မြေယာတော်လှန်ရေးသမားတွေအဖြစ် ကမ္ဘာက အသိအမှတ်ပြုခဲ့တာပေါ့”

ကက်စတာက စိတ်ဝင်တစား နားထောင်နေ၏။ အယ်လီနှာ ဆက်ပြန်သည်။

“မောင်က ဘာနဲ့တူနေလဲ ဆိုရင် ဘိုးဘွားတွေက ချွေးနဲ့သွေးနဲ့ရင်းပြီး ခုတ်ထွင် ရှင်းလင်း စိုက်ပျိုးခဲ့တဲ့ မြေကြီးပေါ်မှာ ဒူးနန့်ပြီး အချောင်စားနေတာနဲ့ မတူဘူးလား၊ အဲဒါ ဖြစ်သင့်သလား မောင်။ ပြီးတော့ မောင် လုပ်ပုံက အဲဒီ ဘိုးဘွားပိုင် ချွေးနဲ့စာကို အငြိမ့်သား ထိုင်စားရုံမကဘူး၊ သူများလက်ထဲ ထိုးအပ်ရမယ့် အခြေအနေ ရောက်အောင်လည်း လုပ်သေး တယ်။ ဒီတော့ ဝက်သစ်ချမြိုင်ကို ပြန်ရချင်ရင် မောင့်အဘိုး ဖီးလစ်လန်း လက်ထက်က တောရိုင်းမြေကေ များစွာကို ခုတ်ထွင် ရှင်းလင်းခဲ့သလို မောင်လည်း အပင်ပန်းခံရမယ်”

အတွေးသစ်၏ အလင်းရောင်ကို ခပ်ရေးရေး မြင်လိုက်ရသလို ရှိ၏။ ကက်စတာက ခပ်ဆိုင်းဆိုင်း ဖြေသည်။

“မောင်က အဲဒီလို အခက်အခဲတွေ ကျော်လွှားရန်းကန်ဖို့ မင်းအဖေလို လူမျိုးတွေကို အတုယူရမယ် ဆိုပါတော့ ဟုတ်လား”

“ဒါပေါ့၊ ဘာလို့ ဆိုတော့ အယ်လီနှာတို့ ကိုယ့်လမ်း ကိုယ်ထွင်ပြီး လျှောက်ကြ ရမှာ”

ငြိမ်သွားကြပြန်၏။ မီးဖိုထဲမှ ထင်းစတွေကို တဖျစ်ဖျစ် မီးလောင်နေသည့် အသံမှ လွဲပြီး ဘာသံမျှ မကြားရ။

“အပ္ပလွန်း အမျိုးတွေကကော စောစောပိုင်းက ဘာတွေ လုပ်နေကြလို့လဲ”

ကက်စတာက မေးလိုက်သည်။

“ဒါတော့ မသိဘူးလေ၊ အသက်ရှင်ဖို့အတွက် ရုန်းကန်နေကြရမှာပေါ့၊ အစပိုင်းမှာ ခွန်အားနည်းခဲ့လို့ ဖြစ်မှာပေါ့။ အသက်ရှင် ရပ်တည်ရေးအတွက် တိုက်ပွဲဝင်ခဲ့သူတွေလောက်ပဲ ရှင်ကျန်နေခဲ့တာ ဖြစ်မှာပေါ့”

တိတ်သွားကြပြန်၏။

ကက်စတာက မီးညှပ်ကြီးကို ယူပြီး မီးစွဲလက်စ ထင်းတုံးတွေကို ရွှေ့နေသည်။ ပြီးတော့ စားပွဲပေါ်ရှိ စီးကရက်ဘူးထဲမှ စီးကရက်တလိပ် ယူသည်။ စီးကရက် အစီခံကို အခိပ္ပာယ်မရှိ စူးစူးစိုက်စိုက် ကြည့်နေ၏။ စိတ်ပျံ့လွင့်နေသူတဦး၏ အမူအရာ။

"ဒါထက် နေပါဦး အယ်လီနာ၊ မောင်တို့ လူတန်းစားနဲ့ အမူအကျင့်တွေ အားလုံး တခုမှ အသုံးမကျဘူးလို့ မင်း ထင်တယ်ပေါ့ ဟုတ်လား"

"အို…မောင်ကလည်း မဟုတ်တာ၊ အဲဒီအလွှာရဲ့ ယဉ်ကျေးမှုမှာ ချစ်စရာတွေ၊ အတုယူစရာတွေ အများကြီး။ အယ်လီနာ မောင့်ဆီက သင်ယူရမှာ အပုံကြီးရယ်"

အယ်လီနာ အားတက်သရော ပြောနေ၏။

"နူးညံ့သိမ်မွေ့တယ်၊ လူချစ်လူခင် ပေါအောင် ပီယဝါစာ နှုတ်လျှာ ချိုတယ်၊ မောင်တို့ တတွေ ဖန်တီးခဲ့တဲ့ ယဉ်ကျေးမှု အစဉ်အလာတွေဟာ ချစ်စရာ ကောင်းပါတယ်။ မောင်နဲ့ မတွေ့ခင်က အဲဒီ အလှအပမျိုးတွေကို မြင်လည်း မမြင်ဖူးဘူး၊ ကြားလည်း မကြားဖူးခဲ့ဘူး၊ သိပ်အထက်တန်းကျတယ်၊ မပျောက်မပျက် ထိန်းသိမ်းထားဖို့လည်း လိုအပ်တယ်။ ဝါခင်းတွေ ပေါ်မှာ ထိန်ထိန်သာနေတဲ့ ဖိုးလမင်းကြီး၊ တသွင်သွင် စီးဆင်းနေတဲ့ မစ္စစ်စပီ မြစ်နံဘေးမှ လူမည်းတို့ရဲ့ ဘင်ဂျိုသံ။ ဒါတွေဟာ အမေရိကန်တောင်ပိုင်းရဲ့ ပြယုဂ်တွေ၊ ဒဏ္ဍာရီဆန်တဲ့ အမှန်တရားတွေပဲ"

အယ်လီနာက ကက်စတာနှင့် မျက်နှာချင်း ဆိုင်လိုက်သည်။

"အဲဒါတွေက မောင်တို့တတွေကြောင့် ဖြစ်ပေါ်လာတဲ့ သမိုင်းကဏ္ဍတွေပါ၊ အယ်လီနာ တို့ မပါဘူး။ ဟုတ်တယ်၊ အဲဒီအတွက် မောင်တို့ ဂုဏ်ယူသင့်ကြပါတယ်။ ဒါပေမဲ့ လွန်ခဲ့တဲ့ ရာစုနှစ်လောက်ကတော့ ဒီဘက်အပိုင်းကို လာကြတဲ့ လူဖြူအားလုံးဟာ ကလေကချေတွေ ချည်းပဲ၊ အယ်လီနာတို့ မျိုးရိုးက မောင်တို့မျိုးရိုးထက် ပိုဆိုးမှာပေါ့လေ။ ဆိုလိုတာက အားလုံးဟာ တိုက်ကြီးတတိုက်ကနေ တတိုက်ကို သင်္ဘောကုန်းပတ်ပေါ်က လိုက်ခဲ့ကြတာ ချည်းပဲ။ အမေရိကကို ရောက်တော့ တောရှင်းပြီး သစ်လုံးအိမ်နဲ့ စနေခဲ့ကြရတာ။ ဒါပေမဲ့ အယ်လီနာတို့က ကြမ်းတမ်းတဲ့ ဘဝမှာ ပိုအနေကြာတော့ မောင်တို့ထက် ပိုပြီး အမေရိကန် ဆန်တယ်၊ အမေရိကန်ဆိုတာ ကြမ်းတမ်းတဲ့ ရှေ့ဆောင်စွန့်စားရေးသမားတွေပဲ မဟုတ်လား"

ကက်စတာက အယ်လီနာ့လက်ကို နာကျင်လုမတတ် ဆွဲယူပြီး ညှစ်လိုက်သည်။

“အချစ် ပြောသွားတာတွေမှာ မောင် ထပ်ဖြည့်စရာ ဘာမှ မကျန်တော့အောင် ပြည့်စုံ နေပါပြီ။ ဆိုလိုတာက မောင်နဲ့ အချစ်ရဲ့ မိရိုးဖလာ အစဉ်အလာတွေ ပေါင်းစပ်ပြီး ခရီးဆက်ရင် ကိုယ့်ဟာကိုယ် မှန်တယ် ထင်ပြီး တလမ်းစီ သွားနေတာထက် ပိုပြီး အကျိုးရှိမယ်ပေါ့”

အယ်လီနာ ခေါင်းညိတ်သည်။

“ဟုတ်တယ် မောင်၊ အယ်လီနာ ပြောချင်တာက အဲဒါပါပဲ”

ယခုမှ ပို၍ နားလည်လာကြသည်က ပို၍ ပွင့်လင်းစွာ၊ ပို၍ ရင်းနှီးစွာ ပေါင်းစပ်မိကြ သည်ဟု အယ်လီနာ ခံစားလိုက် ရ၏။

※※※

ကက်စတာက လုပ်ပြီ ဆိုတော့လည်း ဆတက်ထမ်းပိုး ကြိုးကြိုးစားစား လုပ်သည်။ သူ့အတွေ့အကြုံ၊ သူ့အတွေးအခေါ်ကို အခြေပြုပြီး အယ်လီနာ၏ လုပ်အားနှင့် ပေါင်းစပ်လိုက် တော့ ဝက်သစ်ချမြိုင် ဝါခင်းကြီးသည် နတ်ရေစင် ဖျန်းလိုက်သည့်အလား တဟုန်ထိုး တိုးတက် အောင်မြင်လာခဲ့၏။

မြေဆီ မြေနှစ်တို့ဖြင့် ညိုမောင်း နက်မှောင်နေသည့် ဝက်သစ်ချမြိုင် ယာတောမြေက ဝါစေ့များကို ထွေးပိုက်ထား၏။ ချက်ချင်းဆိုသလိုပင် နေရောင်ခြည်တွင် အစို့အညှောက် အပင်ပေါက်တွေ အလုအယက် သူ့ထက်ငါ တိုးဖော့ ထွက်လာကြသည်။ ဘဏ်တွင် အပြင်း အထန် တိုက်ပွဲဆင်၍ ရခဲ့သည့် နောက်ဆုံးချေးငွေဖြင့် ထင်းရှူးပျို့တော သီးညှပ်စီမံကိန်း ကိုလည်း အကောင်အထည် ဖော်နိုင်ခဲ့၏။ လင်မယားနှစ်ယောက် တက်ညီလက်ညီ အလုပ်လုပ် ကြသည်။

မနက် ခြောက်နာရီထိုးသည်နှင့် နှစ်ယောက်သား မြင်းကိုယ်စီနှင့် ကွင်းထဲ ထွက်ခဲ့ပြီး စိုက်ခင်း လုပ်သားတွေကို ထောင့်စေ့စေ့ ကြီးကြပ်ကွပ်ကဲ၏။ ညနေစာကို သုံးနာရီတွင်မှ ပြန်စားလေ့ ရှိသည်။ ညနေပိုင်းတွင်တော့ အယ်လီနာက စာရင်းစာအုပ်တွေနှင့် အလုပ်ရှုပ်နေ တတ်၏။ ကက်စတာက ကွင်းထဲသို့ ပြန်သွားလျှင်သွား၊ မသွားလျှင် အလုပ်ကိစ္စတွေကို ရေးသား ပြန်ကြားနေတတ်သည်။ တနေ့တာ အလုပ်ပြီးလျှင်တော့ သတင်းစာဖတ်ချိန် ရကြ၏။ သို့သော် သတင်းစာပင် မှန်မှန် မဖတ်ဖြစ်သည့် နေ့က များ၏။ သမီးကလေးကို ချော့မြူကစားဖို့ အချိန်ကိုပင် အနိုင်နိုင်ယူရ၏။ ညစာ စားပြီးလျှင်လည်း အလုပ်ခန်းသို့ ပြန်ဝင်ကြပြန်သည်။ ကိုးနာရီခန့် အလုပ်ပြီးချိန်တွင် နှစ်ယောက်လုံး ဣန္ဒြေမဆည်နိုင်အောင် အိပ်ချင်နေကြပြီ။

မိုးလင်းလျှင် ကျောတွေ ရင်တွေ အောင့်နေတတ်သည်။ ဖေဖော်ဝါရီလို၊ မတ်လလို ရာသီဥတု ကောင်းမွန်သည့် အချိန်ဆိုလျှင် ခံသာသေး၏။ အပူရှိန်ပြင်းသည့် ဇွန်လတွင်းသို့ ရောက်လာလျှင် ဖွဲကောင်းလှပါသည် ဆိုသော အယ်လီနာပင် ခံနိုင်ရည် မရှိချင်အောင် ဖြစ်လာ တတ်သည်။ သို့သော် ပင်ပန်းနွမ်းနယ်သည့် အမူအရာကို နည်းနည်းကလေးမျှ မပြရဲ။ ကက်စတာက ခေါင်းပေါ်တွင် အဆောင်းမပါဘဲ ချွေးတလုံးလုံးနှင့် အလုပ်လုပ်နေသည် မဟုတ်လား။ ကက်စတာ စိတ်ဓာတ်မကျအောင် မိမိက တင်းထားရမည်ဟု

အယ်လီနာ သဘောပေါက်ထားသည်။ ကက်စတာသည် ရှိသမျှ အားမာန်နှင့် စွမ်းစွမ်းတမံ လုပ်နေပေမယ့် မိမိ၏ တွန်းအားပေးမှု အများကြီး လိုသည်ကိုလည်း နားလည်ထား၏။ ယခုတော့ ကက်စတာ သည် အလုပ်ကို တခုပြီးတခု စိတ်ဝင်တစား ကြိုးစားလျက်ရှိ၏။ လင်မယားနှစ်ယောက် စည်းရုံးညီညွတ် မှုဖြင့် ပျော်ရွှင်နေကြ၏။ အသားတွေမှာ နေလောင်ထားသဖြင့် ကြေးနီရောင် ထနေပြီ။ မောရ ပန်းရမှန်း မသိကြတော့။ ရှုမျှော်လို့ မဆုံးသည့် ဝါခင်းလွင်ပြင်ကြီးမှ သည်နှစ် ဘောထုပ် တထောင် အနည်းဆုံး ထွက်မည်မှာ သေချာနေပြီ မဟုတ်လား။ သည်တော့ နှစ်ယောက်သား တက်ညီလက်ညီ ပျော်တပြုံးပြုံးပေါ့။

ဝါခင်းတွေကို ကက်စတာ စိတ်ဝင်စားပုံမှာ အယ်လီနာပင် အံ့သြမဆုံး ဖြစ်လာသည်။ နွေဦးလောက်တွင် အခင်းတွေကို ငေးကြည့်နေပုံမှာ ချစ်ဇနီးကို မြတ်နိုးစွာ ကြည့်တတ်သည့် အကြည့်မျိုး။ ကက်စတာသည် ဝက်သစ်ချမြိုင် ယာတောအကြောင်းကို ချေးခါးအူမ နားလည် ပြီး သူချစ်သည့် သည်မြေပေါ်တွင် ဝက်သစ်ချမြိုင်၏ ပိုင်ရှင်အဖြစ် မားမားမတ်မတ် ရပ်နိုင် ပေတော့မည်။

မျဉ်းဖြောင့်သဖွယ် ဖြူးနေသည့် ဝါပင်တန်းများသည် မိုးကုပ်စက်ဝိုင်းဆီသို့ ဦးတည် နေကြ၏။ တောင်ထန်းရွက်တွေက သူ့ဦးခေါင်းပေါ်တွင် ယိမ်းနွဲ့လှုပ်ရှားနေကြ၏။ သစ်တော ထဲမှ ဂမုန်းရိုင်းတွေ၊ ဘောလုံးပန်းတွေနှင့် ဝက်သစ်ချမြိုင်ကို ဖြတ်သန်းစီးဆင်းနေသည့် ချောင်း တလျှောက်မှ ခေါင်းလောင်းပန်းတွေမှာ ကက်စတာ ချစ်မြတ်နိုးသည့် ဝက်သစ်ချမြိုင်၏ အစိတ်အပိုင်းများ ဖြစ်၏။ ဝက်သစ်ချမြိုင်နှင့် ကက်စတာသည် ခွဲခြား၍ မရနိုင်အောင် တသား တည်း ဖြစ်နေပြီ။

အယ်လီနာနှင့် ဝက်သစ်ချမြိုင်မှာ ကက်စတာမှတဆင့် ဆက်နွှယ်ရသည် ဖြစ်၍ သည်မြေ ကို သူ့လောက်တော့ မချစ်နိုင်ပေ။ သို့သော် ဝက်သစ်ချမြိုင်ကို ကယ်တင်ဖို့အတွက် အယ်လီနာ က ကိုယ်စွမ်းရှိသမျှ၊ ဉာဏ်စွမ်းရှိသမျှ ကူမည် ဖြစ်၏။ သူတို့နှစ်ယောက် တာဝန်ကို ပိုင်းပြီး ယူကြ၏။ ကက်စတာသည် အရည်အချင်း ပြည့်ဝသူ မဟုတ်၊ သို့သော် ထိုးထွင်းဉာဏ် ရှိ၏။ သူ့အကြံပြုချက်များသည် အလွန်ပြည့်စုံ လေးနက်၏။ လက်တွေ့ အကောင်အထည် ဖော်ရ သူက အယ်လီနာ။ အယ်လီနာအတွက် ဘာအခက်အခဲမျှ မရှိဘဲ ချောမွေ့နေမြဲ။

**"ဟော်လီ"**2 ကို ထင်ရှူးတောတွင် ညှပ်စိုက်ဖို့ စိက်ကူးရသူက ကက်စတာ။ သို့သော် ဟော်လီ အကြောင်းကို အချက်အလက်တွေ၊ ကိန်းဂဏန်းတွေ ရှာဖွေစုဆောင်းပေးသူက အယ်လီနာ။ ခရစ္စမတ်ရာသီတွင် နယူးအော်လင်း၌ ရောင်းကောင်းသည့် ဟော်လီမှာ မေရီ လင်းမှ လာကြောင်း၊ ဝက်သစ်ချမြိုင်က

ဟော်လီ ထုတ်လုပ်နိုင်လျှင် သယ်ပို့ကိုင်တွယ်စရိတ် သက်သာ၍ ဈေးပေါပေါနှင့် သွင်းနိုင်ကြောင်း၊ ဈေးကွက်ရမည် ဖြစ်ကြောင်း... စသည် စသည်။

အယ်လီနာက အချိန်ပို လုပ်ရသည့် လုပ်သားတွေကို လုပ်ခ ပိုပေးချင်သည်။ ကက်စတာ က အချိန်ပို ခိုင်းခြင်းအတွက် အချိန်ပိုလုပ်ခ ပေးရခြင်းကို လုံးဝ အဓိပ္ပာယ်မရှိဟု ဆို၏။ ဇွန်လပိုင်း မိုးတပြိုက် နှစ်ပြိုက်ရွာလို့ ပေါက်တူးလိုက်ရန် လိုအပ်ချိန်တွင် လူမည်းလုပ်သား တွေနှင့် ရောနှောကာ သူကိုယ်တိုင် ပေါက်တူး ဝင်ကိုင်ပြီး နေဝင်မိုးချုပ်အထိ အလုပ်လုပ်သည်။ မကြာခင် ပျော်ပွဲစားဖို့ စီစဉ်ပေးမည့်အကြောင်း စသည့် မက်လုံးပေး စကားများကို ပြောရင်း ဝါခင်း ပေါက်တူးလိုက်သည့်ကိစ္စ ပြီးသွားသည်။ အချိန်ပို လုပ်ခကို ဘယ်သူမျှ လာမတောင်း ကြ။ သည်တော့ အယ်လီနာ အံ့ဩမဆုံး ဖြစ်ရသည်။

"မောင် ဘယ်လို လုပ်တာလဲ ဟင်၊ မောင့်ကို လူတွေ သဘောကျအောင်လေ"

တညနေတွင် အယ်လီနာက ဖွင့်မေး၏။ သူ့အဖြေက-

"လွယ်ပါတယ်၊ လူတွေကို ကိုယ်က ပြန်သဘောကျလိုက်ပေါ့"

အယ်လီနာ သက်ပြင်းချ၏။ စာရင်းစာအုပ်တွေပေါ်တွင် တံတောင်နှစ်ဖက် ထောက်ပြီး မေးကို လက်ဝါးအစုံဖြင့် မလျက်-

"အယ်လီနာတော့ သူတို့ကို နာရီပိုလုပ်ခ ပေးသင့်တယ် ထင်နေတုန်းပဲ မောင်"

ဆိုဖာပေါ်တွင် ခြေပစ်လက်ပစ် လှဲပြီး သတင်းစာ ဖတ်နေရာမှ-

"ဩော်.. မိန်းမနှယ်ကွာ၊ ကမ္ဘာကြီးကိုသာ မင်းလက်ထဲ ဝကွက်အပ်လိုက်ရင် လမ်းဘေး ပလက်ဖောင်းတွေကို ကြမ်းတိုက်သလို လိုက်တိုက်ပြီး ပြောင်လက်နေမှာပဲ။ ရထားတွေ အချိန်မှန်ထွက်ပြီး လူတွေလည်း သက်တမ်း ၉၀ အထိ နေကြရမယ် ထင်တယ်။ ဒါပေမဲ့ တယောက်မှတော့ ပျော်ကြမှာ မဟုတ်ဘူး။ ကဲ... ဒီတော့ မချော၊ ခင်ဗျားစာရင်း ခင်ဗျား ဆက်လုပ်ပါ၊ ကျွန်တော်မျိုးလည်း ဒီရာဇဝတ်မှုကို ဆက်ဖတ်ပါရစေဦး"

"စိတ်ဝင်စားစရာ ကောင်းရင် အယ်လီနာ ကိုလည်း ပြောဦးနော်"

ဖတ်လက်စတွင် နှစ်မျောနေသည့် ကက်စတာက ဘာမျှ ပြန်မပြောတော့။ အယ်လီနာ က သူ့ကိန်းဂဏန်းနှင့် ပြန်လည် နပန်းလုံးနေရပြန်၏။ ကက်စတာက စာရင်းဆိုလျှင် လုံးဝ နားမလည်။ ဂဏန်း သုံးလုံးလောက် ပေါင်းရ နုတ်ရလျှင် သူ

မျက်စိလည်နေပြီ။ အယ်လီနာက ဝက်သစ်ချမြိုင် စာရင်းကို ခေါင်းစဉ်အသီးသီးခွဲ၍ ဖွင့်ထားသည်။ အိမ်စရိတ်နှင့် လုပ်ငန်းသုံး စရိတ်ကိုလည်း တိတိကျကျ ခွဲထားသည်။ မီးဖိုချောင် အယိုအဖိတ် ပိတ်ဆို့မှု စီမံကိန်းကတော့ ကောင်းစွာ အကောင်အထည် ပေါ်သွားပြီ။ တလ ဂျုံမည်မျှ ကုန်သည်၊ သွားတိုက်ဆေးဘူး မည်မျှကုန်သည်၊ ဆပ်ပြာတောင့် မည်မျှသုံးသည် စသည်ဖြင့် စာရင်းနှင့် ထိန်းထားလိုက်သည်။ ထိုမျှမက မြေတကွက်တွင် သုံးရမည့် မြေသြဇာ အရေအတွက်၊ လုပ်အားခ၊ လုပ်ခ စသည် တို့ကို အခြေပြု၍ ခန့်မှန်းခြေထွက်မည့် ဝါထုတ်လုပ်မှုကို ကြိုတွက်ပြီး အရှုံး၊ အမြတ် စာရင်း ကိုလည်း ကြိုတင်ထုတ်နိုင်နေပြီ။

အယ်လီနာ၏ လုပ်ဆောင်ချက်တွေကို ကြည့်ပြီး ကက်စတာ မယုံကြည်နိုင်အောင် ဖြစ်နေသည်။ ယခုမှ အပြန်အလှန် နားလည်မှု၊ လေးစားမှု ပို၍ ပို၍ ရလာကြ၏။ မောင် တထမ်း မယ်တရွက် ဇနီးမောင်နှံစစ်စစ် ဖြစ်လာ၏။

ဝါဈေးက သည်နှစ် ထိုးတက်လာသည်။ တပေါင်လျှင် ၁၂ ဆင့်မှ ၁၃ ဆင့်ထိ ဖြစ်လာ ၏။ တခါမျှ သည်ဈေးအထိ မတက်ဖူးခဲ့။ သီးနှံဖျက် ပိုးမွှားနှိမ်နင်းမှု စနစ်သစ်ကြောင့်လည်း အလေအလွင့်နည်းပြီး ဝါအထွက် ကောင်းလာ၏။ အယ်လီနာက ဈေးမတည်ငြိမ်မှုကို စဉ်းစား ပြီး လက်ရှိပေါက်ဈေးနှင့် မတွက်ဘဲ ပျမ်းမျှတပေါင်လျှင် ၁၀ ဆင့်နှုန်းဖြင့် တွက်ကြည့်၏။ ၁၀ ဆင့်နှုန်းဖြင့် ဆိုလျှင် ဘဏ်တိုးကိုဆပ်ပြီး လာမည့်နှစ်တွင် ဝက်သစ်ချမြိုင်အတွက် တိုးချဲ့ စီမံကိန်းတွေ ရေးဆွဲ အကောင်အထည်ဖော်နိုင်လောက်အောင် ပိုသေးသည်။ ၁၀ ဆင့် ဈေးထက် ပိုလျှင်တော့ ထွန်စက်တစီး ကောင်းကောင်းကြီး ဝယ်နိုင်ပြီ၊ အပိုဆု သက်သက်ဟု။ သို့သော် ဒါက မသေချာ။ မသေချာသည့် ကိစ္စကို အားကိုးမနေသင့်၊ အယ်လီနာက သူ့ကိုယ်သူ အလေးအနက် သတိပေးလိုက်သည်။

အယ်လီနာ ပြုံးလိုက်၏။ အခြေအနေကို အကြမ်းဖျင်း မှန်းကြည့်လို့ ရပြီ။ မြည်းဆွဲ လှည်းကြီးများ၏ နေရာတွင် ကုန်တင်ကားကြီးတွေ၊ လူမည်းတွေ တလှုပ်လှုပ် တရွရွ တူးဆွနေ ကြသည့် ကွင်းထဲတွင် အစားဝင်မည့် လယ်ထွန်စက်ကြီးတွေကို အယ်လီနာ မြင်ယောင် လာသည်။

အယ်လီနာသည် ဝါစိုက်ပျိုးရေးလုပ်ငန်းကို ဝါသနာပါ၍ လုပ်ခဲ့ခြင်း မဟုတ်၊ လုပ်သင့် လုပ်ထိုက်သည့် အလုပ်ဖြစ်၍ လုပ်နေရခြင်း ဖြစ်၏။ ကက်စတာ့လို မြေကြီးကို ခင်တွယ်တတ်သူ မဟုတ်၊ စင်စစ် ကက်စတာက ဝက်သစ်ချမြိုင်ကို စွန့်လွှတ်ရမည့်ဆဲဆဲ အခြေအနေမှ အသေအလဲ ကာကွယ်နေခြင်း ဖြစ်ပြီး မိမိကမူ စီမံကိန်း အကောင်အထည်ဖော်ရေးကဏ္ဍမှသာ ပါဝင်နေခြင်း ဖြစ်၏။

"တကယ့်ကို စိတ်ဝင်စားစရာ ကောင်းတာပဲကွာ"

ကက်စတာက တိတ်ဆိတ်ခြင်းကို လှုပ်နှိုးလိုက်၏။ အယ်လီနာ အတွေးစပြတ်သွားပြီး-

“ဘာလဲမောင်၊ လူသတ်မှုလား၊ အယ်လီနာ့ကို ဖတ်ပြလေ၊ အလုပ်ကို ညမှ ဆက် လုပ်မယ်၊ နယူးအော်လင်းမှာ ဖြစ်တာလားဟင်”

“မဟုတ်ဘူး၊ ဩစတြီးယား ဟန်ဂေရီမှာ ဖြစ်တာ၊ အသတ်ခံရတာက အိမ်ရှေ့ ဥပရာဇာမင်းသား အယ်လီနာရဲ့”

“ဘုရား...ဘုရား၊ ဘယ်မှာ ဖြစ်တာလဲဟင် မောင်၊ ဗီယင်နာမှာလား”

“မဟုတ်ဘူး၊ ဆာ...ရာ...ယေ...ဗို...မှာ”

ကက်စတာက ခဲရာခဲဆစ် စာလုံးပေါင်း ဖတ်ပြသည်။

“အဲဒါက ဘယ်မှာလဲ”

“မောင်လည်း မသိဘူး၊ ဘော်လ်ကန်ကမ်းခြေ အနီးတဝိုက်မှာ ဖြစ်မယ်ထင်တယ်၊ လူသတ်သမားက ဂါ . .ဗ. .ရီ... လို... ပ... ရင်း... ဇစ် . . . တဲ့၊ လက်ရဖမ်းမိတယ်”

အယ်လီနာက ကက်စတာ့ ပခုံးပေါ်မှ ကျော်ပြီး သတင်းစာကို လှမ်းကြည့်လိုက်သည်။ သုံးလိုင်း စာလုံးမည်းကြီးဖြင့် ရေးထားသည့် သတင်းခေါင်းစဉ်ကို လှမ်းမြင်လိုက်၏။

“အိမ်ရှေ့ ဥပရာဇာ နန်းညွှန့်နန်းလျာမင်းသား လုပ်ကြံခံရခြင်း”

ကက်စတာက အသံထွက် ဖတ်ပြသည်။

“ဩစတြီးယား ဟန်ဂေရီ နန်းလျာမင်းသား ဖရန်စစ်ဖာဒီနန်နှင့် ကြင်ရာတော် ဒတ်ချ်မင်းသမီးအား ဘော့စနီးယားမြို့တော် ဆာရာ. . . ဟာ- ဒီလမ်းနာမည် အသံမထွက်တတ် ပါဘူး၊ အဲဒီလမ်းတွင် ကားမောင်းသွားစဉ် လူသတ်သမားက သေနတ်ဖြင့် လုပ်ကြံသတ်ဖြတ် လိုက်ကြောင်း၊ လုပ်ကြံမှု ကျူးလွန်သည့် လူငယ်မှာ “**ဆာဗီယံ**3” ကျောင်းသားတဦးဖြစ်ကြောင်း၊ ယင်းလုပ်ကြံမှုကြီးမှာ ဩစတြီးယား ဟန်ဂေရီပြည့်ရှင် ဘုရင်ဖရန်စစ်ဂျိုးဇက်၏ အာဏာစက် အောက်တွင် ဖြစ်နေကျ လုပ်ကြံမှုတခုဖြစ်ကြောင်း၊ ဘုရင် ဂျိုးဇက်၏ ဘုန်းတန်ခိုးသိက္ခာ မှာ ညှိုးနွမ်းနေပြီ ဖြစ်ကြောင်း”

"အဘိုးကြီး သနားပါတယ် မောင်ရယ်၊ သူ့ဘဝက တောက်လျှောက် ပြဿနာတွေနဲ့ ချည်းပဲ၊ အင်း... ဆက်ဖတ်ပါဦး"

"မင်းသားနှင့် ကြင်ရာတော်တို့မှာ မြို့တော်ခန်းမမှ အပြန် ဆေးရုံသို့ မောင်းလာစဉ် လူသတ်သမား ဂါဗရီလိုက ကားဆီသို့ ပြေးလာပြီ အနီးကပ် ပစ်သတ်လိုက်ခြင်း ဖြစ်၏။ ပစ်လိုက်သည့် ကျည်ဆန်များမှာ ပစ်ကွင်းကို တိုက်ရိုက် ထိမှန်ကြသည်။ ရေ့ကွာ၊ ကိုယ့်ဘာသာကိုယ် ဆက်ဖတ်တော့၊ ဒတ်ချ်နာမည်တွေ အသံထွက်ရတာ လျှာပင်ပန်းတယ်"

ရပ်ထားသည့် နေရာကို လက်မနှင့် ထောက်ပြပြီး သတင်းစာကို အယ်လီနာအား လှမ်းပေးလိုက်သည်။ အယ်လီနာက ရယ်နေပြီး ဆက်ဖတ်သည်။

"ပရင်းဇစ်နှင့် ကြံရာပါ လူသတ်သမားမှာ ထရီဘင်ဂျီမှ ဂါဗရင်နိုဗစ် ဆိုသူ ဖြစ်ကြောင်း၊ ၎င်းမှာ လှုပ်ရှား ပြေးလွှားနေကြသော လမ်းသွားလမ်းလာများကြားတွင် ပျောက်သွား ကြောင်း၊ ၎င်းတို့ နှစ်ဦးစလုံးမှာ ပြည်မအောက်သို့ ပူးပေါင်းထားသည့် ဟာဇီဂိုဗီနာပြည်နယ်မှ ဖြစ်ကြောင်း"

အယ်လီနာက မော်ကြည့်ပြီး-

"အင်း... စာစီသမားတွေ၊ စာပြင်ဆရာတွေကတော့ ဘယ်လောက် စိတ်ညစ်လိုက် မလဲ၊ ဘော်လကန်တိုင်းပြည်တွေကို ပင်လယ်ထဲ မျှောပစ်ချင်ကြမှာပဲ။ ဟော...မောင် ဒီဆောင်းပါး ဖတ်ပြီးပြီလား၊ အိမ်ရှေ့မင်းသားပုံ အောက်က ဆောင်းပါးလေ၊ "မြေရိုင်းတွေကို ထွန်ယက်စိုက်ပျိုးသည့် ပြောင်းများ အခြေအနေကောင်းနေခြင်း"တဲ့။ ဒါဆို ဂျုံလည်း ကောင်းမှာ ပေါ့နော်၊ မောင် ဂျုံစိုက်ပုံ စိုက်နည်းကို သိလား ဟင်"

"မောင်တို့ ခုလောလောဆယ်တော့ ဝါကိုပဲ ဇောက်ချလုပ်ကြရအောင်။ အခြေအနေ သိပ်ကောင်းနေတယ်လေ၊ မကြာခင် ဖူးကြတော့မယ်။ မောင်တော့ ဒါလောက် ကောင်းတဲ့ ဝါခင်းမျိုး တခါမှ မတွေ့ဖူးသေးဘူး"

"ကုန်စိမ်းသီးနှံ စိုက်ရင်ကော အကျိုးမရှိဘူးလား"

"မြတ်တာက မြတ်ပါတယ်၊ ပထမဦးဆုံး မြောင်းဘောင်ချရမယ်၊ မြောင်းဘောင်ကို ငန်းကျဲကျဲ ခွဲပြီး"

"ငန်းခွဲတယ် ဟုတ်လား"

"ပေါက်ပြားနဲ့ ဘို့ယောင်ယောင်အတန်းတွေ ဖော်ပေးတာကို ပြောတာ။ အဲ-

ပြောင်းကို ငန်းကျဲခွဲစိုက်ပြီး ကြားတန်းတွေမှာပဲ ညှပ်စိုက်ရမယ်၊ ပြောင်းဖူးချိုးပြီးရင် နောက်ထပ် ထွက်လာတဲ့ ပြောင်းပင်ကို မြင်းကျွေးဖို့ အစာအဖြစ် အသုံးပြုနိုင်တယ်လေ။ ပြောင်းနုတ်ပြီးရင် အာလူးစိုက်လို့ ရသေးတယ်၊ အာလူးနဲ့ ညှပ်ပြီး ကြက်သွန်လည်း စိုက်နိုင်တယ်၊ ဆောင်းကုန် ခါနီးမှာ အဲဒါတွေ တူးဖော်ပြီးရင် နောက်တခါ ပြောင်းစိုက်ချိန် ပြန်ရောက်ပြန်ရော။ ကဲ-ဒီတော့ ပြောင်းက နှစ်သီးစား၊ သီးညှပ်က အာလူး၊ ပဲနဲ့ ကြက်သွန်။ ကဲ- မမြတ်ဘဲ ရှိပါ့မလား၊ ဒါပေမဲ့ မြေကိုတော့ ကောင်းကောင်းကြီး ဂရုစိုက်ရလိမ့်မယ်”

“မောင် တကယ်လုပ်ရင် ဖြစ်မှာပါ”

“သတင်းစာ ပေးစမ်းပါဦး၊ မောင် ဖတ်ကြည့်မယ်”

ပွင့်လာသည့် တံခါးဝဆီသို့ ဖျတ်ခနဲ လှမ်းကြည့်ပြီး ကက်စတာ၏ မျက်နှာ တမုဟုတ် ချင်း ကြည်လင် ဝင်းထိန်သွားသည်။

“ကြည့်စမ်း၊ ညည်းကို ဘယ်သူ ဝင်ခွင့်ပြုလို့လဲ”

ကော်ဇောပေါ်တွင် လေးဖက်တွား၍ လာနေသော ကော်နယ်လီယာကလေးကို ကြည့်ပြီး အယ်လီနာက ပြုံးလိုက်၏။ ဒစ်စီက တံခါးဝတွင် ရပ်၍ ကလေးအိပ်ချိန်တန်ပြီ ဖြစ်၍ နှုတ်ဆက် ဖို့ ခေါ်လာခြင်း ဖြစ်ကြောင်း ပြော၏။

ကော်နယ်လီယာသည် မနက်မိုးလင်းကတည်းက မိုးစုံးစုံးချုပ်သည်အထိ တနေကုန် တတွားတွားနှင့် လျှောက်သွား နေတတ်၏။ ဘယ်တော့မျှ မောသည်မရှိ။ ခြေထောက်တွေ မပွန်းအောင် ဇင်ပြာအထူစကို ဘောင်းဘီချုပ် ပေးထားရသည်။ ဒူးနေရာတွင် ကွက်၍ ဖြူနေ၏။ အခန်းထဲသို့ တန်းဝင်လာပြီး သူ့အဖေဆီသို့ ဦးတည်သွား၏။

အယ်လီနာက မနာလိုသည့် အမူအရာနှင့် စောင့်ကြည့်နေသည်။ ဘယ်လိုပါရမီမျိုး သူ့တွင် ရှိသည် မသိ။ သမီးကလေးက မအေ့ထက် သူ့ကို ပိုပြီး ချစ်နေသည်။ ဘယ်လောက်ပဲ အလိုလိုက်ပြီး ဘယ်လိုပင် ယုယယုယ၊ မအေကို သူ့အခန်းထဲမှ ပရိဘောဂ အသုံးအဆောင် တခုထက် ပို၍ ကော်နယ်လီယာ စိတ်မဝင်စား။ ကလေးကို မည်သို့မျှ အကျိုးမပြုသည့် ကက်စတာ၏ အပြုအမူတိုင်းကို ကော်နယ်လီယာက မြတ်မြတ်နိုးနိုး လက်ခံသည်။ သည်တော့ အယ်လီနာ စိတ်မကောင်း မဖြစ်ဘဲ မနေနိုင်တော့။ ကက်စတာက အယ်လီနာ့ အခြေအနေကို လုံးဝ သတိမထားမိ။ သမီးကလေးက သူ့ကို ပိုခင်တွယ်နေသည့် အတွက်သာ ဝမ်းသာမဆုံး ဖြစ်နေ၏။ သမီးငယ်ကို ကောက်ယူပြီး ခေါင်းပေါ်သို့

မြှောက်တင်ဝှေ့ယမ်းကာ ပေါင်ပေါ် တွင် တင်လိုက်သည်။ ကော်နယ်လီယာက ပျော်လွန်းသဖြင့် တခစ်ခစ်ရယ်နေ၏။

"တော်လောက်ပါပြီ မစ္စတာကက်စတာ၊ ဒါနဲ့ ကလေးက တော်တော်နဲ့ အိပ်တော့ မှာ မဟုတ်တော့ဘူး၊ လာ လာ... သမီးကလေး လာ"

ဒစ်စီက အခန်းဝမှ လှမ်းခေါ်သည်။

"လာပါဦး သမီး၊ မေမေ့ဆီကို"

အယ်လီနာက ကော်နယ်လီယာကို လှမ်းပွေ့ယူပြီး ငုံ့နမ်းလိုက်သည်။

"သမီးကလေးက ချစ်ဖို့ မကောင်းဘူးလား ဟင် . . . မောင်"

အယ်လီနာက ကော်နယ်လီယာ့ ခေါင်းပေါ်မှ ကျော်ပြီး ကက်စတာ့ကို လှမ်းပြောလိုက် သည်။

အယ်လီနာ့ လက်ထဲတွင် ကော်နယ်လီယာ ခုန်ဆွ ခုန်ဆွလုပ်ပြီး သူ့အဖေဆီသို့ လက် ဆန့်ကာ နောက်ထပ် ကစားဖို့ ပူဆာနေပြန်သည်။

ကက်စတာ ခေါင်းယမ်းပြီး-

"တော်လောက်ပြီနော် သမီး၊ အိပ်တော့နော်"

ကော်နယ်လီယာက ရှန်းရင်းကန်ရင်းနှင့် ဒစ်စီ လက်ထဲသို့ ပါသွား၏။

ကက်စတာက ဂုဏ်ယူဝင့်ကြွားသည့် မျက်လုံးများဖြင့် သမီးငယ်နောက်သို့ လိုက်ကြည့် နေသည်။

"သူ့ကို အတင်းအိပ်ခိုင်းတယ် ဆိုတာ သူသိတယ်၊ တွေ့လား. . . မကျေမနပ်နဲ့ ပါသွား တာ။ မယုံ ကြည့်နေ၊ မောင့်သမီးဟာ သိပ်ကို ထက်တဲ့ မိန်းကလေး ဖြစ်လာရမယ်"

အယ်လီနာက စာရင်းစာအုပ်တွေကို လှန်လှောဟန် ပြုနေရင်း-

"အင်း... ဉာဏ်လည်း ကောင်း မှာပါ"

"ပြီးတော့ သိပ်လှမှာ၊ သူ့မျက်လုံးတွေကို ကြည့်ပါလား၊ မောင်နဲ့ မတူဘူးလား ဟင်"

“တူပါတယ်၊ ဒါပေမဲ့ မေးစေ့က အယ်လီနာ့ မေးစေ့နဲ့ တူသလိုပဲ၊ မောင် စိတ်မရှိနဲ့ နော်”

“ကိုယ်လုံးကိုယ်ပေါက်ကတော့ မအေတူကလေး လာမှာပါ”

အယ်လီနာက ကက်စတာ့ကို ကျေးဇူးတင်စွာ ပြုံးပြလိုက်သည်။ ကက်စတာသည် ချစ်ဇနီးကို ဤသို့ နှစ်သိမ့်တတ်၏၊ ကြည်နူးစေတတ်၏။ သမီးကလေးနှင့် ပတ်သက်၍ အယ်လီနာ မည်သို့ ခံစားနေရကြောင်း သူ မသိ။ အယ်လီနာကတော့ ကော်နယ်လီယာနှင့် ပတ်သက်ပြီး သူ့တွင် ဖြစ်ပေါ်နေသည့် မနာလို ဝန်တိုစိတ်ကို ကက်စတာ မရိပ်မိပါစေနှင့်ဟု ဆုတောင်းနေရသည်။ ညစာ စားခန်းသို့ ထသွားရင်း ငါ ဒီလိုစိတ်ထားမျိုး ရှိတာ သဘာဝ မကျပါဘူးဟုလည်း အယ်လီနာ တယောက်တည်း စဉ်းစားလာသည်။

နောက်ပိုင်းတွင် ကော်နယ်လီယာကလေး ဖအေမှ ဖအေ ဖြစ်နေခြင်း အကြောင်းကို မေ့မေ့ပျောက်ပျောက် ထားပြီး အလုပ်ကိုသာ အာရုံစူးစိုက်ထားသည်။ ဝါခင်းလွင်ပြင်သည် လှသည်ထက် လှနေပြီ။ အပွင့်တွေ ဝေလာပြီ ဖြစ်၍ ရောမပန်းဥယျာဉ်ကြီးသဖွယ် ဖြစ်နေသည်။ သတင်းစာကို အမြဲစောင့်ဖတ်၏။ ဝါဈေးမှာ တက်နေဆဲဖြစ်၍ ဝမ်းသာမဆုံး ဖြစ်နေကြ၏။ ဩစတြီးယား ဟန်ဂေရီနိုင်ငံ၏ နန်းလျာသစ် ချားလ်စ်ဖရန်စစ်မှာ နှုတ်ခမ်းမွေး အရှည်ကို အဖျားဘက်မှ အပေါ်သို့ တွန့်တက်နေသည့် ပုံစံအတိုင်း ထားသူ ဖြစ်၏။ ကွယ်လွန်သူ ဖရန်စစ် ဖာဒီနန်ထက် ဥပမိရုပ်ကောင်းသူ ဖြစ်၏။

ဝါဈေး အခြေအနေကို ကြည့်ပြီး အယ်လီနာက အသုံးအဆောင် ပစ္စည်းကလေးများ ဝယ်ရဲစ ပြုလာ၏။ ကော်နယ်လီယာအတွက် အဝတ်အစားနှင့် ကစားစရာတွေ ဝယ်နေရင်း ချီတုံချတုံဖြင့် မိမိအတွက်ပါ အဝတ်အစားအချို့ ဝယ်လိုက်သည်။ ဒူးအထိဖုံးသည့် တာဖက်တာ စကတ်အနက်၊ ရင်သားအလှကို ဖော်ကျူးနိုင်မည့် ပိုးတွန့် ဂျော်ဂျက်ဘလောက်စ်နှင့် သရဖူ ဆန်လှသည့် ဦးထုပ်အနက်တလုံး၊ ငှက်မွေးသုံးတောင်က တလွင့်လွင့် ထောင်လျက်။

အိမ်ရောက်လို့ ဝတ်ပြတော့ ကက်စတာက အမြတ်တနိုး ကြည့်ပြီး-

“ကြည့်စမ်း လှလိုက်တာကွယ်”

ကက်စတာက ဝါခင်းပြင်ဘက်သို့ လက်ဝှေ့ယမ်းပြပြီး-

“ခု ဈေးအတိုင်း ဆိုရင်တော့ အချစ်အတွက် အဝတ်အစားတင် မကဘူး၊ ကားပါ ဝယ်ပေးနိုင်မှာပါကွယ်။ မောင့် မိန်းမကို ကိုယ်ပိုင်ကား စီးစေချင်နေတာ၊

သိလား၊ ကုတ်အင်္ကျီ ကိုတော့ မြေခွေးမွေးပွ ကော်လာနဲ့ ဝယ်ပေးရမယ်”

နှစ်ယောက်သား ပြုံးကြသည်။ တက်ညီလက်ညီ လုပ်အားကြောင့် ရရှိမည့် အသီးအပွင့် တွေကို မှန်းကြည့်ပြီး အားတက်နေသည့် အပြုံးများ။

ဇူလိုင်လလယ်လောက်တွင် ဝါပွင့်ကလေးများ ပန်းနုရောင်သို့ ပြောင်းစပြုလာသည်။ ရာသီဥတုမှာ လူတွေအတွက် မခံနိုင်လောက်အောင် ပူလာပြီ။ သို့သော် သည်ရာသီဥတုမျိုးက ဝါဂွမ်းအတွက်တော့ အကောင်းဆုံး ဖြစ်၏။ ဝါဖျက်ပိုးဟူ၍ သည်နှစ် ဝက်သစ်ချမြိုင်တွင် လုံးဝ မရှိ။ စိုက်ရက် စောသည့် ဝါခင်းများတွင် ပွင့်ချပ်ကလေးများ တဖြုတ်ဖြုတ်ကြွေပြီး အစိမ်းရောင် ဝါသီးကလေးများ အပင်တွင် တွဲလဲခိုနေကြပြီ။ ဝါသီးများမှ ဝါဂွမ်းတွေ ပွင့်အာလာမည့် အချိန်ကို အယ်လီနာက စိတ်လှုပ်ရှားစွာ စောင့်နေ၏။ ထိုအချိန်တွင် ကက်စတာ တယောက် စောစောပိုင်းကလို အားတက်သရော မရှိတော့သည်ကို တွေ့ရ၍ အယ်လီနာက နားမလည်နိုင်အောင် ဖြစ်နေ၏။

တနေ့ နေ့လယ်တွင် ညှော်ခန်းထဲ၌ သတင်းစာတစောင်၊ ဖန်ခွက်တလုံးနှင့် ခြေပစ် လက်ပစ် ထိုင်နေသော ကက်စတာ့ကို အယ်လီနာက-

“မောင် ခုတလော ဘယ်လို ဖြစ်နေလဲဟင်၊ ဘာလဲ... နေပူရှိန်ကို မခံနိုင်တော့ လို့လား”

“မိန်းမရယ်၊ မင်းလည်း သေလုအောင် ပင်ပန်းလှပါပြီ၊ လာ ထိုင်စမ်းပါဦး”

ကက်စတာက ရယ်ရယ်မောမော ပြန်ပြော၏။

အယ်လီနာက စိတ်မပါ လက်မပါဖြင့် သူ့အနား သွားထိုင်သည်။ ကက်စတာက သတင်းစာကို ချလိုက်ပြီး-

“မောင် ပြောပြမယ်၊ ဝါပွင့်တဲ့ အချိန်နဲ့ ခူးတဲ့ အချိန်ကြားမှာ ဘာမှ လုပ်ဖို့ မလိုဘူး၊ မိုးကလေး တပြိုက်နှစ်ပြိုက် အရွာကိုပဲ စောင့်ရတယ် ခင်ဗျ”

“အယ်လီနာတော့ သိပ် အားမလို အားမရ ဖြစ်နေတာပဲ မောင်ရယ်၊ ဒီအတိုင်း ထိုင်နေ ရမယ် ဟုတ်လား”

“ဒီအခြေအနေ ရောက်အောင် မင်း ကူလာတာတွေ မနည်းတော့ပါဘူး အယ်လီနာ ရယ်”

အယ်လီနာက ဘာမျှ ဆက်မပြောတော့။ အခန်းထဲတွင် သိပ်မပူလှ၊

လေကလေး တဖြူးဖြူးနှင့် ခန်းဆီးတွေ တလွင့်လွင့် ဝဲနေသည်။ ပင်စိမ်းနံ့ သင်းသင်းကို သတိပြုလိုက် မိ၏။ ကြက်ဥနှင့် ဖောက်ထားသည့် အရက်နံ့။

"ကက်စတာနော်"

"ဪ. . . အချစ်ရယ်၊ မောင် မူးအောင် မသောက်ပါဘူး ဆိုနေ။ မောင် ကတိပေး ထားပြီပဲ၊ မောင် လုံးဝ မသောက်တော့ဘူးလို့ ပြောတာမှ မဟုတ်ဘဲ၊ လျှော့ပါ့မယ်လို့ပဲ ကတိပေးတာပဲ။ ဒီ ဆေးအရက်ကလေး ဘာကလေးတော့ တခါတလေ သောက်မှာပေါ့ ၊ မမူးစေရပါဘူး"

အယ်လီနာ ရယ်သည်။

"အနံ့ကြီးက တမျိုးကြီး၊ ကောင်းလို့လား ဟင်"

"စမ်းကြည့်လေ၊ ကြိုးဆွဲလိုက်၊ ရေခဲသေတ္တာထဲမှာ သုံးလုံး ရှိသေးတယ်။ ရေခဲတွေ ပုလင်းမှာ အဆုပ်လိုက် ကပ်လို့"

သူ ပြောသည့်အတိုင်း မြည်းစမ်းကြည့်တော့ အရသာ တွေ့သွား၏။

"ရှေ့ဆုံးစာမျက်နှာက စာလုံးမည်းကြီးတွေနဲ့ ဘာသတင်းထူးလဲ မောင်"

"နယူးအော်လင်း အနီးမှာ ရထားခားပြတိုက်မှုလေ"

ကက်စတာက သတင်းစာကို ကောက်ပြီး အခေါက်လိုက်အတိုင်း ကိုင်၍ ပြန်ဖတ် နေ၏။ အယ်လီနာက မျက်နှာချင်းဆိုင်မှ သတင်းစာကို ကြည့်ပြီး ဇောက်ထိုးဖြစ်နေသည့် သတင်းခေါင်းစဉ် တခုကို တလုံးချင်း ဖတ်နေသည်။

"ရာဇသံ၊ အဲ … ဆာဗီးယားသို့ ရာဇသံ ပေးလိုက်ခြင်း တဲ့"

"အယ်လီနာကလည်းကွာ၊ ဒီမှာ ခားပြမှုအကြောင်း အေးအေးဆေးဆေး ဖတ်ပါ ရစေ"

"ရာဇသံပေးသည့် ကန့်သတ်ချိန်မှာ ရက်… အနည်း… ငယ်သာ ရှိ… ခြင်း… တွေ့လား မောင်၊ အယ်လီနာ ဇောက်ထိုး စာဖတ်တတ်တယ်"

"ဇောက်ထိုး ဖတ်တတ်ရင်လည်း တခြားစာ သွားဖတ်ကွာ၊ ဒီမှာ အာရုံပျက်တယ်"

အယ်လီနာက ကုလားထိုင်ကို နောက်သို့ ပစ်မှီပြီး ထိုင်လိုက်၏။

အေးစိမ့်နေသည့် အရက်ချိုကို အရသာခံ သောက်နေမိ၏။ ဝါခင်းကို အခိုက်အတန့်အားဖြင့် လွှတ်ထားလို့ ရရင် အခြားလုပ်စရာတွေ တပုံကြီး။ ကော်နယ်လီယာကလေးမှာ ဝယ်ပေးထားသည့် အင်္ကျီတွေ အားလုံး ကျပ်ကုန်ပြီ၊ အစတွေ ဝယ်ပြီး ချုပ်ပေးရမည်၊ မတ်တတ်ပြေးစ ပြုနေပြီ ဖြစ်၍ ဘောင်းဘီ အပွကြီးတွေနှင့် သိပ်မလိုက်တော့။

ကော်နယ်လီယာသည် ကက်စတာ၏ အသည်းကျော်မကလေး ဖြစ်နေ၏။ သို့ရာတွင် စကားပြောသင့်သည့် အရွယ်ထိ မပြောဘဲ ရှိသောအခါ ကက်စတာတယောက် စိတ်ခတ် အကျကြီး ကျလျက်ရှိသည်။ အချို့ကလေးများ စကားပြော နောက်ကျတတ်ကြောင်း အယ်လီနာ ဘယ်လိုပြောပြော ကက်စတာ လက်မခံ။ "ဖေဖေ" ခေါ်ဖို့ကို ကြိုးကြိုးစားစား သင်သည်။ မရ။ ကက်စတာက ဒက်ဒီတို့၊ ပါပါတို့ အခေါ်မခံချင်ဟု ဆို၏။ ကလေးတယောက်အတွက် "ဖေဖေ"ဆိုသည့် စကားလုံးသည် အလွယ်ဆုံး စကားလုံး ဖြစ်သည်ဟု ဆို၏။

သူတို့လင်မယား နှစ်ယောက်အဖို့ ဝါခင်းနှင့် ကော်နယ်လီယာက လွဲပြီး အခြား စိတ်ဝင်စားစရာ မရှိကြ။

"ဥရောပတွင် စစ်ရိပ်စစ်ငွေ့ သန်းနေပြီ" ဟူသည့် သတင်းစာ ခေါင်းကြီးကိုပင် နာရီဝက်ထက် ပိုပြီး မဆွေးနွေးဖြစ်ကြ။ နောက်တနေ့ သတင်းစာတွင် "ဩစတြီးယားတပ်များ ဆာဗီးယားကို ဝင်တိုက်ပြီ"

ဟူသည့် သတင်းကို ဖတ်ပြီး ကက်စတာက ရယ်ရယ်မောမောနှင့်ပင်-"အမေရိကန်တွေကတော့ ဩစတြီးယားကို ထောက်ခံကြမှာပဲ၊ မကြာသေးခင်က စပိန်တွေကို မောင်းထုတ်ခဲ့တဲ့ အဖြစ်မျိုးနဲ့ တူနေတာကိုး"

အယ်လီနာက ပြုံးသည်။ ထိုတခေတ်ကို ပြန်လည် မြင်ယောင်လာ၏။

"သိပ်ပျော်စရာ ကောင်းတာပဲနော်၊ အဲဒီတုန်းကလေ အယ်လီနာ ရှစ်နှစ်သမီးပဲ ရှိသေး တယ်၊ ကျောင်းသွားရင် ကြွေးကြော်သံ စာတန်းပါတဲ့ ကြယ်သီးတပ်ပြီး ကျောင်းတက်ရတယ် လေ"

"ဟုတ်တယ် . . . မောင်တို့လည်း ဒီအတိုင်းပဲ၊ မျိုးချစ်စိတ်တွေ တက်ကြွပြီး ကြက်သီး တဖြန်းဖြန်း ထနေတော့တာပဲ၊ တပ်ထဲဝင်ဖို့ အသက်မပြည့်တာကို ဒေါပွလို့ မဆုံးခဲ့ဘူးလေ။ စစ်သားစုဆောင်းရေး ကြွေးကြော်သံတွေကလည်း သိပ် အားတက်စရာ ကောင်းတာပဲ"

အယ်လီနာက ခေါင်းညိတ်ပြီး သတင်းစာကို ပြန်ငုံ့ကြည့်သည်။

“ဩစတြီးယန်းတွေက သူတို့ရဲ့ အချိန်ကို တန်ဖိုးရှိရှိ အသုံးမချဘဲ အလကား ဆွဲနေ တယ်၊ အိမ်ရှေ့မင်းသား အသတ်ခံရတာဖြင့် တလကျော်ရှိပြီ”

“နေရာတကာ အလောသုံးဆယ် လုပ်လို့ ရတာမျိုး မဟုတ်ဘူး အယ်လီနာရဲ့”

နေ့လယ်ပိုင်းတွင် ဝါခင်းမှ စောစော ပြန်ခဲ့ကြသည်။ ဝါပွင့်တွေမှာ အလုအယက် ဖူးပွင့်နေကြ၍ အထူးအထွေ လုပ်စရာမရှိဘဲ အလုကြည့်နေဖို့သာ ကောင်းသည့် အချိန် မဟုတ်လား။ နေမှာ ပူပြင်းလွန်း၍ ကက်စတာက ရေအေးအေးကို တနာရီလောက် စိမ်ချိုး လိုက်မည်ဟု ကြုံးဝါး၏။ အယ်လီနာက သူ့ကိုယ်ပိုင် ရေချိုးခန်းထဲမှ ထွက်လာသည်။ လန်းလန်း ဆန်းဆန်း ကုံ့ကော်ပန်း။ ပေါင်ဒါနံ့ကလေး သင်းတပျံ့ပျံ့နှင့်။ ခန်းမ၏ တဖက်ခြမ်းရှိကက်စတာ၏ ရေချိုးခန်းဆီသို့ အော်ပြောလိုက်သည်။

“မောင်ရေ. . . ခုထိ ရေစိမ်နေတုန်းလား”

“ဟုတ်တယ်၊ တနေကုန် စိမ်နေတော့မယ်”

“သတင်းစာ မဖတ်တော့ဘူးလား၊ ဥရောပက စစ်ချီသီချင်းတွေ အကြောင်းလေ”

“အဲဒါကြောင့် ရေချိုးခန်းထဲက မထွက်တာပေါ့၊ ဒီမှာ အေးအေးဆေးဆေး ဖတ်မယ်၊ သတင်းစာ မောင့်ဆီ ယူလာပေးလေ”

အယ်လီနာက သတင်းစာ သွားပို့ပေးပြီး ကော်နယ်လီယာ၏ အခန်းဆီသို့ လျှောက်သွား သည်။ ကော်နယ်လီယာကလေး အိပ်ရာမှ နိုးနေပြီ။ တယောက်ယောက် လာအခေါ်ကို စောင့်နေဟန်ဖြင့် ငြိမ်နေ၏။ ကလေးကို ပုခက်တွင်းမှ ယူပြီး သူ့အတွက် သီးသန့်လုပ်ပေးထား သည့် ရေချိုးကန် ငယ်ငယ်ကလေးထဲတွင် ထည့်၍ ရေချိုးပေး၏။ ကက်စတာ့ အော်ခေါ်သံ ကြားရသည်။ အလုပ်ရှုပ်နေကြောင်း ပြန်အော်ပြောလိုက်သည်။

ကလေးကို ရေချိုးပြီးတော့ ပေါင်ပေါ်တွင် ထိုင်ခိုင်း၏။ တကိုယ်လုံး ပေါင်ဒါဖြူး ပေး၏။ ကော်နယ်လီယာကလေး ပျော်နေသည်ကို ကြည့်ပြီး သဘောကျနေမိ၏။ ကက်စတာ ဝင်လာသည်။ ဝတ်ရုံကြီး ဖိုးရိုးဖားရားနှင့် လက်ထဲတွင် သတင်းစာကို ကိုင်လျက်-

“အယ်လီနာ ဒါ ဖတ်ပြီးပြီလား”

"ဘာလဲ မောင်"

ကလေးအတွက် အဝတ်ခေါက်တွေ ယူပြီး ဒစ်စီ ဝင်လာသည်။

ကက်စတာက အယ်လီနာ့မျက်နှာရှေ့သို့ သတင်းစာ ထိုးပေးလိုက်၏။

"ဥရောပတွင် စစ်ရိပ်စစ်ငွေ့များ လွှမ်းမိုးလာခြင်း၊ ဩစတြီးယားက ဆာဗီးယားကို စစ်ရေးအရ ဖြေရှင်းမည် ဆိုခြင်း၊ ဂျာမန်ဘုရင် ကိုင်ဇာက ထာဝရ မဟာမိတ်နိုင်ငံဘက်မှ မားမားမတ်မတ်။ ဟင်... ကက်စတာ"

ကော်နယ်လီယာကလေးကို လက်တဖက်ဖြင့် ပွေ့ပြီး အယ်လီနာ ဝုန်းခနဲ ထရပ် လိုက်၏။ သတင်းစာကို ကက်စတာ့ လက်ထဲမှ ဆတ်ခနဲ ဆွဲယူလိုက်သည်။ ဆာဗီးယားနိုင်ငံ ၏ အိမ်ရှေ့မင်းသား အယ်လက်ဇန်းဒါးနှင့် ပြင်သစ်ဝန်ကြီးချုပ်ကတော် မဒန်ကေးလောက် ၏ ပုံအကြားတွင် ခေါင်းစဉ်ငယ်နှင့် သတင်းတပုဒ်ကို လှမ်းမြင်လိုက်ရ၍ ဖြစ်၏။

"ကမ္ဘာ့ကုန်သွယ်မှုလောက ရပ်ဆိုင်းပြီ။ ဥရောပ ငွေကြေးလဲလှယ်မှု၊ ဝေါလ်စထရိ၊ ဝါဂွမ်းဈေး ထိုးကျ"

ဒစ်စီက အယ်လီနာ့ဆီသို့ ပြေးလာသည်။

"မမလေး. . . ဘာဖြစ်လို့လဲ ဟင်၊ ဘယ်သူ သေလို့လဲ ဟင်"

"ကလေးကို ခေါ်သွားစမ်း"

အယ်လီနာက မော်မကြည့်ဘဲ စက်ရုပ်အသံဖြင့် ပြောလိုက်သည်။

သတင်းဆောင်းပါးကို ဆက်ဖတ်နေသည်။ စာကြောင်း တကြောင်းကို မျက်လုံးစိုက် နေမိ၏။

"ဝါဂွမ်းဈေး ကျဆင်းနေပုံကို နယူးယောက်နှင့် နယူးအော်လင်း တို့တွင် ..."

အယ်လီနာ သတင်းစာကို အောက်သို့ နှိမ့်လိုက်၏။ ကက်စတာက ရေချိုးဝတ်ရုံ အင်္ကျီ အိတ်ထဲသို့ လက်နှိုက်လျက် ရပ်နေဆဲ။ အယ်လီနာ ဘာပြောမလဲ ဆိုသည်ကို စောင့်ကြည့် နေသည့် အလား။

"လာ.... မောင်၊ အယ်လီနာ့ အခန်းကို သွားရအောင်"

အခန်းတွင်းသို့ ရောက်တော့ တံခါးပိတ်လိုက်ကြသည်။ အယ်လီနာက

ထိုင်ချလိုက်ပြီး စကတ်မှ ခါးစည်းကြိုးကို လိမ်ကျစ်နေ၏။

"ဘယ်လိုထင်လဲ အယ်လီနာ"

ကက်စတာက စ မေးလိုက်သည်။

"ဘာထင်ရမှန်းကို မသိတော့ဘူး၊ ဒီအိမ်ရှေ့မင်းသား အသတ်ခံရတာနဲ့ ဝါဂွမ်းဈေးနဲ့ ဘာဆိုင်လို့လဲဟင်"

ကက်စတာ ပခုံးတွန့်လိုက်ပြီး-

"မောင်လည်း သတင်းစာထဲ ပါသလောက်ပဲ သိတာ"

အယ်လီနာ ခါးစည်းကြိုးကို အထုံးကလေး ဖြစ်အောင် ထုံးနေ၏။ အခန်းထဲတွင် ကက်စတာ ခေါက်တုံ့ခေါက်ပြန် လျှောက်နေသည်။ သည်လို လုပ်နေခြင်းက အခိုက်အတန့် စိတ်သက်သာရာ ရစေသလိုလို။ ခဏနေမှ ကက်စတာ စကား စသည်။ ကမ္ဘာ့နိုင်ငံရေး အလှည့် အပြောင်းတွေ ရှိတိုင်း ကုန်သွယ်မှုလောကကို ဂယက်ရိုက်တတ်ကြောင်း ရှင်းပြသည်။ တဖြည်း ဖြည်းနှင့် လင်မယားနှစ်ယောက် စိတ်သက်သာရာ ရသွားအောင် အကောင်းဘက်မှ လှည့်တွေး ကြ၏။

"ဇူလိုင်လပဲ ရှိပါသေးတယ် မောင်ရယ်၊ စက်တင်ဘာလထိ ဈေးပို့ဖို့ အဆင်သင့်ဖြစ် မှာ မဟုတ်သေးဘူး၊ ဒီကြားထဲ အခြေအနေတွေ အများကြီး ပြောင်းနိုင်သေးတာပဲ မောင်"

"ဒီမယ် အယ်လီနာ၊ မောင် ဆီဘက်စတိန်ဆီ ဖုန်းဆက်မယ်၊ မကောင်းဘူးလား။ သူက ဝါပွဲစားပဲ၊ ဘာတွေ ဖြစ်နေတယ် ဆိုတာ သူ သိမှာပေါ့။ နေဦး၊ သတင်းစာက မနေ့က သတင်းစာနော်"

"ကောင်းတယ် မောင်၊ ခေါ်လေ။ အယ်လီနာလည်း နားထောင်ချင်တယ်၊ အယ်လီနာ ဒီဖုန်းကနေ နားထောင်မယ်။ မောင် အောက်က သွားဆက်နော်"

ကက်စတာ အောက်ထပ်သို့ အပြေးဆင်းသွားသည်။ နယူးအော်လင်းသို့ ကက်စတာ တောင်းသည်။ ဆီဘက်စတိန်၏ ရုံးခန်းကို ရသည်။ အယ်လီနာက သူ့လိုင်းခွဲဖုန်းမှ နားထောင် နေသည်။

ဆီဘက်စတိန်၏ အသံမှာ ပင်ပန်းနွမ်းနယ်နေသံ။ သို့သော် ခပ်သွက်သွက် ရှင်းပြ သည်။ မနေ့ကတည်းက ဝါဈေး ထိုးကျနေကြောင်း၊ ယနေ့ထိ

ဆက်ကျနေကြောင်း၊ ကမ္ဘာ့ ဝါဂွမ်းဈေးကွက်ကြီး သုံးခုဖြစ်သည့် နယူးအော်လင်း၊ နယူးယောက်နှင့် လီဗာပူတို့တွင် အခြေအနေ ဆိုးရွားလျက် ရှိကြောင်း၊ သန်းကြွယ် ပွဲစားသူဌေးကြီးတွေက ဝါတွေကို ကျဈေးနှင့် တွန်းရောင်း နေကြောင်း။

"သူတို့ ဘာဖြစ်လို့ အဲဒီလို လုပ်ကြတာလဲ ဆီဘက်စတိန်"

"တိုတိုပြောရရင်တော့ ဥရောပမှာ စစ်ဖြစ်လာရင် အရောင်းအဝယ် အားလုံး ရပ်ဆိုင်း သွားတော့မယ်လေ၊ ဒါကြောင့် တွန်းထုတ်နေတာပေါ့။ အမေရိကန်ရဲ့ ဝါထွက်ကုန် သုံးပုံနှစ်ပုံ ကို အင်္ဂလန်က ယူနေကျ မဟုတ်လား၊ ခုတော့ မလွယ်ကြောဘဲ ကက်စတာ။ ကဲ... ဒါပဲ မဟုတ်လား ကက်စတာ၊ ကိုယ်တို့ ဒီမှာ သေလုအောင် အလုပ်ရှုပ်နေကြတယ်"

အယ်လီနာက နားထောင်နေရင်း အမှတ်မထင် ခေါင်းယမ်းနေ၏။

"ဒါထက် နေပါဦး ဆီဘက်စတိန်"

ကက်စတာ၏ စကား မဆုံးမီ ဆီဘက်စတိန်က ဖြတ်ပြီး-

"တဒင်္ဂအခြေအနေ ဆိုးတာပဲ ဖြစ်ပါစေလို့ ဆုတောင်းရတာပဲ ကက်စတာ။ ဘာပြု လို့လဲ ဆိုတော့ စစ်ဖြစ်ဖြစ်၊ မဖြစ်ဖြစ် လူတွေ အဝတ်ကတော့ ဝတ်ကြရမှာချည်း မဟုတ်လား။ ကဲ... ကိုယ် သွားစရာ ရှိသေးတယ် ကက်စတာ"

တဖက်မှ တယ်လီဖုန်း ချသွားသံ ကြားလိုက်ရ၏။ ခုတင်ပေါ်တွင် အယ်လီနာ ကျောက်ဆစ် ရုပ်တရုပ်လို ထိုင်လျက်။ ရင်တွေ ခုန်နေ၏။ အခြေအနေ အဆိုးကြီး မဟုတ်သေးပါဘဲလျက် တုန်တုန်ယင်ယင် ဖြစ်နေ၏။ ဆီဘက်စတိန်၏ အသံမျိုးတွေ ကြားဖူးခဲ့၏။ မြစ်ရေတွေ စိုးရိမ် ရေမှတ်ထက် ကျော်လာလျှင် ရေကာတာသမားတွေ ပြောကြသည့် အသံမျိုး။

"ဒါလောက်နဲ့ ဒီရေကာတာကြီး မကျိုးနိုင်ပါဘူးကွာ၊ မဟုတ်ဘူးလား"

သို့သော် သူတို့ မျက်လုံးတွေက ထိတ်လန့်တုန်လှုပ်နေကြသည့် မျက်လုံးများ။

"ဘုရား... ဘုရား"

အယ်လီနာက ဂုန်းခနဲထပြီး ကမန်းကတန်း အဝတ်လဲ၏။ ကျိုးလုလု ရေကာတာကို သဲအိတ်တွေ ထမ်းဖို့နေကြသည့် လုပ်သားတွေ၏ ခြေလှမ်းမျိုးဖြင့် အခန်းထဲမှ ပြေးထွက်ခဲ့၏။

လှေကားမှ ပြေးဆင်းသွားရင်း ကက်စတာ့ကို လှမ်းအော်ပြောသည်။

“အယ်လီနာ စာရင်းတွေ ပြန်ကြည့်ဦးမယ် မောင်၊ ညစာစားချိန်ကျမှ ထွက်ခဲ့တော့ မယ်၊ ဘယ်သူမှ လာမနှောင့်ယှက်စေနဲ့နော်”

စိတ်ထဲမှ ကျိတ်၍ တွက်ထားသည့်ဈေးမှာ တပေါင်လျှင် ၁၂ ဆင့်ဈေး ဖြစ်၏။ ခုတော့ သဲထဲရေသွန် ဖြစ်ရပြီ။ လုပ်ခတွေ ရှင်းပေးရေးကိစ္စ၊ သဘော်မတင်မီ ဆိပ်ကမ်းဂိုဒေါင် ငှားရမ်းရေးကိစ္စ၊ အားလုံး အသင့်ဖြစ်နေပြီးခါမှ ညစာ စားချိန်ရောက်မှ အလုပ်ခန်းထဲက ထွက်ခဲ့၏။ စားပြီးတော့ ကာမီယိုကို ကော်ဖီ တအိုး မှာခဲ့ပြီး အလုပ်ခန်းထဲသို့ ပြန်လာခဲ့သည်။

ဇက်ကြောတွေ တက်နေ၏။ ပခုံးတွေလည်း အောင့်နေသည်။ ည ၁၁ နာရီတွင် ခေါင်းထောင် ကြည့်လိုက်တော့ သတင်းစာကို စိတ်မပါဘဲ ဖတ်နေသည့် ကက်စတာ့ကို တွေ့ရ၏။

“ကက်စတာ၊ ခုနစ်ဆင့်တမတ်နှုန်းလောက်နဲ့ ရောင်းရမယ် ဆိုရင်တော့ ပေးစရာတွေ ပေးနိုင်မယ်”

ကက်စတာက စိတ်ဆိုးမာန်ဆိုးနှင့် ထလာပြီး-“ဒီမယ် မချော၊ ခုနစ်ဆင့်တမတ် ဟုတ်လား၊ မဖြစ်နိုင်တာကွာ၊ မင်းနှယ်”

“အယ်လီနာ သိပါတယ် မောင်ရယ်၊ ဒါပေမဲ့ မျှော်လင့်ချက်တော့ ထားသေးတာပေါ့။ အဲဒီလောက်မှ မရရင်လည်း အတိုးနဲ့ အခြား ပေးစရာ ကြွေးတွေ ဘာနဲ့ ဆပ်မလဲ၊ ပြီးတော့ နောက်နှစ် ဘာနဲ့ ဆက်အလုပ်လုပ်မလဲ၊ ပြီးတော့ နောင်နှစ်မှာ ဆပ်ရမယ့် အရင်းကိုကော ဘာနဲ့ ဆပ်မလဲ”

“ဘာမှ မျှော်လင့်မနေနဲ့၊ မင်း ပြောတဲ့ ဈေးလည်း ရမှာ မဟုတ်ဘူး”

“ဒါဖြင့် ဘယ်လို ဆက်လုပ်ကြမယ် ဆိုတာကော စဉ်းစားထားပြီလား”

“အိုကွာ.... အချိန်တန်တော့ စဉ်းစားတာပေါ့”

“ဩော်... အချိန်တန်တာနဲ့ ရစရာရှိတာကို ယူမယ့် လူတွေအကြောင်းကော မောင် မစဉ်းစားမိဘူးလား၊ အယ်လီနာ အဲဒီအကြောင်း ပြောရတာကော ပျော်နေတယ်လို့ မောင် ထင်နေသလား”

“အချစ်ပြောတာ ဟုတ်ပါတယ်ကွာ၊ မောင့်ကို ခွင့်လွှတ်ပါ”

ကက်စတာက ထလာပြီး အယ်လီနာ့ နဖူးပြင်ကို နမ်းသည်။

"အချစ်က တကယ် ခေါင်းအေးတယ်၊ ဒီလို အချိန်မှာ အမျိုးမျိုး လှည့်တွက်နေနိုင် သေးတယ်၊ မောင်ကတော့ လောလောဆယ် ခေါင်းပူနေပြီ၊ ဘာမှ မစဉ်းစားနိုင်သေးဘူး"

အယ်လီနာ သူ့ရင်ခွင်သို့ မှီထားလိုက်၏။ စိတ်ပန်း လူနွမ်း ဖြစ်နေပြီ။

"အယ်လီနာက လုပ်ခကို ပေါင် တရာ၊ ဆင့် လေးဆယ်နှုန်းနဲ့ ရှင်းပေးမယ်လို့ တွက်ထားတာ၊ ခုတော့..."

မျက်လုံးတွေကို လက်နှင့် တချက်ပွတ်လိုက်ပြီး-

"ထွန်စက် ဝယ်မယ်၊ ဝက်သစ်ချမြိုင် ဝါခင်းကို စက်မှုစိုက်ခင်း လုပ်မယ်၊ ကော်နယ် လီယာအတွက် အဝတ်အစားတွေ ဝယ်ပေးမယ်လို့ စီစဉ်ထားတာတွေ..."

ကက်စတာက အယ်လီနာ့ ပခုံးကို သိုင်းဖက်လိုက်ပြီး-

"မောင်လည်း ဘာပြောရမှန်းတောင် မသိတော့ဘူးကွယ်၊ အချစ်ဟာ သိပ်တော်တဲ့ ဇနီးတယောက်ပါ ၊ ခုတော့ မင်းထက် မောင် ပိုပြီး စိတ်ဓာတ်ကျနေတယ် သိလား အယ်လီနာ"

အယ်လီနာ ကက်စတာ့ လက်ကို တင်းတင်း ဆုပ်ကိုင်လိုက်သည်။ ဆက်ပြောလျှင် ငိုသံပါလာမည် စိုး၍ ဘာမျှ မပြောဘဲ ငြိမ်နေလိုက်သည်။

နောက်တနေ့ မနက်တွင် ထုံးစံအတိုင်း ကွင်းထဲသို့ နှစ်ယောက်သား မြင်းကိုယ်စီ စီး၍ ထွက်ခဲ့ကြ၏။ ဘဲဂရိတ်တွင် တိုက်ပွဲကြီးတွေ ဖြစ်နေသည်ကို ဝက်သစ်ချမြိုင် ဝါခင်းက ဘာမျှ မသိသလို ဖူးမြဲ၊ ပွင့်မြဲ၊ ဝေဆာမြဲ။ ကက်စတာက သူ့တသက်တာတွင် ဤမျှ ကောင်းမွန်သည့် ဝါမျိုး မမြင်ဖူးသေးကြောင်း၊ သည်နှစ် ဝက်သစ်ချမြိုင် ဝါသည် ကမ္ဘာပေါ်တွင် အကောင်းဆုံးဝါ ဖြစ်မည့် အကြောင်း ဂုဏ်ယူဝင့်ကြွားစွာ ပြောနေ၏။

"ဝါ ကောင်းပြီး ဈေးမကောင်းတော့ကော ဘာထူးမှာလဲ မောင်ရယ်" ဟု အယ်လီနာ က ညည်းညူလိုက်သည်။

"ဘယ်ပြောနိုင်ဦးမလဲ အယ်လီနာရဲ့၊ ရောင်းမယ့် အချိန်က ခုနစ်ပတ်တောင် လိုသေး တာပဲ"

အယ်လီနာက ခေါင်းငုံ့ပြီး မြင်းလည်ဆံမွေးများကို သပ်ရင်း-

"ဟုတ်သားပဲနော်၊ အယ်လီနာကိုက အစိုးရိမ်ကြီးပါတယ်လေ၊ ဒါပေမဲ့ မောင်ရယ် . . .

ရင်လေးနေတာတော့ အမှန်ပဲ"

"တော်ပါတော့ အယ်လီနာရယ်"

ကက်စတာ မြင်းဇက်ကို ချာခနဲ ဆွဲလှည့်လိုက်ပြီး အိမ်ဘက်သို့ ပြန်၍ အသော့နှင်လေ တော့၏။ အယ်လီနာက နောက်မှ စီးလိုက်သွားသည်။

အိမ်ရောက်တော့ ကက်စတာ့ကို တယ်လီဖုန်းနားတွင် တွေ့ရ၏။

"နယူးအော်လင်းကို ထပ်ဆက် မေးကြည့်ဦးမယ်၊ ဒီနေ့ အခြေအနေတမျိုး ဖြစ်ချင် ဖြစ်လာမှာ၊ နားထောင်ချင်ရင် အပေါ်ဖုန်းက သွားနားထောင်လေ"

အယ်လီနာက အပေါ်ထပ်သို့ တက်လာပြီး နားထောင်သည်။ တယ်လီဖုန်းကို ကိုင်ပြီး စိတ်ငြိမ်အောင် မနည်းထိန်းထားရ၏။ ဆီဘက်စတိန်ကို တော်တော်နှင့် ခေါ်မရ။ အတန်ကြာမှ အဆက်အသွယ် ရသည်။ ဆီဘက်စတိန်၏ ရုံးခန်းထဲတွင် လူသံသူသံတွေ ဆူညံနေ၏။ ကက်စတာက မေးသည်။

"ဆီဘက်စတိန်၊ အခြေအနေ ဘယ်လိုလဲ၊ ပြောစမ်းပါဦး"

ဆီဘက်စတိန် သက်ပြင်းချသည်။

"ကျုပ်လို့ ကောင်းတုန်းပဲ"

"အခြေအနေ ပြောပါဦးကွ၊ ဘာတွေ ဖြစ်နေပြီလဲ"

"ဟ မင်း သတင်းစာ မဖတ်ဘူးလား၊ ရုရှားကလည်း စစ်ပြင်နေပြီ။ ဒီညနေ ဘယ် တိုင်းပြည်တွေ ဝင်လာဦးမယ် ဆိုတာ ဘုရားသခင်မှ သိမှာပဲ"

ကက်စတာက မေးခွန်းတွေ ထပ်မေးသေးသည်။ ဆီဘက်စတိန်က တိုတိုတုတ်တုတ် ဖြေသည်။ သည်အကြောင်းကို ဘယ်သူနှင့်မျှ ဆွေးနွေးချင်ပုံ မရ။ နောက်ဆုံး ဆီဘက်စတိန်က စိတ်သက်သာရာရအောင် အကောင်းမြင်ဝါဒအရ အားပေးသည်။

"ဝါဂွမ်းတွေက ပွင့်တုန်း ရှိပါသေးတယ်ကွာ၊ စစ်ကလည်း ချက်ချင်း ပြီးချင်

ပြီးသွား မှာပါ”

“ပြည်တွင်းစစ် ဆိုရင်တော့ ထားပါတော့၊ ဒါပေမဲ့ တခြားနိုင်ငံတွေကို ကူးစက်ပြီး . .” ဆီဘက်စတိန်က ကက်စတာ၏ စကားကို ဖြတ်ပြီး-

“ကက်စတာကလည်းကွာ၊ ဒီနေ့ ဒီပြဿနာကို ရင်ဆိုင်နေရတာ မင်းတယောက် တည်း မဟုတ်ပါဘူး၊ ဝါဂွမ်း အရောင်းအဝယ်တခုလုံး အရှုံးမီးဝိုင်း ဖြစ်နေကြတာပါ။ ဒီမယ် မင်း စိတ်သက်သာရာ ရအောင် ငါပြောမယ်၊ ဒီတပတ်အတွင်း တို့ ဘယ်လောက် ကွဲတယ် မှတ်သလဲ”

အယ်လီနာက ဆက်နားမထောင်ရဲသလို တယ်လီဖုန်းကို ပြန်ချလိုက်သည်။ နဖူးကို လက်နှင့် ထောက်ထားလိုက်၏။ သည်မျှ ပူလောင်အိုက်စပ်နေသည့် အချိန်တွင် လက်တွေ အေးစက်နေကြောင်း သတိထားမိလိုက်၏။

တောက်ပသည့် နေရောင်ခြည်တွင် ဝါပွင့်တွေ ယိမ်းနွဲ့လှုပ်ရှားနေသည်ကို ပြတင်း ပေါက်မှ လှမ်းမြင်နေရ၏။ အယ်လီနာကို တမင် သရော်လှောင်ပြောင်နေကြသည့်အလား။ မြင်းတကောင်နှင့် ကွင်းနေရာအနှံ့ ချွေးတလုံးလုံး သွားလာလှုပ်ရှားခဲ့သည့် အချိန်တွေ၊ ခေါင်း တွေကိုက်၊ ကျောတွေ အောင့်လာသည်အထိ နေပူကျဲကျဲတွင် နေခဲ့ရသည့် အချိန်တွေကို ပြန်လည်မြင်ယောင်လာ၏။ ရုံးခန်းထဲတွင် လယ်ဂျာစာအုပ်ကြီးတွေနှင့် မအိပ်မနေ နပန်းလုံး ခဲ့ရသည့် ညတွေ၊ အထည်ဆိုင်ကို ဖြတ်သွားခိုက် သမီးလေး အရွယ်ဝတ် အဝတ်လှလှကလေး တွေကို မမြင်ချင်ယောင်ဆောင်ပြီး ရှောင်ထွက်ခဲ့ရသည့် အဖြစ်တွေ။ သည်တုန်းက အာရုံစိုက် ထားသည်မှာ ထောင်နှင့်ချီ၍ ထွက်ရှိမည့် ဝါဂွမ်းဘေထုပ်တွေ မဟုတ်လား။

ယခုတော့ မဆီမဆိုင် ဥရောပမင်းသားတပါးကို နာမည်အခေါ်ရခက်သည့် ရှုံးကြောင် ကြောင် လူတယောက်က သေနတ်နှင့် ပစ်သတ်လိုက်သည်နှင့် ဝါခင်းကြီးဘဝမှ တန်ဖိုးမဲ့ မြက်ခင်းကြီးအဖြစ် ရောက်ရတော့မည် တဲ့။ ဘာမျှ မတတ်နိုင်၊ လုပ်စရာလည်း မရှိ။ ဆောက်တည် ရာမရ ဖြစ်လာတော့ ခန်းမထဲတွင် ဟိုလျှောက် သည်လျှောက်နှင့် လင်မယားနှစ်ယောက် တယောက်ကို တယောက် အားပေးကြ၏။ ဂျာမနီက စစ်ထဲကို ဝင်ချင်မှ ဝင်လာမှာပါ ၊ ပြင်သစ်နဲ့ အင်္ဂလန်ကကော၊ ဩစတြီးယား အိမ်ရှေ့မင်းသား သေတာ သူတို့ အနေသာ ချည်းပဲ၊ ဩစတြီးယား နန်းပရိဝုဏ်ထဲမှာ သည်လိုပဲ လုပ်ကြံမှုတွေ ဖြစ်နေတာပဲ၊ ဘယ်တုန်း ကမှ မင်းသားကြီး ရှုဒေါ့ဖ်နဲ့ အယ်လီဇဘက် ဘုရင်မကြီးကို သွားပြီး စစ်မပြုကြပါဘူး၊ ထီးဆောင်းမင်း အချင်းချင်း ဝမ်းနည်းသဝဏ် ပါးလိုက်ရင် ပြီးတာပဲ။

ကက်စတာက ဆိုင်းမဆင့် ဗုံမဆင့်နှင့်-

"အယ်လီနာရေ၊ မောင်တို့ ပါတီတပွဲလောက် လုပ်ကြရအောင်"

"ဘာ... ပါတီပေးမယ် ဟုတ်လား၊ မောင် ရူးသွားပြီလား ဟင်"

"မရူးပါဘူး၊ ဒီအတိုင်း ဆက်သွားရင် ရူးချင် ရူးလိမ့်မယ် အယ်လီနာ၊ လာ.. မောင်တို့ အပေါင်းအသင်းတွေ အကုန်ဖိတ်မယ်၊ မမ်မီကို ပြောထား၊ အသားညှပ်မုန့် များများ လုပ်ထားလို့။ မောင် မြေအောက်ခန်းထဲက အကောင်းဆုံး အရက်ပုလင်းတွေ သွားယူမယ်"

ပြောပြောဆိုဆို အယ်လီနာ့လက်ကို ဆွဲပြီး တယ်လီဖုန်းဆီသို့ ပြေးသွားသည်။ တယ်လီဖုန်း ကို မပြီး နံပါတ်တခုကို တောင်းသည်။ အယ်လီနာက အကြောင်းသား ငေးလျက်...။

"ဟေး... ဝိုင်အိုလက်၊ ကက်စတာပါ၊ မင်းနဲ့ ဘော့နဲ့ ည ခုနစ်နာရီမှာ တို့အိမ်ကို လာကြ၊ ကြားလား။ အေး- အေး... ကမှာပေါ့ကွ၊ ဟုတ်ပြီ... စောင့်နေမယ်နော်"

နောက် နံပါတ်တခုကို တောင်းပြန်သည်။ အယ်လီနာကို မော်ကြည့်ပြီး-

"အယ်လီနာ၊ မမ်မီကို သွားပြောလေ၊ မုန့်လုပ်ဖို့လေကွာ၊ ကာမီယို"

တဆက်တည်း ကာမီယိုကို အော်ခေါ်သည်။

"ဟဲလို နီးလ်လား၊ ကက်စတာပါ၊ ဒီည ကိုယ့်အိမ်မှာ ပါတီရှိတယ်၊ မောင်ရင်နဲ့ ကလယ်ရာနဲ့ လာခဲ့၊ သိလား။ ဘာ.... အို...... ဝါဂွမ်းကိစ္စ ခေါက်ထားလိုက်စမ်းပါ၊ လာ ဖြစ်အောင် လာနော်"

ကာမီယို အခန်းဝတွင် ပေါ်လာသည်။

"ကာမီယို၊ ဒီည ဧည့်သည်တွေ လာမယ်၊ ပါတီ ရှိတယ်၊ အားလုံး အသင့်ပြင်ထားစမ်း၊ အယ်လီနာ . . သွားလေ မမ်မီဆီကို"

အယ်လီနာက ရင်တွေ ခုန်နေသည့်ကြားမှ တခစ်ခစ်ရယ်ပြီး ကက်စတာ၏ နားရွက်ဖျားကလေးကို နမ်းလိုက်သည်။

"မောင်ဟာလေ၊ တကယ်ကို အံ့သြစရာ ကောင်းတဲ့ လူပဲ" ဟု ပြောပြီး ပြေးထွက် သွားသည်။

ည တနာရီတွင် ဧည့်သည်တွေ စုံနေပြီ။ ဧည့်ခန်းထဲတွင် ခေတ်စက်မှ သီချင်းသံသည် ပျံ့လွင့်နေ၏။

"မိန်းမများ ယူရင်ကွယ်၊ ချစ်သူလည်း ဖြစ်ရမယ်၊ တို့အဘိုးယူတဲ့ အဘွားလို တကယ်"

အယ်လီနာက ဘော့ပါ စယ်နှင့် တွဲကနေသည်။ ကက်စတာက အရက်တွင်တွင် စပ်ပေး နေ၏။ ဝါဂွမ်းအကြောင်း သိပ်မပြောဖြစ်ကြ။ နီးလ်ရှာရမီလို အထိနာသည့် လူတွေ ပါသော် လည်း အရက်ဝိုင်းတွင် ပျော်ပျော်ပါးပါး ဖြစ်နေ၏။ စားသောက်ပွဲကြီး ဝှဲချီးကျင်းပနေသည့် ဝက်သစ်ချ မြိုင်၏ အနာဂတ်ကို မည်သူမျှမသိကြ။ ချောက်ထဲကျဖို့ လက်နှစ်လုံးမျှသာ လိုတော့သည့် အဖြစ်ကို မည်သူမျှ မရိပ်မိကြ။ ထို့ကြောင့် မည်သူမျှ ကရုဏာ မသက်ကြ။ အယ်လီနာက အခိုက်တန့်အားဖြင့် အပျော်ကြီး ပျော်နေ၏။ ခါတိုင်း သောက်နေကျ စံချိန်ထက် နှစ်ခွက်ပိုသောက်ပြီး မြူးနေ၏။ ပထမဆုံးအဖြစ်ဖြင့် စီးကရက်ကိုပါ သောက်နေမိသည်။ စိတ်ထဲတွင် သောကတွေ မရှိတော့ဘဲ ပေါ့ပါးရွှင်လန်းနေ၏။

မနက် သုံးနာရီမှ ဧည့်သည်တွေ ပြန်သွားကြသည်။ ထိုညမှာ ကြာသပတေးနေ့ည ဖြစ်၏။ နောက်နေ့ အလုပ်ပိတ်ရက် မဟုတ်ဘဲ သည်အချိန်ထိ ဆွဲဆောင်ထားနိုင်သည့် ကက်စတာ ကို ဧည့်သည်များက ကောင်းချီးပေးသွားကြသည်။ ဝက်သစ်ချမြိုင်တွင် ကျင်းပသည့်ပွဲတိုင်း ပျော်စရာ မကောင်းသည့်ပွဲ ဟူ၍ မရှိခဲ့။ ဧည့်သည်အားလုံး ပြန်သွားတော့ အယ်လီနာ တယောက်ပိတ်ထားသည့် တံခါးမကြီးတွင် မှီရပ်ပြီး အငူသား ငြိမ်နေသည်။ ရှိသမျှ အင်အား တွေ ကုန်ခန်းသွားသလို လှေကားထစ်တထစ်တွင် အရုပ်ကြိုးပြတ် ထိုင်ချလိုက်သည်။ ခေါင်းတွေ အုံခဲပြီး အဆစ်အမြစ်တွေ ကိုက်လာသည်။

ကက်စတာက လာတွဲပြီး-

"ကဲ ... စိတ်ထဲ ပေါ့မသွားဘူးလား" လို့ မေးတော့ အသာ အလိုက်သင့် ခေါင်းညိတ် ပြလိုက်သည်။ ကက်စတာက ခါးကို ဖက်ပြီး အပေါ်ထပ်သို့ တွဲတင်ပေးသည်။ သူလည်း အနည်း ငယ် မူးနေပုံရ၏။ သို့သော် အယ်လီနာ အပြစ်မဆိုတော့။ အကြောင်းလည်း မဟုတ်တော့။

အလွန့်အလွန် ပင်ပန်းနွမ်းနယ်နေပြီ ဖြစ်သော်လည်း တော်တော်နှင့် အိပ်မပျော်။ ဝက်သစ်ချမြိုင်ကိစ္စကို ရင်လေးစွာ တွေးမိပြန်၏။ ဘယ်အချိန်မှ အိပ်ပျော်သွားသည် မသိ။ ကော်နယ်လီယာကလေး ခန်းမထဲတွင် ပြေးလွှားကစားနေသံကြားလို့ နိုးတော့ နံနက် ၁၁ နာရီ ထိုးနေပြီ။ ပူအိုက်နေသော်လည်း အခန်းထဲတွင် အလင်းရောင် သိပ်မရှိ။ အိပ်ရေးဝဝ အိပ်ရ

အောင် တယောက်ယောက် ခြေဖျားထောက် ဝင်လာပြီး ခန်းဆီးတွေကို ဆွဲပိတ်ပေးထားခြင်း ဖြစ်မည်။ ခုတင်ပေါ်မှ လျှောဆင်းလိုက်သည်။ ခြေညှပ်ဖိနပ် စွပ်ပြီး အခန်းထဲမှ ထွက်ခဲ့၏။ အခန်းတံခါးဝတွင် စက္ကူတရွက် ကပ်ထားသည်ကို တွေ့ရ၏။ ကက်စတာ့ လက်ရေးနှင့်။ "မစ္စအယ်လီနာကို မနှိုးကြနဲ့" တဲ့။ ပြုံးလိုက်မိသည်။ သြော်... မောင်ရယ်၊ ဘယ်လောက် ချစ်ဖို့ကောင်းသည့် မောင်ပါလဲ။

ဒစ်စီက ကော်နယ်လီယာ နောက်မှ ပြေးလိုက်လာသည်။ ကက်စတာ့အခန်းသို့ လှမ်း ကြည့်လိုက်၏။ တံခါးပွင့်နေသည်။ အထဲတွင် ရှိပုံ မပေါ်။

"နင့်အစ်ကိုလေးကော ဒစ်စီ"

"စောစောကတော့ အောက်ထပ်မှာ ရှိတယ်ရှင့်၊ ကော်ဖီယူခဲ့ရတော့မလား မမလေး"

"အေးအေး...ယူခဲ့"

အခန်းထဲသို့ ပြန်ဝင်ခဲ့ပြီး အဝတ်လဲသည်။ အကျင့်ပါနေ၍ မြင်းစီးအဝတ်ကို ကောက် စွပ်မိသည်။ ကော်ဖီသောက်သည်။ ပူလွန်း၍ နံနက်စာ စားချင်စိတ် မရှိ။ နေမြင့်နေပြီ။ ဝါခင်း ဆီကို သွားချိန်မရှိတော့။ အောက်ထပ်သို့ ဆင်းခဲ့၏။ ကက်စတာက လက်ဖက်ရည်အေးကို သောက်ရင်း သတင်းစာ ဖတ်နေသည်။ အယ်လီနာ့ကို မြင်တော့ ထရပ်ပြီး-

"ဟဲလို ဒါလင်... အချစ် နေကောင်းတယ်နော်"

"ကောင်းပါတယ် မောင်ရဲ့၊ မောင့်ထက် နေကောင်းသေးတယ်၊ မောင် ဘယ်နှနာရီ အိပ်ရလဲ ဟင်"

"မောင်က ခါတိုင်းအချိန်ပဲ နိုးနေတယ်လေ၊ ခြောက်နာရီမှာပေါ့"

"ခန်းဆီးတွေ ပိတ်ပေးထားတဲ့အတွက် ကျေးဇူးတင်ပါတယ် မောင်ရယ်"

အယ်လီနာက မွှေးမွှေးပေးလိုက်ပြီး သူ့ဆံပင်တွေကို ဖွနေသည်။

"ဘာ သတင်းထူးသေးလဲ ဟင်"

ကက်စတာ ရယ်သည်။

"ဩဂုတ်လ ဆယ့်ငါးရက်နေ့မှာ ပနားမားတူးမြောင်း ဖွင့်တော့မယ်တဲ့၊

ဖြတ်မယ့် သင်္ဘော ရှိ၊ မရှိတော့ မသိဘူး”

“အင်း . . . အယ်လီနာဖြင့် ပနားမားတူးမြောင်းအကြောင်း လုံးလုံးမေ့နေပြီ၊ ကြည့်စမ်း၊ လွန်ခဲ့တဲ့ လတုန်းကတော့ သိပ်တာစားတဲ့ သတင်းပဲနော်”

“အချစ် အဝတ်လဲလာပြီးမှတော့ ကွင်းထဲ တပတ်လောက် ပတ်လိုက်ကြရအောင် လား ဟင်”

အယ်လီနာက သူ့ကို တအံ့တသြ လှမ်းကြည့်လိုက်၏။

“အယ်လီနာက အိပ်ရေးဝတယ်၊ မောင်က ခြောက်နာရီကတည်းက နိုးတာဆို”

“အို.. မောင်က ရပါတယ်လေ”

မြင်းတွေကို အပြင်ခိုင်းလိုက်ပြီး အိမ်ထဲမှ ထွက်ခဲ့ကြသည်။ ကောင်းကင်တွင် တိမ် တစ တမျှင်မျှ မရှိ၊ ကြည်လင်နေ၏။ နေက ချစ်ချစ်တောက် ပူပြင်းချိန်၊ ကက်စတာက မိုးနဲ့ ရသည်ဟု ဆိုသည်။ မနေ့ညက ပျော်ခဲ့တာတွေ ခေါင်းထဲတွင် မကျန်ရစ်တော့။ ရှုမျှော်လို့ မဆုံးအောင် ကျယ်ပြောသည့် ဝါခင်းပြင်ပြီးနှင့် ဝါဈေးကိစ္စက လွှမ်းမိုးလာပြန်၏။ ကက်စတာ ကတော့ ကျိန်းသေဈေးပြန်တက်လာမည်ဟု ယုံကြည်နေ၏။ ဥရောပက လူတွေ လူသားပဲ စားနေစားနေ၊ အဝတ်မဝတ်ဘဲတော့ မနေကြပါဘူး တဲ့။ ကက်စတာက ရယ်ရယ်မောမောနှင့် ဟာသနှော၍ ပြောပြန်တော့လည်း အယ်လီနာ စိတ်လက်ပေါ့ပါးသွားရပြန်သည်။

အခင်းထဲတွင် ဘာမျှ လုပ်စရာ မည်မည်ရရ မရှိ။ နီဂရိုးတွေ စုပြီး အပျင်းထူနေကြ သည့် ယာတဲကလေးများကို ဖြတ်ပြီး စီးလာခဲ့ကြသည်။ ဝါသီးကလေးများ ပွင့်အာလာချိန်ကို လက်ပိုက်ပြီး စောင့်နေကြရသည့် အချိန် မဟုတ်လား။ တနေရာတွင် နီဂရိုးတသိုက် ဖရဲသီး ခုတ်တမ်း ကစားနေကြသည်။

သူတို့ သခင်နှင့် သခင်မကလေးကို မြင်တော့ ဖရဲသီးစိတ်တွေကို ကိုင်ပြီး ပြေးလာ ပို့ပေး၏။ ဖရဲသီးစိတ်တွေ စားရင်း အိမ်ဆီသို့ ပြန်စီးလာခဲ့ကြ၏။ သူတို့နှစ်ယောက်လုံး၏ မေးစေ့တွင် အရည်များ ရွှဲလျက်။

အိမ်ရောက်တော့ ကာမီယိုက သံကြိုးစာတစောင် ပေးသည်။

“ဆီဘက်စတိန်ဆီကလား မောင်” ဟု အယ်လီနာက အလောတကြီး မေးလိုက် သည်။

“ဟုတ်မယ်၊ သူ့ဆီကပဲ ဖြစ်ရမယ်၊ ထူးခြားရင် သံကြိုးရိုက်မယ်လို့ သူ ပြောထား တယ်”

ကက်စတာ ပြောပြောဆိုဆို စာအိတ်ကို ဖောက်သည်။ အယ်လီနာက သူ့ပခုံးပေါ်မှ ကျော်ပြီး သံကြိုးစာကို ဖတ်သည်။ သူ့တကိုယ်လုံး သွေးသားလည်ပတ်မှုအားလုံး ရပ်ဆိုင်း သွားသလို ခံစားလိုက်ရသည်။

“ယနေ့မနက် ၁၀ နာရီ ၂၆ မိနစ်တွင် နယူးအော်လင်း ဝါဂွမ်း အရောင်းအဝယ် လုံးဝပိတ်၊ သမိုင်းတွင် ပထမဆုံး အဖြစ်အပျက်၊ နယူး ယောက်နှင့် လီဗာပူးဈေးကွက်လည်း ပိတ်။ အချုပ်၊ ဝါဂွမ်းကို ရောင်းလို့ ရသည့်နေရာ ကမ္ဘာတွင် မရှိတော့၊ ဘယ်ဈေးနဲ့မှ ရောင်းလို့ မရတော့”

ဆီဘက်စတိန်

※※※

# အခန်း (၆)

## (၁)

သည်တော့လည်း စီးပွားရေး လေသင်တုန်း အဖြတ်ခံရသည့် တိုင်းပြည်တွင်နေရ သည့် အတွေ့အကြုံကို သူတို့တတွေ မြက်မြက်ကလေး ရရှိလိုက်ကြသည်။

ဗာဂျီးနီးယားပြည်နယ်မှသည် တက္ကဆက်သို့တိုင်အောင် အမေရိကန် တောင်ပိုင်း တပိုင်းလုံးမှာ ဝါဂွမ်းပေါ်တွင် မတ်တတ်ရပ်နေကြခြင်း ဖြစ်သည်။ အခြား အခြားသော စိုက်ပျိုးသီးနှံများ မထွက် မဟုတ်၊ အခြား စက်မှုလုပ်ငန်းများ မရှိ မဟုတ်။ သို့ရာတွင် ဝါဂွမ်း သည်သာ အမေရိကန်တောင်ပိုင်း၏ အဓိကထွက်ကုန် ဖြစ်၏။ အဓိကအားဖြင့် နေရောင်ခြည် ကို အားထားရသလို အမေရိကန်တောင်ပိုင်းတွင် ဝါဂွမ်းကိုလည်း အားထားနေရ၏။ နေရောင် ခြည်ကြောင့် အသက်ရှင်နေကြရသလို ဝါဂွမ်းကြောင့် အသက်ရှင်နေကြခြင်း ဖြစ်၏။ သည် အဖြစ်မျိုးနှင့် ကြုံရဆုံရမည်ဟု ဘယ်သူမျှ အိပ်မက်ပင် မမက်ဖူးခဲ့ကြ။ “အမေရိကန်တောင်ပိုင်း သားတွေက ကမ္ဘာကို အဝတ်ဆင်ပေးနေကြသည်”ဟူသည့် ဆိုရိုးစကားရှိသည် မဟုတ်လား။ စင်စစ် ယင်းဆိုရိုးစကားမှာ အလွန်အကျွံ တင်စားပြောသည့် စကား မဟုတ်။ ကမ္ဘာအရပ်ရပ် တွင် ပိုးလို ဖဲလို ဇိမ်ခံပစ္စည်းများနှင့် တန်ဖိုးကြီးလှသည့် သိုးမွေးထည်များ ထွက်သော်လည်း ချည်ထည်နှင့်ရော၍ ရက်ရသည်သာ ဖြစ်၏။ ဝါဂွမ်းသည် အမေရိကန်ပြည်၏ အဓိကထွက်ကုန် ဖြစ်၏။

အချို့နိုင်ငံမှာ အထည်စက်ရုံကြီးများက ဝါဂွမ်း ရရှိရေးအတွက် ကြိုတင်ငွေများ ပေးပြီး စာချုပ် ချုပ်ဆိုထားကြ၏။ အမေရိကန်အစိုးရက ဝါဂွမ်း အရောင်းပိတ်လိုက်ပြီး ကုန်တင် သင်္ဘောများကို ဆိပ်ကမ်းသို့ အကပ်မခံတော့၍ နယူးအော်လင်း မြစ်ရိုးတလျှောက်တွင် သင်္ဘောတွေ ပြည့်ကျပ်နေတော့၏။ စစ်ဖြစ်နေသည့် တိုင်းပြည်များမှ သင်္ဘောများလည်း ပါဝင်၏။ သမုဒ္ဒရာအစင်းစင်း၏ ဟိုမှာဘက်မှ သူတို့ တိုင်းပြည်များတွင် တိုက်ခိုက်နေကြ သော်လည်း မစ္စစ်စပီ မြစ်ရိုးတလျှောက်တွင် ကျောက်ချထားသည့် သင်္ဘောများမှ သင်္ဘော သားများကမူ တယောက်နှင့်တယောက် ရန်သူလို သဘောမထားကြ၊ အော်ဟစ်နှုတ်ဆက် ပြောဆို နောက်ပြောင်နေကြ၏။ သူတို့ ဘုရင်မင်းမြတ်များ သိလျှင်မူ သူတို့တတွေ

သက်သာကြမည် မဟုတ်။ ဥရောပတွင် ချည်ထည်ဈေးတွေ ခေါင်ခိုက်အောင် ထောင်တက်သွားသည်။ ချည်ထည်သည် လူကုံထံတို့သာ ဝတ်နိုင်သည့် အဝတ်အစား ဖြစ်နေပြီ။ အမေရိကန်တွင်ပင် တကိုက် ခြောက်ဆင့်အထိ ဖြစ်လာသည်။ ဝါ အရောင်းအဝယ် လုံးဝ ပိတ်လိုက်သည့်အတွက် ရလဒ်များ။

အယ်လီနာသည် အိပ်ရာမှ နိုးတိုင်း ဝါခင်းလွင်ပြင်ကြီးကို ကြည့်ပြီး ရင်ထဲတွင် နင့်သွားအောင် ခံစားရသည်။ ဖြစ်နိုင်လျှင် အိပ်ရာမှ မနိုးချင်။ သောကပွမ်းသည့် ရက်တွေ ကို မုန်းတီးစက်ဆုပ်လာသည်။ ကက်စတာ့ မျက်နှာကိုလည်း မကြည့်ရက်တော့။

ကက်စတာသည် စကားနည်းသည်ထက် နည်းလာ၏။ လက်ရှိ အခြေအနေအကြောင်း ကို လုံးဝ မပြောတော့။ ဘဏ်ကို ပေးရမည့် အတိုးအကြောင်းကိုလည်း လုံးဝ စကားမစပ်တော့။ သမီးကလေးနှင့် ကစားနေသည့် အခါများတွင် မျက်နှာမကောင်းလှဘဲ ကလေးအား ငေးကြည့် နေတတ်သည်ကို အယ်လီနာ သတိထားမိ၏။ ကော်နယ်လီယာသည် ဝက်သစ်ချမြိုင်၏ သတ္တမမြောက်မျိုးဆက် ဖြစ်၏။ သူကလေး လက်ထက်ကျမှ ဝက်သစ်ချမြိုင်ကို စွန့်ရတော့ မလို ဖြစ်နေ၏။ တကယ် အလုပ်လုပ်လျှင် ဘယ်အရာမဆို အောင်မြင်ရမည် ဟူသည်မှာ အယ်လီနာ၏ လောကအမြင် ဖြစ်၏။ ဘဝတိုက်ပွဲများတွင် ကျဆုံးပျက်စီးသူများသည် ဘယ်သူ မပြု မိမိမှုကြောင့်ဖြစ်၏ ဟုလည်း အယ်လီနာက စွဲစွဲမြဲမြဲ ယုံကြည်ခဲ့သူ ဖြစ်၏။ လူပျင်း လူညံ့တွေ၊ လူပေါ့လူသွမ်းတွေသာ အရှုံးနှင့် ရင်ဆိုင်ကြရသူတွေ ဖြစ်၏။ ယခုတော့ သူ့ခံယူ တွေးခေါ်မှုတွေ ပြောင်းပြိုပြောင်းပြန် ဖြစ်ကုန်ပြီ။

အိပ်ခန်းထဲတွင် ခေါက်တုံ့ခေါက်ပြန် လျှောက်နေမိ၏။ ခေါင်းတွေ ပူလောင် မူးဝေ လာသည်အထိ စဉ်းစား၏။ ဝက်သစ်ချမြိုင်ကို စွန့်ရမည်ဆိုလျှင် မိမိအတွက် ရောမတိုက်ပွဲကြီး တပွဲ ရှုံးခြင်းနှင့် အတူတူပင်။ သည်အရှုံးကို ရင်ဆိုင်ဖို့ ကြိုးစားတိုင်း ဒါ ငါ့အပြစ် မဟုတ်ဘူး၊ ကက်စတာ့အပြစ် ဟူသည့် အစွဲက ပေါ်လာပြန်သည်။ ဝါသမား မှန်သမျှ အားလုံး အရှုံးမီးဝိုင်း ဖြစ်နေကြသည်မှာ မှန်၏။ သို့သော် လူတိုင်းတော့ အိုးမဲ့အိမ်မဲ့ ဖြစ်ရလောက်အောင် အခြေ အနေမဆိုးကြ။ သည်အတွက် ကက်စတာကို တခွန်းမျှ မပြောတော့ပါဘူးဟု အခိုင်အမာ ဆုံးဖြတ်ထားသော်လည်း မပြောဘဲ နေနိုင်ဖို့ကိစ္စမှာ လွယ်သည့် ကိစ္စ မဟုတ်ကြောင်း တဖြည်း ဖြည်း နားလည်လာသည်။

ဖေဖေ့ဆီမှ စာရောက်လာသည်။ ဝါခင်းပိုင်ရှင်တွေ မျက်ဖြူဆိုက်နေကြသည့် ကိစ္စနှင့် ပတ်သက်၍ သူ ဘာအကူအညီ ပေးရမည်လဲဟု မေးလာ၏။ စာကို ကက်စတာအား ပေးဖတ် လိုက်သည်။ ကက်စတာက စာရေးစားပွဲသို့ ထသွားပြီး

စာပြန်ရေးသည်။

"လူကြီးမင်း၏စာကို ဖတ်ရ၍ အယ်လီနာတွင် ယခုလို ဂုဏ်ယူအားကိုးစရာ ဖခင် တယောက် ရှိနေကြောင်း သိရှိရပြီး အလွန်ကျေးဇူးတင် ဝမ်းသာရပါသည်။ သို့ရာတွင် ယခုလို ကျွန်တော်တို့အတွက် တွေးတောပူပန်ခြင်းသည် အချိန် စောလွန်းနေသည်ဟု ထင်ပါ သည်။ ဝါ ရောင်းဖို့အချိန်က လိုပါသေးသည်။ အနည်းဆုံး မိုးဦးရာသီတွင်တော့ အရောင်း အဝယ် ပြန်ကောင်းလာဖို့ မျှော်လင့်ပါသည်" စသည်ဖြင့် ရေးထားပြီး ဇနီးနှင့် သမီးကလေး၏ မာကြောင်း သာကြောင်းတွေ သတင်း ပါးထားသည်။

"ဘယ့်နှယ်လဲ၊ မောင် ထည့်လိုက်ရမလား"

"ထည့်လိုက်ပေါ့"

သတင်းစာကို ထောင့်ကြို ထောင့်ကြားမကျန် ဖတ်ကြသည်။ ဥရောပစစ်သတင်း ထက် ဥရောပသို့ ဝါဂွမ်းပိတ်ဆို့မှု သတင်းကို သိချင်နေကြ၏။ ဂျာမန်စစ်တပ်တွေ ပါရီသို့ ချီနေကြပြီ။ ရုရှားတပ်တွေက ပရပ်ရှား အရှေ့ပိုင်းကို ဖြတ်ပြီး ဘာလင်ဆီသို့ ဦးတည်နေ၏။ တဖက်ဖက်က အပြတ်နိုင်သွားလျှင်လည်း အကောင်းသား။ ဘယ်ဘက်ကနိုင်နိုင် အကြောင်း မဟုတ်။ ဒါမှ ရေကြောင်းပိတ်ဆို့မှုတွေ ပြီးဆုံးသွားမည် မဟုတ်လား။

စက်တင်ဘာ တလလုံး ဝါကောက်ချိန်။ လင်မယားနှစ်ယောက် အလုပ်ကို တက်ညီ လက်ညီ ကြိုးကြိုးစားစား ဆက်လုပ်ကြ၏။ လွန်ခဲ့သည့် သုံးလကတည်းက ကြိုတင်ငှားရမ်း ထားသည့် ဆိပ်ကမ်းဂိုဒေါင်များသို့ ဘေထုပ်တွေကို ပို့ထားသည်။ စုစုပေါင်း ဘေထုပ်ပေါင်း ၉၃၀ ရနေပြီ။ ဇူလိုင်လလောက်က ဒေါ်လာ ၅၀,၀၀၀ တန်ကြေးရှိခဲ့သည့် ဝါဂွမ်းထုပ်ကြီး တွေမှာ ယနေ့ နှစ်ဆင့်တောင် မတန်တော့။

ကက်စတာနှင့် အယ်လီနာ နယူးအော်လင်းသို့ သွားပြီး မစ္စတာ ရိုဘီဟောက်စ်နှင့် ဆွေးနွေးကြသည်။ ဘဏ်အနေဖြင့် ဝါခင်းရှင်များကို နောက်ထပ် ဘာမျှ မလိုက်လျောနိုင် ကြောင်း သိရ၏။ ပထမတော့ အယ်လီနာ စိတ်အပျက်ကြီး ပျက်သွား၏။ သည်လူကြီးတွေ၏ စာနာမှု ကင်းမဲ့ပုံကိုလည်း ဒေါသအမျက် ထွက်လျက်ရှိ၏။ တဖြည်းဖြည်း ဆွေးနွေးရင်း ဆွေးနွေးရင်း မစ္စတာရိုဘီဟောက်စ်၏ အနေအထားကို သဘောပေါက်လာသည်။ စင်စစ် သူသည် ရောမဝန်ထုပ်ဝန်ပိုးကြီးကို ပခုံးပေါ် ထမ်းထားရသည့် စက်ရုပ်သဖွယ် လူကြီး တယောက်မျှသာဖြစ်ကြောင်း သဘောပေါက်လာသည်။ တခါ တခါ သူ စကားပြောရင်း ငိုသံပင် ပါလာတတ်၏။

“ဒီအခြေအနေမှာ ကျုပ်က ဘာတတ်နိုင်မှာလဲဗျာ၊ ကျုပ်နေရာမှာ ကိုရင်ထိုင်ပြီး လာပြောသမျှ ဖြစ်ကြောင်းကုန်စင်တွေကို နားထောင်ရရင် ရူးသွားမယ်ဗျ သိလား။ ကျုပ်တို့ လုပ်ပေးနိုင်တာတွေက နံပါတ်ကုန်နေပြီမို့ တချို့ ဆင်းရဲတဲ့ တတုံးထွန် စိုက်ခင်းသမားကလေး တွေကို ကျုပ်အိတ်ထဲက နည်းနည်းပါးပါး ထုတ်ပေးလိုက်တဲ့အခါ မျက်ရည်စက်စက်ကျပြီး ကျုပ်ကို ထိုင်ရှိခိုးမတတ်ဖြစ်ရတဲ့ မြင်ကွင်းတွေ ကိုရင် မမြင်ဘဲကိုး။ အဲဒီတော့ ကိုရင့် အခြေအနေ သူများထက် ဆိုးတဲ့ အကြောင်းတော့ ပြောမနေနဲ့တော့ ကက်စတာ”

ကက်စတာက အေးဆေးစွာနှင့်ပင် -

“ကျွန်တော့် အခြေအနေက အားလုံးထက် ပိုဆိုးတာတော့ အမှန်ပါပဲ မစ္စတာရိုဘီ ဟောက်စ်”

“ထားပါလေ၊ အခြေအနေက အားလုံး ဆိုးနေကြတာကလား၊ အဲဒီအထဲမှာ ကျုပ်တို့ လည်း ပါတယ်ဗျ”

ကက်စတာက ကုလားထိုင် နောက်ကျောကို ပစ်မှီလိုက်ပြီး-

“ကျွန်တော် ခုလို ဆွေးနွေးရတဲ့အတွက် ခွင့်လွှတ်ပါ မစ္စတာရိုဘီဟောက်စ်၊ ကျေးဇူး တင်ပါတယ်”

ဝက်သစ်ချမြိုင်သို့ ရထားဖြင့် ပြန်ခဲ့ကြသည်။ ရထားပေါ်တွင် အတောင့်သား ထိုင်ရင်း အယ်လီနာက ဒူးပေါ်မှာ လက်နှစ်ဖက်ကို တင်းတင်းဆုပ်ထားသည်။ ဘဝတွင် ပထမဆုံး အရှုံးဖြင့် ရင်ဆိုင်ရသည့် ပွဲတပွဲ။

“အယ်လီနာရယ်၊ ဒါလောက်ကြီးလည်း စိတ်ပျက်လက်ပျက် လုပ်မနေပါနဲ့ကွယ်”

ကက်စတာက တဂျုံးဂျုံး ဆူညံနေသည့် ရထားဘီးသံတွေ ကြားထဲမှ အော်ပြောသည်။

“အခြေအနေ ဘယ်လောက်ဆိုးဆိုး မင်း အဝတ်တော့ မလျှော်ရပါဘူး”

“အဝတ်လျှော်တဲ့ အလုပ်ကို လုပ်လိုက်ချင်တယ်၊ အရှုံးပေးရတဲ့ ဘဝကို ရင်မဆိုင် ချင်ဘူး”

“ဩော်... ဒုက္ခပါပဲလားကွာ၊ ဘာတတ်နိုင်မှာလဲ အယ်လီနာရဲ့၊ ဝါတွေ ရောင်းလို့ မရတာ တို့အပြစ်လား”

"ကြွေး လည်ပင်းရောက်နေတာကကော ဘယ်သူ့အပြစ်လဲ"

ကက်စတာက ငြိမ်ကျသွား၏။ ရထားလမ်း ဖြတ်ဖောက်ထားသည့် ထင်းရှူးတော ဆီသို့ ငေးနေသည်။ အတန် ကြာမှ အယ်လီနာက သူ့လက်ကို ဖမ်းဆုပ်၍-

"ဆောရီးပဲ မောင်ရယ်၊ အယ်လီနာ တောင်းပန်ပါတယ်ကွယ်"

ကက်စတာက လက်အိတ်စွပ်ထားသော အယ်လီနာ့ လက်ဖဝါးကို လှန်ပြီး ပေါက်ပြဲနေ သည့် လက်အိတ်အတွင်းမှ လက်ချောင်းကလေးများကို ငုံ့ကြည့်နေ၏။

"မင်း ဒီကိစ္စကို ခဏ ခဏ မပြောဘဲ မနေနိုင်ဘူးနော်၊ ဒါကိုပဲ အမြဲစဉ်းစားနေတယ် ဟုတ်လား"

"အယ်လီနာ မေ့မေ့ပျောက်ပျောက် နေဖို့ ကြိုးစားပါတယ် မောင်ရယ်၊ မောင့်ကို အယ်လီနာ ချစ်ပါတယ်ကွယ်"

တယောက်လက်ကိုတယောက် တင်းတင်းဆုပ်ထားလိုက်ကြ၏။ အယ်လီနာက ကိုယ့်ကိုယ်ကိုယ် အပြစ်တင်မဆုံး ဖြစ်နေသည်။ ဘာကြောင့်များ ဒီကိစ္စကို ရေငုံနှုတ်ပိတ် မနေနိုင်ရပါလိမ့်။

ဝက်သစ်ချမြိုင် စံအိမ်ကြီးသို့ အဝင်တွင် ကော်နယ်လီယာကလေးက အပြေးလာကြို သည်။ ကက်စတာက မျက်နှာ ရုတ်ခြည်း ပြုံးလျက်သား ဖြစ်သွားပြီး သမီးကလေးကို ကောက်ချီသည်။ ယနေ့အဖို့ ကက်စတာ့နှုတ်ခမ်းတွင် ပထမဆုံး မြင်ရသည့် အပြုံး။

အယ်လီနာက အပေါ်ထပ်သို့ တန်းတက်ခဲ့၏။ ဦးထုပ်ကို စားပွဲပေါ်သို့ ပစ်တင်လိုက် သည်။ နှစ်နှစ်ကျော် ဆောင်းခဲ့ပြီးသည့် ဦးထုပ်ဟောင်း၊ မနှစ်က တနှစ်လုံး ကော်နယ် လီယာကို ဗိုက်ထဲတွင် လွယ်ထားရသည် ဖြစ်၍ ဦးထုပ်တလုံး ဝယ်ဆောင်းရန် အကြောင်း မပေါ်ခဲ့။ ဦးထုပ်က ကက်စတာနှင့် ပင်လယ်ကမ်းခြေသို့ မင်္ဂလာပျားရည်ဆမ်းခရီး ထွက်စဉ်က ဝယ်ဆောင်းခဲ့သည့် ဦးထုပ်လေ။ ထို တရံရော အခါကတော့ ကက်စတာ့ ရင်ခွင်မှာ ခိုနားရင်း သည်ဩကာသလောကတခွင်တွင် အနိဋ္ဌာရုံ ဟူသမျှ မြူငွေ့မျှ မရှိဟု ထင်ခဲ့သည့် အချိန်တွေ ပေါ့။ ဦးထုပ်ကလေးကို ကောက်ယူလိုက်၏။ အရောင်လွင့်ပြယ်နေပြီ ဖြစ်သည့် ဖဲကြိုးကလေး ကို တယုတယ ပွတ်သပ်နေ၏။ နွမ်းနွမ်းပါးပါး ဝတ်စားဆင်ယင်နေရခြင်းအတွက် ဘယ်တုန်း ကမျှ သိမ်သိမ်ငယ်ငယ် မဖြစ်ခဲ့။ ဘယ်တုန်းကမျှ အဝတ်အစား အလှအပကို ငမ်းငမ်းတက် ဖြစ်ခဲ့ဖူးသည့် မိန်းကလေးမှ မဟုတ်တာ။

အခန်းတံခါးခေါက်သံ ကြားရသည်၊ ဝင်ခဲ့လေဟု ပြောမှ အယ်လီနာ၏ သားရေ သေတ္တာကိုဆွဲပြီး ကက်စတာ ဝင်လာသည်။ ဩော်. . . မောင်ရယ်၊ သိပ်ကို ယဉ်ကျေးသိမ်မွေ့ သည့် မောင်ပါကွယ်၊ ဘယ်တော့မှ တံခါးမခေါက်ဘဲ ပိုင်စိုးပိုင်နင်း ဝင်လေ့မရှိဘူးလေ။ ဘာမျှ မပြောဘဲ တန်းဝင်လာပြီး ထွေးပွေ့တယ်လေ၊ တင်းတင်း ပြန်ဖက်ထားလိုက်မိသည်။ မောင့်ရင်ခွင်တွင် နားနေရသည့် အချိန်တိုင်း မောင့်ကို ချစ်သည့် အချစ်စိတ်ဖြင့် လှိုင်းထ လှုပ်ခါ နေတတ်သည်မှ လွဲ၍ ဘာကို ဘာမျှ သတိမရတတ်တော့။

ချစ်သူ့ရင်ခွင်တွင် ဘယ်မျှကြာအောင် ကြည်နူးမှုဖြင့် မေ့မြောသွားသည် မသိ။

“သူတို့ ညစာပြင်ပြီးရောပေါ့ အချစ်ရယ်၊ အဝတ်လဲတော့လေ၊ သွားစားကြရအောင် နော်”ဟု မောင့်ခေါ်သံ ကြားမှ-

“အင်း. . . သွားလေ”

အသံမှာ နွမ်းလျတိုးညင်နေကြောင်း ကိုယ့်ကိုယ်ကိုယ် သတိထားလိုက်မိ၏။

“သိပ်ပူတာပဲ၊ မောင် အချစ်အတွက် ရေခဲရည်တချိုင့် ပို့ခိုင်းလိုက်မယ်နော်”

သည်တော့ မောင့်ကို လှမ်းဖက်ပြီး နမ်းလိုက်သည်။

ညစာစားပြီးတော့ ကက်စတာက မဂ္ဂဇင်းတစောင်ကို စိတ်ပါလက်ပါ ဖတ်နေသည်။ အယ်လီနာက လယ်ဂျာစာရွက်ပေါ်တွင် ဝလုံးကလေးတွေ လိုက်ဝိုင်းနေသည်။ မျက်လုံးများ ကမူ တူရူမှ နံရံသို့ ရံဖန်ရံခါ စူးစူးစိုက်စိုက် ကြည့်လျက်။ အက်ကြောင်းကလေးများ တွေ့လိုတွေ့ငြားဟု ရှာဖွေနေသလို၊ ယင်း အက်ကြောင်းကလေးများမှ တဆင့် ထွက်ပေါက် တွေ့နိုင်မည့်အလား။ စင်စစ် ငွေအများကြီးလိုသည် မဟုတ်၊ ဘဏ်တိုးတွေ ကိစ္စကိုသာ ကက်စတာ စောစောစီးစီး အလေးအနက် ထားခဲ့လျှင် လောလောဆယ် လိုငွေမှာ ပို၍ နည်းပေ လိမ့်ဦးမည် ဖြစ်၏။

လက်ချောင်းကလေးတွေက ဝလုံးကလေးတွေ ဆက်၍ ဝိုင်းနေဆဲ၊ လာမည့် ဆောင်းဦး ပေါက်အထိ အရင်းကို ဆပ်စရာ မလိုသေး၊ သည်တနှစ်လုံးအတွက် ပေးရမည့် အတိုးမှာ ဒေါ်လာ ၈,၀၀၀ သာ ဖြစ်၏။ မြေသြဇာဖိုး၊ လယ်ယာသုံး ပစ္စည်းဖိုးနှင့် အခြား ကြွေးပူတွေ ကိုတော့ ဆပ်နိုင်ဦးမည် မဟုတ်။ ဒေါ်လာ ၈,၀၀၀ ဆိုသည့် ငွေမှာ များလွန်းသည်တော့ မဟုတ်။ သို့သော် မီးစာကုန် ဆီခန်း အခြေအနေ ဖြစ်နေ၍ ဘင်ဂျမင်ဖရန်ကလင်၏ အဆိုကို သွားသတိရမိ၏။

“ငွေတန်ဖိုးကို နားလည်ချင်ရင် တစုံတယောက်ထံမှာ သွားချေးကြည့်”တဲ့။

အဲလစ်၏ ယောက်ျားနှင့် ဆီဘက်စတိန်တို့ နှစ်ယောက်လုံးလည်း အထိနာကြသည်။ တောင်မင်း . . . မြောက်မင်း မကယ်နိုင်ဘဝ ဖြစ်၏။ ကက်စတာ့ အဖေကမူ ကြံခင်းမြေတွေမှ ရသည့် ဝင်ငွေကို မဆင်မခြင် ဖောဖောသီသီ သုံးမြဲ။ တပတ်အတွင်း ငွေ ၈,၀၀၀ ရှာပေးရန် ဖေဖေ အပ္ပဂျွန်းအား အပူကပ်ဖို့ ကိစ္စကိုတော့ အယ်လီနာ မစဉ်းစားရက်။

ဆင့်ပါးစပ် နှမ်းပက်ရုံလောက် ရှိသည့် မိမိ ဝင်ငွေကလေးဖြင့် အိမ်စရိတ်ကို ကာမိအောင် ခြစ်ခြစ်ကုတ်ကုတ် သုံးစွဲနေရ၏။ ဝက်သစ်ချမြိုင်လို အိမ်ကြီးတွင် သူ့ဝင်ငွေ မဖြစ် စလောက်ကလေးဖြင့် ထိန်းထားရသည့် အဖြစ်ကို တွေးပြီး အယ်လီနာ ပြုံးမိသေးသည်။

ခေါင်းထဲတွင် လျှပ်စီးတချက် ဝင်းလက်သွား၏။ စာရွက်ကို ခဲတံနှင့် ဆောင့်ထိုး လိုက်၏။ ခဲတံ ကျိုးသွားသည်။ ဆတ်ခနဲ ထရပ်လိုက်၏။

"အယ်လီနာ ဘာဖြစ်တာလဲဟင်"

ကက်စတာက တအံ့တဩ လှမ်းမေးသည်။

"သော့တွဲ သွားယူမလို့၊ မောင့်ကို ပြမယ်"

ပြောပြောဆိုဆို ပြေးထွက်သွားသည်။ အပေါ်ထပ်သို့ တထစ်ကျော်၊ နှစ်ထစ်ကျော် ပြေးတက်သွား၏။ သော့တွဲနှင့် လက်နှိပ်ဓာတ်မီးကို ယူပြီး တအားပြေးဆင်းချလာသည်။ အဖိုးတန် ပစ္စည်းဟောင်းတွေ သိုလှောင်ထားသည့် မြေအောက်ခန်း ရှိရာသို့ စွတ်ပြေး၏။ မြေအောက်ခန်းရှေ့တွင် လက်နှိပ်ဓာတ်မီးထိုး၍ ကျီးကန်းတောင်းမှောက် ကြည့်နေသည်။

ဝက်သစ်ချမြိုင်တွင် လက်ဖက်ရည်ဇွန်းကလေးတွေကအစ အပေါင်ခံပစ္စည်း ဖြစ်နေပြီ ဟု ကက်စတာ ပြောခြင်းမှာ မတရား ပိုပြောခြင်း ဖြစ်၏။ ဝက်သစ်ချမြိုင်တွင် မည်သူမျှ ပေါင်ဖို့ နှံဖို့ သတိမရကြသည့် ပစ္စည်းတွေ ရှိသေးသည်။ တန်ဖိုးမဖြတ်နိုင်သည့် နှစ်ချို့အရက်ပုလင်းတွေ၊ ကွယ်လွန်ခဲ့ကြပြီးဖြစ်သည့် ဝက်သစ်ချမြိုင် အရှင်သခင်မများ၏ အဖိုးတန် ရှေးဟောင်းလက်ဝတ်ရတနာတွေ ရှိသေးသည်။ မိမိကိုယ်တိုင် လိုအပ်သည့် ပွဲနေပွဲထိုင်များတွင် ဆင်မြန်း ခဲ့ဖူးသည် မဟုတ်လား။ ပုလင်းတွေကို စင်ပေါ်မှ ယူချပြီး ပင့်ကူအိမ်တွေကို လက်နှင့် သပ်လိုက် သည်။ တံဆိပ်တွေကို သေသေချာချာ ကြည့်သည်။ နှစ်ပေါင်းများစွာ သိုမှီး သိမ်းဆည်းထား သည့် အဖိုးတန် အရက်များအကြောင်း အယ်လီနာ ဘာမျှ မသိ။ တန်ကြေးရှိသည်ဟုတော့ နားလည်ထားသည်။ ဒူးထောက်ချလိုက်၏။ စကတ်အောက်ပိုင်းက ဖုန်တွေထဲတွင်

ပုံကျ သွားသည်။ ပြီးတော့ မီးခံသေတ္တာဟောင်းကြီးကို ဖွင့်သည်။ သော့တံပေါင်းများစွာဖြင့် အဆင့်ဆင့် ဖွင့်ရသည့် ရှေးဟောင်း မီးခံသေတ္တာကြီး၊ မှုန်ဝါးဝါး အလင်းရောင်တွင် ဟိုစမ်းစမ်း သည်စမ်းစမ်းနှင့် ငွေခွက်တခုကို စတွေ့သည်။ လွန်ခဲ့သည့် ရာစုနှစ်က လန်းမိသားစုမှ ကလေး တယောက်အတွက် ပေးသည့် လက်ဆောင်ငွေခွက်။ ကော်နယ်လီယာအတွက် အသုံးပြုနေ သည့် ငွေခွက်က သူ့အဘေးလောက် တော်သည့် ဘိုးစဉ်ဘောင်ဆက်မှ ပစ္စည်း။ လက်နှိပ် ဓာတ်မီးကို အနီးကပ်ထိုးပြီး စာတန်းကို ကြည့်သည်။ “စင်သီယာ၊ ဇွန်လ ၆ ရက်၊ ၁၈၄၉ ခုနှစ်” စင်သီယာ ဘယ်သူဘယ်ဝါဆိုသည်ကို စပ်စုမနေတော့ဘဲ ငွေခွက်ကို ပုလင်းတွေ နံဘေးတွင် ချလိုက်၏။ မီးခံသေတ္တာအတွင်းသို့ ဆက်ရှာပြန်သည်။ စာရွက်စာတမ်းတွေက အထပ်လိုက် အထပ်လိုက်၊ လက်ထပ်စာချုပ်တွေ၊ သေတမ်းစာတွေ၊ မြေဂရန်တွေ၊ ကျွန် အရောင်းအဝယ် စာချုပ်တွေ။ အလုပ်ဖြစ်မည့် ကိစ္စတွေ မဟုတ်သဖြင့် သေသေချာချာ မကြည့် တော့။

နားကွင်းရှည်နှင့် နားဆွဲရှည်ရှည်ကြီးများကို တွေ့သည်။ ပြီးတော့ ရွှေအိနေသည့် ရင်ထိုးတွေ၊ ကျောက်စီဆံထိုးတွေ၊ ဆံညှပ်တွေ၊ စိန်တွေ။ အားလုံးစုထည့်သည်။ မီးခံသေတ္တာ ကို ပိတ်သည်။ လက်တဖက်ဖြင့် စကတ်ကို မ၊ တဖက်မှ အရက်ပုလင်းများကို ပိုက်ပြီး အပေါ်ထပ် မိမိအခန်းထဲသို့ ပြန်ထားသည်။ လက်နှိပ်ဓာတ်မီးကို ယူပြီး စတိုခန်းတခန်းသို့ ဝင်ပြန်၏။ ပရိဘောဂတွေ အားလုံး မဟော်ဂနီနှင့် တောနှင်းဆီသားတွေချည်း။ ရုပ်တုတွေ၊ အသေးအမွှား ဖြုတ်စဖျင်းတောင်းတွေလည်း မနည်း။ နယူးအော်လင်း ရှေးဟောင်းပစ္စည်း အရောင်းဆိုင်များ၏ ပြတင်းပေါက်များတွင် ချိတ်ဆွဲထားလိုက်ရလျှင် တောင်းသလောက် ပေးရမည့် ပစ္စည်းမျိုးတွေ။

အောက်ထပ်သို့ ဆင်းအလာတွင် မိမိကို လိုက်ရှာနေသည့် ကက်စတာနှင့် တန်းတိုး သည်။

“ဟေး. . . အယ်လီနာ၊ ဘာတွေ လျှောက်လုပ်နေတာလဲ”

အယ်လီနာကို ခြေဆုံးခေါင်းဆုံး ကြည့်ပြီး ကက်စတာက တဟားဟား အော်ရယ် သည်။

“ဘယ်လို ဖြစ်တာလဲ၊ တကိုယ်လုံးလည်း မည်းလို့သည်းလို့၊ ခေါင်းမှာလည်း ပင့်ကူအိမ် တွေ ဖွေးနေတာပဲ”

အယ်လီနာက သူ့အခန်းသို့ ကက်စတာကို ဆွဲခေါ်သည်။

“လာ၊ မောင့်ကို ပြစရာတွေ ရှိတယ်”

အခန်းတံခါးကို ဆွဲဖွင့်သည်။

"ဒီမယ် မောင်၊ ဝက်သစ်ချမြိုင်မှာ ရောင်းစရာပစ္စည်း အများကြီး ရှိတယ်၊ သိလား၊ ဒါတွေကိုသာ ရှေးဟောင်းပစ္စည်း အရောင်းဆိုင်က လူတွေ မြင်ရရင် ရူးကုန်ကြမလား မသိဘူး။ မနက်ဖြန် နယူးအော်လင်းကို သွားမယ်၊ အဲဒီဆိုင်မျိုးက ကုန်သည်တယောက်ကို ဒီ ခေါ် လာမယ်"

ကက်စတာ ပါးစပ်အဟောင်းသား ဖြစ်နေ၏။ မြင်ကွင်းကြောင့် ရုတ်တရက် အထိတ် တလန့် ဖြစ်သွားသည်ကို အယ်လီနာ သတိထားလိုက်မိ၏။ ကက်စတာအနေဖြင့် သည်ရတနာ တို့သည် သည်ဝက်သစ်ချမြိုင်စံအိမ်ကြီးနှင့် ခွဲခြား၍ ရစကောင်းသည့် အရာများဟု ဘယ်တုန်း ကမျှ မထင်မှတ်ခဲ့။ အမိုးသို့ ထိနေသည့် အိမ်ရှေ့ဆင်ဝင် တိုင်လုံးကြီးများကဲ့သို့ အိမ်၏ အစိတ် အပိုင်းများ ဟူ၍သာ ကက်စတာ နားလည်ထားခဲ့၏။ ပရိဘောဂခန်းထဲမှ ပစ္စည်းများအကြောင်း အယ်လီနာ ပြောနေသည်ကို မကြားတချက် ကြားတချက်။ ရတနာတွေကို ကက်စတာ ငေးနေ၏။ ပြီးတော့ ခေါင်းကို ဖြည်းညင်းစွာ ခါသည်။

အတန်ကြာမှ စကား စသည်။

"အရက်ပုလင်းတွေတော့ ထားပါတော့ အယ်လီနာရယ်၊ ပြီးတော့ ပရိဘောဂတွေ လည်း ရောင်းချင် ရောင်းပါ၊ မောင်တို့မှ အသုံးမလိုတာပဲ။ ဒါပေမဲ့..."

သူက ကျောက်မျက်ရတနာတွေကို လက်ညှိုးထိုးပြပြီး-

"ဒါပေမဲ့ ဒီအတွင်းပစ္စည်းတွေကိုတော့ ထုတ်ရောင်းဖို့ သင့်ပါမလားကွယ်၊ ဒီပစ္စည်း တွေဟာ ဝက်သစ်ချမြိုင်ရဲ့ ပုံပြင်တွေ အယ်လီနာရဲ့။ အဲဒီတခုစီရဲ့ ဇာတ်ကြောင်းတွေ မောင် အားလုံး အလွတ်ရတယ် သိလား"

"မောင်ရယ်၊ အယ်လီနာတို့ လက်တွေ့ကျကျ စဉ်းစားကြရအောင်နော်၊ စိတ်ကူး ယဉ်ယဉ်ကလေးနဲ့ စားမြုံ့ပြန်ဖို့ အခြေအနေ မပေးတော့ဘူးလေ"

ကက်စတာက စိန်စီ ရင်ထိုးကလေးတခုကို ကောက်ယူလိုက်သည်။

"မောင့်ရဲ့ အဘွားဟာ၊ ဟို ပုံထဲက စကတ်အပြာနဲ့ အမျိုးသမီးလေ။ ပြည်တွင်းစစ် ဖြစ်လို့ ကာလပျက်တုန်းက ဒါကိုရောင်းဖို့ ကိန်းဆိုက်လာတယ် တဲ့၊ ကလေးတယောက်က အသည်းအသန် ဖြစ်နေလို့တဲ့လေ၊ ငွေခေါင်ခေါင်ကြီးတဲ့၊ ရေခဲဝယ်ဖို့တောင် ပိုက်ဆံ မရှိဘူး တဲ့။ ဒါပေမဲ့ မရောင်းခဲ့ဘူးလေ၊ အဲဒီကလေး သေသွားတယ်တဲ့ အယ်လီနာ"

“ဩော်. . . မောင်ရယ်၊ အဲဒါတွေက အတိတ်က ဖြစ်ရပ်တွေပါကွယ်။ အယ်လီနာတို့ ဒီအဖြစ်တွေကို လက်ရှိအခြေအနေရ ပစ္စုပ္ပန်မှာ ယူလာဖို့ အခြေအနေ မပေးတော့ဘူးလေ ကွယ်”

ကက်စတာက ရင်ထိုးကို စားပွဲပေါ်သို့ အသာ ပြန်တင်သည်။

“မောင့်မယားကလေးမှာ ခက်နေတာ တခုရှိတယ်၊ အဲဒါ ဘာလဲ... သိလား အယ်လီနာ။ မင်း လုပ်သမျှတွေဟာ သိပ်မှန်လွန်းနေတာပဲ”

နောက်တနေ့တွင် ရတနာထုပ်ကို ပိုက်ပြီး လင်မယားနှစ်ယောက် နယူးအော်လင်း သို့ ထွက်ခဲ့ကြ၏။ နောက်တနေ့ ရှေးဟောင်းရတနာ ရာဖြတ်ထံ တန်ဖိုးသင့်ပေးဖို့ အပ်နှံ သည်။ အယ်လီနာက စဉ်းစားပြီး-

“နေဦး မောင်၊ အယ်လီနာတို့ ဒီပစ္စည်းတွေကို ရောင်းဖို့ မလိုဘူး၊ အတိုးဆပ်ဖို့ ဘဏ်မှာ ပြန်ပေါင်လို့ ရတယ်လေ”

ကက်စတာ အပျော်ကြီး ပျော်သွားသည်။ ပရိဘောဂတွေ ရောင်းဖို့ကိုလည်း အယ်လီနာ သဘောကျသည့် ရှေးဟောင်းပစ္စည်းဆိုင် ပွဲစားနှင့် ဆက်သွယ်စေသည်။

ပွဲစား၏ ကိုယ်မှ ဝက်ဆီနံ့ ထွက်နေ၏။ ဆံပင်ကို ဆီရွှဲရွှဲ သထား၏။ မျက်နှာက အဆီပြန်နေသည်။ လောဘရမ္မက် သည်းမည့်ပုံ အထင်းသား ပေါ်လွင်လျက်။ အယ်လီနာက သူ့ကို တမင်ရွေးပြီး ခေါ်လာခြင်း ဖြစ်၏။ ကာမီယိုက ဘူတာရုံတွင် ရထားလုံးဖြင့် လာကြို သည်။ ပါလာသည့် ဧည့်သည်ကို ကာမီယိုက မနှစ်မြို့ဟန်ဖြင့် ကြည့်သည်။ ဝက်သစ်ချမြိုင်၏ ဧည့်သည်စာရင်း ဝင်လောက်သည့် လူစားမျိုး မဟုတ်ဟု အကဲခတ်မိ၍ ဖြစ်၏။ ဝက်သစ်ချမြိုင် ပရိဝုဏ်အတွင်းသို့ မြင်းရထား ချိုးဝင်လိုက်သည်နှင့် ပွဲစားက ကြွန်ခြေပင် မဆောင်နိုင်တော့ဘဲ အိမ်ကြီးကို လှမ်းကြည့်ပြီး ရွှီးခနဲ လေချွန်လိုက်သည်။ အိမ်ထဲသို့ ရောက်သည်နှင့် ရှိရှိသမျှ ပစ္စည်းပစ္စယတွေကို အာသာငမ်းငမ်း ကြည့်၏။ မြင်မြင်သမျှ အရာအားလုံးကို တန်ဖိုးဖြတ်နေ သည့် အလား။

“အားပါးပါး၊ နည်းတဲ့ ပစ္စည်းတွေမှ မဟုတ်ဘဲ။ ကဲ.. ကဲ . . . ဆရာတို့ ရောင်းမယ့် ပစ္စည်းတွေ ကြည့်ရအောင်”

ပွဲစားက ရောက်မဆိုက် လောတော့၏။

အယ်လီနာက အစေခံတွေကို လွတ်ရာသို့ မောင်းထုတ်လိုက်သည်။ ဘက်စီနှင့် ဒစ်စီ တို့က ဧည့်သည်အား ကာမီယို ကြည့်သည့် မျက်လုံးများနှင့် ကြည့်ကြသည်။ သို့သော်

ဘက်စီက ဝက်သစ်ချမြိုင်၏ ထုံးစံအတိုင်း မေးသည်။

"မမလေး၊ ညှေ့သည်အတွက် ကော်ဖီယူခဲ့ရမလား ရှင့်"

"ကော်ဖီသောက်ဖို့ အချိန်မရှိဘူး ခင်ဗျ၊ ပစ္စည်းတွေ..."

ပွဲစားက ဣန္ဒြေမဲ့စွာ လောပြန်သည်။

"ဟိုဘက် အခန်းထဲမှာပါ"

ကက်စတာက ဝင်ပြောသည်။ သို့သော် ပွဲစားက နေရာမှမရွေ့ဘဲ လှေကားခုံရင်းမှ ပန်းချီကားကြီးများကို ငေးကြည့်နေ၏။

သူက ခေါင်းတညိတ်ညိတ် လုပ်ပြီး-

"အင်း . . . သိပ် သိမ်မွေ့တဲ့ ကားကြီးတွေပဲ၊ တကားကို ဘယ်လောက်ယူမလဲ"

"ပန်းချီကားတွေ မရောင်းပါဘူး၊ ကဲ... လာပါ၊ ပရိဘောဂတွေ ကြည့်ရအောင်" ကက်စတာက သူ့ကို ပြန်လောသည်။

"ဆရာတို့ ငွေလိုလို့ ကျွန်တော့်ကို ခေါ်တာ မဟုတ်လား၊ ဘာလို့ ဒါကြီးတွေကို အလဟဿ ချိတ်ထားမလဲ"

အခြေအနေကို အယ်လီနာ အကဲခတ်လိုက်သည်။ ကက်စတာ အနေဖြင့် ဆက်လက် သည်းခံနိုင်မည် မဟုတ်။ သည်တော့ ဝင်ပြီး ဦးဆောင်ရတော့၏။ ပစ္စည်းသိုလှောင်ခန်းသို့ ခပ်သွက်သွက် ခေါ်သွားပြီး-

"ရောင်းမယ့် ပစ္စည်းတွေက ဒီမှာပါ၊ ဟောဒီ စားပွဲကြီးက ဒုသစ်တွေနဲ့ လုပ်ထား တာ၊ ဟောဒီ ကျန်တဲ့ စားပွဲတွေက ခေါက်ချိုးစားပွဲရှင်တွေ၊ တခုနဲ့ တခု.."

"ဟုတ်ပါတယ် ဆရာကတော်၊ ကျွန်တော် သိပါတယ်"

သူက ကုန်းပြီး စားပွဲတွေကို လက်နှင့် တောက်ကြည့်သည်။ အနာအဆာရှာသည်။ ပိုးပေါက်ရှိ၊ မရှိ သေသေချာချာ ကြည့်သည်။ အယ်လီနာ ခေါင်းညိတ်လိုက်၏။ လူရွေးမှန် သည်ဟု နားလည်လိုက်၏။ သူ့လုပ်ငန်းကို သူ တကယ်ကျွမ်းသည့် လူ၊ အချိန်ကုန်ခံပြီး စကားများများ မပြော။

ကက်စတာက အသာစောင့်ကြည့်နေ၏။ သူ့ကို မေးမှ ဖြေသည်။

အယ်လီနာကတော့ အခြေအနေကို ကြည့်ပြီး အကျေနပ်ကြီး ကျေနပ်နေ၏။ ပွဲစားက ကုတ်ကုတ်ကတ်ကတ် ဆစ် သည်။ အယ်လီနာက ပစ္စည်းများ၏ တန်ဖိုးကို အဘက်ဘက်မှ လှည့်တွက်ပြပြီး ကိုယ့်တွက် ကျန်အောင် လုပ်သည်။ ပစ္စည်းတခု၏ တန်ဖိုးသတ်မှတ်တိုင်း ပွဲစားနှင့် အယ်လီနာ အငြင်း အခုံ ဖြစ်ကြသည်။ အလျှော့အတင်းလုပ်ပြီး ဈေးတည့်သွားသည့်အခါ အယ်လီနာက မှတ်စု စာအုပ်တွင် ကောက်ရေးသည်။ ပွဲစားခမျာ အယ်လီနာကို ဖော့တွက်ခဲ့ကြောင်း ခုမှ သဘော ပေါက်လေတော့၏။ ဝက်သစ်ချမြိုင်လို စံအိမ်ကြီး၏ သခင်မတယောက်က ပစ္စည်းဟောင်း များ အရောင်းအဝယ်ကိစ္စတွင် သည်မျှ စေ့စပ်လိမ့်မည်၊ နားလည်လိမ့်မည်ဟု လုံးဝ မမျှော်လင့်ခဲ့။

"မစ္စက်လန်း၊ ခင်ဗျားဟာ အရောင်းအဝယ်လောကကို တော်တော်နားလည်ပုံ ရတယ်၊ ဟုတ်လား"ဟု ထုတ်ပြောမိသည်အထိ။

"ဟုတ်ကဲ့ရှင့်"

"ကျွန်တော်တို့ လောကထဲကို ဝင်လုပ်ဖို့တောင် ကောင်းနေပြီ ခင်ဗျ"

"ဟုတ်လား"

ပွဲစားက ခုံတလုံးကို ဖောက်ထိုးကိုင်ပြီး သေသေချာချာ စစ်ဆေးသည်။

"တကယ်ပါပဲဗျာ၊ ကျွန်တော် တွေ့ဖူးသမျှတော့ ဒီလိုအိမ်ကြီးတွေက ဒီလို ပစ္စည်းမျိုး တွေ ထုတ်ရောင်းတဲ့ လူတွေဟာ ဒေါ်လာပြားနဲ့ ဘီစကွတ်မုန့်တောင် ခွဲခြားသိတဲ့ လူတွေ မဟုတ်ဘူး"

အယ်လီနာက ရယ်လိုက်သည်။

"ကျွန်မကတော့ သိတယ်ရှင့်"

"ဟုတ်ကဲ့၊ ကျွန်တော် သိပါတယ်၊ ကဲ... စုစုပေါင်း ဘယ်လောက် ကျပါသလဲ"

"နှစ်ထောင့်တရာလေးဆယ့်နှစ် ဒေါ်လာ"

"အစွန်းထွက် ဖြုတ်လိုက်ပါဗျာ၊ နှစ်ထောင်အတိ ထားပေါ့"

"စုစုပေါင်းက နှစ်ထောင့်တရာ"

ပွဲစားက ရယ်ပြီး-

“ဟာဗျာ . . ဆရာကတော်ဟာ နည်းနည်းကလေးမှ ဝက်သစ်ချမြိုင်လို အိမ်ကြီးရဲ့ သခင်မနဲ့ မတူဘဲကိုး”

“ငွေတန်ဖိုးက များတော့လည်း အိမ်ကြီးရှင် သခင်မနဲ့ မတူနိုင်တော့ဘူးလေ”

“ကောင်းပါပြီတဲ့ဗျာ၊ ခင်ဗျားပဲ အနိုင်ယူပေါ မစွက်ကလန်း။ အကြောင်းကြောင်းကြောင့် များ ကျွန်တော်တို့အလုပ်ကို စိတ်ဝင်စားရင် ကျွန်တော့်ကို အကြောင်းကြားပါ၊ ခင်ဗျားဟာ တကယ်တော်တဲ့ အရောင်းသမားတယောက်ပဲ”

ပွဲစားက ညှော့ခန်းဆီသို့ ပြန်လာပြီး ပန်းချီကားကြီးတွေကို အငမ်းမရ ကြည့်ပြန်၏။

“ဆရာသမားတို့ ဇနီးမောင်နှံ ပြန်စဉ်းစားပါဦး၊ ဒီကားတွေကို ကျွန်တော် ထုခွဲပေးရရင် ကောင်းကောင်း အလုပ်ဖြစ်နိုင်တယ်”

“ကျုပ် ပြောပြီးပြီပဲ၊ မရောင်းပါဘူးလို့”

ကက်စတာက ခတ်ပြတ်ပြတ် ပြောလိုက်၏။

“ဆရာ့ဘိုးဘွားတွေ ထင်တယ်၊ ဟုတ်လား”

“ဟုတ်ပါတယ်”

ပွဲစားက ပုံတွေကို ပန်းချီ ဝေဖန်ရေးသမားတယောက် ကြည့်ပုံမျိုးနှင့် ကြည့်နေ သည်။

“ဟုတ်ပါတယ်၊ ကျွန်တော် သိရက်နဲ့ မေးတာပါ ၊ ဒါကြောင့် မရောင်းရက်တာပေါ့”၊

“နာမည်ကျော် ဆရာကြီးတွေရဲ့ လက်ရာလည်း မဟုတ်ပါဘူးဗျာ”

ကက်စတာ စကားမြန်မြန် ပြတ်စေလိုပြီ။ သည်ပွဲစားကို မြန်မြန်ပြန်စေလိုပြီ။ ပွဲစားက ပြက်ချော်ချော် မျက်နှာပေးဖြင့် လေတချက် ချွန်လိုက်သည်။

“ဆရာက ဒီအကြောင်း သိပ်မသိသေးဘဲကိုး၊ ဒီနေ့ ခေတ်ပျက် သန်းကြွယ်သူဌေးတွေ နယူးအော်လင်း ရှေးဟောင်းပန်းချီကားတွေကို သိပ်လိုချင်နေကြတာ၊ သူတို့ရဲ့ သန်းကြွယ် အိမ်ကြီးတွေမှာ ချိတ်ဖို့လေ။ သူတို့မှာ ရှေးပန်းချီကား ဘယ်ရှိမလဲ၊ ဆရာ့ဘိုးဘွား ဘီဘင်တွေက ဒီမှာ

ပန်းချီဆွဲနေကြတုန်းမှာ သူတို့တတွေ သဘော်ာကုန်းပတ်ပေါ်မှာပဲ ရှိဦးမှာ၊ မဟုတ်ဘူး လားဗျာ ဆရာကတော်”

ကက်စတာက ပခုံးတွန့်ပြ၏။ အယ်လီနာက ရယ်သည်။ ပွဲစားက အယ်လီနာကို လက်မနှင့် ညွှန်ပြပြီး-

“ဆရာကတော့်သဘော ဆိုရင်တော့ ရောင်းမှာဗျ၊ ကျွန်တော် လောင်းရဲတယ်”

အယ်လီနာက ခပ်ပြတ်ပြတ် ဝင်ပြောသည်။

“ကျွန်မယောက်ျား ပြောတာ ရှင် မကြားဘူးလား၊ ရောင်းဖို့ မဟုတ်ပါဘူးဆို။ ရော့. . .

ဒီမှာ စာရင်း၊ ရှင် လုပ်စရာရှိတာ ဆက်လုပ်ပါ”

“ဟုတ်ကဲ့ ခင်ဗျာ၊ ဟုတ်ကဲ့”

သူက အလွန့်အလွန် ရိုကျိုးသည့် အမူအရာနှင့်-

“နာမည် အပြည့်အစုံ ပြောပါ ခင်ဗျာ၊ ဆရာ့ရဲ့ ရှေ့နာမည်ပေါ့”

“ ကက်စတာပါ ”

အယ်လီနာကပင် ဝင်ဖြေ၏။

“ဟုတ်ကဲ့၊ ဆရာ့နာမည်နဲ့ ကျွန်တော် ချက်လက်မှတ် ရေးပေးလိုက်ပါ့မယ်။ မနက်ဖြန် ပစ္စည်းတွေ သယ်ဖို့ ကျွန်တော် ကားလွှတ်လိုက်ပါ့မယ်၊ လူနှစ်ယောက် ထည့်ပေးလိုက်ပါ့မယ် ခင်ဗျ။ စာရင်းပါအတိုင်း ပစ္စည်းတွေတော့ မှန်မှန်ကန်ကန် တင်ပေးပါနော်၊ ခုလို ပြောလို့ စိတ်တော့ မရှိပါနဲ့”

“ဒီမှာ ဟေ့လူ”

ကက်စတာက ငေါက်လိုက်၏။ သူက ဆက်ပြီး-

“ကျွန်တော့်ကို တလွဲမထင်ပါနဲ့ ဆရာ၊ ဆရာတို့ကို မယုံလို့ မဟုတ်ပါဘူး၊ ကျွန်တော့် လုပ်ငန်းကိုက ဒီကိစ္စမျိုးမှာ စေ့စပ်သေချာရမှာမို့ပါ”

ပွဲစားက အယ်လီနာကို ကြည့်ပြီး ရယ်ကျဲကျဲနှင့်-

“ပန်းချီကားတွေ ရောင်းဖို့ စိတ်ပြောင်းလာရင်တော့ ကျွန်တော့်ကို ပြောနော် ဆရာ ကတော်”

ပွဲစား ပြန်သွားတော့ ကက်စတာ့ ရင်ထဲတွင် ပေါ့သွားသလို ဖြစ်သွား၏။ အရက် တခွက် လှမ်းမှာလိုက်သည်။ အယ်လီနာက ချက်လက်မှတ်ကို ကိုင်ပြီး သူ့ဆီသို့ ဟန်နှင့် ပန်နှင့် လျှောက်လာသည်။

“ရော့. . . မောင် လက်မှတ်ထိုး၊ တခါတည်း ဘဏ်ကို သွင်းခိုင်းလိုက်မယ်။ မောင် ဝမ်းမသာဘူးလား ဟင်”

ကက်စတာက လက်မှတ်ထိုးရင်း ခြောက်ကပ်ကပ် ပြန်ပြောလိုက်သည်။

“ဝမ်းသာတယ်၊ အဲဒီပွဲစား မြန်မြန်ပြန်သွားလို့”

အယ်လီနာက ချက်လက်မှတ်ကို ကောက်ယူသည်။ ခဏရပ်ပြီး တွေနေသည်။ ကက်စတာ ကို ငုံ့ကြည့်၏။ ပြီးတော့ စားပွဲတဖက်သို့ ပတ်သွားပြီး စာအိတ်တလုံးတွင် ချက်လက်မှတ် ကို ထည့်သည်။ ဘဏ်လိပ်စာ ရေးသည်။ စာအိတ်ကို တံဆိပ်ခေါင်းကပ်သည်။ လှည့်ထွက်သွား ပြီးမှ ကက်စတာကို တချက် ပြန်ငဲ့ကြည့်လိုက်သည်။ သူက ပြတင်းပေါက်အနီးတွင် ထိုင်ပြီး အရက်ခွက်ကို တကျိုက်ချင်း သောက်နေ၏။

“ခုလို ပြေလည်သွားတာ မောင် ဝမ်းမသာဘူးလား ဟင်”

“ဝမ်းသာပါတယ်”

ကက်စတာက လှည့်မကြည့်ဘဲ ဖြေ၏။

“ဒါဖြင့် ဘာလို့ မှိုင်နေရတာလဲ မောင်ရယ်”

“မင်းကိုယ်တိုင် ပွဲစားတယောက်လို အရောင်းအဝယ် လိုက်လုပ်နေတာကို မောင် သဘောကျနေ၊ ဟန်ဆောင်နေရမှာလား အယ်လီနာ”

“ဩော်... မောင်ရယ်၊ ပွဲစားလုပ်သင့်တဲ့အခါ လုပ်ရမှာပေါ့၊ လုပ်ချင်လို့ လုပ်တာမှ မဟုတ်တဲ၊ မောင် မလုပ်ဘူး ဆိုတာ သိနေလို့ အယ်လီနာ ဝင်လုပ်ရတာပဲဟာ”

“အေးပါ ၊ တော်ပါတယ်၊ စားပွဲငယ်ကလေးတွေက ဒေါ်လာ နှစ်ဆယ်လောက်တန်တာ ကို ရှစ်ဆယ်လောက်ရအောင် တောင်းတတ်တယ်”

အယ်လီနာက ကက်စတာဆီသို့ လျှောက်သွားပြီး မျက်နှာချင်းဆိုင် ရပ်လိုက်၏။

"တောင်းတတ်ရတော့မှာပေါ့၊ တနေ့ခင်းလုံး မောင်က နှုတ်ခမ်းမဲ့ပြီး ဟိုမတ်တတ် ဒီမတ်တတ်နဲ့ ဘာအကူအညီ ရလို့လဲ။ ရှက်မနေနိုင်ဘူး၊ လူကြီးလူကောင်းလည်း ဆန်မနေ နိုင်ဘူး၊ ကြွေးဆပ်ဖို့က အဓိကပဲ"

အယ်လီနာ သက်ပြင်းတချက် မှုတ်ထုတ်လိုက်သည်။ ကက်စတော့ ပခုံးပေါ်သို့ လက်လှမ်းတင်လိုက်၏။ ဒေါသ ဖြစ်လွန်းနေသဖြင့် စိတ်ကို ထိန်းပြီး ခဏအောင့်နေလိုက် သည်။ ပြီးတော့မှ တတ်နိုင်သမျှ သာယာသည်းပျောင်းစွာဖြင့်-

"မောင်ရယ်၊ အယ်လီနာကို ဒေါသထွက်အောင် မလုပ်စမ်းပါနဲ့၊ အလိုလိုမှ ဥရောပက လူတွေလို စိတ်ရိုင်းတွေ ဝင်ချင်နေတာ။ အယ်လီနာ စိတ်မထိန်းနိုင်ရင် . . ."

ကက်စတာက ချာခနဲ လှည့်ပြီး အယ်လီနာကို ပေါင်ပေါ် ဆွဲတင်ပြီး ထိုင်ခိုင်းသည်။

"မောင် သိပါတယ် အချစ်ရယ်၊ မောင်လည်း အတူတူပါပဲ"

ကက်စတာ စိတ်ပျက်လက်ပျက် ခေါင်းယမ်းသည်။

"ဟုတ်တယ်၊ ဥရောပက လူတွေလို စိတ်ရိုင်းဝင်လာပြီး တိုက်ချင်ခိုက်ချင်စိတ်တွေ ဝင်လာမယ်"

အကြာကြီး ငြိမ်နေကြပြန်၏။ နောက်မှ အယ်လီနာ ထရပ်လိုက်သည်။

"အယ်လီနာ ကားထွက်မောင်းလိုက်မယ် မောင်၊ အပြင်လေ ရှူရအောင်၊ ဒါမှ လန်းသွား မှာ၊ မွန်းကျပ်ကျပ်ကြီး ဖြစ်နေတယ်"

ကက်စတာ ပြုံးသည်။

"သွားလေ၊ မောင့်ကို စိတ်မဆိုးနဲ့တော့နော်"

"အယ်လီနာကိုလည်း ခွင့်လွှတ်ပါ မောင်ရယ်"

အယ်လီနာ့က သူ့ဆံပင်တွေကို နမ်းရင်း ပြောလိုက်သည်။

ဝက်သစ်ချမြိုင်မှ ကားကို မောင်းထွက်ခဲ့သည်။ သည်နှစ်

ပတ်ဝန်းကျင်ရှုခင်းမှာ ရှုချင့် စဖွယ် မရှိ။ လမ်းဘေးတဖက်တချက်မှ ဝက်သစ်ချပင်တွေကတော့ ဘာမျှ မပြောင်းလဲ။ နေခြည်မထိုးအောင် အကိုင်းအခက်တွေ မိုးယှက်လျက်၊ စိမ်းလန်းအုပ်ဝေလျက်။ ထူးခြား နေသည်မှာ ဝါခင်းမြေရှုခင်း ဖြစ်၏။ မြေပြင်မှာ ဝါသီး ဝါဖတ် အကြွင်းအကျန်တွေနှင့် မလှမပ ဖြစ်နေ၏။ ရှုပ်ပွေနေ၏။ ဘယ်သူမျှ သည်နှစ် ကောက်သင်း မကောက်ကြတော့ဘူးလေ။ ဆိပ်ကမ်း ဂိုဒေါင်တွေ ပြည့်နေသဖြင့် အချို့ဝါခင်းများတွင် ဘေထုပ်တွေကို ဝါစေ့ထုတ်စက်တွေ နံဘေး တွင် ဖြစ်ကတတ်ဆန်း ပုံထားကြ၏။ စိတ်ညစ်လို့ အပြင်သို့ ကားမောင်းထွက်ခဲ့ပါတယ်၊ သည်မြင်ကွင်းတွေကြောင့် သည်အကြောင်းပဲ တလဲလဲ တွေးမိပြန်ပြီဟု အယ်လီနာ စဉ်းစားနေ မိ၏။ ဘဏ်တိုးကိစ္စကတော့ လောလောဆယ် ထိန်းထားနိုင်လို့ ဝက်သစ်ချမြိုင်တွင် တနှစ် ဆက်နေခွင့်ရပြီ။ သို့သော် တနှစ်လုံးလုံး ဘာနှင့် သွားစားနေမည်နည်း။

အနာဂတ်သည် ကန္တာရလွင်ပြင်လို ဟင်းလင်း ဖြစ်နေ၏။ နောင်နှစ် ဆောင်းရာသီ အတွက် စိုက်ပျိုးစရိတ် မရှိ။ ကြွေးဟောင်း မဆပ်နိုင်ခင် မြေဩဇာက အကြွေးဝယ်၍ မရနိုင်။ ပြင်ဆင်ထိန်းသိမ်းစရိတ်က အများကြီး တက်ဦးမည်။ စိုက်ပျိုးရေးမဂ္ဂဇင်းဖိုးတောင် သည်နှစ် သွင်းနိုင်ပါတော့မလား။ ဝက်သစ်ချမြိုင်၏ နေ့စဉ်အသုံးစရိတ်က ရှိသေးသည်။

သည်ကိစ္စတွေအားလုံး ကျော်လွှားနိုင်သည် ထားဦး၊ ဘေထုပ် ၁၀ သန်း သိုလှောင်ထား ပြီးသား နိုင်ငံ၌ နောက်ထပ် ဝါဆက်စိုက်လျှင် ဖြစ်နိုင်ပါတော့မည်လား၊ တသက်လုံး ဝါဂွမ်း စိုက်လာသည့် မြေတွင် ဖြုန်းစားကြီး အခြားသီးနှံ အစားထိုးလို့ ရမလား၊ ဝါဂွမ်း... ဝါဂွမ်း၊ အယ်လီနာ့ခေါင်းထဲတွင် ခေါင်းလောင်းထိုးသလို ဆူညံနေသည်။ ဥရောပမှာ စစ်တိုက်နေကြတဲ့ လူတွေ ရူးနေကြပြီလား၊ သူတို့တတွေ အဝတ်မဝတ်ကြတော့ဘူးလား၊ အပြစ်မရှိတဲ့ သည် ဝါဂွမ်းထုပ်တွေကို ပင်လယ်ထဲ မျှောပစ်ရတော့မှာလား။

ကားကို ပြန်ကွေ့ပြီး ဝက်သစ်ချမြိုင်သို့ ဦးတည်လာခဲ့သည်။ အိမ်ရှေ့တွင် ကားထိုး ဆိုက်သည်။ စတီယာရင်ဘီးပေါ် တံတောင်နှင့် ထောက်ပြီး လက်မောင်းပေါ်သို့ မျက်နှာ မှောက်ချလိုက်သည်။ ပြီးတော့ တိုးတိုးကလေး တယောက်တည်း ပြောနေ၏။

“အို.... ဘုရားသခင်၊ ဒီဝါဂွမ်းတွေကို ရောင်းလို့မှ မရရင် . . . ဒီအကြောင်းအရာတွေ ကျွန်တော်မျိုးမ၏ ဦးခေါင်းထဲသို့ ဝင်မလာအောင် တားမြစ်ပေးတော်မူပါ ဘုရား”

※※※

# (၂)

ဘုရားသခင်ထံ ဆုပန်လျှင် ပေးသနားနိုင်မည့် ဆုမျိုးကိုသာ တောင်းကြပါဟု သွန်သင် ဆုံးမလေ့ရှိသော ဂိုဏ်းအုပ်ကြီးများ၏ စကားကို အယ်လီနာ ကြားယောင်လာသည်။ အခြေ အနေက သတိပေးနေခြင်း ဖြစ်၏။

အတွင်းပစ္စည်း အားလုံး ဘဏ်တွင် ထားခဲ့ရသည်။ ရှေးဟောင်း အရက်ပုလင်းတွေ ရောင်းရသည့် ငွေကို အိမ်စရိတ်အတွက် သတ်သတ် ဖယ်ထားသည်။ ဘယ်လောက်ကြာကြာ ခံမည် မသိ၊ လူနေမှုစရိတ်က ခေါင်ခိုက်နေပြီ၊ စစ်ဖြစ်ပြီ ဆိုသည်နှင့် ဥရောပမှ လာသည့် ပစ္စည်းဈေးတွေ အဆမတန် ဖြစ်ကုန်သည်။ ရိက္ခာပြတ်သည့် အဆင့်သို့ မရောက်သေးသည့်တိုင် ဝက်သစ်ချမြိုင်သည် အသက် ဖုတ်လှိုက် ဖုတ်လှိုက်ရှူနေသည့် လူမမာကြီးနှင့် တူနေ၏။

နောက်တနှစ် စိုက်ပျိုးရာသီတွင် ဘာစိုက်မည်ကို ခုထိ ရေရေရာရာ မဆုံးဖြတ်ရသေး။ ဘဏ်သို့ ဒေါ်လာ ၂၀,၀၀၀ သွင်းဖို့ နောက်ဆုံးအချိန်က ဆောင်းဦးပေါက်။

ဆောက်တည်ရာမရ ဖြစ်သည်ထက် ဖြစ်လာ၏။ ကက်စတာက အပြင်ထွက်ပြီး လည်ဖို့ ပတ်ဖို့၊ ပျော်ပျော်နေဖို့ တိုက်တွန်းသည်။ သည်လို အခြေအနေဆိုးကို လည်စင်းခံနေမည့်အစား ပျော်ပျော်နေ သေခဲဝါဒဖြင့် အလျှင်အတိုင်း နေကြမည်ဟု ကက်စတာ့ မိတ်ဆွေအပေါင်းအသင်း အားလုံးက ညှိထားကြသည်။ စိတ်ညစ်ညစ်ဖြင့် မိမိအခန်းထဲတွင် ခေါက်တုံ့ ခေါက်ပြန် လျှောက်နေခြင်းထက် ပျော်ပျော်ပါးပါး ကကခုန်ခုန် နေခြင်းက ပို၍ ကျန်းမာရေးနှင့် ညီညွတ်သည် မဟုတ်လား။

သည်တော့ ကပွဲတွေ ပြန်စကြသည်။ ပျော်ပွဲစား ထွက်ကြသည်။

ကက်စတာ၏ အစ်မဝမ်းကွဲ ဆီလ်ဗီယာ ရောက်လာသည်။ "ရွှေသမင်ကလပ်"မှ ကမကထပြုလုပ်သည့် "ဘေထုပ်တထုပ် ဝယ်ပါ" လှူပ်ရှားမှုကပွဲအတွက် လက်မှတ်လာရောင်း ခြင်း ဖြစ်သည်။ လူတိုင်း လူတိုင်း ဖြစ်သည့်နည်းနှင့် ဝါဂွမ်း ဘေထုပ်တထုပ် ဝယ်ထားကြရန်

လှုံ့ဆော်သည့် လှုပ်ရှားမှု ဖြစ်၏။

“ဘယ်လောက် ကောင်းတဲ့ အစီအစဉ်လဲကွယ်”

ဆီလ်ဗီယာက ရှင်းပြသည်။

“ဘယ်သူမှ အရှုံးမရှိနိုင်ဘူးလေ၊ အစိုးရ ကန့်သတ်စျေး ဒေါ်လာ ငါးဆယ်နဲ့ ဝယ်ထားလိုက်၊ စစ်ပြီးတာနဲ့ တပြိုင်နက် နှစ်ဆ သုံးဆ တက်တော့မှာ”

“ဟုတ်လား”

အယ်လီနာက နားမလည်သလို ပြန်မေး၏။

“ဒါပေါ့ အယ်လီနာရဲ့”

အစ်မ ဆီလ်ဗီယာက ဧည့်ခန်းအထားအသိုကို ချီးကျူးရင်း-

“ဒါထက် အယ်လီနာတို့ ဘေထုပ်ဝယ်ပြီးပြီလား ဟင်”

အယ်လီနာ ပါးစပ်အဟောင်းသား ဖြစ်သွားသည်။

“ဝက်သစ်ချမြိုင်မှာ ဝါဂွမ်းတွေ တောင်လိုပုံနေတာပဲ အစ်မ ဆီလ်ဗီယာရဲ့”

ဟု ကက်စတာက ရယ်ချင်စိတ်ကို မျိုသိပ်ပြီး ဝင်ပြောသည်။

“ဟေး... ကက်စတာ၊ ဒါက ကျင့်ဝတ်တခုအနေနဲ့ လုပ်ရမှာ ငါ့မောင်ရဲ့”

“အဲဒီ ကျင့်ဝတ် ဆိုတာအတွက် အယ်လီနာတို့မှ မတတ်နိုင်တာ အစ်မ ဆီလ်ဗီယာ ကလည်း”

“ညီမ အယ်လီနာရယ်၊ ဒီလို မပြောသင့်ဘူးလေ။ သမ္မတကြီး ဝီလ်ဆင် ဘေထုပ်တ ထုပ် ဝယ်တယ်၊ သူ လိုလို့ ဝယ်တာ မဟုတ်ဘူးလေ။ မြို့တိုင်းမှာ လူတိုင်း တထုပ်စီ ဝယ်ပြီး အိမ်ရှေ့မှာ ပြထားကြတယ်လေ”

“ဖက်ရှင်တမျိုးနဲ့ ရန်ပုံငွေ ကောက်တာပေါ့၊ ဟုတ်လား”

ကက်စတာက ခပ်ညည်းညည်း ပြောလိုက်သည်။

“နယူးအော်လင်းမှာ ရှိသမျှ ကုန်သည်ကြီးတွေလည်း ဝယ်ကြတာပဲ၊ ဘေထုပ်တွေ မှာ “ကျုပ်တော့ ဝယ်ပြီးပြီ၊ ခင်ဗျား ဝယ်ပြီးပြီလား” ဆိုတဲ့ စာတန်းကြီးတွေ ရေးလို့”

“သိပ်ကောင်းတဲ့ ကြော်ငြာနည်း တမျိုးပဲ”

အယ်လီနာက ဆက်ဝေဖန်သည်။

တဆက်တည်း-

“အယ်လီနာ့ အထင်တော့ သိပ်အဓိပ္ပာယ် မရှိပါဘူး” ဟု ရှုတ်ချလိုက်၏။

“ဩော်. . . အယ်လီနာ ကလည်းကွယ်”

ဆီလ်ဗီယာက လက်ပွေ့အိတ်ကို ဖွင့်ပြီး ရင်ထိုးစာတန်းကလေးတွေ ထုတ်ယူလိုက် သည်။

“ဒါကလေးတွေကို လူတိုင်းရဲ့ ရင်ဘတ်မှာ ချိတ်ထားဖို့တောင် လုပ်နေရတာကွဲ့။ ဒီမှာကြည့်လေ ကက်စတာ၊ စာတန်း ကလေးက “ကျုပ်တော့ တထုပ်ဝယ်ပြီးပြီ၊ ခင်ဗျား ကော”တဲ့လေ”

ဆီလ်ဗီယာက သည်းခံခွင့်လွှတ်သည့် အစ်မတယောက် ပုံစံဖြင့် ရယ်လိုက်သည်။

“ဒီမယ် ကက်စတာ၊ အစ်မဟာ ဘယ်လောက် ကျပ်တည်းတယ် ဆိုတာ မင်းတို့ အသိဆုံး။ အိမ်က လူကလည်း သူ့ရဲ့ ဖြူစင်ဖြောင့်မတ်တဲ့ စိတ်ထားမျိုးနဲ့ ကုန်သည်လောကမှာ အလုပ်မဖြစ်ဘူး အယ်လီနာရဲ့”

ဆီလ်ဗီယာက ဆင်းတောင့်ဆင်းရဲ ဖြစ်နေသည့် အထဲမှ ဘောထုပ်တထုပ် ဝယ်ပြီး ဖြစ်ကြောင်း၊ သည်လှုပ်ရှားမှုကို အမျိုးသားရေးကိစ္စတရပ်အဖြစ် သဘောထားရမည် ဖြစ် ကြောင်းများ ရှင်းပြနေသည်။

ဘယ်တုန်းကမျှ နိုင်ငံရေးစကား မပြောခဲ့ဖူးသည့် ဆီလ်ဗီယာ၏ အဆိုကို နားထောင် ရင်း ကက်စတာက သဘောကျနေ၏။ အယ်လီနာက အောင့်သက်သက် ဖြစ်နေသည်။

“ဟယ် .. လက်ကိုင်ပဝါ ကလေး ဘယ်မှာ ကျကျန်ပါလိမ့်၊ မြင်းရထားပေါ်က အဆင်း မှာ ထင်တယ်။ ငါ့မောင်ရယ်၊ အပြင်ခန်းမှာ သွားကြည့်ပေးပါကွယ်”

ဆီလ်ဗီယာက ကက်စတာ့ကို ခိုင်းသည်။ ကက်စတာ ထွက်သွားတော့ အယ်လီနာ့ အနားသို့ ကပ်ပြီး ထုံးစံအတိုင်း တွတ်တွတ်ထိုးတော့၏။

“ညီမရယ်၊ လင်ရှေ့မှာ စိတ်ပျက်လက်ပျက် လုပ်မပြရဘူးကွဲ့၊

ယောက်ျားတိုင်းဟာ သူတို့ မိန်းမတွေ ပျော်နေတာကို ကြည့်ချင်ကြတာ။ အစ်မ ဆီလ်ဗီယာက အတွေ့အကြုံရှိလို့ ညီမကို သတိပေးတာနော်"

အယ်လီနာက ဒေါပွသွားသည်။ သို့သော် ဘာမျှ ပြောချိန် မရလိုက်။ ကက်စတာက ချက်ချင်း ပြန်ဝင်လာသည်။ လက်ကိုင်ပဝါ ရှာမတွေ့ကြောင်း ပြောသည်။ ဆီလ်ဗီယာက လက်ပွေ့အိတ်ထဲ ပြန်ရှာသည်။ တွေ့တော့ နမော်နမဲ့နိုင်သော သူ့ကို ခွင့်လွှတ်ဖို့ တောင်းပန်သည်။

ကက်စတာက ကပွဲလက်မှတ်နှင့် ဘေထုပ်တထုပ် ဝယ်လိုက်၏။ ဆီလ်ဗီယာ ပြန်သွားတော့ အယ်လီနာ ရန်ထောင်တော့၏။

"ဘာလို့ ဝယ်လိုက်ရတာလဲ"

ကက်စတာက ကုလားထိုင်ပေါ် ခြေပစ်လက်ပစ် ထိုင်ချပြီး-

"ဘာရယ်လို့ မဟုတ်ပါဘူးကွာ၊ နားအေး ပြီးရော ဆိုပြီး ဝယ်လိုက်တာပါ"

ကက်စတာက ပြောရင်း ရယ်ချလိုက်သည်။

"ဘာဖြစ်လို့ မောင့်ကို လက်ကိုင်ပဝါ ပျောက်ဟန်ဆောင်ပြီး အပြင်ထွက်ခိုင်းတာလဲ။ တကယ့် ဆီလ်ဗီယာပဲ၊ မောင် တခါမှ အဲဒီလို အလုပ်မခံရဖူးဘူး"

"သိပ်မုန်းဖို့ ကောင်းတာပဲ"

အယ်လီနာက ရယ်သံတဝက်ဖြင့် ပြောသည်။

"မောင့်ကို အပြင်ထွက်ခိုင်းပြီး အယ်လီနာ့ကို လက်ချာရိုက်ဖြစ်အောင် ရိုက်သွားသေး တယ်လေ။ လင်ချစ်အောင် နေပုံထိုင်ပုံလေ"

"အင်း . . . မောင် ထင်တော့ ထင်သားပဲ၊ ကွန်ရတ်နဲ့ သူနဲ့ လက်ထပ်တာ ဆယ့်နှစ်နှစ်ရှိပြီ၊ ဟိုလူက တကယ် ချစ်ဖို့ကောင်းတဲ့ လူအေးပါ ၊ သူ့ဆိုးမျိုးကို တော်တော် ခံရရှာတယ်။ ဆီလ်ဗီယာ ကို စိတ်တိုင်းမကျတိုင်း အရက်ချည်း ဖိသောက်တော့တာပဲ၊ ခုတော့ အရက်သမားလုံးလုံး ဖြစ်နေပြီ"

"အဲဒီ လွမ်းချင်းကို သူက တွေ့ရာလူ အထုပ်ဖြေပြနေတာ မောင်ရဲ့"

ကက်စတာက ရယ်ချယ်ပက်ကျိ ဖြစ်လာပြန်သည်။

“ဟုတ်လား၊ တခါတုန်းက ဒီလို မဟုတ်ဘူးကွ၊ ကွန်ရတ်က ခရီးလွန်နေပြီး တော်တော် နဲ့ ပြန်ရောက်မလာဘူး၊ အဲဒီတုန်းကတော့ တငိုငို တရယ်ရယ်နဲ့လေ၊ ကွန်ရတ်ရဲ့ ခါတ်ပုံကို ပြာချပြီး သူ့အိပ်ရာနံဘေးမှာ ထားတယ်လေ၊ တသက်လုံး ကိုးကွယ်မယ်တဲ့”

“အောင်မယ်လေး စိတ်ကူးယဉ်လိုက်တာ”

“သူ့အိမ်ရောက်ရင် သတိထားကြည့်လေ၊ ဆီလ်ဗီယာက သူ့အခန်းထဲကို ခေါ်သွား လေ့ရှိတယ် သိလား၊ မှန်နားမှာ ထားတဲ့ အဲဒီပြာအိုးအကြောင်း ပြောဖြစ်အောင် ပြော၊ မဟုတ် ရင်တော့ နာပြီသာ အောက်မေ့။ တနေ့လုံး သူ့ဝေဒနာ ကြေညာခန်းကို နားထောင်ရပြီ မှတ်တော့”

အယ်လီနာ မရယ်ဘဲ မနေနိုင်တော့ပေ။ စားစရာ အနိုင်နိုင် ဖြစ်နေသည့်ကြားက ကပွဲလက်မှတ် ဝယ်သည်ကိုတော့ ဘယ်လိုမျှ မကျေနပ်။ သို့သော် ကရပြန်တော့ ပျော်နေမိပြန်သည်။

“ဒါကြောင့် အချစ်ကို ပြောတာပေါ့၊ ဖြေဖျော်မှုဟာ လိုအပ်ပါတယ်လို့”

ကက်စတာက ဤသို့ ထောက်ခံအားပေးသည်။ “ရွှေသမင်ကလပ်”ကပွဲသို့ သွားရန် အဝတ်လဲနေစဉ်ကပင် အယ်လီနာတယောက် ရွှင်ပျနေပြီ။ သည်ပွဲတွင် အစ်ဇဘယ်ဗားကိုးနှင့် ဆုံစည်းရခြင်း ဖြစ်၏။

အစ်ဇဘယ်ဗားကိုး၏ အမည်သည် တပတ်လုံးလုံး လူတိုင်း၏ နှုတ်ဖျားတွင် ရေပန်းစား လျက် ရှိသည်။

အယ်လီနာကိုယ်တိုင် သိကျွမ်း ရင်းနှီးလိုစိတ် ဖြစ်လာ၏။ အစ်ဇဘယ်မှာ ဒယ်ရှိုင်းမြို့သူ ဖြစ်ကြောင်း၊ အလွန်ချမ်းသာ ကြွယ်ဝသည့် ဂျာမန်သူဌေးကြီးတဦးနှင့် လက်ထပ်ပြီး ဂျာမနီ တွင် လိုက်နေကြောင်း စသည့် သတင်းများကို လူမမြင်ဖူးခင်ကပင် အယ်လီနာ ကြားနှင့်နေပြီ။ နိုင်ငံခြားကို လိုက်သွားတာ ခုနစ်နှစ်ရှိပြီတဲ့၊ သူမို့ နေနိုင်တယ်၊ ကိုယ့်တိုင်းပြည် ကိုယ် မပြန် ချင်ဘူးလား မသိဘူးနော်၊ စစ်ဖြစ်လို့ ပြန်ပြေးလာတာတဲ့။ ရွှေသမင်ကလပ် ကပွဲသို့ သွားမည့် ညနေတွင် ဝိုင်အိုလက်က ဝက်သစ်ချမြိုင်သို့ ဝင်လာပြီး ကော်ဖီသောက်ရင်း အစ်ဇဘယ်အိမ်မှ လာခြင်း ဖြစ်ကြောင်း ပြောသည်။ အမျိုးသမီးက မြစ်ကမ်းနံဘေးရှိ ကွယ်လွန်သူ ဖခင်ကြီး၏ အိမ်တွင် နေလျက်ရှိကြောင်း သိရပြန်သည်။

“သိပ်သနားဖို့ ကောင်းတာပဲကွယ်၊ ပိုပြီး နိုင်ငံခြားဆန်လာတော့

ပိုလှနေတယ်။ အဝတ် အစားကလည်း နောက်နှစ်အထိ ခေတ်ရှေ့ပြေးနေမယ့် အဝတ်အစားတွေချည်းပဲ အယ်လီနာ ရယ်။ အင်း. . . စစ်ပြီးတဲ့အထိ သူ ဘယ်လိုများ အချိန်ဖြုန်းမလဲ မသိဘူးနော်”

“သူ့ယောက်ျားက ဘယ်မှာလဲ၊ စစ်ထဲ ဝင်သွားလို့လား” အယ်လီနာက ဖြတ်မေးလိုက်၏။

“အို... ဘယ်ကလာ၊ သူ့ယောက်ျားဆုံးတာ သုံးနှစ် ရှိပြီလေ။ အဲဒီကတည်းက နော်ဝေ မှာ နေလိုက်၊ စကော့တလန် သွားလိုက်၊ မွန်တီကာလိုမှာ အနားယူလိုက်နဲ့ ရာသီဥတုအလိုက် လှည့်နေတယ်တဲ့ကွယ်။ ပါရီမှာ နေတဲ့အခါလည်း နေသတဲ့၊ ခုတော့ လူဝီစီးယားနား ရောက်နေ ပြီပေါ့။ အင်း. . . ကိုယ်တော့ သူတို့ ကမ္ဘာကျော် သန်းကြွယ်သူဌေးတွေ အကြောင်း စုံအောင် မပြောတတ်ပါဘူးကွယ်”

စိတ်ဝင်စားစရာ ကောင်းတဲ့ အမျိုးသမီးပေပဲဟု အယ်လီနာ မှတ်ယူလိုက်သည်။ ကပွဲကို လာမလားဟု ဝိုင်အိုလက်ကို မေးလိုက်သည်။

“အဲဒါတောင် မမေးခဲ့ရဘူး အယ်လီနာရယ်၊ ကလယ်ရာရှာရမီပေါ့၊ စကားပြော ကောင်းနေတုန်း အတင်းခေါ်တာနဲ့ ထလိုက်ခဲ့ရတယ်။ ကလယ်ရာတယောက်ဟာ ချစ်စရာ တော့ ကောင်းပါရဲ့၊ ဒါပေမဲ့ တခါ တခါ အလိုက်မသိတတ်ဘူးကွဲ့”

ဘာကြောင့်မှန်းမသိ အယ်လီနာတယောက် အစ်ဇဘယ် ဆိုသည့် အမျိုးသမီးကို စိတ်ဝင်စားနေမိပြီ။ ကပွဲအသွား လမ်းတွင် ကက်စတာကို မေးသည်။

“အဲဒီ အစ်ဇဘယ် ဆိုတဲ့ အမျိုးသမီးကို မောင် သိလားဟင်”

ကက်စတာက ငယ်ငယ်ကတည်းက သိကြောင်း ပြန်ပြော၏။

“သူတို့ ပြောနေကြသလောက် လှလား ဟင်”

“ဟိုတုန်းကတော့ လှပါတယ်၊ ခုတော့ မောင် ဘယ်သိမလဲ”

“ဒီည သူနဲ့ တွေ့မလား မသိဘူးနော် . . . မောင်”

ကက်စတာက စကား မဆက်တော့။ သူ့စိတ်ထဲတွင်တော့ အလိုလို သိနေ၏။ အစ်ဇဘယ် နှင့် သည်ည ဆုံလိမ့်မည် ဟု။ လူအစုံဆုံး စုစည်းကြမည့်ပွဲ မဟုတ်လား။ သည်လိုညမျိုးတွင် သူ့မိတ်ဟောင်း ဆွေဟောင်းတွေနှင့် တွေ့ဖို့ အစ်ဇဘယ် မုချလာမည်ဟု ကက်စတာ တွက်ထား၏။ အေးမြမြ ဆောင်းည ဖြစ်၏။ နှင်းပွင့်တွေ

တဖွဲဖွဲ ကြွေလျက်။ ကပွဲခန်းမထဲတွင်တော့ ဝင်းလက် တောက်ပနေ၏။ ကက်စတာနှင့် အယ်လီနာ ရောက်သွားတော့ လူတွေ ခန်းလုံးပြည့် ရောက်နှင့်နေကြပြီ။ ကပွဲသဘင် စနေပြီ။ ဘော့ပါစယ်က အယ်လီနာကို မြင်မြင်ချင်း တွဲကဖို့ အတင်းခေါ်သည်။ အယ်လီနာက ကက်စတာကို ယာယီနှုတ်ဆက်ပြီး ဘော့နှင့် ပါသွားသည်။ ကမိပြီ ဆိုပြန်တော့လည်း အယ်လီနာ ပျော်လာသည်။ အစ်ဇဘယ် အကြောင်း မေ့သွားတော့၏။

"မြေခွေးခြေလှမ်း" အက အပြီးတွင် ဘော့နှင့် အယ်လီနာ ရှန်ပိန်စားပွဲမှ လူအုပ်ကြီး ဆီသို့ လျှောက်လာခဲ့ကြသည်။ လူတစု၏ အလယ်တွင် အစိမ်းရောင်ဝတ်စုံနှင့် အလွန့် အလွန် ကျက်သရေရှိလှသည့် အမျိုးသမီးတယောက်။ လက်ထဲတွင် အရက်ခွက်ကို ကိုင် လျက်။

ပတ်ပတ်လည်မှ မေးသမျှ မေးခွန်းများကို ဒိုင်ခံဖြေနေသည်။ ကြည်လင်ရွှင်ပျနေသည့် အသံဖြင့်။ ဝိုင်အိုလက်က အယ်လီနာ့လက်ကို ဆွဲပြီး လူအုပ်ထဲသို့ အတင်းဝင်သည်။ သူတစိမ်း တွေက အစ်ဇဘယ်၏ ရွှေအိုရောင် မျက်လုံးရွဲကြီးများကို တအံ့တသြ ငေးကြည့်ကြသည်။ အစ်ဇဘယ်ပဲ ဖြစ်ရမည်ဟု အယ်လီနာ သိလိုက်သည်။ ငေးကြည့်နေမိသည် ထင်၏။

အစ်ဇဘယ်သည် ကပွဲဆောင်ထဲတွင်သာ အလှဆုံး မဟုတ်၊ လူဝီစီးယားနားပြည်နယ် တနယ်လုံးမှာပင် သူ့လောက်လှသူ ရှိမည် မထင်။ မျက်နှာမှာ နုညက်စွာ ရှင်းသန့်ကြည်လင် ၏။ ကိုယ်နေဟန် ကြော့ရှင်း၏။ အမူအရာမှာ ယဉ်ကျေး၏။ အထက်တန်းကျ၏။ အစိမ်းရောင် ဝတ်စုံနှင့် လိုက်ဖက်လှသည်။ ကြော့ရှင်းနေသည့် လည်တိုင်နှင့် ပခုံးသားဖွေးဖွေး၏ အလှကို လှစ်ပြနေသည့် ဝတ်စုံမှာ စွင့်ကားသော တင်သား ပတ်ဝန်းကျင်မှ လွဲပြီး ချပ်ချပ်ရပ်ရပ် ရှိလှ သည်။ ရွှေရောင်ဆံပင်ကို လှလှပပ ဖြီးထားသည်။ လှိုင်းတွန့်ကလေးများ ထလျက်။ ပြုံးလိုက် ပုံက ချစ်စဖွယ် ခံ့ညားသည်။ လုံးဝ မကလက်။

အစ်ဇဘယ်သည် နိုင်ငံခြားသူတယောက်နှင့် တူနေသည်ဟု အယ်လီနာ ထင်၏။ သူ့အလှသည် မစ္စစ်စပီ မြစ်ကမ်းနံဘေးက တောမြို့ကလေးနှင့် မတန်ဟုပင် တွေးမိ၏။

"ကိုယ်တို့က ဥရောပစစ်သတင်းတွေ ဖတ်ပြီး လန့်နေကြတာ အစ်ဇဘယ်ရဲ့။ ဪ. . . ဒါထက် မင်းတို့နှစ်ယောက် မသိကြသေးဘူးနော်၊ ဒါ မစ္စက်လန်းလေ၊ အယ်လီနာ၊ သူက အစ်ဇဘယ်၊ မစ္စက်... အဲ- မင်းယောက်ျား နာမည်"

အစ်ဇဘယ်က သိမ်မွေ့စွာ ပြုံးပြီး-

"ရှီမဲလ်ဖန်းပါ"

"ကဲ .. ကြားလား အယ်လီနာ၊ ကိုယ်တော့ အသံမထွက်တတ်ဘူး"

အယ်လီနာက ရယ်ပြီး-

"အယ်လီနာလည်း ထွက်တတ်မှာ မဟုတ်ဘူး၊ အသံထွက် မမှန်ရင် စိတ်မဆိုးနဲ့နော်၊ တွေ့ရတာ ဝမ်းသာပါတယ် အစ်ဇဘယ်"

"ရပါတယ်ကွယ်၊ ကိုယ်လည်း သူနဲ့ ညားပြီး တလလောက်ကြာမှာ သူ့နာမည်ကို ခေါ်တတ်တာပါ"

အစ်ဇဘယ့် အသံက ချစ်စဖွယ် ကြည်လင်လှသည်။ သူက ဆက်ပြီး-

"ဪ... ဒါထက် မစ္စက်ကက်စတာလန်း နော်"

"ဟုတ်ပါတယ်ရှင်"

"ကက်စတာကို ကောင်းကောင်း မှတ်မိပါတယ်၊ သူ ဒီည လာလားဟင်"

"ဟုတ်ကဲ့၊ သူ ရှိပါတယ်၊ အယ်လီနာကြောင့် စကားစ ပြတ်သွားတယ် ထင်တယ်။ ဥရောပစစ်ပွဲ အကြောင်း ပြောနေကြတာ မဟုတ်လား ဟင်"

အစ်ဇဘယ်က ပခုံးတွန့်ပြသည်။ သည်အကြောင်း ဆက်မပြောချင်သည့် ပုံ။ သို့သော် ကလယ်ရာရှာရမီက သိပ် စိတ်ဝင်စားနေသည်။

"အစ်ဇဘယ်က ဥရောပက ထွက်လာတဲ့ စွန့်စားခန်းတွေ ပြောပြနေတာ အယ်လီနာရဲ့၊ သိပ် ရင်ခုန်စရာ ကောင်းတာပဲ။ ဆက်ပြောပါ အစ်ဇဘယ်ရယ်၊ အဲဒီလို ဗြုန်းစားကြီး ဖြစ်လာ တော့.."

ကလယ်ရာက စကားလမ်း ကြောင်းပေးသည်။ အစ်ဇဘယ် ဆက်ပြောရတော့၏။

"ဥရောပမှာ ကျီးလန့်စာစား ဖြစ်နေပြီကွဲ့၊ တိုင်းပြည်တိုင်း၊ မြို့ရွာတိုင်းမှာ ကြေညာ စာတမ်းတွေ ဝေ၊ စစ်သားတွေ စုဆောင်းနဲ့။ အို... နှလုံးသွေးပျက်ချင်စရာ ကောင်းလောက် အောင်ပါပဲကွယ်"

အယ်လီနာက ဘော့ပါ စယ် ကမ်းပေးသည့် ရှန်ပိန်ခွက်ကို လက်ခံလိုက်သည်။ ဘော့က အစ်ဇဘယ်အား-

"ဆက်ပြောလေ၊ အဲဒီတုန်းက မင်း ဘယ်မှာလဲ အစ်ဇဘယ်၊ ဂျာမနီမှာပဲလား"

"ဟင့်အင်း . . . အီတလီမှာ၊ ဘုရားသခင် ကျေးဇူးတော်ကြောင့်ပေါ့၊ ဂျာမနီက ဆိုရင် ခုလို ထွက်လာလို့ ဘယ်ရမလဲ၊ အီတလီလည်း အခြားနိုင်ငံတွေလိုပဲ အခြေအနေဆိုးတာပဲ၊ ဒါပေမဲ့ ကြားနေနိုင်ငံလေ။ လမ်းတွေပေါ်မှာဆိုရင် နိုင်ငံခြားသား တွေ ဥဒဟိုပဲ၊ သူတို့ကိုလည်း ချမ်းသာမပေးဘူး၊ စစ်တပ်က ဆွဲတာပဲ။ မျက်ရည်လည်လည်နဲ့ အိမ်သားတွေကို နှုတ်ဆက် နေတဲ့ လူငယ်တွေကို နေရာတကာမှာ တွေ့နေရတယ်"

"အစ်မ အစ်ဇဘယ်က ကြားနေ ဆိုတော့ တော်သေးတာပေါ့နော်"

ကလယ်ရာက ဝင်ဆွေးနွေးသည်။

"အစ်မ အစ်ဇဘယ် ကြားနေ မဟုတ်ပါဘူး ကလေးရယ်၊ တရားဝင်က ဂျာမန်လေ၊ ဘုရင်ကိုင်ဇာရဲ့ သစ္စာတော်ခံပေါ့ကွယ်"

"ဟင်... တကယ်"

ကလယ်ရာက အလန့်တကြား မေးသည်။ အစ်ဇဘယ်က လက်ထဲမှ ဖန်ခွက်ကို ရှေ့ဆန့် ပေးပြီး-

"ကဲ ... ဖြည့်ပေးကြပါဦးကွယ်၊ ရှန်ပိန် မသောက်ရတာ တော်တော်ကို ကြာပြီ"

အမျိုးသားသုံးယောက်က အစ်ဇဘယ့် ရှန်ပိန်ခွက်ကို အလုအယက် ဖြည့်ပေးကြသည်။ အစ်ဇဘယ်က အားလုံးကို ကျေးဇူးတင်စွာ ကြည့်သည်။ ဆက်ပြောဖို့ အားလုံး၏ တောင်းဆို ချက်ကို လိုက်လျောသည်။

ဥရောပတိုင်းပြည်များ၏ စစ်သတင်းများကို သိုင်းသိုင်းဖွဲ့ဖွဲ့ ပြောပြသည်။

"ကံကောင်းချင်တော့ စစ် စဖြစ်တဲ့အချိန် အီတလီ ရောက်နေတယ်လေ။ အမှန်က ဂျာမနီကို ပြန်ရမှာ၊ အီတလီ စစ်သံမှူးရုံးမှာ အစ်ဇဘယ်လိုပဲ လူဝီစီးယားနား ပြည်နယ်သား တယောက်နဲ့ သွားတွေ့တယ်၊ သိပ်သဘောကောင်းတဲ့ လူပဲ။ သူနဲ့တွေ့တော့ လူဝီစီးယားနား ကို သိပ်အောက်မေ့လာတယ်လေ၊ မစ္စစ်စပီမြစ်ကြီးရယ်၊ ကြံခင်းတွေ၊ ချည်ထုပ်တွေ၊ ဝါခင်း တွေ၊ ရေကာတာကြီးတွေနဲ့ ပြောင်းဖူးပေါင်မုန့်ကို သိပ်လွမ်းလာတယ်"

ကလေးတယောက်လို အပြစ်ကင်းသည့် ဝင်းပပ မျက်နှာကလေးဖြင့်

ပြောနေသည့် အစ်ဇဘယ်ကို ကြည့်ပြီး အယ်လီနာ က ရယ်လိုက်သည်။ အစ်ဇဘယ်က ပထမ အယ်လီနာကို တအံ့တသြ ကြည့်သည်။ ပြီးမှ သူပါ လိုက်ရယ်သည်။

"နောက်တော့ သူနဲ့ မိတ်ဆွေဖြစ်ပြီး သူ့သဘော်လက်မှတ်နဲ့ပဲ ပစ္စည်းကလေး နည်းနည်းပါးပါး ယူပြီး ထွက်လာခဲ့တာ။ သူက လက်မှတ်ယူပြီးမှ အလုပ်မပြတ်လို့ အီတလီမှာ ကျန်ခဲ့တယ်လေ။ အစ်ဇဘယ့် အပေါ်မှာ အလိုသိပ်လိုက်ရှာပါတယ်"

"အစ်မ အစ်ဇဘယ်ရဲ့ ကျန်တဲ့ ပစ္စည်းတွေကော ဟင်"

ကလယ်ရာက စပ်စုလိုက်သည်။

"ဘာလင်မှာပေါ့ကွယ်၊ ညီမ သွားယူရပါ့မလား"

ထိုစဉ် အစ်ဇဘယ်၏ နောက်မှ အသံတသံ ထွက်လာသည်။

"ဟေး... ဒီမှာ ဝိုင်းကောင်းလှချည်လား"

အသံလာရာဆီသို့ အားလုံး လှည့်ကြည့်လိုက်ကြသည်။ ကက်စတာ။ ခပ်ပြုံးပြုံး လျှောက် လာနေသည်။ အယ်လီနာက ကက်စတာကို စောင့်ကြည့်နေ၏။ ဘဝပြဿနာတွေ ဘာမျှမရှိသည့် လူငယ်ကလေးတယောက်လို ရွှင်ပျလျက်။ အရေထူနေပြီ ထင်ပါရဲ့။

"ရှန်ပိန်ကလေး ဘာကလေး ပေးကြပါဦးဗျ၊ ဟေး. . . ဘော့၊ မောင်ရင် ကိုယ့်အိမ်မှာ အရေပြားရောဂါ စာတမ်းတခု မေ့ကျန်နေခဲ့တယ်။ ဟယ်... အစ်ဇဘယ် ပါလား"

အားလုံးက ကက်စတာကို လမ်းဖယ်ပေးကြသည်။ အစ်ဇဘယ်က ဖန်ခွက်ကို ချပြီး-

"ဟဲလို ကက်စတာ"

ကက်စတာက အစ်ဇဘယ်ကို ခြေဆုံးခေါင်းဆုံး ကြည့်သည်။

"အစ်ဇဘယ်က အရင်အတိုင်းပဲဟေ့၊ ဒီဝတ်စုံက ဂျာမန်ပုံ မဟုတ်ဘူး၊ ပါရီချုပ် မဟုတ်လား"

အစ်ဇဘယ်က ပြုံးပြီး-

"ဟုတ်ပါတယ်၊ ပါရီမှာ ချုပ်တာပါ၊ ကိုယ့်ကို ဘာမှ မပြောင်းလဲဘူးလို့ မမြှောက်ပါနဲ့ ကက်စတာရယ်"

"ဟုတ်တယ်၊ ပုံစံတော့ ပြောင်းသွားတယ်"

"ခုနစ်နှစ်တောင် ကွဲသွားကြတာကိုး"

"ဒါကြောင့် မဟုတ်ဘူး အစ်ဇဘယ်၊ ကမ္ဘာကြီးကိုက ပြောင်းလဲသွားတာ"

"ကက်စတာလည်း အရင်အတိုင်းပါပဲ"

အစေတော်တယောက် လာပေးသည့် ရှန်ပိန်ခွက်ကို ကက်စတာ လှမ်းယူလိုက်သည်။ အစ်ဇဘယ်၏ နောက်ဆုံး မှတ်ချက်ကို ဘာမျှ ပြန်မပြောတော့ဘဲ စကားလမ်းကြောင်း ပြောင်းလိုက်သည်။

"ဒါထက် ဥရောပက ဘယ်လိုလုပ် ထွက်လာသလဲ ဆိုတာ ပြောပါဦး"

"အစ်မ အစ်ဇဘယ်က အဲဒီအကြောင်း ပြောပြနေတာ ကက်စတာရဲ့။ သိပ်ကြောက် စရာ ကောင်းတာပဲ၊ အစ်မ အစ်ဇဘယ်ကို သဘောကျနေတဲ့ အမေရိကန်တယောက်နဲ့ တွေ့ပေ လို့နော်"

ကလယ်ရာက ဝင်ပြီး ရှင်းပြနေသည်။ သံစုံတီးဝိုင်းမှ ဂီတသံ ပျံ့လွင့်လာပြန်သည်။ အစ်ဇဘယ်က တောင်းဆိုသူ အမျိုးသားများကို အားလုံးနှင့် ကပါမည်ဟု ကတိပေးပြီး နီးလ်ရှာရမီနှင့် ပထမ တွဲကသည်။ ညစာစားသည့် အချိန်ထိ အစ်ဇဘယ်ကို အယ်လီနာ မမြင် တော့။ ညစာဝိုင်းတွင်လည်း စားရင်းသောက်ရင်း အစ်ဇဘယ်ကို မေးခွန်းတွေ ဝိုင်းမေးနေကြ ပြန်၏။ အစ်ဇဘယ် စိတ်ညစ်နေပုံရသည်။ တိုတိုတုတ်တုတ်ပင် ပြောတော့သည်။ အချို့မေးခွန်း တွေက အဓိပ္ပာယ်မရှိလှ။ အယ်လီနာ ကိုယ်ချင်းစာမိ၏။

"ဂျာမန်တွေက ဘာဖြစ်လို့ ဘယ်လ်ဂျီယန်ကို ဖြတ်ပြီး စစ်ချီတာလဲ အစ်ဇဘယ်"

"ပြင်သစ်ကို ရောက်အောင်လို့ပေါ့"

"ဘာဖြစ်လို့ ဘယ်လ်ဂျီယန်နိုင်ငံထဲကို ဖြတ်ရတာလဲ"

"လမ်းသင့်လို့ပေါ့၊ မြေပုံ ကြည့်ပါလား"

"ပြင်သစ်တွေက အရင် တက်မလာဘူးနော်"

“ဂျာမန်က ဦးသွားတာကိုး”

“ဂျာမန်တွေက “လူဗိန်း”ကို ဘာလို့ မီးရှို့သွားကြတာလဲ ဟင်"

“ဒါတော့ ကျွန်မလည်း မသိဘူး”

ရက်စက်လွန်းရာ မကျဘူးလား”

“အင်း. . . ဟုတ်မှာပေါ့”

“ကိုင်ဇာဘုရင်ကို မြင်ဖူးလား ဟင်”

“မြင်ဖူးသားပဲ”

“ဘယ်မှာ မြင်ဖူးတာလဲ ဟင်”

“ဗိုလ်ရှုခံပွဲတွေမှာပေါ့”

“လက်တဖက် ကျိုးနေတယ် ဆိုတာ ဟုတ်လားဟင်”

“အဲဒါတော့ သတိမထားမိဘူး”

*“ဘယ်လ်ဂျီယန်နဲ့ အင်္ဂလန် လျှို့ဝှက်မဟာမိတ်စာချုပ် ချုပ်ထားတယ် ဆို”

“အဲဒါတော့ မသိဘူး”

“ဒါပေမဲ့ သတင်းစာတွေက ရေးတော့ မင်းသားကြီး ဘန်းစတော့က ..”

“ဟုတ်ချင်လည်း ဟုတ်မှာပေါ့”

“ဂျာမန်တွေရဲ့ ရက်စက်မှု သတင်းတွေက အမှန်တွေပဲလား”

“အဓိပ္ပာယ် မရှိပါဘူး”

“ဆိုလိုတာက ဂျာမန်လူမျိုးတွေဟာ ဒါမျိုး မလုပ်ဘူးလို့ ဆိုလိုတာလား”

“ကျွန်မ သိတဲ့ ဂျာမန်တွေကတော့ မလုပ်ဘူး”

“ဒါပေမဲ့ သတင်းစာတွေထဲမှာတော့ အစ်ဇာဘယ် ပြောတာနဲ့ တခြားစီ ဖြစ်နေတယ်”

"ဂျာမန်စစ်တပ် အကြောင်းတော့ ကျွန်မ သိပ်မသိဘူး၊ ဒါပေမဲ့ တွေးကြည့်လို့ ရပါတယ်။ နိုင်ငံရေးစစ်ပွဲအတွက် စစ်ပြင်နေချိန်မှာ စစ်သားတွေက မူးရူးပြီး အမျိုးသမီးတွေကို မတရား ကျင့်ဖို့ အချိန်ရှိမယ် မထင်ပါဘူး"

"အစ်ဇဘယ်က ဂျာမနီကို ထောက်ခံတယ်ပေါ့၊ ဟုတ်လား"

အယ်လီနာ မနေနိုင်တော့ ကြားဝင်ရလေပြီ။

"အို… ဘာလို့ ဂျာမန်ကို မထောက်ခံရမလဲ၊ ဂျာမန်ရဲ့ နိုင်ငံခြားရေးဝါဒက ကြားနေပဲဟာ"

အစ်ဇဘယ်က အယ်လီနာကို တအံ့တသြ လှမ်းကြည့်ပြီး-

"ကျေးဇူးတင်ပါတယ်ကွယ်"

ခဏ နေပြီး အစ်ဇဘယ်က ဆက်ပြောသည်။

"ဂျာမနီဟာ တကယ့် ကြားနေနိုင်ငံပါ၊ ဟိုတယ်တွေရဲ့ ငွေတောင်းခံလွှာတွေကို ကြည့်လေ၊ အမြဲတမ်း အင်္ဂလိပ် ဘာသာနဲ့ ပုံနှိပ်ထားတာ။ ပြင်သစ်တို့၊ ရုရှားတို့ ထောက်ခံတဲ့ လူတွေက ဝယ်မစားကြမှာ စိုးလို့တဲ့"

အားလုံး ဝိုင်းရယ်ကြသည်။ နောက်ထပ် မေးခွန်းများကို အစ်ဇဘယ်က ပိတ်ပြော လိုက်သည်။

"ဒီမယ် ကျွန်မ ဂျာမန်သတင်းစာ မဖတ်ရတာ ပြီးခဲ့တဲ့ နွေကတည်းကရှင့်၊ ဟိုတုန်းက တည်းက တပတ်ကို တခါတောင် ဖတ်ချင်မှ ဖတ်တာ၊ ကျွန်မ နိုင်ငံရေးအကြောင်း ဘာမှ မသိဘူး။ အမြောက်သံတွေ ဆူညံနေတဲ့ နေရာက ထွက်ပြေးလာနိုင်တာကိုပဲ ကျွန်မ ဝမ်းသာ နေတာ၊ ခရစ္စတိုဖာကိုလံဘတ်ရဲ့ ရုပ်တုကို ကျွန်မ အိမ်ရှေ့မှာထားပြီး ကိုးကွယ်ရဦးမယ်"

စောစောပိုင်းက ရွှင်ပျမှုတွေ အစ်ဇဘယ်တွင် မရှိတော့။ စိတ်ပျက်ငြီးငွေ့လာပုံရသည်။

စိတ်ကောက်နေသည့် ကလေးမကလေးနှင့် တူနေ၏။ သည်လိုကိစ္စမျိုးတွေ၌ အလွန်ကျွမ်းသည့် ကက်စတာက-

"ကဲ .. သီချင်းဆိုကြရအောင်ကွာ၊ စားပြီးရင် ဝိုင်အိုလက် တီးရမယ်နော်"

ညစာစားအပြီးတွင် စန္ဒရားဆီသို့ စုပြုံသွားကြပြီး သီချင်းတွေ ဆိုကြသည်။

စန္ဒရားကြီး ကိုမှီပြီး အယ်လီနာက ကက်စတာကို ငေးကြည့်နေသည်။ သူ မပါရင် ဘယ်ပွဲမှ စည်မှာ မဟုတ်ဘူး ဟု တွေးနေမိ၏။ သီချင်းသံ၊ စန္ဒရားသံတွေကြားမှာ ဆီလ်ဗီယာ၏အသံ ထွက်လာသည်။

"ဒါပေမဲ့ အစ်ဇဘယ်၊ ဘယ်လ်ဂျီယန် ပြည်သူတွေကတော့ ဂျာမနီကို..."

"ဩော်...ဒုက္ခပါပဲ ဆီလ်ဗီယာရယ်၊ တော်ပါတော့"

ဆီလ်ဗီယာက ရှက်ပြီး လှည့်သွားသည်။ အခြေအနေ အားလုံးကို အယ်လီနာက မြင်လိုက်ကြားလိုက်သည်။ အစ်ဇဘယ် ကို လှမ်းပြုံးပြလိုက်၏။

"သူ့ကို ခွင့်လွှတ်ပါ အစ်ဇဘယ်ရယ်၊ သူက ခပ်တုံးတုံးပါ"

အစ်ဇဘယ်က အောင့်သက်သက် ပြုံးလိုက်သည်။

"ကိုယ့်တိုင်းပြည်ကို နိုင်ငံရေး ရှင်းလင်းပွဲလုပ်ဖို့ ပြန်လာတာ ကျနေတာပဲကွယ်"

အစ်ဇဘယ်က နှစ်ယောက်တည်း စကားပြောကြရအောင်ဟု အချက်ပြလိုက်သည်။

"ကက်စတာနဲ့ လက်ထပ်တာ ဘယ်လောက် ကြာပြီလဲ ဟင်"

"ပြီးခဲ့တဲ့ မေလက နှစ်နှစ်ပြည့်ပါတယ်"

"ကလေး ရပြီလား"

"ဟုတ်ကဲ့၊ မိန်းကလေးတယောက် ရပါပြီ၊ ပြီးခဲ့တဲ့ အပတ်ထဲက အခါလည်လို့ သူ့မွေးနေ့ လုပ်ပါသေးတယ်"

"ပျော်စရာပဲ နော်"

"အယ်လီနာတို့ဆီ လာလည်ဦးနော်၊ အယ်လီနာ ကတိပေးပါတယ်၊ နိုင်ငံရေး အကြောင်း မမေးပါဘူးလို့"

"ကျေးဇူးပါပဲကွယ်"

ဝိုင်အိုလက်က အစ်ဇဘယ်ကို ခွေးခြေပေါ်သို့ ဆွဲချထိုင်ခိုင်းပြီး-

"ကဲ... အစ်ဇဘယ် အလှည့်၊ တီးဦး၊ ဟင်း . . . သူ့လက်က သူများထက်

ပိုကောင်း တာကို”

“ဥရောပ စစ်ချီသီချင်းတွေ မရဘူးလား ဟင်၊ တီးပြပါလား”

တောင်းဆိုသူ ကလယ်ရာကို အစ်ဇဘယ်က ဒေါသတကြီး လှမ်းကြည့်လိုက်သည်။ ကက်စတာက အိမ်ရှင်တဦးသဖွယ် အခြေအနေကို ဝင်ထိန်းလိုက်သည်။

“ဟုတ်တယ် အစ်ဇဘယ်၊ စစ်သီချင်း နားထောင်ရအောင်နော်”

အစ်ဇဘယ်က ပခုံးတွန့်လိုက်သည်။ ပြီးတော့မှ ပြုံးပြီး အင်္ဂလိပ်စစ်ချီသီချင်းကို ဆိုတီးတီးသည်။ ပြီးသည်နှင့် ကကြိုးတီးလုံးကို ပြောင်းတီးလိုက်သည်။ ပြင်သစ်တွင် ခေတ်စား နေသည့် “ကာဆယ်” အကအကြောင်းကို စန္ဒရားအတီး မပျက် ပြောပြနေသည်။ ပြီးတော့ ပရိသတ်အားလုံး ကပွဲခန်းထဲသို့ သွားကြပြီး အစ်ဇဘယ့်တီးလုံးဖြင့် ကကြပြန်သည်။ ပြန်ခါနီး တွင် လူတွေ ရှုပ်နေသဖြင့် အစ်ဇဘယ်ကို အယ်လီနာ နှုတ်မဆက်ခဲ့ရ။ အပြန်တွင် အယ်လီနာ က အစ်ဇဘယ့် အကြောင်းကို ပြောလိုက်လာသည်။

“သူတော့ ဒီလိုညမျိုးကို စိတ်ညစ်မှာပဲနော် မောင်”

“ဒါပေါ့၊ သူ့ဘက်က အချစ် ဝင်ပြောတာ သိပ်ကောင်းသွားတယ်၊ ဂျာမနီကို ထောက်ခံ တဲ့ ကိစ္စနဲ့လေ၊ ဟုတ်သည် ဖြစ်စေ၊ မဟုတ်သည် ဖြစ်စေပေါ့”

“ဟုတ်မှာပါ၊ သူ့ယောက်ျားက ဂျာမန်ပဲဟာ”

ကက်စတာက ရယ်လိုက်သည်။

“ဟုတ်မှာပေါ့လေ၊ “ရတနာရှိရာမှာ အသည်းနှလုံး ရှိတယ်” လို့ ဆိုရိုးရှိတယ် မဟုတ် လား”

“သူ့ယောက်ျားပစ္စည်းတွေ အများကြီး ကျန်ခဲ့မှာပဲနော်”

“အများကြီး နေမှာပေါ့”

ကက်စတာ၏ အသံက ခြောက်ကပ်ကပ်။

“ဆီလ်ဗီယာက သိပ်ရုပ်ပျက်တာပဲ မောင်ရယ်”

“မောင် ပြောဖူးတယ် မဟုတ်လား၊ ခပ်တုံးတုံး လူတွေကျတော့ သနားစိတ်နဲ့

ခင်မင် ရတယ် ဆိုတာလေ၊ ဆီလ်ဗီယာ တို့ ပုံစံမျိုးတွေပေါ့”

လမ်းနံဘေးမှ တရိပ်ရိပ်ကျန်ခဲ့သည့် သစ်ပင်တွေကို အယ်လီနာ ငေးရင်း ဆီလ်ဗီယာ နှင့် အစ်ဇဘေယ်တို့ ဖြစ်သည့် ကိစ္စကို စဉ်းစားလိုက်လာသည်။ ဟိုအဝေးကြီးမှာ ဖြစ်နေသည့် စစ်ပွဲ၏ ဂယက်သည် မဆီမဆိုင် သည်အထိလာပြီး ရိုက်ခတ်နေသည်။

အယ်လီနာသည် ဝါဂွမ်းအကြောင်း စဉ်းစားရင်း အိပ်ပျော်သွားတတ်၏။ နိုးလာ သည်နှင့် တပြိုင်နက် ဘေထုပ်တွေ အကြောင်း ဦးဆုံး ခေါင်းထဲ ဝင်လာသည်ချည်း ဖြစ်၏။ သည်အကြောင်းကို သည်နေ့ လုံးဝမပြောတော့ပါဘူးဟု ဆုံးဖြတ်ပြီး ပြောချင်စိတ်ကို ကော်ဖီ နှင့် ဖိချသည်။ ကက်စတာက အပူအပင်မရှိဘဲ ဘာပြဿနာမျှ မရှိသလို ပျော်ပျော်နေသည့် အတွက် အယ်လီနာ ဝမ်းသာနေရသေးသည်။ သူ့ခေါင်းထဲတွင် ကော်နယ်လီယာကလေး အဖေ ခေါ်တတ်ဖို့က လွဲပြီး ဘာမျှ မရှိ။ ကော်နယ်လီယာ၏ မွေးနေ့တွင် အဖေခေါ်တတ်ရမည်ဟု ကြိုးကြိုးစားစား သင်သည်။ မအောင်မြင်ခဲ့။ နောက်ပိုင်းတွင် နှစ်ဆတိုးပြီး အပင်ပန်းခံ သင်သည်။ အယ်လီနာကလည်း ကူသင်သည်။ ကော်နယ်လီယာက အဖေတော့ မခေါ်တတ်။

သို့သော် ပို၍ ပျော်နေသည်။ တခစ်ခစ် ရယ်သည်။ အဖေနှင့် အမေ၏ ပါးပြင်တွေကို မုန့်စား သည့် ဇွန်းနှင့် လိုက်တို့ပြီး သဘောကျနေတတ်သည်။

“သမီး၊ ခေါ်စမ်း … ဖေဖေလို့”

ကက်စတာက ထပ်ကာထပ်ကာ သင်သည်။

ကော်နယ်လီယာ ဘူးမှုတ်ပြရုံသာ တုံ့ပြန်၏။

“ခေါ်လေ သမီးကလေးရယ်၊ ဖေဖေလေ.. ဖေဖေလို့ ခေါ်လေ”

အယ်လီနာက ကူသင်သည်။

ကော်နယ်လီယာက ရယ်ပြီး ဝူးဝါး ဝူးဝါး လုပ်ပြသည်။

“ဉာဏ်ထုံတဲ့ ကလေးများ ဖြစ်နေမလား မသိဘူးကွယ်၊ အယ်လီနာ ဘယ်လိုထင်လဲ ဟင်"

ကက်စတာက စိုးရိမ်တကြီး မေးသည်။

"မပြောတတ်တော့ပါဘူး မောင်ရယ်"

အယ်လီနာက နာရီကို ငုံ့ကြည့်ပြီး-

"သမီးလေးအတွက် ပစ္စည်းတွေ ဝယ်ရဦးမယ် မောင်၊ ဆပ်ပြာလည်း ကုန်နေပြီ၊ အယ်လီနာ မြို့ထဲကို သွားလိုက် ဦးမယ်။ မောင် ဆက်သင်နေနော်"

အပြင်သို့ ကားမောင်းထွက်ခဲ့သည်။ ရာသီဥတုက သာတောင့်သာယာ မရှိသော်လည်း အယ်လီနာ့စိတ်ထဲတွင် ပေါ့ပါး ရွှင်လန်းနေ၏။ ဩော်-ကလေးဆိုတာ အိမ်ရဲ့ဆည်းလည်း ပါလား၊ ကက်စတာက နောက်တယောက် လိုချင်သေးသည် တဲ့လေ၊ ကလေးတွေ၏ နောင်ရေး အတွက် စိတ်မအေးရမချင်း မလိုချင်သေးဘူးလို့ သူ့ကို ပြောထားရသည်။ မြို့ကို ရောက်သည် နှင့် တချိန်လုံး နှိပ်စက်နေသည့် ဝါဂွမ်းကိစ္စ ခေါင်းထဲ ရောက်လာပြန်သည်။ ကုန်တိုက်သို့ ရောက်သည့် အချိန်တွင် မိုးရွာချသည်။ ကုန်တိုက်ထဲတွင် အအေးသောက်နေကြသော ကလယ်ရာ နှင့် ဝိုင်အိုလက်ကို သွားတွေ့သည်။ သူတို့နှစ်ယောက် အအေးသောက်ရင်း ရာသီဥတုကို ပြစ်တင် ကြိမ်းမောင်းနေကြ၏။

"ဝါစိုက်ခင်းအတွက်လည်း ဘာမှ အကျိုးပြုမယ့် မိုး မဟုတ်ဘူး"ဟု ဝိုင်အိုလက်က မကျေမနပ် ပြောသည်။

"ဝါအကြောင်း မကြားပါရစေနဲ့ ဝိုင်အိုလက်ရယ် … နားပင်ပန်းလွန်းလို့။ အိမ်က နီးလ်တယောက်လည်း ဒါပဲ ပြောပြောနေတာပဲ"

"ဒါပေမဲ့ မင်းတို့ သစ်ဖြူတောက ပေါင်မထားရသေးပါဘူးကွယ်"ဟု အယ်လီနာ စိတ်ထဲမှ ပြောလိုက်သည်။

"ကိုယ်တော့ တကယ် မပူတော့ဘူးလို့ စိတ်ဆုံးဖြတ်ထားတယ် သိလား"

ကလယ်ရာက ခေါင်းကို မော့မော့ထားပြီး ဝင့်ကြွားဂုဏ်ယူစရာ ကိစ္စတခုသဖွယ် ပြောနေ၏။ သူတို့နှစ်ယောက်က အအေးသောက်ဖို့ အတင်းတားသည်။ အယ်လီနာ ငြင်းလိုက် ၏။ တခါတရံ ကလယ်ရာက အရာမဟုတ်သည့် ကိစ္စကလေးများကို အရာလုပ်တတ်သည်။ အယ်လီနာ အချိန်ကုန် မခံနိုင်။ သို့ရာတွင် အပြန်လမ်းတလျှောက်လုံး ကလယ်ရာလို နေတတ် လျှင် သိပ်ကောင်းမှာပဲဟု တွေးလာမိ၏။

ကားကို ထားပြီး မိုးရေထဲတွင် နောက်ဘေးတံခါးဆီသို့ ပြေးသွားသည်။ တံခါးကို အလော သုံးဆယ် ပိတ်လိုက်သဖြင့် တံခါးကြားတွင် စကတ် ညပ်နေသေးသည်။ ဒေါပွပွနှင့် ရေရွှတ်ပြီး ဆောင့်ဆွဲကာ အပေါ်ထပ်သို့

ပြေးတက်ခဲ့၏။ အခန်းထဲ ရောက်တော့ အေးစိမ့်နေသည်။ သည် ညနေတော့ မီးဖိုခိုင်းရမည်။ စကတ်ကို သေသေချာချာ ငုံ့ကြည့်ရင်း တွေးနေခြင်း ဖြစ်၏။ တံခါး ညပ်မိသည့် နေရာတွင် ပေါက်ပြဲသွားသည်။ ပေါက်သည့် နေရာက မြင်သာသည့် နေရာ။

"ငါလည်း တဖြည်းဖြည်း သူတောင်းစားရုပ် ပေါက်နေပြီလား" ဟု တယောက်တည်း ညည်းလိုက်မိသည်။ ကုန်တိုက် အရောင်းစာရေးကတောင် အထင်သေးတဲ့ မျက်လုံးတွေနဲ့ ကြည့်စ ပြုလာပြီ။ လစဉ်ရှင်းနေကျ ဘီလ်တွေ မရှင်းနိုင်မှန်း သူ သိနေပြီ ထင်ပါရဲ့။ ဥရောပက စစ်ပွဲ ကိုရော ဝါဂွမ်းထုပ်တွေကိုပါ ကျိန်ဆဲလိုက်မိ၏။

တယ်လီဖုန်းသံ မြည်လာသည်။

ဘယ်သူနဲ့မျှ စကားပြောချင်စိတ် မရှိ။ အောက်ထပ်မှာ တယောက်ယောက်က ဖြေလိမ့် မည်။ ပေါက်ပြဲနေသည့် စကတ်ကိုသာ ငုံ့ကြည့်နေမိ၏။ တယ်လီဖုန်းက ဆက်ကာ ဆက်ကာ မြည်နေ၏။ မထချင် ထချင်နှင့် ထသွားပြီး အိပ်ရာပေါ်တွင် ထိုင်သည်။ ဘာများ ဒါလောက် အရေးကြီးနေလို့ပါလိမ့်၊ ကောက်ကိုင်လိုက်သည်။ အောက်ထပ်မှ ကက်စတာ ဖုန်းကို ဖြေနေသံ ကြားရသည်။

"မစ္စတာလန်းပါလား"

တဖက်မှ အမျိုးသမီးတဦး ၏ အသံ။

"ဟုတ်ပါတယ်"

ကက်စတာ ပြန်ဖြေသံ။

"ကက်စတာ၊ အစ်ဇဘယ်ပါ"

"အင်း... ကိုယ် ထင်ပါတယ်လေ"

အယ်လီနာက အံ့သြနေ၏။ သည်အမျိုးသမီးက ဘာကိစ္စများ ရှိလို့ပါလိမ့်။ တယ်လီဖုန်း ကို အသာပြန်ချမည် လုပ်ပြီးမှ အစ်ဇဘယ် နောက်ထပ် ပြောလိုက်သည့် စကားလုံးများကြောင့် အယ်လီနာ ကျောက်ဆစ်ရုပ်လို တောင့်တောင့်ကြီး ဖြစ်သွားသည်။

"အဲဒီဘက်က ဘာမှ မပြောနဲ့ဦး ကက်စတာ၊ ဒါထက် အမျိုးသမီး အနားမှာရှိလား၊ ဘာတဲ့ သူ့နာမည် . . ."

"အယ်လီနာပါ"

"အယ်လီနာ အနားမှာ ရှိလား ဟင်"

"ဟင့်အင်း၊ မြို့ထဲဘက်ကို ထွက်သွားတယ်"

"အတော်ပဲ၊ ဒီမယ် ကက်စတာရယ် ပြောစရာတွေ ရှိတယ်ကွယ်"

"ပြောလေ"

"ကက်စတာ၊ တဆိတ် ကိုယ် ပြောတာ နားထောင်ပါကွယ်၊ အစ်ဇဘယ် တွေ့ချင် တယ်၊ လာခဲ့ပါလား ဟင်"

ခဏ ငြိမ်သွားကြသည်။

"အစ်ဇဘယ်ရယ်၊ ဘာလို့ တွေ့နေကြတော့မလဲကွာ"

အယ်လီနာ ခုတင်ပေါ်တွင် ထိုင်ပြီး နားထောင်နေသည်။ တယ်လီဖုန်း နားထောင်ခွက်ကို သူ့နားထင်တွင် ဝင်လုမတတ် ဖိကပ်ထား၏။ သူ့ရင်ခုန်သံကို သူ ပြန်ကြားနေရသည်။

"ကက်စတာရယ် သူတော်ကောင်း သူမြတ်လောင်းကြီး လုပ်မနေချင်ပါနဲ့ကွာ"

ကက်စတာ ရယ်သည်။

"ကိုယ် နာမည်တွေ အမျိုးမျိုး ရခဲ့ဖူးတယ်၊ မင်းပေးတဲ့ ဘွဲ့မျိုးတော့ တခါမှ မရဖူးသေး ဘူး။ ချိုသည်းရေ... တို့ တွေ့စရာအကြောင်း မရှိတော့ပါဘူးကွာ"

"အစ်ဇဘယ် လူဝီစီးယားနားက ထွက်သွားကတည်းက ချိုသည်းလို့ ခေါ်သံကို ပထမဆုံး ပြန်ကြားရတာပဲနော်။ ကက်စတာ အဲဒီလိုခေါ်ရင် ကိုယ့်ရင်ထဲမှာ နွေးသွားတယ်။ တကယ်ကို တွေ့ချင်နေတာပါ ကက်စတာရယ်၊ ဘာကြောင့် တွေ့ချင်တယ် ဆိုတာ ရှင်းပြရဦး မလားဟင်"

"ဒါဖြင့်လည်း လာခဲ့လေ၊ အိမ်မှာ ဘယ်သူမှ မရှိပါဘူး"

ကက်စတာ့အသံက ဘာမျှ မထူးခြားသည့် အသံမျိုး။ စိတ်မဝင်စားလို့ ထင်ပါရဲ့ဟု အယ်လီနာ တွေးနေမိ၏။

အစ်ဇဘယ်က အလိုမကျသလို ရယ်လိုက်သည်။

“တကယ်ပြောတာပါ ကက်စတာ၊ အစ်ဇဘယ် ပြန်လာတာ တို့ဇာတ်လမ်းကို ပြန်စဖို့ လာခဲ့တာ မဟုတ်ပါဘူး။ ဒါပေမဲ့ ဒီကို ပြန်ရောက်တော့လည်း...။ ဒါထက် အယ်လီနာ အဲဒီအကြောင်းတွေ သိလားဟင်”

“မသိပါဘူး”

“တော်သေးတာပေါ့၊ ထင်ပါတယ်လေ... သူ မသိရှာဘူးလို့၊ ညက တွေ့တုန်းက အကဲခတ်မိလိုက်တယ်၊ မိန်းမတွေက ဒီကိစ္စကို သိပ်ပုံကြီးချဲ့တတ်တာ မဟုတ်လား”

“မင်းကော ပြီးခဲ့တဲ့ကိစ္စကို ပုံကြီးချဲ့နေတာပဲ မဟုတ်လား”

“အားလုံးကို ပြည်ဖုံးကား ချထားပြီးပါပြီ ကက်စတာရယ်၊ ဒါပေမဲ့ ကိုယ့်ကို နားလည်ပါကွယ်”

“ကိုယ် မင်းကို သိပ်နားလည်တာပေါ့”

“အစ်ဇဘယ်ကို ကြည့်ပြီး ရယ်ချင်နေတယ်ပေါ့၊ ဟုတ်လား ကက်စတာ”

“မဟုတ်ပါဘူး အစ်ဇဘယ်ရယ်၊ ကိုယ် မင်းအတွက် စိတ်မကောင်း ဖြစ်နေတာပါ။ ဒါပေမဲ့ ကိုယ် တခုတော့ ဝန်ခံပါတယ်၊ လီဘာတီ ကျောက်ရုပ်ကြီးရဲ့ ရှေ့မှာ မျက်ရည်ကျပြတာ ကိုတော့ ကိုယ် ရယ်ချင်မိတယ်”

“ဘယ်သူ ပြောလဲ”

“ဘယ်သူမှ မပြောပါဘူး၊ မင်းကို ကိုယ် နားလည်ပါတယ်လို့ ပြောပြီးပြီပဲ။ မင်းဟာ ကိုယ့်ကိုယ်ကိုယ် သိပ်ဝတ္တု ဆန်ချင်တဲ့ မိန်းကလေးပဲ၊ ခုလည်း ထပ်ပြီး ဝတ္တုဆန်ချင်နေပြန် ပြီလား”

“ဘာပြောတယ် ကက်စတာ”

“ကိုယ် စဉ်းစားပြီး ပြောနေတာပဲ”

“ဒီမယ် ကက်စတာ၊ အမှန်အတိုင်း ပြောမယ်၊ ကိုယ့်ဘဝမှာ ကက်စတာ ဆိုတာ လုံးဝ မရှိတော့ဘူး၊ ပျောက်ကွယ်သွားပြီ။ ဒါကြောင့် ညက ကပွဲကို ကက်စတာတို့စုံတွဲ လာ၊ မလာ ဆိုတာလည်း ကိုယ် မစုံစမ်းခဲ့ဘူး၊ အိမ်ထောင်ပြုတဲ့ အကြောင်းတော့ ကိုယ် ရောက်ရောက်ချင်း ကြားတယ်လေ။ အဲ ညက ပြန်တွေ့ကြတော့ ဘာကြောင့်မှန်း မသိဘူး ကက်စတာ၊ ကိုယ်ဟာ

ကျောင်းသူကလေးတယောက်လို ပြန်ပြီး စိတ်လှုပ်ရှားနေတယ်”

ကက်စတာက ရယ်သည်။

“သိပါတယ်လေ”

“မသိပါဘူး ကက်စတာရယ်”

“ခုနစ်နှစ်ဆိုတဲ့ အချိန်ဟာ အကြာကြီးပဲ အစ်ဇဘယ်”

“မင်းက ဟန်ဆောင်ကောင်းလွန်းပါတယ် ကက်စတာ၊ တချက်ကလေးမှ ဣန္ဒြေ မပျက်ဘူး။ ညက အိမ်ပြန်ရောက်တော့ တချိန်လုံး စဉ်းစားနေမိတယ်။ ဒီအိမ်အိုကြီးထဲမှာ အစ်ဇဘယ်က တယောက်တည်း တဆောင်းတွင်းလုံး နေရမှာ၊ စစ်မပြီးမချင်း နေရမှာ။ ဖြစ်သင့်တာကတော့ တို့နှစ်ယောက် လုံးဝ မတွေ့ကြရင် အကောင်းဆုံးပေါ့။ ဒါပေမဲ့ တနည်း မဟုတ် တနည်းနဲ့ ဆုံနေကြတာပဲ။ ဒီအသိုက်အဝန်းထဲမှာ ဆိုရင်လေ။ ကိုယ်တို့နှစ်ယောက် အနက် တယောက်ယောက် ဝတ်ကြောင်ကိုပယ်ပြီး ခရစ်ယာန် သာသနာ့ဘောင် ဝင်ဖြစ်ရင် တော့ မသိဘူးလေ။ ဒါကြောင့် ကိုယ်တို့နှစ်ယောက် တွေ့ပြီး ဆွေးနွေးဖို့ လိုတယ်လို့ပြောတာ ကက်စတာ။ လွတ်လွတ်လပ်လပ် အေးအေးဆေးဆေးပေါ့။ လူတောထဲမှာ နောက်တကြိမ် ပြန်မဆုံခင် ပြောတာနော်”

“ကိုယ်ပြောပြီးပါပြီ အစ်ဇဘယ်ရယ်၊ မလိုတော့ပါဘူး ထင်တယ်လို့”

“ကက်စတာ၊ မင်းဟာ အမှန်တရားကို ရင်မဆိုင်ရဲတာပဲ။ မင်း အကြောင်းကိုလည်း အစ်ဇဘယ် ကောင်းကောင်း နားလည်ပါတယ် ကက်စတာရယ်။ ဒီတကြိမ် ရင်ဆိုင်လိုက် စမ်းပါ၊ မင်းနဲ့ ပတ်သက်ပြီး ဒီတခါ ကိုယ် အဖြစ် အသည်းဆုံးပါ ကက်စတာရယ်”

“ဟုတ်လား”

“ဒီမယ် ကက်စတာ၊ အစ်ဇဘယ် ဆိုတဲ့ ငယ်ချစ်တယောက်နဲ့ ဖြစ်ခဲ့တဲ့ အတိတ်ကို မင်း တကယ် မေ့နိုင်လို့လား ဟင်”

ကက်စတဲ့ အဖြေက တိုးတိုးနှင့် ရှင်းလင်းပီသလှသည်။ တစုံတယောက် မကြားရ အောင် အသံကို ထိန်းပြောနေ သည်ထင်၏။

“လုပ်မနေပါနဲ့ အစ်ဇဘယ်ရယ်၊ မင်းဟာ ဘယ်သူ့ကိုမှ ချစ်ခဲ့ဖူးတဲ့ မိန်းကလေး မဟုတ် ပါဘူး၊ မင်း ကြည့်တဲ့ မှန်ထဲက ပုံရိပ်ထက် မင်း ဘယ်သူ့ကိုမှ

ပိုမချစ်ခဲ့ပါဘူး။ ဒီတော့ လျှာအရိုးမရှိ လျှောက်ပြော မနေစမ်းပါနဲ့ကွာ”

“အစ်ဇဘယ်ကို ဒါလောက် ရက်ရက်စက်စက် ပြောရက်တယ်နော်”

“ကိုယ်တယောက်ပဲ မင်းနဲ့ ပတ်သက်လို့ အမှန်ကို ပြောနိုင်တာ မဟုတ်လား”

“ဟုတ်ပါတယ်၊ ဒါကြောင့် သဘောကျတာ။ ကဲ- မင်းပြောတာ မှန်တယ်ပဲ ထားပါ တော့၊ လက်ရှိအခြေအနေကိုပဲ ပြောကြရအောင်၊ ဆိုပါတော့...”

“ပြောလေ”

“အဲ... ဆိုပါတော့၊ အယ်လီနာ . . . သူ့ကို အစ်ဇဘယ် သဘောကျပါတယ်။ သူက ဘယ်လို မိန်းကလေးမျိုးလဲ ဟင်”

“မင်း သူ့ကို နားလည်နိုင်မှာ မဟုတ်ဘူး၊ ကမ္ဘာပေါ်မှာ အတော်ဆုံး မိန်းကလေး”

“သူက ဘယ်ကလဲ ဟင်”

“နယူးအော်လင်းက၊ အပွဲဂ္ဂျန်းမျိုးရိုးပဲ”

“နယူးအော်လင်းမှာ အဲဒီ နာမည်မျိုး မကြားဖူးပါဘူး”

“နယူးအော်လင်းက အကျယ်ကြီးပဲ ဥစ္စာ၊ မင်း လူတိုင်းကို ဘယ်သိနိုင်မလဲ။ ဒီမှာ အစ်ဇဘယ်၊ မင်း ကိုယ့်ဆီက ဘာလိုချင်လို့လဲ”

“တိုင်ပင်ချင်လို့ပေါ့၊ အယ်လီနာ ဖိတ်ထားတဲ့ ကိစ္စ ဘယ်လို လုပ်မလဲ၊ ပြီးခဲ့တဲ့ညက ဝက်သစ်ချမြိုင်ကို လာဖို့ ဖိတ်သွားတယ်လေ။ နောက်တွေ့ရင်လည်း ထပ်ဖိတ်ချင် ဖိတ်ဦးမယ်၊ ကြိုတင်ပြီး တိုင်ပင်မထားရင် အခြေအနေတွေ ရှုပ်ကုန်မယ် မဟုတ်လား ကက်စတာ။ ဒီတော့ ဝက်သစ်ချမြိုင်ကို လာရမလား၊ ယဉ်ယဉ်ကလေး ငြင်းလိုက်ရမလား၊ ဒါတွေ တိုင်ပင်ဖို့ မလို ဘူးလား။ အနည်းဆုံး တို့နှစ်ယောက်ဟာ ငယ်ငယ်ကတည်းက ကစားဖက်တွေ ဖြစ်ခဲ့တဲ့အကြောင်းတော့ အယ်လီနာ သိထားဖို့ လိုမယ် ထင်တယ်။ ဒါမှ သူ့အနေနဲ့ ကိုယ့်ကို ဝိုင်အိုလက် တို့၊ ကလယ်ရာတို့ကို ဆက်ဆံသလို ဆက်ဆံနိုင်မှာ”

“အင်း... မင်းပြောမှ ကိုယ် သတိရတယ်၊ ထားပါတော့”

“ကက်စတာရယ်၊ မင်း ဘာမှ မပြောင်းလဲသေးပါလား၊ ခုထိ ဘာမှ အလေးအနက် မထားတတ်သေးဘူးနော်။ ကောင်းပါတယ်၊ အရွယ်တင်ပြီး

ကက်စတာ ဘယ်တော့မှ အိုမှာ မဟုတ်ဘူး။ စဉ်းစားကြည့်လေ၊ တယောက်ယောက်က ကိုယ်တို့ အကြောင်းကို မပြောဘဲ နေမတဲ့လား၊ ဆီလ်ဗီယာရယ်လို့ မဆိုလိုဘူးနော်။ အဲဒီအခါမှာ ကက်စတာနဲ့ ကိုယ်ရဲ့ အတိတ် ဟာ နမ်းရုံလောက်ပဲ ပတ်သက်ခဲ့တယ် ဆိုတာ အယ်လီနာ လက်ခံရင် ကိုယ်တို့နှစ်ယောက် ဒီဆောင်းမှာ ပျော်ပျော်ရွှင်ရွှင် နေနိုင်မှာပေါ့။ အဲဒါကြောင့် ဒီကိစ္စတွေကို အရွယ်ရောက် လူယဉ်ကျေးတွေပီပီ ဆွေးနွေးဖို့ မလိုဘူးလား ကက်စတာ”

“ကောင်းပြီလေ၊ တခုပဲ ကိုယ်တို့ သတိထားရမယ်။ မင်း ပြောတဲ့အတိုင်း တို့တတွေ ဟာ စဉ်းစားတတ်တဲ့ အရွယ်ရောက်နေပြီ ဆိုတာရယ်၊ လူ့ကျင့်ဝတ်ကို ထိန်းသိမ်းနိုင်တဲ့ အဆင့်အတန်းတွေ ဆိုတာရယ်ပဲ”

“ဟုတ်ပါပြီ၊ ဒါဖြင့် လာမယ်ပေါ့ ဟုတ်လား”

“ဒါလောက် အရေးတကြီး လာဖို့ လိုလို့လား အစ်ဇဘယ်ရယ်”

“လာခဲ့ပါ ကက်စတာရယ်၊ ဒါတင်မကဘူး တိုင်ပင်စရာတွေလည်း ရှိသေးတယ်။ ကိုယ့်မှာ ဒုက္ခတွေ ပင်လယ်ဝေနေတာပါ ကက်စတာ၊ ဘဝတခုကို နှစ်ပိုင်း အပိုင်းခံလိုက်ရတဲ့ အဖြစ်ကို ကက်စတာ နားလည်နိုင်မှာ မဟုတ်ဘူး။ အစ်ဇဘယ်ဟာ တရားမျှတမှုကနေ ထွက်ပြေးနေရတဲ့ ဒုက္ခသည်တယောက်ပါ”

“ဘယ်လို တရားမျှတမှုကနေ ထွက်ပြေးတဲ့ ဘယ်လို ဒုက္ခသည်လဲ အစ်ဇဘယ်”

“ဩော်.... ကက်စတာရယ်၊ အစ်ဇဘယ်ကို မရက်စက်ပါနဲ့ကွယ်၊ ဘဝမှာ ခြေကုန် လက်ပန်းကျနေသူပါ။ တိုင်းတပါးမှာ ကိုယ့်ဘဝဟာ သေနေခဲ့ရတာပါ၊ ဒါတွေကို ကက်စတာ နားမလည်ရင် ဘယ်သူမှ နားလည်နိုင်မှာ မဟုတ်တော့ပါဘူး”

“ကိုယ် နားလည်ပါတယ်”

“ယုံပါတယ်ကွယ်၊ ဟောဒီ အသုံးမကျတဲ့ လောကကြီးတခုလုံးထဲမှာ ကက်စတာ တယောက်ပဲ အစ်ဇဘယ်ကို နားလည်မယ့်သူ ရှိတာပါ။ ဒါကြောင့် နေ့တဝက်လောက် ဖြစ်ဖြစ် ကိုယ့်ကို အချိန်ပေးပါ ကက်စတာရယ် နော်။ ကက်စတာ့ အကူအညီ တကယ်လိုလို့ ပါကွယ်”

“အေးပါကွယ်၊ ကိုယ်စာနာပါတယ်၊ မင်း ဒါလောက် စိတ်ဓာတ်ကျနေမှန်း ကိုယ် မသိခဲ့ဘူး”

"စိတ်ခတ်ကျတာတော့ ပြောမနေနဲ့ ကက်စတာရေ့၊ လာမယ် မဟုတ်လား ဟင်"

"ခဏနေဦး... မချလိုက်နဲ့ဦး၊ မင်း ပြောချင်တာ ဒါပဲလား ဟင်၊ ကိုယ် တခါပဲ လာမယ်နော် ဟုတ်လား"

"ကျေးဇူးတင်ပါတယ် ကက်စတာရယ်၊ ဒါဆို ကျေနပ်ပါပြီ"

နှစ်ဖက်စလုံးမှ ဖုန်းချသံကို အယ်လီနာ စောင့်နေသည်။ လက်ထဲမှ တယ်လီဖုန်းကို ပြန်ချမည် ပြုတော့ ဆုပ်ကိုင်ထားသည့် လက်ချောင်းတွေကို မနည်းပြန်ဖြေယူရသည်။

"အင်း. . . ငါကတော့ ဒီအမျိုးသမီးကို အဟုတ်ကြီး အောက်မေ့နေတာ"

အယ်လီနာ တကိုယ်တည်း အသံထွက်ပြီး ပြောလိုက်မိ၏။ ဒေါသကြောင့် အသား တွေ ဆတ်ဆတ်တုန်နေသည်။ မနူးမနပ်အရွယ်တွင် ကက်စတာနှင့် ဖြစ်ခဲ့သည့် အတိတ်ဟောင်း ကို ဘာမျှ မနာလို ဝန်တိုစရာ အကြောင်း မရှိ။ ကလေးတယောက်အဖေ ဖြစ်နေသည့် ကတ်စတာ့ကို နားမလည်အောင် ဖြစ်နေ၏။ ဒေါလည်း ပွမိ၏။ ကက်စတာက ရိုးလွန်းနေပါကလား၊ သည်အမျိုးသမီး ဘယ်ခြေလှမ်း လှမ်းနေသည်ကို သိပုံမရ၊ အဟုတ်ကြီး ထင်နေ၏။ သူ့ဒုက္ခကို မျှဝေခံစားဖို့ နေ့တဝက်လောက်တော့ အချိန် ပေးပါတဲ့၊ အဓိပ္ပာယ်က ပြန်တွေ့ကြပြီ ဆိုတာနဲ့ ပြန်တွဲချင်ပြီ ဆိုတဲ့ သဘောပဲပေါ့၊ ရှင်းနေတာပဲ၊ လူဝါးဝတဲ့ မိန်းမ။

မြင်းခွာသံကြား၍ ပြတင်းပေါက်သို့ ပြေးသွားကြည့်သည်။ ဂိတ်ဝဆီသို့ မြင်းစီး ထွက်သွားသော ကက်စတာကို လှမ်းမြင်လိုက်၏။ မိုးတိတ်သွားပြီ၊ မြို့ထဲက ပြန်မရောက် သေးဘူးဟု သူ ထင်နေတာကိုး၊ ကားထားသည့် နေရာကိုတောင် ခေါင်းငဲ့၍ ကြည့်မသွားဘူး ထင်ပါရဲ့၊ အထီးကျန်ဝေဒနာကို ကြေညာပြမည့် အစ်ဇာဘယ်ဆိုသူ မိန်းမချော၏ မာယာ ကျော့ကွင်းတွင် ကက်စတာတယောက် အညို့ခံရပေတော့မည်။ ခန်းဆီးကြိုးကို ကျစ်ကျစ် ပါအောင် ဆုပ်ထားလိုက်သည်။ ကက်စတာနှင့် လက်ထပ်ဖို့ ကတိပေးသည့်ညကို သွားသတိရ သည်။ ရည်းစားတွေ အများကြီးလားလို့ မေးတဲ့ ညကပေါ့။ တယောက်နဲ့တော့ စွဲစွဲလမ်းလမ်း ဖြစ်ဖူးတယ်တဲ့၊ ဒါပေမဲ့ ခဏပါ ၊ မတွေ့တာလည်း ကြာပါပြီတဲ့။ သည်အကြောင်း စပ်လို့တောင် သူ့ကို မမေးခဲ့ဘူး မဟုတ်လား၊ သူ့အချစ်ကို ယုံနေတာကိုး။

မယုံကြည်စရာလည်း အကြောင်း မရှိဘူးလေ၊ ကက်စတာက သည်အကြောင်း လုံးဝ ပြည်ဖုံးကား ချထားခဲ့ပြီပဲ။ သူတို့ ပြောနေပုံကို ကြည့်လေ၊ ကက်စတာက ဘာမျှ လှုပ်ရှား တာမှ မဟုတ်ဘဲ၊ အမျိုးသမီးက မြူဆွယ်နေတယ်

ဆိုတာ ရှင်းနေတာပဲ။ ဟင်.. ဒါပေမဲ့ သူ အဲဒီကို သွားလိုက်ပြီပဲ၊ အစ်ဇဘယ် ဆိုတဲ့ မိန်းမဆီကို။ လက်သီးကို ကျစ်ကျစ်ပါအောင် ဆုပ်လိုက်သည်။

တွေးကြည့်ပြန်သည်။ အစ်ဇဘယ်နဲ့ ငါနဲ့က သိပ်ကွာခြားလွန်းပါကလား။ သူ ပြော သလို ငါက ဘယ်သူ့ကိုမှ မပြောတတ်ဘူး၊ ငါက လုပ်ချင်တာကို မဖြစ်ဖြစ်အောင်သာ လုပ်တတ်တာ၊ ဖြောင့်လုပ်တတ်တာ၊ သူ့လို ခိုးကြောင်ခိုးဝှက် မလုပ်တတ်ဘူး။ ငါက တဲ့တိုးသမား၊ တဇောက်ကန်း။ သူက သိမ်မွေ့နူးညံ့လိုက်တာမှ ညက်လို့။ အမှန်က ကက်စတာ့ ဇနီး တယောက်အနေနဲ့ ဒီလိုအရည်အချင်းမျိုးတွေ ရှိရမှာ။ ကိုယ် လိုချင်တာကို ရအောင် ယူတဲ့ နေရာမှာ သူတို့ဘာသာ သူတို့ အလိုလို လာပေးကြရအောင် ယောကျာ်းတွေကို ဆွဲဆောင် တတ်ရမှာ။

ကိစ္စမရှိဘူးလေ။ ကောင်းပြီ အစ်ဇဘယ်၊ ရှင် ကြိုက်သလောက် လွမ်းချင်တာတွေ ငိုပြပါ၊ လှချင်သလောက် လှနေပါ၊ ရှင်နဲ့ ဖက်ပြိုင်စရာ မလိုပါဘူး၊ ကျွန်မက ကက်စတာ့ မိန်းမပဲ။

ချက်ချင်း သတိဝင်လာသည်။ ကိုယ့်အဖြစ်ကို ကိုယ် ပြန်ကြည့်ပြီး ရှက်သွားသည်။ အခန်းကို ဖြတ်လျှောက်သွားပြီး မှန်ရှေ့တွင် ရပ်လိုက်၏။

စိတ်ကို ထိန်းစမ်း အယ်လီနာ။ မှန်ထဲမှ ပုံရိပ်ကို ကြည့်ပြီး အမိန့်ပေးလိုက်၏။ အယ်လီနာ မင်းဟာ ပျော့ညံ့တဲ့ မိန်းကလေး မဟုတ်ဘူး၊ ကိုယ့်ယောကျာ်းက တခြားအမျိုးသမီး တယောက်ကို ကြည့်တာနဲ့ သဝန်ကြောင်တတ်တဲ့ မိန်းကလေး မဟုတ်ဘူး၊ ကိုယ့်ကိုယ်ကိုယ် သတိရှိမှပေါ့။ ကက်စတာက မင်းကို အစ်ဇဘယ့်အကြောင်း ဘာပြောသေးလို့လဲ၊ သူ့အတွက် ဒီကိစ္စ အသေးအဖွဲလို့ သဘောထားချင် ထားမှာပေါ့၊ ပုံကြီးချဲ့နေတာက အစ်ဇဘယ်ပါလို့ သူပြောချင် ပြောလာမှာပေါ့။ အဲ- တခုတော့ရှိတယ်၊ ဟို အမျိုးသမီးအိမ်မှာ တနေ့ခင်းလုံး နေပြီး ပြန်လာလို့ ဆံပင်တွေက ရှုပ်ပွပြီး စကတ်အပေါက်အပြဲ ဝတ်ထားတဲ့ မင်းကို မြင်ရင် တော့... ကက်စတာ အဲဒီလို ပြောချင်မှ ပြောတော့မှာ။

ကပျာကရာ ရေပြေးချိုးသည်။ အဝတ်လဲသည်။ ဆံပင်ကို လှလှပပ ဖြစ်အောင် ပြင်သည်။ ကက်စတာ သဘောကျသည့် ဆံထုံးမျိုး ထုံးသည်။ မိုးပြာရောင် ဝတ်စုံကို ဝတ်သည်။ ကက်စတာ သဘောအကျဆုံး ဝတ်စုံလေး။ မနှစ်တုန်းက စီးပွားရေး အခြေအနေ ချွတ်ခြုံမကျခင်ကလေး တွင် ဝယ်ဖြစ်သည့် ဝတ်စုံ။ သည်နှစ်ထဲတွင် ပထမဆုံး ထုတ်ဝတ်ခြင်း ဖြစ်၏။

မှန်ထဲမှ အယ်လီနာကို ပြန်ကြည့်လိုက်သည်။ ကျေနပ်သွား၏။

သည့်ဆောင်းအတွက် ပထမဆုံး စ၍ မွေးသည့် မီးလင်းဖိုမှ မီးလျှံများ၏ အလင်းရောင် ကြောင့် ဧည့်ခန်းထဲတွင် ပို၍ လင်းနေသည်။ အယ်လီနာက မဂ္ဂဇင်းတစောင် ဖတ်နေစဉ် ဒစ်စီက ကလေးကို ခေါ်လာသည်။

အင်္ကျီနှင့် ဘောင်းဘီ တဆက်တည်း ချုပ်ပေးထားသည့် ပန်းရောင်ဝတ်စုံကလေးဖြင့် ကော်နယ်လီယာကလေးမှာ ပို၍ ချစ်စရာ ကောင်းနေသည်။ ဆံပင်ညိုညိုကလေးတွေ အခွေ လိုက် အခွေလိုက် ခေါင်းပေါ်တွင် လိမ်တွန့်လျက်။ အရုပ်ကလေးနှစ်ခုနှင့် ကစားနေသော သမီးငယ်ကို အယ်လီနာက အမြတ်တနိုး ကြည့်ပြီး ပြုံးနေသည်။

မဂ္ဂဇင်းစာအုပ်ထဲမှ စစ်ပွဲအခြေအနေပြ မြေပုံကို ကြည့်နေစဉ် အပြင်မှ မြင်းခွာသံ ကြားရသည်။ ပြီးတော့ ထုံးစံအတိုင်း အပြေးဝင်လာသော ကက်စတာ့ ခြေသံ။ မြင်းထိန်း ကောင်ကလေးကို မြင်းသိမ်းရန် အော်ပြောနေသံလည်း ကြားရသည်။ တဆက်တည်း ဧည့်ခန်း တံခါးကို ဖွင့်ပြီး သူ ဝင်လာသည်။ အယ်လီနာက မြေပုံကြည့်နေရာမှ မော်ကြည့်လိုက်၏။

“ဪ . . . မောင်”

အယ်လီနာ နှုတ်ဆက်သည်။

ကော်နယ်လီယာကလေးက ကစားနေရာမှ မော်ကြည့်ပြီး ပီပီသသ ခေါ်လိုက်သည်။

“ဖေဖေ”

အယ်လီနာ ခုန်ထလိုက်သည်။ ကက်စတာက ကလေးကို ဇွေ့ခနဲ ကောက်ပွေ့လိုက်၏။ နှစ်ယောက်သား ပြိုင်တူ အော်မိကြ၏။

“ကြားလားဟင် ကြားလား၊ သမီး စကားပြောတတ်ပြီ”

ကက်စတာက ကော်နယ်လီယာကို မြှောက်လိုက်၊ ဖမ်းလိုက် လုပ်နေသည်။ ကလေးက အပျော်ကြီး ပျော်ပြီး အော်ရယ်နေ၏။ ပြီးတော့ ဖေဖေ၊ ဖေဖေလို့ တခေါ်တည်း ခေါ်နေတော့သည်။ သည်လို ခေါ်လိုက်သည့်အတွက် သူ့အဖေနှင့် သူ့အမေ ဝမ်းသာအားရ ဖြစ်နေသည်ကို နားလည် သည့်အလား။ ကော်နယ်လီယာကို ပွေ့ပြီး ကက်စတာက တံခါးပြေးဖွင့်သည်။

“ဒစ်ဒီ လာစမ်း၊ ဒီမှာ နားထောင်စမ်း၊ သမီးကလေး စကားပြောနေပြီ”

ဒစ်စီ ပြေးလာသည်။ ကာမီယိုနှင့် မမ်မီတို့လည်း ပြေးလိုက်လာကြ၏။ သတင်းက ချက်ချင်း ပြန့်သွားပြီး ရှိသမျှ နီဂရိုး အိမ်ဖော်တွေ စုပြုံရောက်လာကြသည်။ ကော်နယ်လီယာကလေးက ဝင့်ကြွားစွာဖြင့် အားလုံး၏ ရှေ့တွင် ဖေဖေ၊ ဖေဖေနှင့် ခေါ်ပြလိုက်သည်။ ကလေးကို ထမင်းကျွေးနေရင်း အားလုံး အာရုံစိုက်နေကြသည်။ နောက်ထပ် ဘာများ ပြောတတ်လာဦးမလဲဟု မျှော်လင့်တကြီး စောင့်နေကြခြင်း ဖြစ်၏။

အယ်လီနာနှင့် ကက်စတာက ညစာစားရင်း သမီးကလေး၏ အကြောင်းကိုသာ ဝမ်းသာအားရ ပြောနေကြသည်။ အခြား ဘာအကြောင်းကိုမျှ စကားမစပ်။ ကက်စတာက ကလေးအဖေ ဖြစ်ရခြင်းရဲ့ အရသာကို သိနေပြီ ဖြစ်ကြောင်း၊ နောက် ငါးယောက်လောက် လိုချင်သေးကြောင်း ပြောနေသည်။ ကိုယ်စီ နှုတ်ဆက်ပြီး ကိုယ့်အခန်း ကိုယ် ပြန်ကြသည် အထိ သမီးကလေးအကြောင်းနှင့်ပဲ ပြီးသွားတော့သည်။ မှန်ရှေ့တွင်ရပ်ပြီး ခေါင်းဖြီးရင်း စဉ်းစားနေမိသည်။ အစ်ဇဘယ်ဆီသို့ သွားသည့်အကြောင်းကို ကက်စတာ လုံးဝ လေသံမျှ မဟပါကလား။

သမီးကလေး၏ “အဖေ” ခေါ်သံကြားရပြီး အားလုံးကို မေ့သွားတာလည်း ဖြစ်ချင် ဖြစ်မှာပါလေ။ ရှူးမတတ် သူ ပျော်နေတာ တွေ့နေသားပဲ။ ဩော် . . သမီးကလေး၏ ပထမဆုံး စကားလုံးက မေမေ အစား ဖေဖေ ဆိုပါလား။

“ဩော်... ငါ့နှယ် ဒုက္ခပါပဲ”

မှန်ထဲမှ ရုပ်သွင်ကို ကြည့်ပြီး ပြောမိပြန်သည်။

ငါ ဘယ်လို ဖြစ်နေပါလိမ့်၊ ငါ့ရင်သွေးကလေးကိုတောင် မနာလို ဝန်တိုစိတ်တွေ ဝင်နေပါပေါ့လား၊ သမီး မိန်းကလေးတိုင်းဟာ ဖအေကို ပိုချစ်ကြတာ ကိုယ်တွေ့ပဲဟာ၊ ငါ့တုန်း က အဖေ့ကို ပိုချစ်လို့ အမေက စိတ်မကွက်ခဲ့ဘူး ထင်ပါတယ်၊ သမီးကလေးကို ကက်စတာ က ငုံထားမတတ် ချစ်နေသည်ကိုပဲ ကျေးဇူးတင်နေရဦးမှာ မဟုတ်လား၊ သမီးကလေး မမွေးခင် ကတော့ ကက်စတာက ကလေးကို ချစ်မှ ချစ်တတ်ပါ့မလားလို့ တွေးပူခဲ့ရသေးတာကို ပြန်စဉ်းစားဦးလေ။

ပြီးတော့ သမီးက ဖအေ့ကို ပိုချစ်တာ ဘာအပြစ်ဆိုစရာ ရှိသလဲ၊ ကက်စတာကို တွေ့သမျှလူ ချစ်ကြတာပဲ၊ နောက်ဆုံး အစ်ဇဘယ်ဗားကိုး ဆိုတဲ့ အမျိုးသမီး မောင့်ကို သဘောကျ နေဆဲဆိုတာတောင် ဘာမှ အပြစ်ဆိုစရာ မရှိဘူး၊ အမျိုးသမီးတိုင်း မောင့်ကို သဘောကျတာ ပဲဟာ၊ ဒီအကြောင်း သူ မနက်ဖြန်ဆိုရင် ကျိန်းသေထုတ်ပြောမှာပါ။

သို့သော် နောက်တနေ့တွင်လည်း အစ်ဇဘယ့်အကြောင်း ကက်စတာ စကား စမလာ။ မနက်ခင်းများတွင် သတင်းစာနှင့်မျက်နှာ မခွာဘဲ ကမ္ဘာ့ဝါဂွမ်းသတင်းများကို ဖတ်နေသည်။ ပြည်နယ်ဘုရင်ခံက ဝါရှင်တန် ကွန်ဖရင့်တွင် အနည်းဆုံး ဝါဂွမ်းစိုက်မြေတွေရဲ့ တဝက်ကို စားသုံးသီးနှံစိုက်ဖို့ တိုက်တွန်းလိုက်သည်။ ညနေပိုင်းတွင် နီးလ်ရှာရမီက ကက်စတာကို ရုပ်ရှင် ကြည့်ဖို့ လာခေါ်သည်။ သူတို့နှစ်ယောက် ထွက်သွားတော့ အယ်လီနာက လယ်ဂျာစာအုပ်ကို လက်ချောင်းကလေးများနှင့် ထောက်ရင်း စဉ်းစားနေသည်။ ကက်စတာ၏ ပေါ့ပေါ့ နေ ပေါ့ပေါ့စားစရိုက်က အစ်ဇဘယ့်ကိစ္စကို အိမ်ပြန်ပြောရအောင် လေးနက်သည့် ကိစ္စ မဟုတ် ဟုများ ယူဆနေသည်လား မသိ။

နောက် နှစ်ပတ်လုံးလုံး ကက်စတာက ရေငုံနေဆဲ။ မိမိနှင့် တိုက်ရိုက်ပတ်သက်နေသည့် ကိစ္စကို အယ်လီနာ ဘယ်တော့မျှ မြုံမနေတတ်။ ဘဝတွင် ပထမဆုံးအကြိမ်အဖြစ် ကျိတ်ပြီး ငြိမ်ခံနေသည်။ ထွက်ပေါက်မရှိဘဲ မျိုသိပ်ထားရသဖြင့် ခေါင်းထဲတွင် အခြားကိစ္စတွေ မရှိတော့ဘဲ တချိန်လုံး ကက်စတာနှင့် အစ်ဇဘယ် အကြောင်းသာ လွှမ်းမိုးနေတော့၏။

သူ အိမ်မှ ထွက်သွားတိုင်း အစ်ဇဘယ်ဆီကို သွားသည်ချည်း ထင်နေ၏။ မကြည်လင် နိုင်တော့။ ကက်စတာ ကတော့ အယ်လီနာ မှိုင်နေသည်မှာ စီးပွားရေးကိစ္စ၊ ဝါဂွမ်းကိစ္စပဲဟု ထင်နေ၏။ သည့်အတွက် ဝိုင်အိုလက်နှင့် ဘော့တို့အိမ်က ဖိတ်တော့ ကက်စတာ ဝမ်းသာအားရ ဖြစ်သွားသည်။ အယ်လီနာအတွက် အာရုံအပြောင်းအလဲ ဖြစ်ဖို့၊ စိတ်ခံတတ်မြှင့်တင်ဖို့ လိုသည် ဟုပင် ကက်စတာက ထုတ်ပြောလိုက်သေးသည်။

ဝိုင်အိုလက်တို့ ဖိတ်သည့် ပါတီသို့ လိုက်သွားဖြစ်သော်လည်း အယ်လီနာ မပျော်ပိုက် ပါ။ အစ်ဇဘယ်ပါ တက်သည့် ပွဲပေကိုး။ အမျိုးသမီးက အထက်တန်းစား အနက်ရောင်ဝတ်စုံကို ဆင်မြန်းလျက်၊ လှချင်တိုင်း လှနေ၏။ သည်တော့ အယ်လီနာ က မိမိ၏ အရောင်မှိန်နေပြီဖြစ် သော အဝတ်အစားတွေကို ခါတိုင်းထက် ပိုပြီး သတိထားနေမိသည်ပေါ့။ သူတို့ တတွေက တော့ ရေးဟောင်းနှောင်းဖြစ်တွေကို ပြောရင်း အတိတ်ကို တူးဖော်နေကြသည်လေ။

“တို့တတွေကို မစ္စအာဂါသာ ကျမ်းစာထဲက နာမည်တွေ အလွတ်ကျက်ခိုင်းတာ မှတ်မိသေးလား”

ဝိုင်အိုလက်က မေးလိုက်သည်။

“အဲဒီမှာ ကက်စတာ ဆုရသွားတာ မဟုတ်လား”

ဘော့က ဝင်ထောက်သည်။

"ဆုက စာအုပ်ထဲမှာ ညှပ်တဲ့ ဖဲကြိုးကလေးလေ"

ဟု ကက်စတာက ပြောတော့ အားလုံး ဝိုင်းရယ်ကြသည်။ အစ်ဇဘယ်က ဝင်၍-

"မှတ်မိပြီ မှတ်မိပြီ။ ဆံပင်ကို ကျကျနနဖြီးလို့၊ ဝတ်စုံဖြူနဲ့လေ၊ တခါ တည်း တကယ် ကျမ်းစာသင်တန်းကျောင်းဆင်း သူတော်ကောင်းကလေး ကျနေတာပဲ"

အစ်ဇဘယ်က လက်ပိုက်ပြီး မျက်နှာကြက်ကို မော်ကြည့်သည့် အမူအရာလုပ်ပြပြီး ကက်စတာ ရွတ်ဆိုခဲ့သည့် ကျမ်းစာပါ နာမည်တွေကို ရွတ်ပြသည်။

"ကြည့်စမ်း... မင်း အဲဒါတွေ အားလုံး မှတ်မိနေတယ် ဟုတ်လား အစ်ဇဘယ်"

"ဟုတ်တယ်၊ မစ္စအာဂါသာ အသင်အပြ ကောင်းလို့လား၊ ကက်စတာကပဲ စန်းပွင့် လွန်းလို့လား မသိဘူး၊ အားလုံး မှတ်မိနေတယ်လေ"

အားလုံး ရယ်ကြပြန်သည်။ တယောက်က ရေကာတာတွေ နံဘေးမှ ဝါခင်းတွေထဲ တွင် ကစားခဲ့ကြသည့် ငယ်ဘဝတွေကို ပြန်စပေးသည်။ တမ်းတမ်းတတ စားမြုံ့ပြန်နေကြ သည်။ သည်စကားဝိုင်းတွင် အစ်ဇဘယ် မပါလျှင်တောင်မှ အယ်လီနာ ဝိုင်းဝိုင်းဖွဲ့ဖွဲ့ သူများ နည်းတူလိုက်၍ ပျော်ရွှင်နိုင်လိမ့်မည် မထင်။ သူတို့တတွေနှင့် ပတ်သက်ဆက်နွယ်ခဲ့သည့် ငယ်ဘဝ ဖြစ်စဉ်တခုမျှမှ မရှိခဲ့ဖူးတာပဲ။

အစ်ဇဘယ်က စန္ဒရားခုံတွင် ဝင်ထိုင်ပြီး သူတို့ ငယ်ငယ်က ဆိုခဲ့ကြသည့် သီချင်းတွေ ကို တီးသည်။

ပါတီပွဲပြီး၍ နှုတ်ဆက် ထွက်ခွာကြပြီး အိမ်အပြန်လမ်းတွင် ကက်စတာက အယ်လီနာ ကို...

"ဒီည ပျော်စရာ သိပ်ကောင်းတာပဲနော်"

"မောင်တို့ စကားဝိုင်းက အယ်လီနာနဲ့ ဘာမှ မပတ်သက်ပါဘူး"

"အို.... အချစ်ကလည်း သူတို့အားလုံး မင်းကို ဘယ်လောက် ခင်နေကြပြီလဲ"

လမ်းနံဘေးမှ သစ်ပင်တွေ တရိပ်ရိပ် ကျန်ရစ်ခဲ့သည်။ အယ်လီနာ တွေးရင်း

လိုက်ပါလာသည်။ ကက်စတာ့ အပေါင်းအသင်းတွေက ငါ့ကို တကယ်ခင်ကြမင်ကြတာလား၊ ကက်စတာ့ မိန်းမမို့ လက်မခံ မဖြစ်လို့ ဆက်ဆံပေါင်းသင်းနေကြတာလား၊ ငါ့ကိုယ်က အတွေးခေါင်တာ ထင်ပါတယ်လေဟု ကိုယ့်ကိုယ်ကိုယ် နှစ်သိမ့်လိုက်ရ၏။ ဝက်သစ်ချမြိုင်သို့ ရောက်တော့ လိပ်ခဲတည်းလည်း ဤကိစ္စကို ဆက်လက် မျိုသိပ်မထားနိုင်တော့ကြောင်း မိမိဘာသာ သဘော ပေါက်လိုက်သည်။

အပေါ်ထပ်သို့ အတက်လှေကားတွင်-

“မောင် အိပ်ချင်ပြီလား ဟင်”

“ဟင့်အင်း မအိပ်ချင်သေးပါဘူး၊ ဘာဖြစ်လို့လဲ”

အယ်လီနာက အခန်းတံခါးကို ဆွဲဖွင့်ပြီး-

“လာပါဦး၊ အယ်လီနာ မောင့်ကို ပြောစရာရှိလို့”

ကက်စတာက အယ်လီနာ့ အခန်းထဲသို့ဝင်ပြီး ကုလားထိုင်တွင် ထိုင်သည်။

“ချိုသည်းရယ် မင်း ခုတလော ဘာဖြစ်နေတာလဲဟင်၊ မရွှင်မလန်းနဲ့”

“ချိုသည်း” ဆိုပါလား၊ တယ်လီဖုန်းထဲတွင် အစ်ဇဘယ်ကို သူခေါ်သည့် အသုံးအနှုန်း။ အယ်လီနာက ခုတင်ပေါ်တွင် ထိုင်ပြီး ကက်စတာကို လှမ်းကြည့်သည်။

“ကက်စတာ၊ အစ်ဇဘယ်ရဲ့ အကြောင်းကို ပွင့်ပွင့်လင်းလင်း ပြောပြစေ့ချင်တယ်”

သူ မျက်မှောင်ကြုတ်သွားသည်။ ခဏ ကြောင်ငေးငေး ဖြစ်သွား၏။ ပြီးတော့မှ-

“ဘယ်သူက မင်းကို မဟုတ်တရုတ်တွေ လာပြောလို့လဲ ဟင်”

“ဘယ်သူက ဘာမှ လာမပြောပါဘူး၊ မောင့်မယားက ကိုယ့်အိမ်တွင်းရေးအကြောင်း လူတကာနဲ့ တိုင်ပင်တတ်တဲ့ မိန်းမစားမျိုးမို့လား”

ကက်စတာက ပြုံးလိုက်၏။

“အေး... ဟုတ်သားပဲ၊ အချစ်က ဘယ်တော့မှ ဒါမျိုး မလုပ်တတ်ပါဘူး။ ကဲ...

ဒါ ဖြင့် မောင် ဘာပြောရမလဲ”

အယ်လီနာက လက်ချောင်းကလေးများကို ငုံ့ကြည့်နေရာမှ ခေါင်းမော့လာသည်။

“အမှန်က အစောကြီး မေးရမှာ၊ ဒါပေမဲ့ မောင် ပြောနိုးပြောနိုးနဲ့ စောင့်နေခဲ့တာ၊ မောင် မပြောခဲ့ဘူး။ အစ်ဇဘယ် အိမ်ထောင်မကျခင်က မောင်တို့ ဖြစ်ခဲ့ကြဖူးတယ် မဟုတ် လား၊ ရွှေသမင်ကလပ်မှာ ပြန်ဆုံပြီး နောက်တနေ့မှာ အစ်ဇဘယ်က သူ့ကို လာတွေ့ဖို့ ချိန်းတယ် မဟုတ်လား၊ မောင်ကလည်း သွားတယ် မဟုတ်လား၊ မှန်မှန်ပြော”

ကက်စတာက စီးကရက်တိုကို မီးလင်းဖိုထဲသို့ ပစ်ထည့်လိုက်သည်။ ပြီးတော့ မေးကို လက်တဖက်နှင့် ထောက်သည်။ ဇနီးလုပ်သူကို တအံ့တသြ ကြည့်သည်။ သူ့ကိုယ်သူ ဘာမျှ အပြစ်မရှိသည့် ပုံမျိုး။

“ဩော်… လက်စသတ်တော့ ဒါကြောင့် မင်း စိတ်အနှောင့်အယှက် ဖြစ်နေတာ “ဟုတ်တယ်၊ ဒီကိစ္စဟာ ဖုံးကွယ်ထားသင့်တဲ့ ကိစ္စ မဟုတ်ဘူးလို့ မောင် မထင်ဘူး”

“ထားပါတော့၊ ဒါထက် မင်း ဘယ်လို ထောက်လှမ်းရေး အတတ်ပညာတွေ သုံးနေ တယ် ဆိုတာ ပြောစမ်းပါဦး”

ကက်စတာ့အသံက အေးစက်စက်။

“မောင်တို့ အဲဒီနေ့က ပြောနေတာတွေ ကြားတယ်လေ၊ ဒီဖုန်းက နားထောင်တာ”

“ဩော် . . မောင်က မင်းဟာ မောင့်ဘဝမှာ အရိုးသားဆုံး မိန်းကလေးလို့ အောက်မေ့ နေခဲ့တာ”

“အယ်လီနာ ရိုးသားတယ် ဆိုတာ ဘုရားသခင် သိတယ်ရှင့်။ တမင်တကာ ခိုးနားထောင် တာ မဟုတ်ဘူး၊ “ရှင့်မိန်းမ အနားမှာရှိလား” ဆိုတာမျိုး ကြားရတော့ ဘယ်မယားက ဒီလို ဖုန်းမျိုးကို နားမထောင်ဘဲ နေနိုင်မလဲ၊ ပြောစမ်းပါဦး”

“ထားပါလေ၊ ဒါပေမဲ့ အပေါစား အိမ်ထောင်ရေး ဖောက်ပြန်မှုလို့ တဖက်သတ် ထင်နေမယ့်အစား မင်း ကိုယ့်ကို ပွင့်ပွင့်လင်းလင်း မေးသင့်တာပေါ့”

“ပြောပြီးပါပကော၊ ဖွင့်ပြောလိမ့်မယ်လို့ ထင်ခဲ့ပါတယ်လို့။ မပြောတဲ့ အဆုံးကျမှ၊ ကဲ.. ထားပါလေ၊ အခု ပြော။ အဲဒီကောင်မဆီ ဘယ်နှခါသွားသလဲ။

တယောက်တည်း ပြောတာနော်၊ ပြီးတော့ ဘာတွေ ပြောကြသလဲ”

ကက်စတာက မဆိုင်းမတွ ဖြေသည်။

“သုံးခါ သွားတွေ့ပြီး စကားပြောတယ်လေ၊ သူ့ဒုက္ခတွေကို နားထောင်တယ်။ အခန်း ထဲမှာ ခေါက်တုံ့ခေါက်ပြန် လျှောက်နေတာကို စောင့်ကြည့်တယ်။ ဒီအိမ်ကြီးမှာ အကျဉ်းချခံ နေရသလို ဖြစ်နေတဲ့ သူ့ဘဝကို သူ ရင်ဖွင့်တယ်၊ တခါတလေ ကိုယ့်ပခုံးပေါ်မှာ မျက်နှာ မှောက်ချပြီး ငိုတယ်။ ဒါပဲ”

“နေစမ်းပါဦး၊ သူက ဘာဖြစ်လို့လဲ”

ကက်စတာက နားဝေးရန်ကော ဟူသည့် အမူအရာနှင့် ရှင်းပြသည်။

“ဒီမယ် အယ်လီနာ၊ အစ်ဇဘယ်ဟာ သူ့ကို မွေးခဲ့တဲ့ အိမ်ကြီးမှာ ညှော်သည်လို ပြန်ဖြစ် နေရတာ၊ ညှော်သည်မှ နိုင်ငံခြားညှော်သည်။ အမေရိကန်နိုင်ငံသား ပြန်ဖြစ်ချင်နေတာ၊ စိတ်ဓာတ် အကျကြီး ကျနေရှာတဲ့ အမျိုးသမီးပါကွာ”

“စစ်ဖြစ်လို့ ဒုက္ခရောက်နေတဲ့ လူတွေ တပုံကြီးဟာကို၊ သူတယောက်တည်း ရွေးပြီး ဒုက္ခပင်လယ်တွေက ဝိုင်းနေတယ်လို့များ သူက အောက်မေ့နေလား”

ကက်စတာ ပြုံးလိုက်ပြန်သည်။

“ဟုတ်တယ် အယ်လီနာ၊ မင်း အစ်ဇဘယ်ကို နားလည်နိုင်မှာ မဟုတ်ဘူး”

“မောင်ကတော့ သိပ်နားလည်နေတယ်ပေါ့ ဟုတ်လား၊ မောင် ဘာဖြစ်လို့ လူပျော့ လူညံ့တယောက်လို အဓိပ္ပာယ်မရှိ အချိန်တွေ ဖြုန်းနေရတာလဲ ဟင်”

“တို့နှစ်ယောက်က ငယ်သူငယ်ချင်းတွေပဲ အယ်လီနာရယ်၊ သူ ခုလို စိတ်ဓာတ်ကျ နေတဲ့အခါမှာ တိုင်ပင်ဖော် တိုင်ပင်ဖက်အဖြစ်တော့ ရှိသင့်တာပေါ့”

“ဟုတ်ပါတယ်၊ ဒါပေမဲ့ မောင်နဲ့ တိုင်ပင်နေမယ့် အစား ဘာလို့ သူ ရှေ့နေ မငှား သလဲ”

“မောင်လည်း ပြောပါတယ်၊ သူ ငှားမှာပါ”

“မထင်ပါဘူး”

ကက်စတာက အယ်လီနာ့ကို အကဲခတ်သလို ကြည့်သည်။

"မင်း ဘာဆိုလိုတာလဲ အယ်လီနာ"

အယ်လီနာက မေးခွန်းကို မေးခွန်းနှင့် တုံ့ပြန်လိုက်၏။

"သူ့ဆီကို သုံးခေါက် သွားတယ်လို့ ပြောတယ်နော်၊ ဘယ်နှခါ နမ်းကြသလဲ၊ အဲဒါ ပြော"

"ဩော် . . မိန်းမကလည်းကွာ၊ နမ်းတော့ နမ်းမိတာပေါ့၊ ပထမဆုံး သွားတဲ့ အခေါက် က တအားငိုနေတာနဲ့ မောင်လို နှမလို နမ်းပြီး နှစ်သိမ့်မိတာပါ"

"ဘာ . . မောင်လို နှမလို ဟုတ်လား၊ အဲဒါက မောင့်ဘက်က ထင်နေတာ။ သူကလည်း မောင့်ကို အဲဒီလို ထင်စေချင်နေတာ သိလား၊ မောင် နှစ်သိမ့်ပေးမှုတွေ မရှိရင် သူ မနေနိုင် ပါဘူးလို့ မပြောဘူးလား။ အဲဒါ မောင့်ကို တဖြည်းဖြည်း သိမ်းသွင်းနေတာ၊ မောင့်ကို ပြန်ရ အောင် ယူဖို့ ကြံနေတာ သိလား"

ကက်စတာက စီးကရက်တလိပ်ကို ထုတ်ညှိသည်။

"အယ်လီနာကလည်းကွာ၊ အစ်ဇဘယ်က သူငယ်နှပ်စားကလေးမှ မဟုတ်တာ၊ မောင်တို့ လင်မယား ဘယ်လောက် ချစ်ကြတယ် ဆိုတာ သူ မသိဘဲ နေပါ့မလား"

"အဲဒါကြောင့် ပိုပြီး သိမ်သိမ်မွေ့မွေ့ ကြံစည်နေတာပေါ့၊ ဟိုတုန်းက မောင်တို့ ဘယ်အခြေအနေအထိ ဖြစ်ခဲ့ကြတယ် ဆိုတာ ပြောစမ်းပါ မောင်ရယ်"

ကက်စတာက ပခုံးတွန့်ပြပြီး-

"သုံးလလောက် သူနဲ့ အရှုံးအမူး ဖြစ်ခဲ့တယ်၊ အဲဒါက လွန်ခဲ့တဲ့ ခုနစ်နှစ်ကပါကွာ၊ ခု မောင့်စိတ်ထဲမှာ ဘာမှ မကျန်တော့ပါဘူး။ ဟိုတုန်းကတော့ အစ်ဇဘယ်ဟာ တကယ်ချစ်စရာ ကောင်းတဲ့ နာမည်ကျော် အလှပဂေးပဲ"

"ခုလည်း ချစ်စရာ ကောင်းတုန်းပါပဲလေ"

ကက်စတာ ဘာမျှ ပြန်မပြော။

အယ်လီနာက ဆက်ပြီး တွက်ပြသည်။

"မောင့်ကို သူ့ချစ်သူအဖြစ် ပြန်ပြီး အရယူနေတယ် ဆိုတာ မောင် မမြင်ဘူးလား ဟင်။ မောင်က ရုပ်ချောတယ်၊ သဘောကောင်းတယ်၊ သူနဲ့ ကွဲသွားတဲ့ အချိန်ကထက် ပိုပြီး စွဲမက်စရာ ကောင်းချင် ကောင်းနေမယ်။ ကက်စတာရယ်၊

ယောကျ်ားလေးတယောက်ကို စွန့်လိုက်တယ် ဆိုတဲ့ မိန်းကလေးတိုင်းဟာ အဲဒီကောင်လေးကို အချိန်မရွေး ပြန်ကောက်ယူ လို့ရတယ် ဆိုတဲ့ ယုံကြည်မှုမျိုး ရှိတာချည်းပဲ ရှင်ရဲ့။ အထူးသဖြင့် ဥရောပတခွင်မှာ လိုတရပြီး ယောကျ်ားတကာကို သူ့ ရှေ့မှောက်မှာ ဝပ်စင်းအောင် လုပ်နိုင်တဲ့ မိန်းမမျိုးက မောင့်လိုလူမျိုး တော့ အပျော့နေမှာပေါ့။ ဒါပေမဲ့ ဒီကို ပြန်ရောက်တော့ မောင်က သူထင်တာထက် ပိုပြီး ယောကျ်ားပီပီ ခံ့ချော ချောနေတာတွေ့တော့ ဟိုတုန်းက ကြိုးရှည်ရှည်နဲ့ လှန်မထားဘဲ လက်လွှတ် ခဲ့တာ မှားလေခြင်းဆိုပြီး နောင်တရနေမယ်။ မောင့်အချစ်ကို အလောတကြီးတော့ ပြန်တောင်း ဦးမှာ မဟုတ်သေးဘူး၊ သူက ပရိယာယ် သိပ်ကြွယ်တယ်၊ ဒါလောက် ရှင်းနေတဲ့ ဟာကို မောင် မမြင်ဘူးလားဟင်”

ကက်စတာက ရယ်လိုက်သည်။

“မောင့်အချစ်က မောင် ထင်တာထက် ပိုပြီး တွေးခေါ်တတ်တာပဲ”

အယ်လီနာက အားမရသေးသလို ဆက်ပြောပြန်သည်။

“ကြည့်လေ၊ မောင့်ကို တခါဆို တခါတည်း လာပါလို့ ခေါ်တယ်၊ ဟော... ခု မောင် သုံးခါ ရောက်ပြီးပြီ”

“အယ်လီနာရယ် မောင့်အတွက် ဒါဟာ အသေးအဖွဲ ကိစ္စပါ။ ဒီမယ် နားထောင်၊ ဒီ ဘာမဟုတ်တဲ့ ကိစ္စကလေးကြောင့် မောင့်မိန်းမ စိတ်အနှောင့်အယှက် ဖြစ်နေရတယ် ဆိုတာ သိရင် မောင် အစောကြီး ပြောပြမှာပေါ့ကွာ။ ကဲ.... အခု မောင် သိပြီ၊ အစ်ဇဘယ်ကို မောင် ဘယ်တော့မှ သွားမတွေ့တော့ဘူး၊ ဟုတ်ပြီလား။ လိုချင်တာ ဒါပဲ မဟုတ်လား”

အယ်လီနာ ခေါင်းညိတ်သည်။

“အဲ... ဟုတ်ပြီ”

ကက်စတာက ထလာပြီး အယ်လီနာ့ကို နမ်းသည်။

“မောင် သူ့ဆီ သွားမတွေ့တော့ဘူး၊ ဒါပေမဲ့ ဒီနေ့ညလိုမျိုး အများနဲ့ ဆုံရင်တော့ မတတ်နိုင်ဘူးနော်”

“ကျေးဇူးတင်ပါတယ် မောင်ရယ်” အယ်လီနာက ကက်စတာ့လက်ကို ယူပြီး နမ်းလိုက်၏။

“အယ်လီနာ လိုချင်တာလည်း ဒါပါပဲ”

ပြောပြောဆိုဆို အယ်လီနာက သူ့နံဘေးတွင် ဆွဲ၍ ခုတင်ပေါ် ယှဉ်ထိုင်စေလိုက်သည်။

"အဲဒီတုန်းက မောင်တို့နှစ်ယောက် အကြောင်းကို သူများတွေ သိကြသလားဟင်"

"ဟင့်အင်း၊ ဘယ်သူမှ မသိပါဘူး"

"အယ်လီနာ ဝမ်းသာလိုက်တာ မောင်ရယ်၊ လူတွေ မေးငေါ့ကြမှာ အယ်လီနာ မခံချင်ဘူး၊ မောင်တို့ ဇာတ်လမ်းကို အယ်လီနာ နားထောင်ချင်တယ်"

"အယ်လီနာကလည်းကွယ်၊ ဘာအကြောင်း ထူးတော့မှာလဲ"

"ပြောပါ မောင်ရဲ့၊ အယ်လီနာ တကယ်ကြားချင်လို့ပါ"

အယ်လီနာ ရွှင်ပျပေါ့ပါးနေသည်။ ကက်စတာက အနေရအထိုင်ရ ကျပ်နေ၏။ သူက ဘယ်တော့မျှ ပစ္စုပ္ပန်ရဲ့ ဟိုဘက်ပိုင်းကို မျှော်ကြည့်တတ်သူ မဟုတ်။ တခုတော့ သူ့ကိုယ်သူ သေချာသည်။ အယ်လီနာ စိတ်ချမ်းသာမည် ဆိုလျှင် သူ ဘာပဲ လုပ်ပေးရ လုပ်ပေးရ။

စောစောစီးစီးသာ သည်ကိစ္စကို ပွင့်ပွင့်လင်းလင်း ပြောလိုက်လျှင် ခုလို နှစ်ပတ်လုံးလုံး ကျိတ်ဆွေးနေရမှာ မဟုတ်ဘူး နော်။ အယ်လီနာ နောင်တရနေမိသည်။ အိမ်ထောင်သက် တလျှောက်လုံးတွင် စိတ်အဆင်းရဲရဆုံး ရက်သတ္တနှစ်ပတ်။

※※※

# အခန်း (၇)

အစ်ဇဘယ်ဗားကိုးတို့မှာ လူဝီစီးယားနားပြည်နယ်ပေါက် ပြင်သစ်အနွယ်များ ဖြစ်ကြ သည်။ အစ်ဇဘယ်တို့အဖေ မစ္စတာဗားကိုးမှာ လူချမ်းသာတယောက်ဖြစ်၍ သမီးချောကို ဥစ္စာရော ပညာပါ ပြည့်စုံအောင် ပေးနိုင်ခဲ့သည်။

အစ်ဇဘယ် ၁၈ နှစ် အရွယ်တွင် ဘွဲ့ရသည်။ အစ်ဇဘယ်သည် အလွန်ချစ်စရာကောင်း သည့် ရုပ်ပါရုံရှင်မကလေး ဖြစ်သည်။ အမူအရာ သိမ်မွေ့၏။ အပြောအဆို ညင်သာ၏။ အသံ မှာ နူးညံ့ချိုသာ၏။ မျက်နှာက မြင်သူ ဗျာပွေလောက်သည် ဆိုသည့် မျက်နှာမျိုး၊ သုံးပေခန့် ရှည်လျားသည့် ဆံကေသာမှာ ရွှေရောင် တဖိတ်ဖိတ်၊ မျက်လုံးများကမူ အပြစ်ကင်းစင်စွာ တောက်ပ ကြည်လင်လျက်။

ယင်းအလှအပ ကတ္တီပါဝတ်ရုံ အောက်တွင်တော့ အစ်ဇဘယ်၏ လိမ္မာပါးနပ်ခြင်း၊ အမြော်အမြင်ကြီးခြင်း၊ ရည်ရွယ်ချက် မြင့်မားခြင်း စသည့် ထက်မြက်သည့် အဖျွတ္တအရည် အချင်းများ။ မိန်းကလေးတယောက်၏ ဘဝကို လက်ထပ်ထိမ်းမြားခြင်းက အဆုံးအဖြတ် ပေးသည် ဆိုသည့် အချက်ကို အစ်ဇဘယ်က ကောင်းစွာ သဘောပေါက်ထား၏။ အစ်ဇဘယ် သည် ဘဝတလျှောက်လုံး လိုတရပြီး စိတ်တိုင်းကျ နေနိုင်ခဲ့သူ ဖြစ်သည်။ လှလှပပ ကတတ် သည်။ ဂီတတွင် ယဉ်ပါးသည်။ စန္ဒရားကို သာယာနာပျော်ဖွယ် တီးတတ်သည်။ ဆင်ယင် ထုံးဖွဲ့ပုံမှာ အစ်ဇဘယ် အခန်းထဲသို့ ဝင်လာလျှင် အမြတ်တနိုး ငေးကြည့်ကြရသည်ချည်း။ ပြင်သစ်နှင့် အင်္ဂလိပ် နှစ်ဘာသာစလုံးကို ကျွမ်းသည်။

ဘွဲ့ယူတုန်းက ဆွတ်ဆွတ်ဖြူ ဝတ်စုံနှင့်။ စလွယ်က အပြာရောင်။ သည်တုန်းက နတ်သမီးကလေးနဲ့ တူလိုက်တာကွယ် ဟု လူတိုင်းက ချီးကျူးထောမနာပြုကြ၏။ သည်လိုပြော ကြတော့ အစ်ဇဘယ် သိပ်သဘောကျသွားသည်။ အခြားကြောင့် မဟုတ်၊ ပုံပြင်စာအုပ်တွေ ထဲတွင် နတ်သမီးကလေးများသည် အိမ်ထောင်သားမွေး အမှုကို မပြုကြဘဲ ထာဝရအလှမပျက် ရှိကြသည် မဟုတ်လား။

အပန်းဖြေ ခရီးထွက်ခြင်း၊ ပါတီပွဲလမ်းသဘင်များသို့ သွားခြင်း စသည့်

လောကထဲသို့ အစ်ဇဘယ် တိုးဝင်သည်။ ဒယ်လ်ရှိုင်းလို မြို့ကလေးက လူငယ်လူရွယ်များကို စိတ်ဝင်စား၍ မရ။ ထိုအချိန်တွင် အစ်ဇဘယ်မှာ နာမည်ကျော် အလှဘုရင်မကလေး ဖြစ်နေပြီ။ ပွဲလမ်း သဘင်နှင့် လူမှုရေးအဖွဲ့များ၏ ဖိတ်စာတွေ အစ်ဇဘယ်တွင် တောင်လိုပုံနေပြီ။ ပန်းစည်းတွေ၊ ချောကလက်ဘူးတွေမှာ အစ်ဇဘယ့် အခန်းမှာ ထားစရာမရှိအောင် ဖြစ်လာသည်။ ရွှေစာလုံး နှင့် သားရေဖုံးပြီး အိုမာခယန်၏ ကဗျာစာအုပ် လက်ဆောင်ပေးသူလည်း ရှိ၏။ လက်ထပ်ခွင့် တောင်းလာသူက သုံးဦး။

အစ်ဇဘယ်က သည်သူကောင်းသားတွေကို ပြင်သစ်သူရဲကောင်းဘွဲ့ ရွေးဖို့အတွက် ပဏာမ ဂုဏ်ထူးဆောင်တံဆိပ်တွေ ကြိုပေးထားသည့် သဘောလောက်သာ အသိအမှတ် ပြုထား၏။

အစ်ဇဘယ်က တနေ့တခြား သတိထားပြီး ချစ်သူ ရွေးသည်။ သူ့အလှဂုဏ်သတင်း သည် ကျော်ကြားမြဲ ကျော်ကြားလျက်။ "ဝေါ့ဒ်" ကရင်း ယောကျ်ားသားတို့၏ ရင်ခွင်မှာ ပူးပူးကပ်ကပ် တိုးဝင်လျက်။ ညဉ့်နက်သန်းခေါင်တိုင် ကပွဲများတွင် အဖော် မပါဘဲ နေလျက်။ သို့သော် အဘယ်သူကောင်းသားမျှ အစ်ဇဘယ့် အချစ်ကို မရကြသေး။

ရှာနွားကို ရှာသား မကြိုက်သည့် နည်းတူ အစ်ဇဘယ်က တမြေတည်းနေ တရေ တည်း သောက်တွေကို သူ့ဘဝ ပုံပေးဖို့ ဘယ်တုန်းကမျှ စိတ်မကူးခဲ့။ နယူးယောက်မှ ချမ်းသာ သည့် ဆွေမျိုးတွေဆီကို သွားလည်ရင်း ပို၍ ကျယ်ပြန့်သည့် လောကထဲကို ဝင်ဖို့ အစ်ဇဘယ်က မွေးရပ်ဌာနေတွင် လက်တွေ့ကွင်းဆင်းနေခြင်းမျှသာ ဖြစ်၏။

ဤတွင် ကျူလိန်းကောလိပ်မှ ဘွဲ့ယူပြီး ပြန်လာသည့် ကက်စတာလန်းနှင့် ပြန်ဆုံကြ ခြင်း ဖြစ်သည်။

အစ်ဇဘယ်၏ မဟာစီမံကိန်းတွင် ကက်စတာလန်း ဆိုသူအတွက် နေရာမရှိပေ။ ငယ်ငယ် တုန်းက ကစားဖော်တွေ ဖြစ်ခဲ့ကြပြီး အထက်တန်းအောင်တော့ ကွဲသွားကြသည်။ ကက်စတာ နှင့် မတွေ့သည်မှာ နှစ်ပေါင်းများစွာ။ ဝက်သစ်ချမြိုင်က ယိုင်နဲ့ပြိုကျနေသည့် ဝါခင်းကြီး။ ကက်စတာ့အဖေ၏ အသုံးအဖြုန်းကြီးမှုကြောင့် ကြွေးပတ်လည်ဝိုင်းနေသည့် ဝက်သစ်ချ မြိုင်။ ထို့ကြောင့် ကက်စတာ့လို လူငယ်အတွက် အစ်ဇဘယ်၏ ရည်မှန်းချက် မြေပုံတွင် နေရာ လပ် မရှိသည်မှာ အမှန်။

ဒါပေမဲ့ ကက်စတာက ယောကျ်ားကလေးများထဲတွင် ပေါ်ပြူလာ အဖြစ်ဆုံး။ သည်တော့ သူ ကဖို့ ခေါ်သည့်အခါ ခေါင်းညိတ်လိုက်သည်။ ခရီးသွားဟန်လွှဲ

သဘောပါ။ မျိုးရိုးအစဉ် အလာရှိပြီး ချောလည်း ချောတဲ့ ကက်စတာနဲ့ ဘာကြောင့် ခဏာတဖြုတ် မတွဲရမှာလဲ။ မကြာပါဘူး၊ သူ့အကြောင်း သိရတာပါပဲ။ သူ့ကိုယ်သူ မြာစွံတယ်၊ အကကောင်းတယ် ဆိုပြီး အစ်ဇဘယ့် အချစ်ကို ရပြီပေါ့လေ။

တညနေ ဝေါ့ဓ် ကနေကြစဉ်မှာ ဖြစ်၏။ ကက်စတာက ဆိုင်းမဆင့် ဗုံမဆင့် ပြောသည်။

"အစ်ဇဘယ်ရယ်၊ အနက်ရောင် ဝတ်ဖို့ မင်းအရွယ် ငယ်လွန်းပါသေးတယ်"

"ဘာပြုလို့"

"ဘာရောင်ပဲဝတ်ဝတ် မင်းက လှတော့ လှနေတာပါပဲ၊ ဒါပေမဲ့ အနက်ရောင် ဝတ်ထား ရင် ကိုယ် မနေတတ် မထိုင်တတ် ဖြစ်လွန်းလို့ပါ"

အစ်ဇဘယ် လှုပ်လှုပ်ရှားရှား ဖြစ်သွားသည်။ ဒါလောက် ရဲတင်းလွန်းသည့် စကားမျိုး ကို သူ တကယ်ပြောလိုက်တာလား၊ သူ့ ကြည့်တော့ ရယ်ရွှင်ပြုံးတုံ့ မပြုံးတုံ့နှင့်။ မျက်လုံးတွေက အစ်ဇဘယ်ကိုပဲ စိုက်ကြည့်နေသည်။ သူ့အပြုံးက ပျော့ကျသွားချင်စရာ အပြုံးမျိုး။ သည်အပြုံးက အစ်ဇဘယ်အတွက် ပုစ္ဆာတပုဒ်ကို တွက်ဖို့ ပုံသေနည်းတခုကို သတိရသလို ဖြစ်သွား၏။

"ကက်စတာ ဘာကို ဆိုလိုတာလဲ ဟင်"

"ကိုယ် ဘာကို ဆိုလိုတယ် ဆိုတာ မင်း သိပါတယ် အစ်ဇဘယ်၊ အဓိပ္ပာယ်က ကိုယ် မင်းကို စွဲနေပြီ။ ကဲ . . . ဒါဆို မင်း နေသာထိုင်သာ ရှိသွားပြီ မဟုတ်လား"

အစ်ဇဘယ်က ဆက်မကဘဲ ရပ်နေလိုက်သည်။

"အန်တီအဂ္ဂနက်စ် ပါလာတယ်၊ သူ့ဆီ ပြန်ပို့ပေးတော့"

ကက်စတာက အစ်ဇဘယ် ပြောတာကို မကြားသလို သူ့ဘာသာသူ ဆက်ပြောနေ သည်။

"ဟုတ်တယ်၊ အနက် မဝတ်ပါနဲ့ကွာ၊ အပြာဆို တော်ရောပေါ့။ အမျိုးသမီးတွေ အရောင် ရင့်ဝတ်တာ သိပ်မကောင်းပါဘူး၊ အပြာရောင်နဲ့ ဆိုရင် တကယ့် အချစ်နတ်ဘုရားမ ရုပ်တု ကလေးနဲ့ တူနေမှာ"

အစ်ဇဘယ် စိတ်ဆိုးတာတွေ ဘယ်ရောက်သွားမှန်း မသိ။ အခန်းတခန်းထဲသို့ သူ ခေါ်သွားသည်ကို လိုက်သွားမိသည်။ ခုံရှည်ပေါ်တွင် ထိုင်၍ သူ

စကားဆက်ပြောသည်။

"အရောင်ဖျော့လွန်းတာ ဝတ်ပြန်ရင်လည်း မင်းက လူတွေနဲ့ ဝေးလွန်းသလိုပဲ၊ "အယ်လိုင်း" နဲ့ တူနေတယ်။ အမှန်က မင်း "ဖရန်စက်စကာ" နဲ့ တူရမှာ"

"ဘယ်သူလဲ... ဖရန်စက်စကာ က"

"အချစ်အတွက် ငရဲကို လိုက်သွားတဲ့ သူလေ၊ မင်းက အဲဒီလို ဘယ်တော့မှ လုပ်မှာ မဟုတ်ပါဘူး။ ဒါပေမဲ့ ဖရန်စက်စကာပုံတော့ မင်း ဖမ်းနေရလိမ့်မယ်"

"တကယ်ပြောတာလား ဟင်"

အစ်ဇဘယ် နေမထိ ထိုင်မသာ ဖြစ်နေ၏။

"တကယ်ပေါ့၊ မင်းဟာ မင်းကိုယ်မင်း အတွက်မှားနေတယ် အစ်ဇဘယ်၊ မင်းဟာ တကယ်ချစ်စရာ ကောင်းပါတယ်၊ ဒါတော့ မင်း အကြိမ်တထောင်လောက် သူများတွေပြောတာ ကြားဖူးပြီးရောပေါ့။ ဒါပေမဲ့ ကိုယ့်ကိုယ်ကိုယ် သိပ်တွက်မထားနဲ့၊ "မြို့စားတရာရဲ့ သမီး" လိုလည်း ဖြစ်နေဦးမယ်"

"ဖြစ်တော့ ဘာဖြစ်လဲ"

"အစ်ဇဘယ်ရယ်၊ အဲဒီ တင်နစ်ဆင်ရဲ့ ကဗျာကို မင်း မေ့နေပြီလို့ ကိုယ့်ကို မပြောပါနဲ့ ကွာ၊ မင်းဟာ ကျောင်းထုတ်ခံရလောက်အောင် စာညံ့ခဲ့တဲ့ မိန်းကလေး မဟုတ်ပါဘူး"

"ဒါပေမဲ့ တို့ စာမတော်ပါဘူး ကက်စတာ"

အစ်ဇဘယ်က အမှန်အတိုင်း ဝန်ခံလိုက်သည်။

ကက်စတာက အစ်ဇဘယ်ကို စိုက်ကြည့်နေ၏။ နှုတ်ခမ်းထောင့်ကလေးတွေ မသိမသာ ကွေးသွားသည်။

"မင်းဟာ တင်နစ်ဆင်ရဲ့ ကဗျာကို ကိုးကားဖို့ မလိုအောင် တပ်မက်ချင်စရာ ကောင်း နေတယ် အစ်ဇဘယ်"

အစ်ဇဘယ် ဝုန်းခနဲ ထရပ်သည်။ တကယ် စိတ်ဆိုးသွားပြီ။

"ကျေးဇူးပါပဲ၊ မင်းပြောတဲ့ ကဗျာကို တို့ မှတ်မိပြီ။ 'မြို့စားတရာရဲ့ သမီးလှကညာ၊ အနှစ်မပါ တပ်မက်စရာ မရှိ' ဆိုတဲ့ အပိုဒ်ကို ပြောနေတာ

မဟုတ်လား။ ကဲ… သွားမယ်၊ အန်တီ အဂ္ဂနက်စ်ဆီ ပို့ပေးတော့”

ကက်စတာက ရယ်ပြီး မတ်တတ်ထသည်။

“ဟုတ်ပြီ… အဲဒီလိုမှပေါ့၊ ကြိုက်သွားပြီ။ ဒါပေမဲ့ ချိုသည်းရယ်၊ ဒီတီးလုံးကလေး ဆုံးအောင်တော့ ကလိုက်ကြရအောင်နော်”

ခေါင်းခါဖို့ ကြိုးစားရင်း အစ်ဇဘယ် ခေါင်းညိတ်လိုက်မိ၏။ တညခင်းလုံး တဝကြီး တွဲကပြီးမှ ကက်စတာက အထိန်းတော် အဒေါ် အဂ္ဂနက်စ်ဆီကို သွားပို့သည်။

“ပျော်စရာကောင်းတဲ့ ညခင်းအတွက် ကျေးဇူးတင်ပါတယ် အစ်ဇဘယ်၊ နောက်တခါ အပြာရောင် လှလှကလေး ဝတ်ခဲ့နော်”

ဟု နှုတ်ဆက်ရင်း ပြောလိုက်သည်။

အစ်ဇဘယ်က ပြည့်ပြည့်ဝဝ ပြုံးပြီး-

“ဝတ်ပါ့မယ်လေ၊ ဒါပေမဲ့ “ဖရန့်စက်စတာ” ဘယ်သူလဲ ဆိုတာတော့ အစ်ဇဘယ် မသိသေးဘူးနော်”

“မနက်ဖြန် စာအုပ်ပို့ပေးလိုက်မယ်လေ”

ကက်စကာက အထိန်းတော်ကြီး မကြားအောင် တိုးတိုး ကပ်ပြောလိုက်သေးသည်။

“ကိုယ်တွေ့သမျှ မိန်းကလေးတွေထဲမှာ မင်းဟာ သောက်ကျိုးနည်း လှတဲ့အကြောင်း ကိုယ် မပြောရသေးဘူး ထင်တယ်”

နောက်တနေ့တွင် ကက်စတာ့ထံမှ ချစ်နှင်းဆီ ပန်းစည်းလှလှ ရောက်မလာဘဲ အီတာလျံကဗျာဆရာကြီး ဒန်တီ၏ “ငရဲခန်း”အမည်ရှိ စာအုပ်ကြီး ရောက်လာသည်။ ပြာလွင် လွင် ပန်းစက္ကူကလေး ညှပ်ထားသည့် စာမျက်နှာကို ဖတ်ကြည့်သည်။ ချစ်သူနှစ်ဦး၏ အချစ်သည်းထန်ပုံကို ကြက်သီးမွေးညင်း ထလောက်အောင် ဒန်တီက ရေးဖွဲ့ထားသည်။ ကမ္ဘာ တည်သရွေ့ ထင်ကျန်နေမည့် အချစ်ပုံပြင် စာအုပ်၊ စာအုပ်ထဲတွင် စာကလေးတစောင်လည်း ပါလာသည်။ ညနေပိုင်းတွင် ကားလျှောက်မောင်းရအောင် ဝင်ခေါ်မည့် အကြောင်း။ ကက်စတာ က လိုက်နိုင် မလိုက်နိုင် မမေး၊ ပိုင်စိုးပိုင်နင်း လာခေါ် မည် ဟုပဲ ရေးထားသည်။ သည်လောက် သူ့ကိုယ်သူ အထင်ကြီးသည့် ငနဲသားကို အတွေ့မခံဘဲ

အခြားတယောက်နှင့် ချိန်းထားပြီး သားမို့ လိုက်သွားကြောင်း အစေခံတယောက်နှင့် ထွက်ပြောခိုင်းမည်ဟု အစ်ဇဘယ်က စိတ်ကူးထားသည်။ သို့သော် ကက်စတာ ရောက်လာတော့ သူနှင့် လိုက်သွားဖို့ အဆင်သင့် ဖြစ်နေ၏။

အစ်ဇဘယ်ကို နောက်ပိုး ပိုးနေသည့် အစ်ကို ကာလသားများထဲတွင် သစ္စာမဲ့သည့် မိန်းကလေးတယောက်၏ အချစ်အကြောင်းကို ဖွဲ့နွဲ့ထားသည့် လင်္ကာစာအုပ်ကို ပေးမည့်သူ တယောက်မျှ မရှိ။ ကက်စတာက တကူးတက ပို့ပေးသည်။ တယောက်အကြောင်းကို တယောက် အကုန်အစင် သိကြပြီးမှ တွဲကြသည့် အစဉ်အလာကို ကက်စတာက လုံးဝ ဆန့်ကျင်သည်။ အစ်ဇဘယ်ကို သာမန်ထက် ပိုပြီး ဂရုမထား။ အခြားသူတွေလို အစ်ဇဘယ့် အလှတွင် ယစ်မူးပြီး ဒူးထောက်သည့် အမူအရာ လုံးဝ မပြ။ ဤသည်မှာ အစ်ဇဘယ် အတွက် အသစ်အဆန်း ဖြစ်နေ၏။ ရံဖန်ရံခါ ချိန်းတွေ့ကြသည်။ တဖြည်းဖြည်းနှင့် နေရာကလေးတခု သတ်မှတ်ပြီးသား ဖြစ်သွားပြီး နေ့တိုင်း တွေ့ဖြစ်ကြသည်။

အစ်ဇဘယ်က ကက်စတာ့အပေါ် ညွတ်ချင်နေပြီ ဖြစ်သည့်အကြောင်းကို သူ့ဘာသာ သူ သိနေ၏။ သည်အတိုင်း ဆက်နေသွားလျှင် သူတို့နှစ်ယောက် ယူဖြစ်ကြတော့မည်ဟု လူတိုင်းက ထင်တော့မည်။ စင်စစ် သည်အထိ လုံးဝ စိတ်ကူးမရှိ။ ကက်စတာကလည်း မတောင်းဆို၊ တောင်းဆိုလာလျှင်လည်း အစ်ဇဘယ်က ငြင်းပယ်မည်သာ။ ကက်စတာတွင် အစ်ဇဘယ်၏ လင်ယောက်ျား ဖြစ်ရမည့် အရည်အချင်း ဘာမျှမရှိ။ ကက်စတာသည် တွဲ၍ ပျော်စရာကောင်းသူ တယောက်သာ ဖြစ်၏။ ဟာသပေါသည့် သူ့အပြောကလေးများက ကြည်နူးစရာ မဟုတ်လား။ ဤသို့ဖြင့် ဆုတောင်းခြင်း၌ ယုံကြည်ခြင်း မရှိလှသော အစ်ဇဘယ် သည် “အို… ဘုရားသခင်၊ ကက်စတာကို မချစ်မိအောင် တပည့်တော်မ၏ စိတ်ခေတ်ကို ခွန်အား ဖြည့်ဆည်းပေးတော်မူပါ” ဟု အထီးကျန်ညများတွင် ဆုတောင်းနေမိတော့သည်။

စိတ်ထဲတွင် သိနေ၏။ ကက်စတာက မကြိုးစားဘဲ မိမိဘာသာ ကြွေကျချင်နေပြီ။ မြင့်မားလှသည့် ရောမရည်မှန်းချက်တွေ သဲထဲရေသွန် အဖြစ်ခံရတော့မှာလား။ သည်အဆင့်မှ ခွဲခွာဖို့ ကြိုးစားသည်မှာ အကြိမ်ကြိမ်။ သို့သော် ကက်စတာ့ ခြေသံကြားသည်နှင့် အစ်ဇဘယ် က ပြေးကြိုဖို့ ခြေလှမ်းမိလျက်သား ဖြစ်နေသည်ချည်း။

ဤသို့ဖြင့် အစ်ဇဘယ်က မိမိဧည့်ခန်းဆောင်တွင်ပင် ကက်စတာအား နမ်းခွင့်ပေးခဲ့ခြင်း ဖြစ်၏။ ကက်စတာ့အနမ်းတွင် နွမ်းလျစွာ နစ်မျောသွား၏။ ရင်ထဲထိ စိမ့်သွား၏။ တပြိုင် တည်းတွင် မိမိရည်မှန်းချက်ပန်းတိုင်ကို ဖျတ်ခနဲ သတိရပြီး ကက်စတာ့ရင်ခွင်မှ ရုန်းထွက်ကာ အပေါ်ထပ်သို့ ပြေးတက်ခဲ့သည်။

အခန်းထဲတွင် တယောက်တည်း တုန်တုန်ယင်ယင် ဖြစ်နေ ၏။

ဤတွင် နယူးယောက်ရှိ ဆွေမျိုးတွေရှိရာသို့ ထွက်လာခဲ့ခြင်း ဖြစ်သည်။ တနည်း အားဖြင့် ကက်စတာထံမှ ဖွတ်ထွက်ပြေးခဲ့ခြင်း ဖြစ်၏။ ကက်စတာ့ဆီမှ စာတွေ လာသည်။ တယောက်တည်း ပျင်းနေကြောင်းလောက်သာ ပါပြီး သူ့ကို လွမ်းလွမ်းတတ ဖြစ်နေရကြောင်း လုံးဝမပါ။ သည်အတွက် အစ်ဇဘယ်က လုံးဝစာမပြန်ဘဲ နေနိုင်ခဲ့ခြင်းဖြစ်၏။ ရည်ရွယ်ချက် ကို အကောင်အထည်ဖော်နိုင်အောင် ဖွတ်တင်းထားရခြင်းသာ ဖြစ်သည်။ ကက်စတာ့ကို ရင်ထဲမှ မေ့မရ။ တရံတဆစ်မျှ မမေ့။

ဤတွင် တည်းခိုနေသည့် အဒေါ်အိမ်၌ ဂျာမန်အမျိုးသား ရှီမဲလ်ဖန်းနှင့် တွေ့ခြင်း ဖြစ်သည်။ ဦးလေးဖြစ်သူက ချည်ခင်တွေ နိုင်ငံခြားသို့ ပို့သည့် အလုပ်ဖြင့် ကြီးပွားခဲ့သူ ဖြစ်သည်။ ရှီမဲလ်ဖန်း၏ ဖခင်မှာ အစ်ဇဘယ်တို့ ဦးလေး၏ ဖောက်သည် ဖြစ်၏။ ဂျာမန်တွင် အထည် စက်ရုံများစွာကို ပိုင်သည့် သူဌေးကြီး ဖြစ်၏။ ရှီမဲလ်ဖန်းက အမေရိကန်ကို အလည်အပတ် ရောက်နေခြင်း ဖြစ်သည်။

ရှီမဲလ်ဖန်းမှာ ခပ်ရိုးရိုးထဲက ဖြစ်သည်။ ရုပ်မှာမဲ့စရာ ကောင်းသည့် ပုံစံမျိုးလည်း မဟုတ်။ ငြီးငွေ့စရာ ကောင်းလောက်အောင် ညံ့သူလည်း မဟုတ်။

အစ်ဇဘယ်ကို သည်ဂျာမန် မြတ်နိုးနေပုံရ၏။ တွဲ၍ ကကြပြီး မကြာမီ ရင်းနှီးသွား ကြ၏။ တညနေခင်း ကပွဲတခုအပြီး လူချင်းခွဲခါနီးတွင် ဖြစ်သည်။ ဂျာမန်အမျိုးသားက အမေရိကန်မကလေးကို သဘောအကျကြီး ကျနေပြီ ဖြစ်ကြောင်း၊ အစ်ဇဘယ် ပြန်သွားလျှင် အောက်မေ့နေမည် ဖြစ်ကြောင်းကို ရှီမဲလ်ဖန်းက ခပ်လေးလေး အင်္ဂလိပ်စကားနှင့် ပြောသည်။ အစ်ဇဘယ်က နိုဝင်ဘာမှာ နယူးယောက်ကို တခေါက်လာဦးမှာပါဟု ပြန်ပြော၏။

“တကယ်ပြောတာလား အစ်ဇဘယ်၊ ဒါဖြင့် ကိုယ်လည်း တခေါက် ပြန်လာခဲ့မယ်လေ”

မစ္စအစ်ဇဘယ်ဗားကိုးက ရွှေအိုရောင် မျက်လုံးအစုံကို မျက်လွှာချ၍ ခေါင်းငုံ့လိုက် သည်။ ရှက်သွေးဖြာနေသည့် ပုံစံမျိုး။

ထိုညက အစ်ဇဘယ်တယောက် အလေးအနက် စဉ်းစားဖြစ်သည်။ ရှီမဲလ်ဖန်းက အသက်တော့ ကြီးပြီ၊ သုံးဆယ်ကျော်ဖြစ်ပေမယ့် ပို၍ အရွယ်ကျသည်။ အလုပ်ကို ကြိုးကြိုး စားစား လုပ်နေသည့် သန်းကြွယ်သူဌေး။ ကက်စတာနှင့် ဘာမျှ မဆိုင်။ ကက်စတာက ကြွေးပတ်လည် ဝိုင်းနေသူ။ ကက်စတာနှင့် မတူတာတွေ အများကြီးပါလေ။ ကက်စတာက ရွှန်းရွှန်းဝေအောင် အပြောကောင်းသည်။

ဟာသဉာဏ် ရွှင်သည်။ နေလောင်ထားသည့် ခန္ဓာ ကိုယ်က ေးကြည့်လောက်အောင် လှပသည်။ ကက်စတာ၏ ခန္ဓာကိုယ်ဖွဲ့စည်းပုံက "မအို ကိုယ်"။ ကျစ်လျစ်သိပ်သည်းစွာ လှပသည်။ ပြီးတော့ သိုင်းဖက် လာသည့် သူ့လက်မောင်း၊ လက်ဖျံတွေ။ ပြီးတော့ ပူနွေးနူးညံ့သည့် သူ့အနမ်းတွေ - -။ ကက်စတာ၏ စွဲမက်စရာ ယောက်ျား ပီသမှုတွေနဲ့ ရှီမဲလ်ဖန်း၏ ငွေပုံကြီးကို ယှဉ်ပြီး စဉ်းစားရင်း မိုးလင်းခါနီးမှ အိပ်ပျော်သွားသည်။

မပြန်ခင် တပတ်လုံး ရှီမဲလ်ဖန်းက ဇီဇဝါ တပွင့် တပွင့် မနက်တိုင်း ပို့ပေး၏။ ပြန်မည့် နေ့၌ လမ်းတွင် ပန်ဖို့ပါ ဆိုပြီး နှစ်ပွင့် ပို့ပေးသည်။

ဒယ်လ်ရှိုင်း ဘူတာတွင် ကက်စတာကို တွေ့ရ၏။ ကက်စတာက အစ်ဇဘယ် မရှိ၍ ခြောက်ကပ်ကပ် ဖြစ်နေသော မြို့ကလေးမှ ဝမ်းသာအယ်လဲ စောင့်ကြိုနေသည်။ ပြန်ရောက် မည့်ရက်ကို ကက်စတာက အစ်ဇဘယ့် အဖေထံမှ သိရခြင်း ဖြစ်၏။

"ကဲ... အတွေ့အကြုံတွေ ကိုယ့်ကို ပြန်ပြောပါဦး၊ ချစ်သူ ဝိုင်းဝိုင်းလည်နေတဲ့ အကြောင်းတွေရောပေါ့"

"အို... သူ ဘာလို့ မနာလို ဖြစ်နေတာလဲ"

အစ်ဇဘယ်က ကက်စတာကို ဆွပေးလိုက်သည်။

"မနာလိုဖြစ်တာ မဟုတ်ရပေါင်ဗျာ၊ ကိုယ်က ကိုယ့်ရဲ့ ထိပ်ထားလေး အောင်မြင်စွာ ခရီးလှည့်ခဲ့တဲ့ အကြောင်းကို ကြားချင်တာပါ၊ မနာလို မဖြစ်ပါဘူး။ လူတိုင်း မလိုချင်တဲ့ ပစ္စည်းဆိုရင် ကိုယ် ဘာကြောင့် လိုချင်မလဲ"

အစ်ဇဘယ်က ရှီမဲလ်ဖန်း အကြောင်းကို ချန်ပြီး အားလုံး ပြောပြသည်။ အစ်ဇဘယ်တို့ ဧည့်ခန်းတွင် ထိုင်၍ ပျော်ပျော်ပါးပါး ကော်ဖီသောက်ရင်း စကားပြောနေကြခြင်း ဖြစ်၏။

ထိုစဉ် အိမ်ရှေ့တွင် မြင်းရထားတစီး ဆိုက်သံ ကြားလိုက်သည်။ လူမည်းကောင်ကလေး တယောက် တံခါးဝတွင် ပေါ်လာပြီး မစ္စဗားကိုးကို မေးသည်။ လက်ထဲတွင် ကြေးနန်းစာ တစောင်ကို ကိုင်လျက်။ မစ္စတာရှီမဲလ်ဖန်းထံမှ ကြေးနန်းစာ။ ထိုသူငယ်၏ နောက်မှ လှေကား ထစ်များတွင် ဇီဇဝါတွေ ထူထပ်စွာ ပြန့်ကျဲလျက်။ မြင်းရထားပေါ်မှ ပစ်ချထားခြင်း ဖြစ်၏။

ရှီမဲလ်ဖန်းက ဒေါ်လာ ၂၀ အကုန်ခံပြီး ဒယ်လ်ရှိုင်းမှ ပန်းဆိုင်တဆိုင်ကို သံကြိုးပို့၍ အစ်ဇဘယ် မရောက်ခင် အိမ်ရှေ့လှေကားတွင် ဇီဇဝါပွင့်တွေ

ဖြန့်ကြဲထားပေးဖို့ စီစဉ်ခြင်း ဖြစ်သည်။ အချိန်နည်းနည်းကလေး နောက်ကျသွား၏။ ပထမတော့ ပန်းဆိုင်ပိုင်ရှင်က ထူးဆန်း သည့် သံကြိုးစာနှင့် ငွေကို နောက်ပြောင်ကျီစယ်မှု သက်သက်ဟု ထင်လိုက်၏။ သည်ရာသီတွင် လူဝီစီးယားနားပြည်နယ်တခုလုံး လမ်းကြိုလမ်းကြားမကျန် အလေ့ကျ ဇီဇဝါတွေ ဖွေးဖွေးလှုပ်အောင် ပွင့်သည့် ကာလ မဟုတ်လား၊ မည်သို့ ဖြစ်စေ မိမိတွင် တာဝန်ရှိသည်ဟု ယူဆပြီး ပန်းဆိုင်ရှင်က ငွေပို့သူ၏ အမိန့်အတိုင်း ဇီဇဝါပန်းတွေကို မြင်းလှည်းတစီးတိုက် ပို့လိုက်ခြင်း ဖြစ်သည်။

ကက်စတာနှင့် အစ်ဇဘယ် တံခါးဝသို့ ရောက်လာသည်အထိ နီဂရိုးကောင်လေး နှစ်ယောက် တခစ်ခစ်ရယ်ရင်း ပန်းပွင့်တွေကို ပစ်ချနေဆဲ ရှိသေး၏။ အခြေအနေမှာ တမဟုတ်ချင်း လုံးဝဆိုးရွားသွားတော့သည်။ ဇီဇဝါဆိုသည့်ပန်းက တပွင့်ချင်း အနေဖြင့် မွှေးကြိုင်နေတတ်သော်လည်း ပန်းလှည်းတစီးတိုက်၏ အနံ့မှာ မခံမရပ်နိုင်လောက်အောင် တထောင်းထောင်း ထနေတော့သည်။

ကက်စတာက နီဂရိုးကောင်ကလေးတွေကို တအံ့တသြ ကြည့်နေသည်။ အစ်ဇဘယ် ကို ငဲ့ကြည့်လိုက်တော့ သူ့မျက်နှာ တခုလုံး နီရဲနေ၏။

"ပြစမ်းပါဦး၊ ဘယ်က သံကြိုးလဲ"

ကက်စတာက ခွင့်ပြုချက်ကို မစောင့်တော့ဘဲ အစ်ဇဘယ့် ပခုံးပေါ်မှ ကျော်၍ သံကြိုး စာကို ဖတ်လိုက်၏။

"ကြီးမားသော မြတ်နိုးမှု၏ သင်္ကေတအဖြစ် သေးငယ်လှသော မေတ္တာလက်ဆောင်၊ ဟာမင်ရှီမဲလ်ဖန်း"

ကက်စတာက နီမြန်းလျှက်ရှိသည့် အစ်ဇဘယ်၏ မျက်နှာကို တလှည့်၊ ထောင်ပုံရာပုံ ဖြစ်နေသည့် ပန်းပွင့်တွေကို တလှည့် ကြည့်ပြီး ခွက်ထိုးခွက်လန် ရယ်ပါလေတော့၏။

"ဟဲ့ ... ကောင်ကလေးတွေ၊ ခုချက်ချင်း ပြန်သိမ်းကြစမ်း၊ ချက်ချင်း ပြန်ယူသွား ကြစမ်း"

အစ်ဇဘယ်က ရှက်ရှက်နှင့် ကပွလီကောင်ကလေး နှစ်ယောက်ကို အော်ဟစ်ကြိမ်း မောင်းရင်း အမိန့်ပေးလိုက်သည်။ ကက်စတာက နံရံကို မှီပြီး ဒူးတွေ ခွေကျမတတ် ရယ်နေဆဲ။

ဤတွင် ပန်းရနံ့ တထောင်းထောင်းကြောင့် အပေါ်ထပ်တွင် မနေနိုင်တော့ဘဲ

အောက်သို့ ဆင်းလာသည့် အစ်ဇဘယ် တို့ အဖေ မစ္စတာဗားကိုးက မြင်ကွင်းကို ကြည့်ပြီး ဒေါသအမျက် ခြောင်းခြောင်းထွက်လေတော့၏။ ကက်စတာကို ကြည့်၍-

“နီဂရိုး အလောင်းကောင်ပေါ်က အပေါ်စား ပန်းမျိုးတွေနဲ့ ကျုပ်အိမ်မှာ လာပြီး စော်ကားတာ မောင်ရင့်ကို ကျုပ် ခွင့်မလွှတ်နိုင်ဘူး။ ဘာသဘောလဲ၊ ပြောစမ်းပါဦး”

“ကျွန်တော် မဟုတ်ရပါဘူး ခင်ဗျာ၊ ဇီဇဝါပန်းရှားတဲ့ မြောက်ပိုင်းက မစ္စအစ်ဇဘယ်ရဲ့ မိတ်ဆွေတယောက်က ပို့လိုက်တာပါ”

အဘိုးကြီးက ကပ္ပလီကောင်ကလေးနှစ်ယောက်ကို ငါးဒေါ်လာပြား တချပ်ပေးပြီး ပန်းတွေကို ပြန်သိမ်းရန်နှင့် အခင်းကို ဆပ်ပြာနှင့် ဆေးပစ်ရန် အမိန့်ပေးပြီး အပေါ်ထပ်သို့ ပြန်တက်သွားသည်။ ကက်စတာနှင့် အစ်ဇဘယ်က ပရုတ်လုံး အနံ့ကို မခံနိုင်သလို ညှော်ခန်း ပြတင်းပေါက်တွေကို လိုက်ဖွင့်နေသည်။ ပြီးတော့ ဟာမင်ရှီမဲလ်ဖန်း ဘယ်သူဘယ်ဝါ ဆိုသည် ကို ကက်စတာက မေးတော့၏။

“ကက်စတာက သိပ်ရိုင်းတာပဲ၊ သူက ဂျာမန်၊ အဲဒါ ဘာဖြစ်လဲ”

“သြော်.... အစ်ဇဘယ် အစ်ဇဘယ်၊ အမေရိကန် ကောင်ကလေးတွေကို မင်း အရူး လုပ်လို့ အားမရသေးဘူး၊ ဂျာမန် အထိ နယ်ချဲ့ချင်တာကိုး။ ကဲ . . . သူ့အကြောင်း ပြောပါဦး”

“သူက လူတော်တယောက်ပါ ကက်စတာ၊ ပြီးတော့... သန်းကြွယ်သူဌေး”

ကက်စတာ့ ရှေ့တွင် အစ်ဇဘယ် သိမ်ငယ်နေသည်။ ကက်စတာကမူ မနာလိုဝန်တိုသည့် အမူအရာ မပြ။ သည် ဂျာမန်ကောင်ကို ရယ်စရာသတ္တဝါတကောင်ဟုသာ သဘောထားနေ သည်။ အစ်ဇဘယ် ကိုယ်တိုင်ကလည်း မထင်ချင်ဘဲနှင့် သည်ဂျာမန်ကို ရယ်စရာ ထင်လိုက် ရတော့၏။ ကက်စတာက စကားဖြတ်ပြီး မနက်ဖြန် တင်းနစ်ကစားကြမလားဟု မေးသည်။ အစ်ဇဘယ်က အားကစားဘက်တွင် အာရုံမရှိလှ။ သို့သော် ဇီဇဝါတွေအကြောင်း စကားပြတ် လျှင် ပြီးရော ဟူသည့် သဘောနှင့် အင်း . . . လိုက်လိုက်သည်။

ကြာလေ ကြာလေ ကက်စတာနှင့် ဟာမင်ရှီမဲလ်ဖန်းတို့၏ ခြားနားချက်ကို အစ်ဇဘယ် မြင်လာလေလေ။ ရှီမဲလ်ဖန်းအပေါ်တွင် လွှမ်းမိုးနိုင်သလောက် ကက်စတာကို အရှုံးပေးနေ ရ၏။ ကိုယ့်ကိုယ်ကိုယ်လည်း အပြစ်တင်မဆုံး ဖြစ်နေ၏။ ကက်စတာ ချိန်းလျှင် ငြင်းဆိုနိုင် သည့် အင်အား အစ်ဇဘယ်တွင်

မရှိတော့။ အနာဂတ်ရည်မှန်းချက်တွေ တစစီ ဖြစ်ကုန်လေပြီ လား ဟူသည့် စိုးရိမ်စိတ်ဖြင့် အိပ်မပျော်သည့် ညတွေ များလာ၏။

ကက်စတာက လက်ထပ်ခွင့် တောင်းလာတော့ အစ်ဇဘယ်က လက်ချောင်းကလေး တွေကို ချိုးရင်း-

"စဉ်းစားပါရစေဦး ကက်စတာရယ်" ဟု ပြောလိုက်၏။ "မင်း သိပ်လှတာပဲ အစ်ဇဘယ် ရယ်၊ အတူနေချင်လှပြီ ကွယ်" ဟု ပြောလာမလားဟု အစ်ဇဘယ် စောင့်နေသည်။ ကက်စတာ က မတ်တတ်ရပ်သည်။ ငုံ့ကြည့်ပြီး အေးစက်စက် အသံဖြင့်-

"အမေရိကန်တွေဟာ နိုင်ငံခြားသားတွေဆီက ငွေကို လိုချင်ရင် တခြားနည်းလမ်းနဲ့ ရအောင် ယူကြတယ်၊ ဒါပေမဲ့ ခန္ဓာကိုယ်ကို ရောင်းပြီး ယူတာတော့ မတွေ့ဖူးသေးဘူး"

အစ်ဇဘယ်က ဒေါသတကြီး ထရပ်လိုက်သည်။

"ဘာကို ဆိုလို..."

"ပြောရတာ နားထောင်လို့တော့ မကောင်းဘူး ချိုသည်းရေ၊ ဒါပေမဲ့ တကမ္ဘာလုံး ဒီလို ဖြစ်နေကြတာပါပဲလေ"

စိတ်ဆိုးမာန်ဆိုးဖြင့် ပြန်လည်ချေပဖို့ အချိန်မရတော့။ ကက်စတာက ရင်ခွင်ထဲသို့ ဆွဲသွင်းလိုက်သည်။ အစ်ဇဘယ် နားလည်လိုက်သည်။ စစ်ပွဲကလေးတပွဲ ပြီးဆုံးသွားပြီ ဟူ၍။ နားထဲတွင် သူ့အသံ တိုးတိုးကို ကြားလိုက်သည်။

"မင်း အချစ်နဲ့ ငွေနဲ့ လဲမှာလား အစ်ဇဘယ်... ဟင်"

ထိုညက တောင်းတောင်းပန်ပန်နှင့် ကက်စတာ့ကို ပြန်လွှတ်ရသည်။ အိပ်လို့ မပျော် တော့။ ဆန္ဒရမ္မက် တရှိန်ရှိန် တက်နေပြီ။ သို့သော် ဆင်ခြင်တုံတရားက မူလရည်မှန်းချက် ကို မျက်ခြည်မပြတ်အောင် သတိပေးလျက် ရှိသည်။

သို့သော် နောက်နေ့ နောက်နေ့များတွင်လည်း . . . ။

ရက်သတ္တပတ်ပေါင်း များစွာ လွင့်မျောကြသည်။ တနေ့တွင်တော့ နှစ်ယောက်သား စကားများကာ ရန်ဖြစ်ကြတော့၏။

ကက်စတာက အထက်တန်းကျသည်။ ခံ့ညားထည်ဝါသည်။

အစ်ဇဘယ်၏ အမူအကျင့်တွေကို ကျိတ်၍ မကျေမနပ် ဖြစ်နေသည်ဟု အစ်ဇဘယ် သိနေ၏။ ကက်စတာ ဆိုသည့် ကက်စတာက အပြစ်အနာအဆာတွေ သူ့မှာ ဒုနှင့်ဒေး ရှိချင် ရှိနေမည်။ ငွေအတွက်တော့ မိမိ ယုံကြည်မြတ်နိုးသည့် အရာကို စွန့်မည့်သူ မဟုတ်။ သူက ဘဝကို ပျော်စရာရှုထောင့်မှလွဲပြီး မကြည့်တတ်။ သို့သော် မိမိသိက္ခာကို ရောင်းချပြီးမှ ရမည့် ပျော်ရွှင်မှုမျိုးကိုတော့ ကက်စတာ ဘယ်တော့မျှ မလိုလား။ အစ်ဇဘယ် သူ့ကို ချစ်နေပြီ ဆိုသည်ကို ကက်စတာ ကောင်းစွာ သိ၏။ သူ့ရင်ခွင်ထဲတွင် မွေ့လျော် ပျော်ပိုက်နေသည်မှာ ချစ်လွန်းလို့သာ မဟုတ်ပါလား။ ဤသည်မှာ အလွန်ရိုးစင်းပြီး အလွန်ပျော်စရာ ကောင်းသည့် ဖြစ်ရိုးဖြစ်စဉ် ဓမ္မတာတခု ဖြစ်၏။ သဘာဝလည်း ကျ၏။ သို့ရာတွင် အချစ်ကို မျက်ကွယ် ပြုပြီး သန်းကြွယ်သူဌေးကို စိတ်ကူးခြင်းကတော့ တရားဝင်ပြည့်တန်ဆာလုပ်ငန်းဟု ကက်စတာ က မြင်၏။ သည်ဂျာမန် အကြောင်း ပြောမိတိုင်း ကက်စတာက ရယ်ချင်ပက်ကျိ ဖြစ်ရ၏။

ဘယ်လို ဝေဖန် ဝေဖန် အစ်ဇဘယ်က ခံနိုင်၏။ သို့သော် ကက်စတာ သူ့ကို ကြည့်ပြီး လှောင်ပြောင် ရယ်မောခြင်းကိုကား လုံးဝ မခံနိုင်။ ငုပ်လျှိုးနေသည့် မာနကလေးက ခေါင်း ထောင်လာ၏။ ပြန်တွေ့ကြသည့် ကပွဲမှာကတည်းက မထီမဲ့မြင် ရယ်မောခဲ့ဖူးသည်ကို ပြန် သတိရ၏။

သည်အခါတွင် တယောက်နှင့်တယောက် အစေးမကပ်ကြတော့။ မည်သည့် အကြောင်းအရာကို ပြောပြော ပြဒါးတလမ်း သံတလမ်း ဖြစ်လာ၏။ ဤသို့ဖြင့် အမှိုက်ကစ ပြာသာဒ်မီးလောင်ပြီး ရန်ဖြစ်ကြသည်အထိ ပေါက်ကွဲကြတော့၏။

နယူးယောက်သို့ အစ်ဇဘယ် မသွားမီ တခါသာ ဆုံသည်။ ကက်စတာက မြို့ထဲကို ဖြတ်ပြီး မြင်းစီးအလာ၊ အစ်ဇဘယ်က ဈေးဝယ်နေရင်း ဆုံကြခြင်း ဖြစ်၏။ ကက်စတာ မြင်း ပေါ်မှ ဆင်းလိုက်သည်။

"ကိုယ် စိတ်မကောင်းပါဘူး အစ်ဇဘယ်၊ ကိုယ့်တင်းနစ်ကစားပုံကို ဝေဖန်တာနဲ့ ကိုယ် ဒါလောက် စိတ်လိုက်မာန်ပါ ဖြစ်ဖို့ မသင့်ပါဘူး"

နောက်ဆုံး ရန်ဖြစ်ရသည့် အကြောင်းရင်းမှာ တင်းနစ်ကစားပုံ အကြောင်းမှ စသည်ကို အစ်ဇဘယ်က မေ့၍ပင် နေပြီ။

"အစ်ဇဘယ်လည်း ပြောမိတာ စိတ်မကောင်းပါဘူး"

ကက်စတာ ပြုံးသည်။

"ဘယ်တော့ နယူးယောက် သွားမလဲ"

"မနက်ဖြန်"

"ပျော်စရာခရီး ဖြစ်ပါစေလို့ ကိုယ် ဆုတောင်းပါတယ် အစ်ဇဘယ်"

"ကျေးဇူးတင်ပါတယ် ကက်စတာ"

ကက်စတာ မြင်းပေါ် ပြန်တက်သည်။ အသားကျ စီးထွက်သွားသည်ကို အစ်ဇဘယ် ငေးကျန်ရစ်သည်။ သမင် လည်ပြန်တချက် လှည့်ကြည့်၍။ သူ့မျက်လုံးများတွင် ဆွေးရိပ် သန်းနေသည်ဟု အစ်ဇဘယ် ထင်လိုက်သည်။

"သူ ငါ့ကို မသွားစေချင်ပါဘူး၊ ရှီမဲလ်ဖန်း ကိစ္စကို ငါ မေ့ပစ်လိုက်ပြီလို့ပြောရင် သူ ငါ့ကို လက်ထပ်မှာပါ"

ဒုတိယအသံက အစ်ဇဘယ်ကို ပြောနေခြင်း ဖြစ်၏။

သည်အတွေးကို ခါထုတ်ပစ်လိုက်သည်။ နယူးယောက်သို့ လိုက်သွား၏။ မကြာမီ နယူးအော်လင်းထုတ် ပီကာယွန် သတင်းစာ လူမှုရေးကဏ္ဍတွင် မစ္စအစ်ဇဘယ်ဗားကိုးနှင့် ဘာလင်သား ဟာမင်ရှီမဲလ်ဖန်းတို့၏ စေ့စပ်ကြောင်းလမ်းခြင်း သတင်း ပါလာသည်။ နွေဦး ပေါက် အချိန်လောက်တွင် မင်္ဂလာအခမ်းအနား ကျင်းပဖြစ်လိမ့်မည် ဖြစ်ကြောင်း သတင်းတွင် ဖော်ပြထားသည်။

အစ်ဇဘယ် မြို့သို့ ပြန်ရောက်သောအခါ ရွှယ်တူမိန်းကလေး အပေါင်းအသင်းတွေ စုပြုံရောက်လာပြီး ဒယ်လ်ရှိုင်းတွင် အုတ်အော်သောင်းတင်း ဖြစ်နေသော အစ်ဇဘယ်၏ စေ့စပ်ကြောင်းလမ်း သတင်းအကြောင်းကို အူယားဖားယား လာပြောကြသည်။

"တို့က နင်နဲ့ ကက်စတာနဲ့ ယူကြလိမ့်မယ် ထင်နေတာ"

ဟု ပြောကြသူများကို အစ်ဇဘယ်က လွင်လွင်ကလေး ရယ်ပြီး ဖြေတတ်သည်။

"မဟုတ်တာကွာ၊ တို့နှစ်ယောက် ဘာမှ ဖြစ်တာမှ မဟုတ်တာ၊ ငါ ကလည်း စိတ်မကူး ပါဘူး၊ ကက်စတာကလည်း မောင်လို နှမလိုပါ"

ရွှယ်တူမိန်းကလေး အပေါင်းအသင်းတွေက လူဝီစီးယားနား ထုံးစံအရ

ဂုဏ်ပြုသည့် အနေဖြင့် အစ်ဇဘယ်ကို ရေပက်ကစားကြသည်။ လူကြီးသူမတွေက ဂုဏ်ပြုပါတီပွဲတွေ ကျင်းပပေးကြသည်။ မြို့ခံမိန်းကလေးများနှင့် သူတို့ မိခင်တွေက ပြစ်မျိုးမှဲ့မထင်သည့် အစ်ဇဘယ် ၏ အလှကို အားကျကြသည်။ အချို့ မနာလို ဖြစ်ကြသည်။ သည်လောက်လှနေတဲ့ မျက်နှာ ပိုင်ရှင် မိန်းကလေးရဲ့ ဆံပင်က ရွှေရောင်ဖိတ်ဖိတ်တောက်နေပြန်သေးတယ်။ ပြီးတော့ ဖူးစာရေး နတ်က သန်းကြွယ်သူဌေးနဲ့ ဆုံစည်းပေးလိုက်သေးသည် တဲ့။

ကက်စတာ့ညီမ အဲလစ်က အစ်ဇဘယ့်ကို သီးသန့်အပျိုခန်း ရေဖျန်းမင်္ဂလာပွဲလုပ်ဖို့ အတင်း စီစဉ်သည်။ အစ်ဇဘယ် မငြင်းနိုင်တော့။ ထိုနေ့ပွဲတွင် အစ်ဇဘယ်က ဝက်သစ်ချမြိုင်၏ ဂုဏ်ထူးဆောင် ဧည့်သည်။ ညနေပိုင်းတွင် အမျိုးသား ဧည့်သည်များကို ဖိတ်ပြီး တဆက်တည်း ကကြသည်။

အိမ်ရှင် မိန်းကလေး၏ အစ်ကိုတယောက်အနေနှင့် မလွဲမရှောင်သာဘဲ ကက်စတာ က အထူးဧည့်သည်တော်မလေး အစ်ဇဘယ်နှင့် တွဲကရသည်။ ကက်စတာက အလွန့်အလွန် သိမ်မွေ့ပြီး ယဉ်ကျေးပြနေ၏။ သို့သော် ခါးကျဉ်ကျဉ်ကလေးကို သူ့လက်တွေ ရစ်သိုင်းလိုက် သည်နှင့် တပြိုင်နက် အစ်ဇဘယ့် တကိုယ်လုံး ပူနွေးသွားသလို ခံစားလိုက်ရသည်။ ရင်ထဲ မှာ တသိမ့်သိမ့်၊ ဩော်... ကက်စတာရယ်။

ကက်စတာကသာ ခုနေ ထပ်ပြီး ကြိုးစားရင် အစ်ဇဘယ် ခေါင်းညိတ်လိုက်ဦးမှာပါ ကွယ်။ သိမ်မွေ့လှသည့် ဝေါ့ဇ် အကကို ငြိမ့်ငြိမ့်ကလေး ကနေကြသည်။ စကားမှ မဆိုမိကြ။ မိနစ်ပေါင်းများစွာ ကြာသွားသည်။

“အဲဒီ ခေါင်းက ဖဲကြိုးအရောင်မှ အစ်ဇဘယ်နဲ့ လိုက်တာ၊ တခါတုန်းက အပြာ ရောင်နဲ့ လိုက်တဲ့ အကြောင်း ပြောတာ မှတ်မိသေးလား”

ကက်စတာက စကား စသည်။

အစ်ဇဘယ် ခေါင်းညိတ်၏။ အောက်နှုတ်ခမ်း အတွင်းသားကို ကိုက်ထားလိုက်သည်။ ရှိုက်ကြီးတငင် ငိုမချမိအောင် ထိန်းထားရခြင်းပါ။ ဩော်... ကက်စတာရယ်၊ သည်ရင်ခွင်က နေပြီး ချီသည်း ဘယ်မှ မသွားပါရစေနဲ့ကွယ်။ ဂျာမန်ကို လက်ထပ်လျှင် ခံစားရမည့် စည်းစိမ် ဥစ္စာတွေကို မြင်ယောင်ကြည့်သည်။ ဘာလင်မှ ရောမအိမ်ကြီး၊ မြေထဲပင်လယ် တလျှောက် က နွေရာသီ အပန်းဖြေစခန်းတွေနှင့် လူ့မလိုင်အလွှာ၏ တောက်ပရွှန်းလက်နေသည့် အထက် တန်းစားဘဝ။ အစ်ဇဘယ်က ကက်စတာ့ကို ကနေရင်း အကဲခတ်လိုက်၏။ နွမ်းလျလျအသံ ဖြင့် မေးလိုက်၏။

“ကက်စတာ မှန်မှန်ပြောနော်၊ အစ်ဇဘယ့် ဆုံးဖြတ်ချက်ကို ခုနေ ပြင်လိုက်ရင် ဘယ်လို သဘောထားမလဲ၊ လက်ထပ်ချင်တုန်းပဲလို့ ပြောဦးမလား”

“ကိုယ် မပြောတတ်ဘူး အစ်ဇဘယ်၊ အမှန်အတိုင်း ပြောတာ။ ခုမှတော့ စွန့်စား ချင် မနေပါနဲ့တော့ အစ်ဇဘယ်ရယ်”

အစ်ဇဘယ်က တုံ့ပြန်သည်။

“မပူပါနဲ့၊ ဒီကလည်း မစွန့်စားပါဘူး”

တီးလုံး ပြီးဆုံးသည်အထိ ဆက်ကကြသည်။ စကားတော့ ဆက်မပြောဖြစ်ကြ။ ပရိသတ်အလယ်တွင် ထုံးတမ်းစဉ်လာအရ ကက်စတာက အစ်ဇဘယ်ကို လောကဝတ် စကားဆိုသည်။

“ကရတာ သိပ်ပျော်စရာ ကောင်းပါတယ် မစ္စက်အစ်ဇဘယ်၊ မင်းရဲ့ မင်္ဂလာဘဝခရီး မှာ ပျော်ရွှင်နိုင်ပါစေလို့ ကိုယ် ဆုတောင်းပါတယ်”

အားလုံး၏ ရှေ့တွင် အစ်ဇဘယ်က တုံ့ပြန်စကား ဆိုသည်။

“ကျေးဇူးတင်ပါတယ် ကက်စတာ”

သည်လို နှုတ်ဆက်စကားလုံးများကို ရွတ်ဆို၍ နောက်ဆုံး လမ်းခွဲခဲ့ကြခြင်း ဖြစ်၏။

※※※

# အခန်း (၈)

## (၁)

ဖြစ်ကြောင်းရယ်မှ ကုန်စင်ကို သိရပြီးနောက်ပိုင်း အစ်ဇဘယ်ကို အယ်လီနာ အထင် မကြီးတော့။

"ဒါဖြင့် လက်ထပ်ဖို့ စပြောတာက မောင်ပေါ့ ဟုတ်လား၊ မောင်က တကယ်ကို စွံတာပဲနော်။ ထားပါလေ၊ မောင်က သူ့ကို မေ့လိုက်ပြီးသားပါလို့ ကတိပေးမှတော့ အယ်လီနာ လည်း မေ့လိုက်ရုံပေါ့"

"ကောင်းတယ်၊ ဒါမှ ဒီကိစ္စ တရန်ရှင်းမှာ"

"ရှင်းပါပြီ မောင်ရယ်"

ကက်စတာက အယ်လီနာ့ကို ကျေးဇူးတင်စွာ ကြည့်၍ ပြုံးလိုက်သည်။

အယ်လီနာက အစ်ဇဘယ့်ကိစ္စကို မေ့ထားလိုက်သည်။ သို့စင်လျက် စိတ်၏ ငြိမ်းချမ်းမှု ကို မရနိုင်သေး၊ လင်စိတ် ထိပ်တက်သည့်ကိစ္စ အေးသွားပြီးနောက် ဝါဂွမ်းဘေထုပ်တွေကိစ္စကို ပြန်သတိရပြန်သည်။ ဝါဂွမ်းအရောင်းအဝယ် ဈေးကွက် ပြန်ဖွင့်သည်။ သို့သော် ရောင်းဈေးမှာ တပေါင်လျှင် ငါးဆင့်မျှသာ။

ကက်စတာနှင့် အယ်လီနာအဖို့ သည်ဈေးဖြင့် ဝါဂွမ်းထုပ်တွေကို ရောင်းလိုက်လျှင် စိုက်ပျိုးစရိတ်ပင် ကျေဖွယ်ရာ မရှိ။ နောက်တနှစ်အတွက် ဆက်၍ စိုက်ပျိုးဖို့ ဆိုသည်မှာ ဝေလာဝေး။ ကြိတ်မိတ်ပြီး မရောင်းသေးဘဲ လှောင်ထားသည်။ သတင်းစာတွေကလည်း ထုတ်မရောင်းသေးဘဲ ဆွဲထားဖို့ လှုံ့ဆော် ရေးသားကြသည်။ ဥရောပတွင် စစ်ယူနီဖောင်းတွေ နှင့် ရွက်ထည်တဲတွေ ရက်လုပ်ဖို့ ချည်ရိုင်းတွေ အမြောက်အမြား လိုနေပြီ ဖြစ်ကြောင်းများ ရေးသားပြီး ဝါသမားများကို အားပေး ရေးသားကြသည်။ ပြီးတော့ အမေရိကန်တွင် လူနေမှု စရိတ်တွေ မြင့်တက်လာသည့်အတွက် အမေရိကန်တွေ ပိုးဖဲနှင့် သိုးမွေးထည်တွေကို မဝတ် နိုင်ကြတော့ဘဲ ချည်ထည်ကို အဝတ်များလာကြတော့မည် ဖြစ်ကြောင်း၊ မကြာမီ ပြည်တွင်း ဝါဈေးတွေ ပြန်တက်လာတော့မည့် အကြောင်းများဖြင့် အားပေးရေးသားကြ၏။ တပြိုင်တည်းတွင် လာမည့် နှစ်အတွက် ဝါဂွမ်း

လျှော့စိုက်ဖို့လည်း သတင်းစာများက တိုက်တွန်းသည်။ ဝါရှင်တန်တွင် စိုက်ပျိုးရေးဝန်ကြီးက ကုန်သည်များနှင့် ဘဏ်တိုက်များသို့ မေတ္တာရပ်ခံချက် တစောင် ထုတ်ပြန်လိုက်သည်။ ဝါစိုက်ပျိုးဧကေ ခေါက်ချိုး လျှော့ချနိုင်ဖို့အတွက် ဝါသမား များ၏ အမတော်ချေးငွေများ ထုတ်မပေးရန် တောင်းဆိုသည့် ပြန်တမ်း ဖြစ်၏။

ကက်စတာနှင့် အယ်လီနာသည် တဆောင်းတွင်းလုံး စားသုံးသီးပင် စိုက်ပျိုးရေး လုပ်ငန်းကို လေ့လာကြ၏။ ပြည်တွင်းစစ် မတိုင်မီကာလက ဝက်သစ်ချမြိုင်တွင် ကြံစိုက် ခဲ့ဖူး၏။ လိမ္မော်လည်း ချခဲ့ဖူး၏။ နောက်ပိုင်းတွင် ကြံနှင့် ပို၍ လိုက်သည့် မြစ်တဖက်ကမ်းမြေ တွင် ကြံစိုက်ခင်းကို ပြောင်းစိုက်ခြင်း ဖြစ်သည်။ မြစ်ကွေ့ပိုင်းက ဝက်သစ်ချမြိုင်မှာ လိမ္မော် အတွက် အလွန်ကောင်းသည့်မြေ ဖြစ်၏။

"စပါးစိုက်ရင်ကော မောင်"

အယ်လီနာက မျှော်လင့်တကြီး မေးလိုက်၏။ ကက်စတာက မဖြစ်နိုင်ကြောင်း ရှင်းပြသည်။

"စပါးစိုက်မယ်ဆိုရင် ရေသွင်းစီမံကိန်းက ပထမလုပ်ရမယ်၊ မလွယ်ဘူး အယ်လီနာ၊ ပြီးတော့ လက်ရှိလုပ်သားတွေ နဲ့ မရဘူး၊ စပါးကို နားလည်တဲ့ အလုပ်သမားတွေ ထပ်ရှာရမယ်။ ဒီဘက်အပိုင်းမှာ စပါးကို မစိုက်ကြတော့ဘူး၊ လူဝီစီးယားနား အရှေ့တောင်ပိုင်းမှာပဲ စိုက်ကြ တော့တယ်။ တို့ ပြောင်းချရင် ဖြစ်တယ်၊ ဒါပေမဲ့ မနှစ်က ပြောင်းအထွက် သိပ်များထားတော့ မနိုပ်ဘူး၊ ပြီးတော့ ဒီနှစ်လည်း ပြောင်းစိုက်တဲ့ လူတွေက သိပ်များလာတယ်"

ဇန်နဝါရီလ တရက်တွင် ဆီလ်ဗီယာ ပေါက်ချလာသည်။ ဘယ်လ်ဂျီယံ စစ်ဘေး ဒုက္ခသည်များ ကယ်ဆယ်ရေး ရန်ပုံငွေ ကောက်ဖို့တဲ့။ သူ့ကလေးကို ထမင်းဝအောင် ကျွေးဖို့ ကလွဲပြီး ဘာမျှ မစဉ်းစားနိုင်သေးဘူးဟု အယ်လီနာ ဘုတော လွှတ်လိုက်သည်။

တနေ့တွင် ဆီဘက်စတိန်ထံမှ စာလာသည်။ ဝါဈေးမှာ တပေါင်လျှင် ၆ ဆင့် ရှိကြောင်းနှင့် ရောင်းဖို့ စိတ်ကူး ရှိ၊ မရှိ မေးမြန်းသည့် စာ။

"တို့မှာ မျှော်လင့်စရာ ဝါဂွမ်းကလွဲပြီး ဘာမှ မရှိတော့တာ၊ ဒါကို ခုဈေးနဲ့ ရောင်းလိုက် ရရင် ဒေဝါလီခံရတော့မှာပေါ့"

ဟု အယ်လီနာ သူ့အမြင်ကို ကက်စတာအား ပြောပြသည်။ ကက်စတာက

သဘောတူ သည်။

ကက်စတာ့ နံဘေးတွင် အယ်လီနာ ဝင်ထိုင်သည်။ ပြီးတော့ သူ့လက်ကို ယူပြီး ဆုပ်နယ် နေသည်။

"ခဏဆက်ပြီး ထိန်းထားမယ်နော် မောင်၊ စစ်ပြီးတော့မယ်လို့ လူတွေ ပြောနေကြ တယ်၊ အလွန်ဆုံး တနှစ်ပဲတဲ့"

"စစ် မပြီးနိုင်သေးဘူးလို့ ပြောတဲ့ လူတွေလည်း ရှိသေးတယ်လေ"

ကက်စတာက စိတ်လက် မကြည်သာသည့် အမူအရာနှင့် ပြောလိုက်သည်။

"ကိစ္စမရှိဘူး၊ တွက်ကိန်းမှားရင်လည်း ခံရုံပေါ့၊ သန်းခေါင်ထက် ညဥ့်မနက်တော့ ပါဘူး မောင်ရယ်"

"အင်း... ကိုယ့်မိန်းမကတော့ တကယ့်သတ္တိခဲပါပဲကွာ"

အယ်လီနာ ပြုံးသည်။

"အယ်လီနာ အရေထူနေပါပြီ မောင်ရယ်၊ အားလုံးကို ခံနိုင်ရည် ရှိနေပါပြီ၊ ဆီလ်ဗီယာ တယောက် ဥပြီးစ ကြက်မလို လာလာပြီး ကတော်တာတော့ သိပ်စိတ်ညစ်တယ်"

"ဘာကိစ္စ လာပြန်တာတဲ့လဲ"

"ဘယ်လ်ဂျီယံ စစ်ပြေးဒုက္ခသည် ရန်ပုံငွေတဲ့လေ"

"မပြောလိုက်ဘူးလား၊ မနေ့ကပဲ အဲဒီအဖွဲ့ကို မောင် ငါးဒေါ်လာ ထည့်ခဲ့သေးတယ် လို့"

"ဘာပြောတယ်၊ အလှူငွေ ငါးဒေါ်လာ ထည့်ခဲ့တယ်...ဟုတ်လား"

"ဟုတ်တယ် အယ်လီနာ၊ စစ်ဒဏ်ကို ခံရတဲ့အထဲမှာ ကလေးတွေ အများကြီး ဒုက္ခ ရောက်နေကြတယ်လေ။ ကော်နယ်လီယာကလေးနဲ့ နှိုင်းပြီး ကိုယ်ချင်းစာမိတာနဲ့ မောင် ထည့်ခဲ့တာ"

"ကော်နယ်လီယာကို သတိရရင် သမီးကလေးအတွက် ဖိနပ်နှစ်ရန်တောင် ဝယ်နိုင် တယ်၊ ဖိနပ်တွေလည်း စုတ်ပြတ်နေပြီ"

"တော်ပါတော့ အယ်လီနာရယ်"

အယ်လီနာ နှုတ်ခမ်းကို ကိုက်ထားလိုက်၏။ ထိုစဉ်တွင် နီးလ်ရှာရမီက ရုပ်ရှင်ကြည့်ဖို့ ဖုန်းနှင့် ချိန်းသည်။ ကက်စတာ ဝမ်းသာသွား၏။

အယ်လီနာက တတ်နိုင်သမျှ ပျော်အောင် နေသည်။ ဖိတ်သည့် ညစာစားပွဲများသို့ သွားသည်။ အစ်ဇဘယ်နှင့် ဆုံသည့်အခါ "ဟဲလို" ဟု သာမန်မျှသာ နှုတ်ဆက်သည်။ အစ်ဇဘယ် ကို သိပ်ဂရုမစိုက်ချင်တော့။ တဒင်္ဂဘဝရေစီးကြောင်းတွင် မျောနေလိုက်၏။ ကက်စတာ သွားသမျှ ပွဲလမ်းသဘင်များသို့ လိုက်သည်။ အများနှင့်အတူ ကက်စတာကို သီချင်းဆိုဖို့ တိုက်တွန်းသည်။ လူတွေ ထောင်သောင်းချီ၍ သေနေကြသည့် စစ်ပွဲ၏ မူလတရားခံ ဂါဗရီ လိုပရင်းဇစ်အား ထောင်ဒဏ် အနှစ် ၂၀ ချလိုက်သည်ကို လှောင်ပြောင် ရယ်မောသည်။

အခြေခံ စားကုန်လောက်မှလွဲ၍ ဘာမျှ မဝယ် မခြမ်းနိုင်တော့။ စတိုခန်းထဲမှ ကွာနေ သည့် ပျဉ်ချပ်ကို ပြန်ရိုက်ရန် သံမဝယ်နိုင်။ ကက်စတာ့ ကားမှာ ချုံးချုံးကျတော့မည်။ သွားတိုက်ဆေး မဝယ်နိုင်၍ ဆားနှင့် တိုက်ရသည်မှာ နှစ်လရှိပြီ။

ဖေဖော်ဝါရီလထဲတွင် ဝါဂွမ်းမှာ တပေါင် ရှစ်ဆင့်ဈေး ဖြစ်လာသည်။ မတ်လ ၁ ရက်နေ့တွင် ဆီဘက်စတိန်ထံမှ ရောင်းဖို့ တိုက်တွန်းသည့် စာ ရောက်လာသည်။ အခွင့်အရေး ရှိတုန်း ရောင်းထားသင့်ကြောင်း၊ ဂျာမန်ရေငုပ်သင်္ဘောတွေက မဟာမိတ်ကုန်သင်္ဘောတွေကို ပိတ်ဆို့ဖို့ ကြိုးစားနေကြောင်း၊ အချိန်မရွေး ဈေးတွေ ပြန်ထိုးကျသွားနိုင်ကြောင်း... စသည် စသည်။

လင်မယားနှစ်ယောက် ထိုင်ပြီး ညဉ့်နက်သန်းခေါင်ထိ စဉ်းစားကြသည်။ ဆွေးနွေးကြ သည်။ ညပေါင်းများစွာ. . .။ လက်ရှိပေါက်ဈေးဖြင့် ထုတ်လိုက်လျှင် ကြွေးပူတွေကို ရှင်းနိုင် မည်၊ ဘဏ်ကို ပေးဆပ်ဖို့အတွက် လုံးဝ ကျန်မည် မဟုတ်။ ဘဏ်သို့ နှစ်သောင်း သွင်းရမည့် ရက်က ဒီဇင်ဘာ ၁ ရက်နေ့။ ဖေဖေ ဖရက်အပွဂျွန်း၏ အကူအညီကို ယူလျှင် ပြေလည်နိုင်၏။ သို့သော် ယခုလို ခေတ်ကျပ်ကြီးထဲတွင် ဖေဖေ့ စက်ပစ္စည်းတွေ၊ တာတမံလုပ်ငန်းတွေကို အပေါင်မထားဘဲ ဖြစ်နိုင်မည် မဟုတ်။ သည်အဆင့်အထိ ရောက်လာအောင် ဖေဖေ အပွဂျွန်း ဘယ်ရွှေ့ ဘယ်မျှ ရုန်းကန်ခဲ့ရသည်ကို သမီး အယ်လီနာ အသိဆုံး ဖြစ်၏။ သည့်အတွက် ဖေဖေ့ကို ဒုက္ခမပေးရက်။ မိမိဘာသာ ရင်စည်းခံဖို့ အယ်လီနာ ဆုံးဖြတ်သည်။

"ဖေဖေ့ကို အပူမကပ်ချင်ဘူး မောင်၊ ဖေဖေ့တာဝန်တွေက နည်းတာ

မဟုတ်ဘူး၊ အငယ်တွေကို ကျောင်းထားဖို့၊ လူတလုံး သူတလုံးဖြစ်အောင် လုပ်ဖို့က ရှိသေးတယ်လေ။ အယ်လီနာကြောင့် ဒါတွေ အပြောင်းအလဲ အဖြစ်မခံနိုင်ဘူး”

ခဏ ငေးနေပြီး အယ်လီနာက မေးသည်။

“မောင့်မှာ ပိုက်ဆံ ဘယ်လောက် ရှိသေးလဲ ဟင်”

ကက်စတာက အင်္ကျီအိတ်ထဲမှ ပိုက်ဆံတွေကို ထုတ်၍ ရေနေသည်။

“ဆယ့်တဒေါ်လာနဲ့ သုံးဆယ့်လေးဆင့် ရှိသေးတယ်”

“အယ်လီနာ့ လက်ပွေ့အိတ်ထဲမှာ ခြောက်ဒေါ်လာ ရှိသေးတယ်၊ ဘဏ်စာရင်းမှာ သုံးဆယ့်နှစ်ဒေါ်လာ”

“တို့လင်မယား ချမ်းသာသမျှ ဒါ အားလုံးပဲပေါ့၊ ဟုတ်လား”

ကက်စတာက ခြေထောက်နှစ်ချောင်းကို ရှေ့ခုံတခုံပေါ်သို့ ပစ်တင်လိုက်သည်။ ဖိနပ်အောက်ခံ သားရေပါးပြီး ပေါက်ပြဲ စုတ်ပြတ်နေသည်ကို လှမ်းမြင်လိုက်၏။ မျှော်လင့် ကြီးစွာဖြင့် ဝါဂွမ်းတွေကို ဆက်လျှောင်ထားလိုက်ကြသည်။ ဝက်သစ်ချမြိုင်ကို မဆုံးရအောင် တင်းခံပြီး ချမ်းသာသမျှ ဝါဂွမ်းကို မရောင်းဘဲ ဆွဲထားရင်း တဖြည်းဖြည်း ချွတ်ခြုံကျ၍ လာတော့၏။ တပြားကို နှစ်ပြားခွာ၍ သုံးနေသည့် လက်ကျန်ငွေကလေး တက်တက်ပြောင် လေပြီ။ လင်မယားနှစ်ယောက် မျက်လုံးချင်း ဆုံမိကြ၏။

“မရောင်းလို့ မဖြစ်တော့ဘူး အယ်လီနာ”

“အင်း""

အယ်လီနာက အင်း လိုက်၏။ တယောက်ကို တယောက် စိတ်ပျက်လက်ပျက် ထိုင်ကြည့်နေကြသည်။

နောက်တနေ့ နံနက်တွင် အယ်လီနာ လက်နှိပ်စက် စားပွဲတွင် ထိုင်သည်။ ဝါဂွမ်း ထုတ်ရောင်းတော့မည့် အကြောင်း ပြန်စာရိုက်သည်။ စက်မရိုက်တတ်သည့် ကက်စတာက နံဘေးမှ စောင့်ကြည့်နေ၏။ စာမှာ ရိုးရိုးကလေး ဖြစ်၏။ လေးကြောင်းလောက်နှင့် ကိစ္စပြီး ရမည့် စာမျိုး ဖြစ်၏။ သို့သော် စလိုက် ဖျက်လိုက် ဖြစ်နေသည်။ အမှားမှား အယွင်းယွင်း ဖြစ်နေသည်။ စိတ်သွားတိုင်း လက်မပါ ဖြစ်နေ၏။ ဒေါသတကြီးနှင့် မှားသည့် စာရွက်တွေကို လုံးခြေပြီး ခြင်းတောင်းထဲ ပစ်ထည့်၏။ ကက်စတာက အယ်လီနာ့ပခုံးကို သိုင်းဖက်ပြီး စိတ်ငြိမ်အောင်

လုပ်ပေးသည်။ အတန်ကြာ ဖက်ထား၏။ တဦးကိုတဦး စကားမဆိုမိကြ။ နောက်ဆုံးတွင် အယ်လီနာက မေးသည်။

“ဒီဇင်ဘာ နောက်ပိုင်းကို ဘယ်လို စီစဉ်မလဲဟင်”

“ဧကေ ငါးဆယ် တရာတော့ တို့အတွက် ကျန်ဦးမှာပေါ့ မိန်းမရယ်၊ အဲဒီတော့လည်း မင်းကို တတုံးထွန် ယာသမား ဘဝနဲ့ ကိုယ် လုပ်ကျွေးမှာပေါ့ကွာ”

“အဲဒီလောက်မှ မကျန်ဘူး ဆိုရင်ကော”

“အဲဒီလို ဆိုရင်တော့ မောင်လည်း မပြောတတ်ဘူး”

အယ်လီနာက လက်ချောင်းကလေးတွေကို ကက်စတော့ လက်ထဲ ထည့်ပေးလိုက်သည်။ ကက်စတာက ခဏဆုပ်နယ်နေပြီး ဆတ်ခနဲ လွှတ်၍ ပြတင်းပေါက်သို့ သွားရပ်သည်။ ဝက်သစ်ချပင်အိုတွေပေါ်တွင် တွဲလောင်းကျကာ ယိမ်းနွဲ့လှုပ်ရှားနေသည့် ရေညှိမှျင်တွေကို ငေးကြည့်နေ၏။

“အင်း . . . ဝက်သစ်ချမြိုင် ဝက်သစ်ချမြိုင်၊ ဖီးလစ်လန်းဟာ ဒီနေရာမှာ သစ်လုံးအိမ် ကလေး စဆောက်ပြီး…"

“မောင်ရယ် တော်ပါတော့ကွယ်”

အယ်လီနာက ကက်စတာ့ကို စိတ်မချမ်းသာစရာတွေ မပြောပါနဲ့တော့ဟု ဖွတ်တားပြီး လက်နှိပ်စက် ပြန်ရိုက်သည်။ စာကြောင်းတွေက ကြိုးမိန့်ပြန်တမ်းလို မာတောင့်တောင့်နှင့်။

“.. ပူးတွဲပါ စာရွက်စာတမ်းများအရ ဝါဂွမ်းရောင်းခွင့်ကို သင့်အား လုံးဝ တာဝန်လွှဲ ပေးအပ်ပါသည်…”

စာဆုံးတော့ အယ်လီနာက-

“မောင်၊ ဒီမှာ ဖတ်ကြည့်ဦးလေ”

ကက်စတာက လာပြီး ဖတ်သည်။ သူ့နာမည် ရေးထားသည့် အပေါ်တွင် လက်မှတ်ထိုး သည်။

“မြန်မြန် ထည့်လိုက်မှ၊ ဈေးက အချိန်မရွေး ပြန်ကျနိုင်တယ်”

ဘက်စီက ညစာစားဖို့ လာခေါ်သည်။ ညစာကို စိတ်မပါ လက်မပါ စားကြ၏။

ခြံထွက် ကြက်သားနှင့် ဟင်းသီး ဟင်းရွက်တွေချည်း၊ အပြင်ဟင်းလျာ မဝယ်နိုင်သည်မှာ ကြာပြီ။

အင်း. . . တဖြည်းဖြည်းနဲ့ တို့လည်း လက်လုပ်လက်စားတွေလို ဖြစ်နေပါပြီလားဟု အယ်လီနာ တွေးမိ၏။ သို့သော် သူတို့နှစ်ယောက်လုံး ဘာမျှ မပြောဘဲ ငြိမ်ငြိမ်ကလေး စားနေ ကြ၏။ စားပြီးသည်နှင့် ကက်စတာက စာထည့်ဖို့ မြင်းတစီးနှင့် ထွက်သွားသည်။

အယ်လီနာက ဝက်သစ်ချမြိုင် အိမ်ကြီးကို ပတ်ပတ်လည် လျှောက်ကြည့်နေ၏။ နေသားတကျဖြစ်ပြီး ခင်တွယ်စပြုနေပြီ ဖြစ်သည့် ဝက်သစ်ချမြိုင်ကို နှုတ်ဆက်နေသည်နှင့် မခြား စိတ်မှာ ခံစားရ၏။ တိမ်းတိမ်းပွေ့ပွေ့ ဖြစ်လာ၏။ ကားကလေးကို ကားရုံထဲမှ ထုတ်လိုက် ၏။ လျှောက်မောင်းပစ်လိုက်ဦးမည်။ ဆီဖြန့်းတီးရာ ကျနေမည်လားဟု ချီတုံချတုံ ဖြစ်နေ ပြန်၏။ သည်ဘဝ ရောက်နေမှတော့ မထူးတော့ပါဘူး ဆိုပြီး မောင်းထွက်ခဲ့၏။ မြစ်ကမ်းခြေ တစ်လျှောက် ကားမောင်းလာရင်း အိမ်ပြောင်းလျှင် မကွဲမရှအောင် ဘယ်လို ထုပ်ရပိုးရပါမည် လဲဟု တွေးနေမိ၏။

ကျေးလက်ရှုခင်းသည် ငြိမ်းချမ်းလှပနေ၏။ ပန်းစုံနဲ့ သင်းနေသည်။ ကျေးငှက်သာရကာ တို့၏ တွန်ကျူးသံဖြင့် ဆွတ်ပျံ့ လွမ်းမောဖွယ်အတိ ရှိနေသည်။ သည်အလှတွေကို ခံစားရ စကောင်းမှန်း သိလာချိန်တွင်မှ သည်အရပ်ကို စွန့်ခွာရတော့မလို ဖြစ်နေ၏။ ခြေထောက်က အလိုလို ဘရိတ်ကို နင်းမိလျက်သား ဖြစ်သွားသည်။ ကားကလေးမှာ တုံ့ခနဲ ထိုးရပ်သွား၏။ မြင်ကွင်းကြောင့် မျက်စိတွေ ပြာဝေသွားသည်။ မက်မွန်ပင်တွေအောက်ရှိ မြက်ခင်းပေါ်မှ သဏ္ဌာန်နှစ်ခု။ အစ်ဇဘယ်နဲ့ ကက်စတာရယ်။ အယ်လီနာကို သူတို့ လုံးဝ သတိမမူမိကြ။ အလေးအနက် ဆွေးနွေးနေကြပုံရ၏။ ကားကို ခပ်သွက်သွက် ပြန်လှည့်၏။ ခပ်လှမ်းလှမ်း သစ်ပင်တပင်တွင် ချည်ထားသည့် ကက်စတာ့မြင်းကို လှမ်းမြင်လိုက်သည်။ မြင်း၏ နံဘေး တွင်ကား အစ်ဇဘယ်၏ ကားလှလှကလေး။

နေရောင်တွင် အစ်ဇဘယ့် ဆံပင်တွေက တဖိတ်ဖိတ်။ ဦးထုပ်ကို ပေါင်ပေါ် တင်ပြီး မြက်ခင်းပေါ်တွင် တင်ပျဉ်ခွေ ထိုင်လျက်။ ခေါင်းကို ငုံ့ကာ၊ ကက်စတာ့ကို မော်ကြည့်ကာနှင့် ရွှန်းရွှန်းဝေနေသည်ကို အထင်းသား မြင်ရ၏။ ကက်စတာက ဘာပြန်ပြောသည် မသိ၊ ခေါင်းကို နောက်ပစ်ပြီး အားရပါးရ ရယ်နေပြန်သည်။

အယ်လီနာ့ အသားတွေ ဆတ်ဆတ်တုန်လာသည်။ အိမ်အပြန်တွင် တအား မောင်းချ လာခဲ့၏။ ဇွတ်ဝင်ကြမ်းဖို့ စိတ်ကူးမိသေးသည်။ စိတ်လိုက်မာန်ပါ လုပ်လျှင် အစ်ဇဘယ်က ပိုပြီး အနိုင်ရသွားနိုင်သည် မဟုတ်လား။ အခန်းထဲတွင် ခေါက်တုံ့ ခေါက်ပြန် လျှောက်နေမိသည်။ ဘယ်လောက် ကြာသွားသည် မသိ။ ဒစ်စီနှင့်

ကော်နယ်လီယာ ဝင်လာသည်အထိဂနာမငြိမ်သေးဘဲ ဆောက်တည်ရာမရ ဖြစ်နေတုန်း။

"အပြင်ကို ခေါ်သွားစမ်း"

ဒစ်စီကို ဟောက်ပစ်လိုက်သည်။

ကော်နယ်လီယာကလေးက အခန်းပတ်ပတ်လည် ဟိုကြည့် သည်ကြည့်နှင့်။

"ဖေဖေ... ဖေဖေကော" ဟု မေးနေ၏။

"မလေး၊ အပြင်မှာ အေးတယ်ရှင့်"

"ငါပြောတာ နင် မကြားဘူးလား၊ အပြင် ခေါ်သွား၊ ခု ထွက်သွား"

"ဟုတ်ကဲ့ရှင့်"

ဒစ်စီက သူ့သခင်မကို မကျေမချမ်းနှင့် ကလေးကောက်ချီပြီး ထွက်သွားသည်။

"တောက်... ကတိပေးထားပြီးခါမှ ..."

မကျေမချမ်းနှင့် အကြိမ်ကြိမ် ရေရွတ်နေမိ၏။

"မခံဘူး၊ ဒီတခါ ငါ သည်းမခံတော့ဘူး"

လွန်ခဲ့သည့် နိုဝင်ဘာလတုန်းက အဆက်ဖြတ်ပါတော့မယ်လို့ ကတိပေးပြီးသည့် နောက်ပိုင်းတွင် အစ်ဇဘယ် အကြောင်း တခွန်းမျှ မဟာဘဲ နေခဲ့၏။ ယခု မတ်လ ပထမ ပတ်ထဲတွင် ယုံမှားမိခဲ့သည့် သည်ဇာတ်လမ်း ပြန်ပေါ်လာခြင်း ဖြစ်၏။ ကက်စတာသည် အစ်ဇဘယ်နှင့် မတွေ့တော့ပါဘူး ဆိုသည့်ကတိကို သူ့သဘောနှင့် သူ ပေးခဲ့ခြင်း ဖြစ်၏။ ပေးခဲ့သည့် ကတိကို စောင့်စည်း ထိန်းသိမ်းလိမ့်မည်ဟု ယုံစားခဲ့သည်။ ခုမှ ပြန်တွေးမိသည်။ သည်တုန်းက လွယ်လွယ်ကလေးနှင့် သူ ကတိစကားဆိုခြင်း ဖြစ်သည်။ နှုတ်ဖျားမှ ထွက်လာ သည့်ကတိစကား ဖြစ်သည်။ ကလေးတယောက်ကို ချော့ချော့ပေးပြီး ငြိမ်အောင် လုပ်သည့် သဘောမျှသာ ဖြစ်၏။

အလိမ်ခံရလေခြင်း၊ အလှည့်စားခံရလေခြင်းဟု ရက်ဒေါသတွေ သည်းထန်စွာ လှိုင်းထ လာ၏။ လွယ်လွယ်ကလေးနဲ့ လိမ်လို့ရတယ် ဆိုပြီး သူက တဖက်မှာ ကျိတ်ရယ်နေမည် ပေါ့လေ။ သည်အချက်သည် အယ်လီနာ၏ ဒေါသယမ်းအိုးကို

ဆက်သွယ်ထားသည့် စနက်တံ နှင့် တူ၏။

သည်နေ့သည် သူတို့၏ ပိုင်ဆိုင်သမျှ ဝါဂွမ်းတွေ ထုတ်ရောင်းသည့် နေ့ဖြစ်၏။ တန်ခိုးတော်ရှင် ကူညီညာဝိုင်းလို့ မှိုင်းမတော် မမူလျှင်ကား ဝက်သစ်ချမြိုင်သည့် ကြွေးရှင်များ လက် ဝကွက် အပ်နှံရမည့် အခြေအနေဖြစ်သည်။ သည်မျှ ဆိုးရွားနေသည့် အခြေအနေ အကြောင်း သူ စိတ်ဆင်းရဲမည်စိုး၍ တလုံးတပါဒမျှ ဖွင့်မပြောခဲ့။ သို့သော် သူ့ဘက်မှ တုံ့ပြန်ပုံ ကို ကြည့်ပါဦး၊ မလွှန်လွန်းပေဘူးလား။

နွားရိုင်းသွင်းချိန်တွင်မှ သူ ပြန်ရောက်လာသည်။ မြင်းခွာသံတွေ ကြားလိုက်၏။ ပြီးတော့ လှေကားထစ်တွေကို ခပ်သွက်သွက် ပြေးတက်လာသည့် သူ့ခြေသံများ။

သူက ဧည့်ခန်းဆီသို့ လျှောက်လာပြီး-

"ဟဲလို အယ်လီနာရေ၊ သမီးလေး မအေးလွန်းဘူးလားကွာ၊ ဒစ်စီက ပြောတယ်၊ အပြင်သွားနေလို့ ပြောတယ်..."

သူ့ဘက်ကို ချာခနဲ လှည့်လိုက်သည်။

"ဒီမိန်းမဆီ မသွားတော့ပါဘူးလို့ ရှင် ကျွန်မကို ကတိပေးတယ်၊ အဲဒီ ကတိမှာ မက်မွန် တောထဲ ချိန်းတွေ့ဖို့ ခြွင်းချက် ပါတယ်လို့များ ရှင် ထင်နေလားဟင် ကက်စတာ"

ဒေါသဖြစ်ဖြစ်နှင့် ခပ်ကျယ်ကျယ် အော်ပြောလိုက်သည်။

သူ စကားမဆက်နိုင်ဘဲ တုံ့သွားသည်။ သူ နောက်မှ တံခါးမကြီးကို ဝုန်းခနဲ ထုလိုက်ပြီး-

"ကြည့်စမ်း... မင်း မိုက်မဲလှချည်လား အယ်လီနာ၊ မင်းလောက် တယူသန်နိုင်တဲ့ ဟာမျိုး ငါ့တသက် မတွေ့ဖူးသေးဘူး"

ရင်ဘတ်တခုလုံး နိမ့်တုံ မြင့်တုံ ဖြစ်လာ၏။ အသက်ရှူ မြန်လာ၏။ မနည်းထိန်းပြီး ပြန်မေးလိုက်သည်။

"ဒီကောင်မနဲ့ မတွေ့တော့ပါဘူးလို့ ကတိပေးပြီး မက်မွန်ပင်အောက်မှာ ပလူးနေတာ မျက်ဝါးထင်ထင်မြင်လို့ ပြောတာကို ရှင်က တယူသန်လို့ ပြောတယ်ဟုတ်လား"

"ဩော်... ဒုက္ခပါပဲကွာ၊ အများပြည်သူ သွားလာနေတဲ့ လမ်းမှာ မတော်တဆ သူနဲ့ သွားတွေ့တာ ကိုယ် ဘာတတ်နိုင်မှာလဲ အယ်လီနာ"

"ကားလမ်းမှာ ဖြတ်သွား ဖြတ်လာရင်း တွေ့တာ ဟုတ်လား"

ကက်စတာက တံခါးရွက်ကို မှီ၍ အယ်လီနာနှင့် တည့်တည့် မျက်နှာချင်းဆိုင်လိုက် သည်။ သူ့အဖြေမှာ ရှင်းလင်း ပြတ်သား၏။ ဒေါသလေလှိုင်း အပြည့်ပါ၏။

"သူက ကားနဲ့ လာတယ်၊ ကိုယ်က မြင်းနဲ့ သွားတယ်၊ လမ်းမှာ ဆုံတယ်။ မက်မွန်ပွင့် တွေ လိုချင်တယ် ဆိုလို့ လမ်းဘေး ဆင်းသွားပြီး ခူးပေးတယ်"

"အယ်လီနာ မြင်တော့ မက်မွန်ပွင့်တွေ ခူးမနေဘူး"

"တွေ့တုန်းတွေ့ခိုက် ရိုးရိုးသားသား စကားပြောကြတာ နိုင်ငံတော် ပုန်ကန်မှုလားကွ"

"ဘာအကြောင်းတွေ ပြောကြတာလဲ၊ အဲဒါ သိချင်တယ်"

ကက်စတာ ဆက်၍ သည်းမခံနိုင်တော့။ ကက်စတာ ဒေါသဖြစ်လာပြီ ဆိုလျှင် အယ်လီနာ လို ကက်ကက်လန် ရန်မတွေ့တတ်။ အသံ တိုးသွားတတ်သည်။ သံပြတ်နှင့် ပြောတတ်သည်။ မိမိနှင့် အစ်ဇာဘယ်သည် ရိုးသားစွာ ဆက်ဆံနေပါလျက် တဖက်သတ် စွပ်စွဲခံနေရခြင်း ဖြစ်၏။ အစ်ဇာဘယ်သည် မိတ်ကောင်းဆွေကောင်း လိုနေသည့် ဖတဆိုး မိန်းကလေး ဖြစ်၏။ သူ ဂျာမနီတွင် ရောက်နေစဉ် ဖခင်ကြီး ကွယ်လွန်သွားခြင်း ဖြစ်သည်။ သူ့တွင် ရင်းနှီးသည့် အပေါင်းအသင်း မရှိ၊ တိုင်ပင်ဖော် တိုင်ပင်ဖက် မရှိ။ တွေ့တုန်း ကြုံခိုက် စကားပြောဖြစ်ကြ ခြင်းကို အယ်လီနာ သည်မျှ စော်ကားမော်ကား မလုပ်သင့်။

ကက်စတာက သည်လိုမျိုး ပြောလာတော့ အယ်လီနာ ပို၍ ပေါက်ကွဲတော့သည်။

"ရှင် ဒီကောင်မနဲ့ မတွေ့ဘဲ မနေနိုင်ဘူးလား"

"ဟေ့ ... ငါ မင်းရဲ့ ငွေဝယ်ကျွန် မဟုတ်ဘူး၊ ငါ ကြိုက်သလို နေမယ်"

အယ်လီနာ ဦးခေါင်းတခုလုံး ပွင့်ထွက်သွားသလို ခံစားလိုက်ရ၏။ အပင်ပန်းခံခဲ့သမျှ တွေ၊ ဝက်သစ်ချမြိုင်အတွက် ပူပင်သောက ရောက်ခဲ့ရတာတွေ၊ ဝါတွေ ထုတ်ရောင်းဖို့ ဆုံးဖြတ် လိုက်လို့ ယူကျုံးမရ ဖြစ်ခဲ့တာတွေ၊ အားလုံး

သဲထဲရေသွန် ဖြစ်ကုန်ပြီပေါ့။ ဘာတွေ ပြန်ပြော မိသည် မသိ။ တတွတ်တွတ်တော့ ပြောနေသည်။ မိမိနှုတ်မှ ထွက်သွားသည့် စကားလုံးများကို မိမိကိုယ်တိုင် မကြားတချက် ကြားတချက်။

စင်စစ် ရင်ထဲတွင် ကြိတ်မှိတ် သိမ်းဆည်းထားခဲ့သည့် စကားလုံးတွေသည် မြား အစင်းစင်း ပစ်လွှတ်သလို ကက်စတာနှင့် အစ်ဇဘယ်တို့ဆီသို့ ပစ်လွှတ်နေခြင်း ဖြစ်၏။ ဘာဆို ဘာမျှ သတိမရတော့။ ကတိမတည်ဘူး၊ သစ္စာမဲ့တယ် ဆိုသည့် အသုံးအနှုန်းမျိုးကို ထပ်ကာ ထပ်ကာ သုံးပြီး မိုးကြိုးပစ်သလို စူးရှသည့် စကားလုံးများဖြင့် မုန်တိုင်းတိုက်သလို တိုက်ခိုက်၏။ ကက်စတာ မယုံကြည်နိုင်အောင် ပါးစပ် အဟောင်းသား ဖြစ်နေသည်။ မကျူးလွန် ရသည့် ပြစ်မှုတခုအတွက် တရားခံဖြစ်အောင် ဇွတ်တွန်းပို့နေခြင်းပါတကား။ အယ်လီနာကို တားဖို့ ကြိုးစား၏။ တခါ နှစ်ခါ ရပ်ဖို့ ဇွတ်ဝင် ပိတ်ပင်၏။ မရတော့၊ တာတမံကျိုး၍ လှိမ့်ဝင်လာသော ရေလုံးကြီးကို တား၍ မရသည့်နှယ်။ သည်တော့မှ ရှိသမျှ အသံကုန် အော်ပစ် လိုက်မိတော့သည်။

“ဟေ့ … မင်း တော် ဆိုတာ မတော်ဘူးလား၊ ရပ် ဆိုတာ မရပ်ဘူးလား”

“ဘာလို့ ရပ်ရမှာလဲ၊ ရှင်ကော အဲဒီမိန်းမနဲ့ စခန်းသွားနေတာ ဘာလို့ မရပ်သလဲ”

“ဘာလို့ ရပ်ရမှာလဲ”

ကက်စတာက ပြန်အော်သည်။ ဆက် အော်ပြောပြန်သည်။

“ခုလို ဖြစ်နေတဲ့ မင်းပုံကို မင်း မှန်နဲ့ ပြန်ကြည့်စမ်း”

“ဟုတ်ပါတယ်၊ ရှင့်ကောင်မက နတ်သမီးကလေး၊ ဒီက ခုတော့ စုန်းမနဲ့ တူနေတော့ မှာပေါ့”

“တူရုံ မကဘူး၊ မင်းဟာ ခုအတိုင်း ဆိုရင် တကယ့်စုန်းမပဲ”

“တနေ့ကို ဆယ့်လေးနာရီ အလုပ်လုပ်နေရတဲ့ မိန်းမတယောက်ဟာ ဘယ်လိုလုပ်ပြီး စွဲမက်စရာ ကောင်းတော့မလဲ၊ အစကတည်းက လှလှရွရွကလေးကို ရှင် ဘာလို့ ရွေးပြီး မယူခဲ့တာလဲ”

“အေး … ငါ မယူခဲ့မိတာ သိပ်မှားတာပဲ”

ကက်စတာက နောက်မှ တံခါးလက်ကိုင်ကို ကိုင်ရင်း တလုံးချင်း

ပြောလိုက်သည်။

"ဟုတ်တယ်၊ ရှင် သူ့ကို လက်ထပ်ခဲ့ဖို့ ကောင်းတာ၊ ရှင် ဘာတွေ လုပ်ခဲ့ လုပ်ခဲ့၊ တချိန်လုံး ရှင့်ကို ဘယ်လောက် စွဲမက်စရာကောင်းတယ် ဆိုတဲ့ အကြောင်းတွေချည်း အိုင်ချင်း ဖွဲ့နေမယ့် မိန်းမမျိုး"

"မင်း ပြောတာ သိပ်မှန်တယ်"

ကက်စတာက တံခါးကို ဆွဲဖွင့်လိုက်သည်။

"အဲဒီလို တော်ဝင်တဲ့ အမျိုးကောင်းသမီးတွေရဲ့ အမူအကျင့်တွေ ကျွန်မမှာ မရှိတာ ကျွန်မ ညံ့လို့ပေါ့နော်"

"အေး ... မင်းညံ့တာ မင်းဘာသာ မင်း သိရင် တော်ပြီ"

ဧည့်ခန်းတံခါး ဝုန်းခနဲ ပိတ်သွားသည်။ အိမ်ရှေ့တံခါးမကြီး ဝုန်းခနဲ ပိတ်သွားသည်။ နောက် တခဏငယ်အတွင်း ဝေါခနဲ ကားမောင်း ထွက်သွားသံပါ ကြားလိုက်ရသည်။

ကုလားထိုင်တလုံးပေါ်တွင် အယ်လီနာ အရုပ်ကြိုးပြတ် ထိုင်ချလိုက်၏။ တဒိုင်းဒိုင်း သွေးခုန်နေသည့် နားထင်ကို လက်နှစ်ဖက်နှင့် ဖိထားလိုက်သည်။ ဘာဆို ဘာမျှ မစဉ်းစားနိုင် တော့။ ဒေါသမုန်တိုင်းတွင် ဆင်ခြင်တုံတရားမဲ့ စကားလုံးများသာ ဖြစ်ပါ၏။ တံတောင်ဆစ်ကို ဒူးပေါ်တင်၍ လက်နှစ်ဖက်ကို နားထင်တွင် အပ်လျက်သား ထိုင်နေ၏။

မည်ရွေ့မည်မျှ ကြာအောင် ထိုင်နေမိသည် မသိ၊ တဖြည်းဖြည်း အခန်းထဲသို့ ထိုးကျ လာသည့် အရိပ်များကို အကြောင်သား ကြည့်နေ၏။ မိမိကိုယ်မိမိ သတိထားမိသည့် အချိန်တွင် တဆတ်ဆတ် တုန်နေသည်။ အေး၍ တုန်ခြင်း မဟုတ်။ အခန်းထဲမှ မီးလင်းဖိုတွင် မီးခဲတွေ ရဲလျက် ရှိသေး၏။ တခါမျှ မခံစားဖူးသည့် ကြောက်ရွံ့ထိတ်လန့်မှုမျိုးကို ခံစားလိုက်ရ၍ ဆောက်တည်ရာမရ ခိုက်ခိုက်တုန်နေခြင်း ဖြစ်၏။ နားထင်မှ လက်နှစ်ဖက်ကို ရုပ်သည်။ ကိုယ်ကို မတ်မတ်ထိုင်သည်။ ဘာကြောင့် သည်မျှ ထိတ်လန့် တုန်လှုပ်နေရကြောင်းကို သဘောပေါက်လိုက်၏။ သည်အခြေအနေမျိုး ရောက်ရမည်ကို အိမ်ထောင်သက်တလျှောက်လုံး အစိုးရိမ်ကြီး စိုးရိမ်ခဲ့၏။ အရူးတပိုင်းလို ဖြစ်သွားသည့် တဒင်္ဂတွင် ကက်စတာကို ဘာတွေ ပဲ ပြောခဲ့ပြောခဲ့၊ မိမိအပေါ် ကက်စတာ သစ္စာမပျက် ဟူသည့် အချက်ကို စွဲစွဲမြဲမြဲ ယုံပြီးသား ဖြစ်၏။ အစ်ဇဘယ်က ကက်စတာ ကို ပြန်လိုချင်နေပြီး ကက်စတာက မပါသေးကြောင်းကို

သိလျက်နှင့် ယခုလို ပြဿနာဖြစ်ရခြင်း ဖြစ်၏။ မိမိကိုယ်တိုင်က ကက်စတာကို အစ်ဇဘယ် ဆီသို့ အတင်းတွန်းပို့နေသလို ဖြစ်နေပါပေါ့လား။

မီးဖိုဆီသို့ ထသွားသည်။ ကော်ဇောပေါ်တွင် ထိုင်ချသည်။ အဓိပ္ပာယ်မရှိ ထင်းချောင်း တွေကို ဆွနေသည်။ ကြမ်းတမ်းသည့် စကားလုံးတွေနှင့် အော်ဟစ် ပစ်ပေါက်ခဲ့မိသည်ကို ပြန်တွေးမိ၏။ ဘာတွေ ပြောခဲ့မိသည်ကိုတော့ အသေးစိတ် မမှတ်မိတော့။ တခုတော့ နားလည်လိုက်သည်။ စစ်ဖြစ်လို့ စီးပွားရေးကပ်ဆိုက်ခံရပြီးနောက်ပိုင်း ဘဝအကျပ်အတည်းမှ ထွက်ပေါက် မရှိ ဖြစ်နေသည့်ခိုက်တွင်မို့ ပြဿနာက ခေါင်ခိုက်သွားခြင်း ဖြစ်၏။ မီးဖိုတွင်းမှ အရှိန်လျော့ကျစပြုနေသည့် မီးခဲများကို စိုက်ကြည့်နေမိ၏။ ဘဝတွင် ပထမဦးဆုံးအကြိမ် အဖြစ် မိမိကိုယ်မိမိ အပြစ်ကြီးစွာ တင်မိသည်။

ဘက်စီ ထမင်းစားဖို့ လာခေါ်သည်ကို ကြားသည်။ အတန်ကြာမှ ထွက်သွားဖို့ ပြောမိ၏။

နောက်ဆုံးတွင် လေးကန်စွာ ထပြီး အပေါ်ထပ်သို့ တက်ခဲ့သည်။ သူ့ကို ထိုင်စောင့်နေ သည်။ အိပ်ခန်း ပြတင်းပေါက်မှနေ၍ အပြင်အမှောင်ထုအတွင်းသို့ စူးစူးစိုက်စိုက် ကြည့်နေ၏။ သစ်ပင်များ၏ ထိပ်ဖျားဆီမှ ကြက်သွန်နီဥ နွမ်းနွမ်းကြီးတလုံးနှင့် တူသည့် ဖိုးလမင်းကို လှမ်းမြင်ရသည်။ သူ ပြန်လာနိုးနှင့် ထိုင်စောင့်နေဆဲ။ မည်မျှ ကြာသွားသည် မသိ။ ဟင်-မိုးလင်းတော့မှာပါလား။ ဝက်သစ်ချပင်စောက်တို့၏ အကြားတွင် ရောင်နီပျို့လာပြီ။ စိတ်ပျက် အားလျော့သလို ခံစားလိုက်ရ၏။ သို့သော် သိတော့ သိနေသည်။ မိမိဘာသာမိမိ အစိုးရိမ် လွန်နေသည် ဟူ၍။

တံခါးခေါက်သံ ကြားတော့ ထပြေးသွားသည်။ ကုလားထိုင်တလုံးကို ဝင်တိုက်မိ၏။ တံခါးကို တအား ဆွဲဖွင့်လိုက်သည်။

တံခါးဝတွင် ဘွားခနဲ ဘက်စီကို မြင်လိုက်တော့ ပါးကို တအားလွှဲအရိုက်ခံလိုက်ရသလို ခံစားလိုက်ရသည်။

"ဟင်...... မလေး အစောကြီး နိုးနေတယ်၊ အဝတ်အစားတောင် လဲပြီးနေမှကိုး" ညက အဝတ်လဲဖို့ လုံးဝ သတိမရလိုက်။ တော်ပါသေးရဲ့၊ အိပ်ရာကို ဘက်စီ သတိမထားမိပေလို့။

"အေး... ဘာလဲ နင့်လက်ထဲက"

ဘက်စီက "အမြန်ပို့" စာတစောင် လှမ်းပေးသည်။ နယူးအော်လင်းမှ

လာသည့် စာ။ လိပ်စာကို လက်နှိပ်စက်နှင့် ရိုက်ထားသည်။ စိတ်ခါတ်အကျကြီး ကျနေချိန်မို့ စာကို ဖတ်ချင် စိတ်မရှိ။ စာအိတ်ကို မဖောက်ဘဲ လိပ်နေမိ၏။ နောက်မှ အမြန်တံဆိပ်ခေါင်းနှင့် အရေးတကြီး ရောက်လာသည့်စာ ဖြစ်နေ၍ ဖောက်လိုက်သည်။ စာရွက်တရွက်နှင့် ပုံနှိပ်စက္ကူ အပိုင်း ကလေးနှစ်ခု ပေါင်ပေါ်သို့ လျှောကျလာသည်။ စာရွက်ပေါ်က လက်ရေးက ဖေဖေ့လက်ရေး။ စိတ်ဝင်စားမည် ထင်၍ ဖေဖေ သည်အကြောင်းကို ရေးလိုက်တာ တဲ့။ ဘယ်လိုလုပ်ပြီး စိတ်ဝင်စားနိုင်မှာလဲ။ ပေါင်ပေါ်က ဖြတ်ပိုင်းကလေးတွေကို ကောက်ပြီး ဖတ်လိုက်သည်။ သတင်းစာဖြတ်ပိုင်း နံဘေးသားတွင် ဖေဖေ့လက်ရေးဖြင့် ရေးထားသည်။

မတ်လ ၂ ရက်နေ့၊ နယူးယောက်တိုင်း သတင်းစာ”

ဝေဖန်ချက် မပါသည့် ရိုးရိုး သတင်းဆောင်းပါးတပုဒ် ဖြစ်၏။

အယ်လီဇဘက် အမည်ရှိ စစ်သင်္ဘောကြီးသည် ယခုအချိန်၌ “ဒါဒန်နေး” ရေလက်ကြား တွင် ရောက်ရှိနေကြောင်း၊ ၎င်း စစ်သင်္ဘောကြီး၏ ၁၅ လက်မ အမြောက်ကြီးများမှ အမြောက် တချက် ပစ်တိုင်း ပစ်တိုင်း ဝါဂွမ်းဘောထုပ် တထုပ် ဖြုန်းတီးပစ်နေကြောင်း... စသည် စသည်။

※※※

# (၂)

ဦးခေါင်းတခုလုံး မူးနောက် ရီဝေနေ၏။ အသိအာရုံတွေ မှိုင်းမှုန်ဝိုးဝါးနေ၏။ ဖေဖေ့ စာအိတ်ထဲတွင် ပါလာသည့် အခြားစာရွက်ပိုင်းတခုကို ငုံ့ကြည့်လိုက်သည်။ သတင်းစာ ဖြတ်ပိုင်း မဟုတ်၊ ဓာတုဗေဒ အဘိဓာန်စာအုပ်မှ ဆုတ်ဖြဲထားသည့် စာရွက် ဖြစ်၏။ အကြောင်း အရာ ခေါင်းစဉ်က “ယမ်းဘီလူး”။ စာလုံးတွေက ရေးဆန်ဆန် ရှည်မျောမျော။ နောက် ခေါင်းစဉ် တခုက “ဝါဂွမ်းမှ လုပ်သည့် ပေါက်ကွဲစေတတ်သော ယမ်းဘီလူး. . . ပေါက်ကွဲစေတတ်သည့် နိုက်ထရိုဂျင်အရည် . . မီးခိုးမည်း ယမ်းမှုန့်…”

မတ်တတ် ထရပ်လိုက်သည်။ တကိုယ်လုံး တောင့်တင်းကိုက်ခဲနေပြီ ဖြစ်၍ အညောင်း ဆန့်သည်။ တဖြည်းဖြည်း အမြင်ကြည်လင်စ ပြုလာသည်။ ကက်စတာနှင့် အစ်ဇဘယ်တို့ကြောင့် ခံစားခဲ့ရသည့် သောကတွေ၊ မိမိကိုယ်တိုင်၏ ဒေါသ မာန်မာနကြောင့် လောင်မြိုက်ခဲ့သည့် ပရိဒေဝမီးတွေ ငြိမ်းသေစ ပြုလာ၏။ ခေါင်းထဲတွင် အလင်းရောင်တန်းတခု ဝင်းလက် သွားသည်။ ရေချိုးခန်းထဲသို့ သွားသည်။ ရေအေးအေးဖြင့် မျက်နှာသစ်ပစ်လိုက်သည်။ ရေကို မျက်လုံးထဲဝင်အောင် လုပ်သည်။ ပြန်ထွက်လာပြီး အိပ်ရာနံဘေးမှ တယ်လီဖုန်းကို ကောက် ကိုင်သည်။

သည်အချိန်ဆိုလျှင် ဆီဘက်စတိန်တယောက် ရုံးတွင် ရှိဦးမည် မဟုတ်။ အိမ်သို့ ဆက်သည်။ တဖက်က ထူးသံ ကြားသည်နှင့် အသံကို တတ်နိုင်သမျှ တည်ငြိမ်အောင် ထားပြီး ပြော၏။ ပိုင်ပိုင်နိုင်နိုင် ဆုံးဖြတ်ထားသည့် လေသံမျိုးနှင့် ပြော၏။

“ကက်စတာ ရေးလိုက်တဲ့စာ ဆီဘက်စတိန် ရတယ်နော်၊ ဝါဂွမ်းတွေ ရောင်းဖို့ ခွင့်ပြုတဲ့ စာလေ။ အယ်လီနာ ဆက်တာ တခြားကြောင့် မဟုတ်ဘူး၊ ကက်စတာက မရောင်းသေးဘဲ ဆက်ထားဖို့ ပြောလို့ အယ်လီနာ လှမ်းအကြောင်းကြားတာ”

“ဘာဖြစ်လို့လဲ အယ်လီနာ”

“နောက်မှ ကက်စတာ ရှင်းပြလိမ့်မယ်၊ အယ်လီနာ ပြောတာ ရှင်းတယ်နော်၊ မရောင်း သေးဘူး”

“ဒီမယ် အယ်လီနာ၊ ဂျာမနီနဲ့ အင်္ဂလန် နှစ်နိုင်ငံဟာ…”

“ဒီမယ် ဆီဘက်စတိန်၊ ဝါဂွမ်းက လုပ်တဲ့ ယမ်းဘီလူး ဆိုတာ ကြားဖူးလား၊ ပေါက်ကွဲ စေတတ်တဲ့ နိုက်ထရိုဂျင် အရည်ဆိုတာကော။ ပြီးတော့ ဝါဂွမ်းနဲ့ လုပ်တဲ့ ယမ်းမှုန့် ဆိုတာကော ကြားဖူးလား”

“ဘာ .. ဘာ အယ်လီနာ မင်း ဘာတွေ ပြောနေတာလဲ”

“ထားပါလေ၊ မရောင်းနဲ့ဦးနော် ဆီဘက်စတိန်၊ ဒါပဲ”

တယ်လီဖုန်းကို ပြန်ချလိုက်သည်။ ရှိသမျှ အင်အားတွေ ကုန်ခန်းသွားသလို ခံစား လိုက်ရ၏။ အိပ်ရာပေါ်တွင် ပစ်လှဲချလိုက်သည်။ ဖိနပ်ပင် မချွတ်နိုင်တော့။ ခါးပတ်ကိုပင် မလျှော့နိုင်တော့။ တန်းပြီး အိပ်ပျော်သွားတော့၏။

အိပ်ရာမှနိုးတော့ နေ အတော်မြင့်နေပြီ။ ဘာကြောင့် သည်ချိန်ထိ အိပ်မိပါလိမ့်။ ဟင်... အဝတ်လည်း မလဲမိပါလား။ မနေ့က ဝတ်ထားတဲ့ အတိုင်းပါပဲလား။ ဖြစ်ကြောင်း ကုန်စင်ကို သတိရလိုက်သည်နှင့် ဆတ်ခနဲထပြီး အခန်းထဲမှ ထွက်သွားသည်။ ကက်စတာ တညလုံး ပြန်မလာ။ အခြေအနေကို အကဲခတ်မိပုံရသည့် အစေခံတွေ ခေါင်းချင်း ရိုက်နေ သည်။ ဘာမျှ မဖြစ်သလို ဟန်မပျက် နေလိုက်၏။ လိုအပ်သည်များကို ဣန္ဒြေမပျက် ညွှန်ကြား သည်။ ကုလားထိုင်အမြင့်ကြီးပေါ်တွင် ထိုင်၍ ကော်နယ်လီယာကလေး ညနေစာ စားနေ သည်ကို တွေ့ရ၏။ မိမိကိုယ်တိုင်ကမူ ဘာမျှ စားချင်စိတ်မရှိ၍ စတော်ဘယ်ရီနှင့် ကော်ဖီ တခွက်သာ သောက်လိုက်သည်။ ပြီးတော့ အဝတ်အစား လဲသည်။ အနုပညာခန်းအဝမှ လှေကားထစ်တွင် ထိုင်သည်။ တိုင်ကြီးတတိုင်ကို မှီပြီး ကက်စတာကို စောင့်နေ၏။

ကားဝင်လာသံ ကြားတော့ ညနေ လေးနာရီ ထိုးနေပြီ။ ခုန်ထပြီး ပြေးဆင်းသွား၏။ ကက်စတာကလည်း ကားပေါ်မှ ခုန်ဆင်းပြီး ပြေးလာ၏။ တဦးလက်ကို တဦး တအား ဆုပ်ထားလိုက်ကြသည်။

“မောင့်ကို စိတ်ဆိုးနေတုန်းလား”

“အယ်လီနာကို ခွင့်လွှတ်ပါ မောင်ရယ်”

နှစ်ယောက်စလုံး တပြိုင်တည်း ပြောလိုက်မိကြခြင်း ဖြစ်၏။

သည်နောက် ဘာတွေ ပြောဖြစ်ကြသည်ကို အယ်လီနာ သေသေချာချာ မမှတ်မိ။ သူ့ကို ပြောပြချင်တာတွေက ရင်ထဲတွင် ပြည့်ကျပ်နေ၏။ ကက်စတာကလည်း အယ်လီနာကို ရင်ဖွင့် စရာတွေ တပုံကြီး။ ဧည့်ခန်း မီးဖိုနံဘေးသို့ လျှောက်သွားကြ၏။ အယ်လီနာက ဆိုဖာတလုံး ပေါ်တွင် ထိုင်သည်။

အယ်လီနာ ထိုင်သည့် ဆိုဖာရှေ့ တည့်တည့်တွင် ကက်စတာ ဒူးထောက် ချလိုက်၏။ ပြီးတော့ အယ်လီနာ့ ပေါင်ပေါ်တွင် ခေါင်းကို အသာ မှေးတင်ထားလိုက်၏။

ကက်စတာကို အယ်လီနာက ရှင်းပြနေသည်။

မောင် ထွက်သွားကတည်းက မောင့်ကို ခွင့်လွှတ်ပြီးသားပါ ၊ မောင်က အယ်လီနာ့ကို ခွင့်လွှတ်နိုင်ပါ့မလား ဆိုပြီးတော့ တညလုံး စိတ်ပူခဲ့ရတာပါ စသည် စသည်။ ကက်စတာ ကလည်း အတင်းလုပြောသည်။ ထွက်သွားကတည်းက ဘယ်သွားမယ် ဆိုတဲ့ ရည်ရွယ်ချက်မှ မရှိတာ၊ အစ်ဇဘယ်ဆီ သွားတယ် ထင်နေတယ်ပေါ့ ဟုတ်လား၊ စိတ်တိုလွန်းတော့ ဘာမှ မစဉ်းစား တတ်တော့ဘူးလေ၊ သည်တော့ အရက်ကို အလွန်အကျွံ သောက်မိတာပေါ့၊ ဒါပေမဲ့ အားလုံး သိနေတယ်၊ အားလုံး မှတ်မိပါတယ်၊ အရက်ဆိုင်က လူက ကားမောင်းမပြန်ဖို့ အတင်း တောင်းပန်တာလည်း မှတ်မိတယ်၊ ဘယ်ရမလဲ၊ ဘယ်ကားမျိုးမဆို ဘယ်လိုအခြေအနေမျိုး မှာပဲဖြစ်ဖြစ် မောင်းနိုင်တယ် ဆိုပြီး တက်မောင်းပြီး ထွက်ခဲ့တာပေါ့၊ ကားမောင်းလိုက်တော့ လေအေးကလေးကို ဝဝရှူလိုက်ရလို့ သက်သာသွားသလိုလိုပဲ၊ သတိထားပြီး ဖြည်းဖြည်း မောင်းလာတယ်၊ ညကအကြောင်း ပြန်တွေးမိတော့ ငါ့ကို ရက်ရက်စက်စက် စော်ကားလေ ခြင်း ဆိုပြီး ဒေါသဖြစ်လာပြန်ရော၊ မထူးတော့ပါဘူး၊ ပြန်မတွေ့ကြလည်း အေးတာပဲ ဆိုပြီး တကယ်ပဲ ကိုယ့်ကိုယ်ကိုယ် သေမယ်လို့ တွက်ထားလိုက်တယ်လေ၊ ဦးတည့်ရာကို တအား လျှောက်မောင်း ပစ်လိုက်တယ်၊ စိတ်ကို လွှတ်ပစ်လိုက်တယ်၊ ဘယ်လောက်ကြာကြာ လျှောက်မောင်းနေလဲ မသိဘူး၊ သတိပြန်ဝင်လာလို့ ကားပြန်ထိန်းဖို့ ကြိုးစားတော့ မရတော့ ဘူး၊ လမ်းကြောင်းအမှန်ကို ပြန်ယူလို့ မရတော့ဘူး၊ ရပ်ရင်ရပ်၊ မရပ်ရင် အသက်နဲ့ အိုးစား ကွဲတော့မယ် ဆိုတာ သိလိုက်ပြီလေ၊ အဲဒီအချိန်မှာတင် အိမ်ကြီးတအိမ် မြင်ကွင်းထဲမှာ ဘွားခနဲ ပေါ်လာတယ်၊ အစ်ဇဘယ်တို့ အိမ်ကြီး၊ အပေါ်ထပ် အခန်းတခန်းက လွဲပြီး တအိမ်လုံး မှောင်မိုက်လို့။

သည်အခြေအနေမျိုးကို အယ်လီနာ နားလည်နိုင်မည်လား၊ မနက်မိုးလင်းတော့ ကိုယ့်ကိုယ်ကိုယ် သတ်ပစ်ချင်လောက်အောင် ရွံရှာစက်ဆုပ်မိသည့် အဖြစ်ကို အယ်လီနာ သဘောပေါက်နိုင်ပါမည်လား၊ အိမ်ကို ဘယ်လို မျက်နှာနှင့် ပြန်ရမှန်းမသိလို့ တနေကုန် သစ်တောထဲမှာ ကားမောင်းနေခဲ့တာတွေ၊ မြစ်ကမ်းနဖူးမှာ ထိုင်ပြီး တုတ်ချောင်းကလေးတွေကို ရေထဲပစ်ချရင်း ချစ်ဇနီးနှင့် မျက်နှာချင်းဆိုင်ဖို့ သတ္တိမွေးနေခဲ့ရတဲ့ အဖြစ်တွေကို အယ်လီနာ နားလည်ခွင့်လွှတ်နိုင်ပါမည်လား။

ကက်စတာ၏ လျှောက်လဲချက် ပြီးဆုံးသွားသည်။

နားလည်ပါတယ်၊ သဘောပေါက်ပါတယ်လို့ ပြန်ပြောလိုက်၏။

အယ်လီနာ ကောင်းကောင်းကြီး နားလည်ရပါပြီ၊ ညကတည်းက မအိပ်ဘဲ အလေး အနက် စဉ်းစားခဲ့ပြီးပြီ မဟုတ်လား၊ အိမ်ထောင်ရေးကျင့်စဉ် ဥပဒေသများကို ရေးဆွဲခဲ့ကြသည့် လောကနီတိဆရာတို့သည် မိမိတို့ လင်မယားအကြားတွင် ဖြစ်ပေါ်နေသည့် အာရုံခံစားမှုများကို တဝက်မျှပင် နားလည်နိုင်မည်ဟု အယ်လီနာ မထင်။

သူတို့ အလိုအရဆိုလျှင် အိမ်ထောင်မှုဒုစရိုက် ကင်းရှင်းသူ တယောက်တလေမျှ မရှိနိုင်တော့၊ မိမိသည်ပင်လျှင် ဝစီကံမြောက် လင်ယောကျ်ားအပေါ် မောက်ကျော် စော်ကားမိခြင်းသည် အိမ်ထောင်ရေးပြစ်မှုတခုကို ကျူးလွန်လိုက်ခြင်း မဟုတ်ပါလား။ ပြစ်မှုကို နှစ်ဦး စလုံး ကျူးလွန်မိကြ၏။ သည်အတွက် နှစ်ဦးစလုံး နောင်တကြီးစွာဖြင့် နောက်နောင် မကျူးလွန် ကြစတမ်း ဟူ၍ အလေးအနက် ကတိပြုကြ၏။

မုန်တိုင်း စဲလေပြီ။ အကြာကြီး ငြိမ်နေကြ၏။ ကက်စတာက ထိုင်လျက်မှ အယ်လီနာ့ခါး ကို သိုင်းဖက်ထားဆဲ။ မျက်နှာကို ပေါင်ပေါ်တွင် မှောက်ထားဆဲ။ အယ်လီနာက အလှိုင်းလှိုင်း ထနေသည့် သူ့ဆံပင်တွေကို အလိုက်သင့် ပွတ်သပ်ပေးနေသည်။ အယ်လီနာ ကိုယ့်ကိုယ်ကိုယ် အံ့သြမဆုံး ဖြစ်နေ၏။ ဘာကြောင့်များ သူ့ကို သည်ရွေ့သည်မျှ ချစ်မိပါလိမ့်။ ဟိုတုန်းကထက် ပို၍ ရင်းနှီးနှောင်ဖွဲ့လိုက်သကဲ့သို့ ရင်မှာ ခံစားရ၏။ သူ ဘာပဲ ဖြစ်ခဲ့ ဖြစ်ခဲ့ ခွင့်လွှတ်ပြီးသား ဖြစ်နေ၏။ မမြင်နိုင်စွမ်းသည့် သံယောဇဉ် ချစ်ကြိုးမျှင်တွေ တိုး၍ တိုး၍ ရစ်ပတ်လျက် ရှိလေပြီတကား။

နောက်ဆုံးတွင်မှ သူ ခေါင်းမော့လာသည်။

“မောင့်မှာ ခုလိုအပ်နေတာက ကိုယ့်လိပ်ပြာ ကိုယ် မရှက်ဘဲ နေနိုင်ဖို့ပဲ”

သူ့ကို ငုံ့ပြီး နမ်းလိုက်သည်။

“မောင်ရယ်၊ မောင့်မှာ ခုလိုအပ်နေတာက ရေမိုးချိုးပြီး ရှပ်အင်္ကျီသန့်သန့်ကလေး ဝတ်ဖို့ပါကွယ်။ ဟောဒီ တလောကလုံးမှာ မောင်ဟာ လိပ်ပြာအသန့်ဆုံး ဖြစ်စေရပါမယ်။

“နော်…မောင်”

“ဩော်… အချစ်ရယ်”

ကက်စတာက လှိုက်လှိုက်လှဲလှဲ ရေရွတ်သည်။ အယ်လီနာ ပြုံး၏။ အူလှိုက်သည်းလှိုက် ပြုံးသည့် အပြုံး။ ပျော်လွန်း၍ ပြုံးမိသည့် အပြုံး။

ညဥ့်လယ်သန်းခေါင်တွင် အိပ်ရာမှ အယ်လီနာ လန့်နိုးသည်။ အိပ်ရာထဲတွင် ဘယ်ပြောင်း ညာပြန် ဖြစ်နေ၏။ မတွေးချင်သည့် အကြောင်းအရာတွေချည်း ခေါင်းထဲ ဝင်နေသည်။ ကိုယ့် ကိုယ်ကိုယ်လည်း ဒေါသဖြစ်မိ၏။

မိမိအိမ်ထောင်ရေးသည် ဖာထေးထားသည့် ဂါဝန်ဟောင်းတထည်နှင့် တူနေ၏။ ဖာထေးထားသဖြင့် အပေါက်အပြဲ ကတော့ လုံနေသည်။ သို့သော် သေသေချာချာကြည့်လျှင် နောက်ထပ် ပြဲဦးမည့် ခေါက်ရိုးကြောင်းတွေကို မြင်နေရသည်သာ ဖြစ်၏။

※※※

# အခန်း (၉)

## (၁)

မနက် မိုးလင်းတော့ ဖေဖေ ပို့လိုက်သည့် ဆောင်းပါးဖြတ်ပိုင်းကလေးနှစ်ခုကို မှန်တင်ခုံ ပေါ်တွင် တွေ့ရသည်။ ဖျတ်ခနဲ ဆွဲယူပြီး ဝါဂွမ်း၏ အနာဂတ်ကို ထင်မြင်ချက်တွေနှင့် ရွှန်းရွှန်းဝေ ပြောနေမိသည်။ သည်အကြောင်းအရာပေါ်တွင်သာ စူးစိုက်ထား၏။ အစ်ဗဘယ် ဆိုသည့် မိန်းမ အကြောင်းကို မစဉ်းစားမိအောင် ဇွတ်အာရုံပြောင်းထားခြင်း ဖြစ်၏။ လုံးဝ သည်းမခံနိုင်တော့၊ သည်နာမည်ကို လုံးဝ မကြားလိုတော့။

ကက်စတာက အယ်လီနာကို ပါးစပ်အဟောင်းသားနှင့် ငေးကြည့်ရင်း နားထောင် နေ၏။ ပထမတော့ အံ့ဩလွန်းသဖြင့် ကြောင်နေသည်။ အယ်လီနာ့ စကား ဆုံးတော့မှ ဝမ်းသာ အားရ ထအော်သည်။

"တကယ့် မင်္ဂလာသတင်းပဲ အယ်လီနာ၊ ဝါဂွမ်းက ယမ်းဖြစ်တယ် ဟုတ်လား၊ ဒါဆို ဈေးပြန်တက်မှာ သေချာပြီ။ စစ်တော်တော်နဲ့ မပြီးရင် နောက်နှစ် တသီးပါ မီနိုင်တယ်။ အယ်လီနာ၊ ဒါဆို တို့ ကြွေးကျေတော့မယ်၊ ကြွေးကျေတော့မယ်"

"ကြွေးကျေမှာက နောက်၊ လောလောဆယ် စိုက်ပျိုးဖို့ မရှိဘူးလေ၊ ဘာနဲ့ သွားစိုက် မလဲ"

ပြောနေရင်း အဖြေက အလိုလို နှုတ်ဖျားတွင် ရောက်လာသည်။ မသိစိတ်ဖြင့် တညလုံး စဉ်းစားနေခဲ့သည် ထင်ပါရဲ့။

"အယ်လီနာ နယူးအော်လင်းကို သွားမယ်၊ ဖေဖေ့သူငယ်ချင်း မစ္စတာတိုနယ်လီ ဆိုတာ ရှိတယ်၊ သစ်သီးလုပ်ငန်း ပိုင်ရှင်လေ၊ လက်ထဲမှာရှိတဲ့ ဝါဂွမ်းတွေကို သူ့ဆီမှာ ပေါင်မယ်"

"နောက်နှစ်နှစ်နဲ့ စစ်မပြီးပါဘူးလို့ သူ့ကို အာမခံနိုင်ပါ့မလား၊ သူကကော ယုံပါ့မလား"

"ဖြစ်နိုင်မှာပါ၊ သူ့အတွက်လည်း အကျိုးရှိမယ့် အလုပ်ပဲ"

"နေဦး အယ်လီနာ၊ ဆီဘက်စတိန်ဆီကို ရောင်းဖို့ စာရေးထားတာကကော…"

ကက်စတာက အထိတ်တလန့် ဝင်ပြောသည်။

"တယ်လီဖုန်းဆက်ပြီး တားထားလိုက်တယ်လေ"

"ဟုတ်လား၊ ဘယ်တုန်းကလဲ အယ်လီနာ"

"မနေ့ မနက်စောစောက…"

အယ်လီနာက တိုးတိုးကလေး ပြန်ပြောလိုက်သည်။

ကက်စတာ ဘာမျှ မပြောတော့။ ထလာပြီး အယ်လီနာ့ ဦးခေါင်းကို သူ့ပခုံးပေါ်သို့ ဆွဲပြီး မှေးထားလိုက်သည်။ ခဏာယယ်မျှ ငြိမ်နေမိကြ၏။ အယ်လီနာက စကားပြန်စသည်။ သူ့လေသံမှာ ရွှင်ပျလာသည်။ ဝါဂွမ်းထက် စိတ်ဝင်စားစရာ သူ့ဘဝတွင် အခြား ဘာမျှ မရှိတော့ သလို ခံစားလိုက်မိ၏။

"အယ်လီနာ ဒီနေ့ နယူးအော်လင်းကို သွားမယ်နော် မောင်၊ မောင်က စိုက်ဖို့ပျိုးဖို့ကိစ္စ တွေ စီစဉ်တော့၊ ဘဏ္ဍာရေးကိစ္စ အယ်လီနာ တိုက်ပွဲဝင်မယ်။ တို့လင်မယား ဒီအတိုင်း လုပ်ရင် သိပ်တက်ညီလက်ညီရှိတာ မဟုတ်လား"

"မောင် ဒီနေ့ပဲ အလုပ်စတော့မယ်"

ကက်စတာက အားတက်သရော ပြောသည်။ ပြီးတော့ အယ်လီနာကို ငုံ့ကြည့်ပြီး ရယ်ရင်း-

"သချ်ာအဓိကဘာသာနဲ့ ဘွဲ့ယူထားတဲ့ ကောင်မကလေးကို ရတာ မောင် သိပ်ကံကောင်း တာပဲနော်" ဟု ပြောလိုက်သည်။ ပြီးတော့ အယ်လီနာကို ခပ်တင်းတင်း ဖက်ထားလိုက်၏။ အယ်လီနာက ရယ်ပြီး သူ့ရင်ခွင်ထဲမှ ရုန်းထွက်ကာ လက်ဆွဲသေတ္တာကို ပြင်ဆင်သည်။

ထိုနေ့တွင် ဘဏ်စာရင်းမှ နောက်ဆုံးဒေါ်လာကို ထုတ်ယူပြီး နယူးအော်လင်းသို့ အသွားစရိတ် လုပ်ပစ်လိုက်သည်။

နယူးအော်လင်းကို ရောက်တော့ နှစ်ရက်လုံးလုံး စာကြည့်တိုက်တတိုက်တွင် အချိန် ဖြုန်းသည်။ ဝါဂွမ်းမှ ထုတ်လုပ်သည့် ယမ်းဘီလူး အမျိုးမျိုးအကြောင်းကို အသေးစိတ် လေ့လာသည်။ ကြားနေနိုင်ငံများမှ စစ်ဖြစ်နေသည့် နိုင်ငံများသို့

ကုန်စည်တင်ပို့မှု အပြည်ပြည် ဆိုင်ရာ ဥပဒေကို လေ့လာသည်။ လိုအပ်လျှင် နာရီပေါင်းများစွာ ရှင်းလင်းပြောကြားနိုင် လောက်အောင် ဖတ်မှတ်လေ့လာပြီးမှ တိုနယ်လီနှင့် တွေ့ဖို့ ထွက်ခဲ့သည်။ စစ်ကာလအတွင်း ဝါဂွမ်း၏ အနာဂတ်ကို တွက်ပြသည်။ ရောမ ဝါဂွမ်းဂိုဒေါင်ကြီးကို အပေါင်ထား၍ ငွေချေးလို သည်၊ ပေးနိုင်၊ မပေးနိုင် အဖြေတောင်းသည်။

မစ္စတာတိုနယ်လီမှာ လူဖလံကလေး ဖြစ်သည်။ ပါးနပ်စူးရှသည့် မျက်လုံးများက တဖျပ်ဖျပ် အရောင်တောက်နေသည်။ အောင်မြင်မှုအပြုံးကို မကြာခဏ ပြုံးရလွန်း၍ ထင်ကျန် နေသည့် အရေးအကြောင်းများမှာ ပါးပြင်တွင် အထင်းသားပေါ် နေသည်။ သူ့ဖခင် လက်ထက် တွင် အမှည့်လွန်ငှက်ပျောသီးများကို ကောက်ယူ ရောင်းချသည့် အလုပ်ဖြင့် စခဲ့သည်။ သူ့လက်ထက်ကျတော့ သူ့လုပ်ငန်းနှင့် အဆင်ပြေမည့် ပြည်နယ်အစိုးရ ဖွဲ့စည်းနိုင်ရေးအတွက် ပါတီရန်ပုံငွေတွေ သွန်ထည့်ပြီး အာဏာရပါတီကို အိတ်ထဲ ထည့်ထားနိုင်သည့် အဆင့်သို့ ရောက်ခဲ့သည်။ ယခုတော့ မစ္စတာတိုနယ်လီမှာ အလှူအတန်း ရက်ရောသည့် မြို့မျက်နှာဖုံး လူကြီးလူကောင်းတယောက် ဖြစ်နေပြီ။ စီးသည့် ကားမှာ ဒေါ်လာ ၁၂,၀၀၀ တန်။ သို့ရာ တွင် မစ္စတာတိုနယ်လီသည် ကိုယ့်တွက် မကျန်လျှင် တပြားတချပ်မျှ အကုန်အကျ ခံတတ်သူ မဟုတ်ပေ။

"ခုတင်က ပြောတဲ့ လက်နက်ခဲယမ်းမီးကျောက် အကြောင်းကို အသေးစိတ် ပြောပြ ပါဦး မစ္စအယ်လီနာ"

ဒိုးဒိုးဒေါက်ဒေါက် ပြန်ဖြေလိုက်သည်။

"ထုတ်လုပ်ပုံ ထုတ်လုပ်နည်း အသေးစိတ်က ထုတ်လုပ်သူတို့ရဲ့ လျှို့ဝှက်ထားရမယ့် "ကုန်ထုတ်လျှို့ဝှက်"ကိစ္စ ဖြစ်ပါတယ် အန်ကယ်၊ အကြမ်းဖျင်း ပြောရရင်တော့ ဝါရိုင်းကို အီသာနဲ့ အရက်ပြန်မှာစိမ်ပြီး ချည်မျှင်စကလေးတွေကနေ အရည်ဖြစ်အောင် ပထမ လုပ်ရပါ တယ်၊ အီသာနဲ့ အရက်ပြန်က အငွေ့ပြန်ပြီး ထွက်သွားတဲ့အခါမှာ ကော်ရည်ပျစ်ပျစ်တမျိုး ကျန်ခဲ့ပါတယ်၊ အဲဒီအဆင့်မှာ နိုက်ထရိတ်နဲ့ ရောစပ်ရပါတယ်၊ သူ့အဆင့်နဲ့ သူ အပူပေးသွားတဲ့ အခါမှာ ဓာတ်ငွေ့တမျိုးကို ရပါတယ်၊ အဲဒီဓာတ်ငွေ့ကို မီးကူးလိုက်ရင် ပေါက်ကွဲတော့ တာပါပဲ၊ ဓာတုဗေဒပစ္စည်းအဖြစ်နဲ့ ဘာမှ မကျန်တော့ပါဘူး"

မစ္စတာတိုနယ်လီ ခေါင်းညိတ်၏။ အယ်လီနာက ဆက်ရှင်းသည်။

"ဥရောပမှာ နိုက်ထရိတ်တွေ အများကြီး ရှိနေပါတယ်၊ ဒါပေမဲ့ ဝါဂွမ်း မရှိပါဘူး။ ဥရောပနိုင်ငံတွေဟာ အမေရိကန်ရဲ့ ဝါဂွမ်းကို အားထားနေရတာ အန်ကယ်လည်း သိပါတယ်၊ စစ်ဖြစ်စမှာတော့ သူတို့ဆီမှာ

လက်နက်ခဲယမ်းမီးကျောက်တွေ အလုံအလောက် ရှိကြပါတယ်၊ ခုတော့ ကုန်သလောက် ရှိနေပါပြီ၊ ဒါကြောင့် နောက်ထပ် ထုတ်လုပ်ဖို့ သူတို့ အပူတပြင်း လုပ်နေကြပါတယ်။ အဲဒါကို ကျွန်မ သိတာ ကြာပါပြီ၊ ဒါပေမဲ့ အမြောက်ဆန်တွေမှာ သုံးတဲ့ ယမ်းဟာ ဝါဂွမ်းက ထုတ်လုပ်တယ် ဆိုတာ ကျွန်မ မသိခဲ့ဘူးရှင့်၊ အများပြည်သူတွေလည်း မသိကြပါဘူး၊ ဒါပေမဲ့ မကြာခင် သိကြတော့မှာပါ၊ သတင်းစာတွေထဲမှာလည်း ပါလာမှာပါ။ တခုတော့ ရှိပါတယ်၊ အားလုံး သိလောက်တဲ့ အချိန်မှာ ဝါစိုက်ချိန် နှောင်းသွားပါပြီ။ ပြီးတော့ ၁၉၁၅ ခုနှစ်မှာ ဝါလျှော့စိုက်ဖို့လည်း အစိုးရက ကြီးကြပ်လှုံ့ဆော်ထားသေးတယ် မဟုတ် လား၊ ဒါကြောင့် ဝါဂွမ်းဈေး ခေါင်ခိုက်အောင် ပြန်တက်လာမှာ မြေကြီးလက်ခတ် မလွဲပါဘူး။ ခုဆိုရင် အမေရိကန်လက်နက်စက်ရုံတွေမှာ ဥရောပကို ပို့ဖို့ လက်နက်ခဲယမ်းမီးကျောက်တွေ နေ့ရော ညပါ အပူတပြင်း ထုတ်လုပ်နေကြပါပြီ အန်ကယ်”

“ဘယ်နည်းနဲ့ ပို့ကြမှာလဲကွဲ့”

မစ္စတာ တိုနယ်လီက ဖြတ်မေးသည်။

“ဒီက ခဲယမ်းမီးကျောက်တွေ ဥရောပကို ရောက်နေပါပြီ အန်ကယ်၊ အန်ကယ် သတင်းစာ မဖတ်မိဘူး ထင်တယ်၊ စစ်ဖြစ်နေတဲ့ နိုင်ငံတွေကို အမေရိကန် လက်နက်တွေ ပို့နေ တာကို ဥပဒေနဲ့ တားသင့်၊ မတားသင့် ဆိုတဲ့ ပြဿနာ နေ့စဉ်သတင်းစာတွေမှာ ပါနေပါတယ်”

“အင်း... အင်း.. ဖတ်မိတယ် ထင်ပါရဲ့၊ ဥပဒေနဲ့ တားမြစ်တယ် ဆိုရင်ကော”

“အန်ကယ်ရယ်၊ အမေရိကန် ကွန်ဂရက်အကြောင်း သိရက်သားနဲ့၊ အမေရိကန် အမျိုးသား အများစုအတွက် အကျိုးရှိမယ့် အလုပ်ကို ပိတ်ပင်တားမြစ်ပါ့မလား”

မစ္စတာ တိုနယ်လီက ရယ်သည်။

အယ်လီနာက ချက်ကျလက်ကျ ဆက်ရှင်းပြ၏။

“စဉ်းစားရမှာက စစ်ဘယ်လောက်ကြာကြာ ဆက်ဖြစ်နေမှာလဲ ဆိုတဲ့ အချက်ပဲ၊ စစ်စဖြစ်တာ ခုနစ်လပဲ ရှိသေးတယ်၊ နိုင်ငံရေးအကဲခတ်သမားတွေကတော့ နောက် အနည်းဆုံး သုံးနှစ်နဲ့ ဒီစစ် မပြီးနိုင်ဘူးလို့ ခန့်မှန်းကြတယ် အန်ကယ်”

မစ္စတာ တိုနယ်လီက လက်နှစ်ဖက်နှင့် မေးထောက်ရင်း

လက်ချောင်းကလေးများဖြင့် ပါးပြင်ကို တောက်နေသည်။

"မင်းဆီမှာ ဝါဂွမ်း ဘယ်လောက်များများရှိလဲ မစ္စအယ်လီနာ"

"ကိုးရာသုံးဆယ့်နှစ်ထုပ် ရှိပါတယ်"

"ဒီဘေထုပ်တွေပေါ်မှာတော့ ကြွေးမြီကင်းတယ်ပေါ့ ဟုတ်လား"

"ဟုတ်ကဲ့ရှင့်၊ သိုလှောင်စရိတ် ဒေါ်လာ သုံးရာ ပေးဖို့က လွဲပြီး ဘာမှ မရှိပါဘူး"

"ငွေက ဘယ်လောက် လိုချင်တာလဲကွဲ့"

"ဒေါ်လာ သုံးသောင်း လိုချင်ပါတယ် အန်ကယ်"

မစ္စတာတိုနယ်လီက လေတချက် ချွန်လိုက်သည်။

"မစ္စအယ်လီနာ၊ မင်းဟာ အာဂ သတ္တိခဲမကလေးပါလား ဟင်"

"လာမယ့် အောက်တိုဘာမှာ ဒေါ်လာခြောက်သောင်း မတန်ဘူး ဆိုရင် ကျွန်မ လည်ပင်း အဖြတ်ခံမယ်"

"မင်း လည်ပင်းလည်း ကျုပ် မဖြတ်ချင်ပါဘူးကွယ်၊ ကျုပ် လိုချင်တာက အချိန်တန်ရင် ဒေါ်လာသုံးသောင်းနဲ့ အတိုး ရှစ်ရာခိုင်နှုန်း ပြန်ရဖို့ပါပဲ"

"ရှစ်ရာခိုင်နှုန်း ဟုတ်လား၊ မများလွန်းဘူးလား အန်ကယ်"

"ကျုပ်ကလည်း စစ်အခြေအနေကို ချင့်ချိန်ရတာကိုးကွဲ့၊ ဂျာမန်တွေက ပါရီကို ရောက် တော့မယ်၊ ပါရီကျပြီးရင်.. ကဲ... မစ္စအယ်လီနာ၊ မင်း သဘောအတိုင်းပါပဲ၊ အဲဒီနှုန်းနဲ့ ယူနိုင်၊ မယူနိုင် ဆုံးဖြတ်လေ"

"ကျွန်မ ယူပါ့မယ်"

မစ္စတာ တိုနယ်လီက ရက်အနည်းငယ်အတွင်း လိုအပ်သည့် စာရွက်စာတမ်းတွေ အဆင်သင့် လုပ်ထားပါမည်ဟု ကတိပေးလိုက်သည်။ အယ်လီနာက ခံ့ညားစွာ အပြင်ထွက် လာခဲ့၏။ ခပ်တည်တည်နှင့်။ သို့သော် လမ်းပေါ် ရောက်တော့ ကလေးတယောက်လို ပြုံးနေ သည်။ တိုက်ပွဲတပွဲကို အောင်နိုင်ခဲ့ခြင်းအတွက် ပျော်နေခြင်း ဖြစ်၏။ အကျိုးအကြောင်းကို ကက်စတော့ဆီ သံကြိုးရိုက်လိုက်သည်။ စာရွက်စာတမ်းတွေ လက်မှတ်ထိုးဖို့ အမြန်လိုက်လာ

ရန်လည်း မှာလိုက်သည်။ နောက်နေ့တွင် ကက်စတာ ရောက်လာ၏။ မစ္စတာတိုနယ်လီက သွက်လက် ရွှင်ပျလှသည့် ကက်စတာ့ကို သဘောကျနေသည်။ ကက်စတာက ဗြိတိသျှ စစ်သဘော်ကြီး၏ သတင်းမှတဆင့် အဖိုးတန်လှသည့် အချက်အလက်များကို ပို့ပေးသည့် ယောက္ခမကြီးကို ကျိတ်ပြီး ကျေးဇူးတင်နေသည်။ လက်မှတ်ထိုးစရာ စာရွက်စာတမ်းတွေကို တလုံးတပါဒမျှ မဖတ်ဘဲ ဇွတ်ထိုးပစ်လိုက်သည်။ အယ်လီနာက စကားတလုံးချင်းကို စစ်ဆေးလေ့လာပြီး ဖြစ်နေမည်ကို သူ ယုံကြည်ပြီးသား မဟုတ်လား။ နှစ်ယောက်သား ဝက်သစ်ချမြို့င်သို့ ပြန်လာကြ၏။ မနှစ်နွေတုန်းကလို နဖူးကချွေး ခြေမကျအောင် မောင်တထမ်း မယ်တရွက် ကျုံးရုန်းလုပ်ဖို့ ဆုံးဖြတ်ချက် ကိုယ်စီဖြင့်။ ဖြစ်နိုင်လျှင် သည်နှစ် ပိုပြီး အပင်ပန်း ခံကြဦးမည်။

※※※

## (၂)

ဧပြီလတွင် ဝါဂွမ်းပေါက်ဈေးမှာ တပေါင်လျှင် ဆယ်ဆင့်နှုန်း ဖြစ်နေသည်။ နိုင်ငံခြား သို့ တင်ပို့သည့် အရေအတွက်မှာ မနှစ်တုန်းကထက် တက်လာသည်။ ထိုအချိန်တွင် အယ်လီနာ တယောက် ဒုတိယကလေး ကိုယ်ဝန်ရလာသည်။

စိတ်ထဲတွင် ပျော်နေသည်။ ဝန်ထုပ်ဝန်ပိုးတခု တိုးလာသော်လည်း ပြိုကွဲလုလု အခြေ အနေမှ ပြန်လည်ဆန်းသစ်လာသည့် အထိမ်းအမှတ်အဖြစ် ဒုတိယရင်သွေးကလေးကို မွေးချင် နေခြင်း ဖြစ်သည်။ ကက်စတာကို ဖွင့်ပြောလိုက်တော့ သူက ထုံးစံအတိုင်း ပျော်နေသည်။ လုပ်ငန်းပိုင်းမှာ အယ်လီနာ လုပ်အား ကျဆင်းသွားမှာကို သူ လုံးဝ ဂရုမစိုက်။

သို့သော် အယ်လီနာသည် အလွန် ကျန်းမာသန်စွမ်းသည့် မိန်းကလေး ဖြစ်သည်။ အခြားအမျိုးသမီးများလို ကိုယ်ဝန်ဆောင်စတွင် မအီမသာ မဖြစ်။ မူးဝေအော့အန်ခြင်းမျိုး အလျှင်းမရှိ။ ပကတိ အလုပ်သမတယောက်လို အလုပ်နှင့် လက်နှင့် မပြတ် လုပ်လျက်ပင်။ မကြာမီ အလုပ်မလုပ်နိုင်ဘဲ နားရတော့မည်ကို သိနေ၍ လုပ်နိုင်တုန်း တရစပ် လုပ်နေခြင်း ဖြစ်၏။ လင်မယားနှစ်ယောက်လုံး မောရပန်းရမှန်း မသိ။ ပျော်ရွှင်နေကြသည်။ သူတို့ရှေ့မှ အနာဂတ်သည် မျှော်လင့်ချက် ရောင်ခြည်တွေ တဖိတ်ဖိတ်နှင့် မဟုတ်လား။ နှစ်ဦးသဘောတူ ညှိထားကြသည့်အလား အစ်ဇဘယ့် အကြောင်းကို ဘယ်သူမျှ စကား မစကြ။ ဝါရှင်တန်ကို ထွက်သွားသည်ဟု ကလယ်ရာရှာရမီထံမှ ကြားရသည်။ အမေရိကန်နိုင်ငံသားအဖြစ် ခံယူပြီး ဂျာမနီမှ ပစ္စည်းတွေ ပြန်လည်ရရှိရေးအတွက် သွားသည် ဆို၏။ သည်အမျိုးသမီးနှင့် ပတ်သက် ၍ အယ်လီနာ စိတ်မလှုပ်ရှားတော့။ သို့သော် ခုနေ သံတမန်တယောက်နှင့် လက်ထပ်သွားလျှင် ကောင်းမှာပဲဟုတော့ တွေးနေမိ၏။

စင်စစ် အစ်ဇဘယ့်အကြောင်းကို တွေးဖို့ အင်အားကလေး အနည်းငယ်မျှ စုဆောင်း မိပြီ ဖြစ်၏။ ဝါခင်းအလုပ်တွေကို ညွှန်ကြားရင်း၊ နေ့စဉ် စာရင်းတွေကို ရေးသွင်းရင်း၊ စစ်ဆေး ရင်း အခါအားလျော်စွာ ပါတီပွဲများကိုလည်း ကျင်းပပေးသည်။ ကက်စတာတယောက် ဖျော်ဖြေမှု မရှိဘဲ ရက်ရှည်လများ အလုပ်တွင် စိတ်ဝင်စားနိုင်မည် မဟုတ်ကြောင်း အယ်လီနာ သိထားသည်လေ။ ဝါဂွမ်းဈေးသည် ပက်ကျိတက်သလို နေ့ကွေးလွန်းစွာ တက်နေ၏။ ဒသမ တလုံးချင်း တက်နေ၏။ နွေလယ်လောက်တွင် တပေါင်လျှင် ၁၁ ဆင့်ဈေးသို့ ရောက်

လာသည်။

ဥရောပစစ်ပွဲက ပြီးဆုံးဖို့ အလားအလာ လုံးဝ မမြင်သေး။ စစ်ရေးအကဲခတ်သမား များက အရှေ့ဥရောပမှ ရုရှားတို့၏ ထိုးဖောက်မှုရော ပြင်သစ်ရှေ့တန်းစစ်မြေပြင်မှ အင်္ဂလိပ် နှင့် ပြင်သစ် ပူးပေါင်းစစ်ဆင်ရေးပါ လက်နက်ခဲယမ်းမီးကျောက် အင်အားနည်းပါးမှုကြောင့် အရှုံးကြီး ရှုံးကြလိမ့်မည်ဟု ဟောကိန်းထုတ်ထား၏။ သို့ရာတွင် မဟာမိတ်စစ်တပ်များက လာမည့် ဆောင်းဦးပေါက်လောက်တွင် သူတို့လိုသမျှ လက်နက်ပစ္စည်းတွေ အလုံအလောက် ရရှိလိမ့်မည်ဟု မျှော်လင့်နေကြ၏။

ဂျာမနီနှင့် ဩစတြီးယားတို့ လက်တွင်မူ လက်နက်ခဲယမ်းမီးကျောက် အင်အားက မယုဉ်သာအောင် များပြားလှသည်။ အလျှံပယ် သုံးစွဲနေ၏။ မဟာမိတ်တို့က ဂျာမနီကို ဝင်သည့် ဝါဂွမ်းလမ်းကြောင်းကို ပိတ်ဆို့ဖို့ ကြိုးစား၏။

သို့သော် အမေရိကန်က ဥရောပကြားနေနိုင်ငံများသို့ ဝါဂွမ်းတွေ တွန်းပို့နေသည်။ မြောက်ဥရောပနိုင်ငံများသည် အမေရိကန်မှ ရသမျှ ဝါဂွမ်းကို အလုအယက် ဝယ်နေ၏။ ဆွီဒင် က မနှစ်ကထက် ၂၅ ဆ တိုးဝယ်၏။ ဟော်လန်က ၁၃ ဆ။ အယ်လီနာ သတင်းစာဖတ်ရင်း ရယ်နေမိသည်။ သည်နိုင်ငံတွေ ဂျာမနီကို ဘယ်ဈေးနဲ့များ ပြန်သွင်းနေကြပါလိမ့်။

သတင်းစာကို နောက်တမျက်နှာ လှန်လိုက်သည်။ ကော်နယ်လီယာကလေးက အရုပ် တွေနှင့် ကစားနေ၏။ ဒစ်စီက ကလေး၏ ဘောင်းဘီအပြဲတွေကို ထိုင်ချုပ်လျက်။ ကက်စတာ က အိမ်ထဲတွင် ကြက်ဥနှင့် ဖောက်သည့် အရက်ပုလင်းတွေကို အအေးခံရင်း အလုပ်ရှုပ်နေ၏။ သည်နေ့ည အိမ်ကို ဧည့်သည်တွေ လာကြမည်လေ။ သည်နှစ်တော့ ဝက်သစ်ချမြိုင် ဝါခင်းမှ ဘေထုပ် တထောင်ပျော့ပျော့လောက် ရနိုင်လိမ့်မည် ထင်၏။ ဝါပင်တွေ၏ အခြေအနေက သိပ်ကောင်းနေသည်။ လာမည့် နှစ်ဆိုလျှင် နှစ်လုံးပေါက် အယ်လီနာ ကြီးကြပ်ကွပ်ကဲနိုင်မည်။ တထောင်ကို အများကြီး ကျော်နိုင်စရာ အကြောင်း ရှိ၏။

အင်္ဂလန်ပြည့်ရှင် ဂျော့ဘုရင်ဖြစ်ဖြစ်၊ ရုရှားကေရာဇ် ဇာဘုရင်ဖြစ်ဖြစ် တယောက် ယောက်က မုတ်ဆိတ်မွေးတွေ ရိတ်ပစ်လိုက်လျှင် ကောင်းမည်ဟု အယ်လီနာ တွေးနေ၏။ သည်မင်းနှစ်ပါးက ရုပ်ချင်းတူလွန်း၍ မကြာမကြာ မှားတတ်သည် မဟုတ်လား။ သတင်းစာ တနေရာသို့ မျက်စိရောက်သွားပြန်၏။ ဩစတြီးယားပြည်လုပ် စကိုဒါ ၄၂ လက်နက် အကြောင်းကို ဖတ်ကြည့်သည်။ ပေါင် ၂,၈၀၀ လေးသည့် ဗုံးဆန်ကို ပစ်လွှတ်နိုင်သည် တဲ့။ ဗုံးကျသည့် နေရာတွင် ရိုးရိုးမြေကြီးဆိုလျှင် ပေ ၂၀ ခန့် တွင်း ဖြစ်သွားသည်။ ကိုက် ၁၅၀ ပတ်ဝန်းကျင်တွင် ရှိနေသည့် သက်ရှိသတ္တဝါအားလုံး၏ ဇီဝိန်ကို ခြွေနိုင်သည်။ ဗုံးဆန်၏

ခတ်ငွေ့ပေါက်ကွဲရှိန်သည် ပတ်ဝန်းကျင် တိုက်တာအိမ်ခြေများ၏ အမိုးတွေ၊ အကာတွေကို ပြိုကျပျက်စီးစေနိုင်သည်။ ဗုံးဆန်သင့်သည့် လူတွေဆိုလျှင် အပိုင်းပိုင်း အစစ လွင့်စဉ်သွားနိုင် သည်။ သည်ဗုံးဒဏ်ကြောင့် သေဆုံးကြသည့် စစ်သားများကို အလောင်းရှာမရ၍ ပျောက်ဆုံး နေသူများ စာရင်း၌သာ ဖော်ပြထားရသည်။

အယ်လီနာ ကျောထဲ စိမ့်သွား၏။ တံတွေးတချက် မျိုချလိုက်သည်။ ရှေ့ကို ဆက် မဖတ်ချင်တော့။ တပိုင်းတစနှင့် ရပ်ထားလိုက်ပြီး နောက်သတင်းတပုဒ်ကို ဆက်ဖတ် သည်။ အမေရိကန် ဝါဂွမ်းသမားများ၏ အနာဂတ်ကို သတင်းကောင်းပေးပြီး ဝမ်းသာအားရ ရေးထားသည့် သတင်း။ "ဂျာမန်နှင့် ဩစတြီးယား စစ်တပ်ကြီးများ ပစ်ခတ်နေသည့် ခဲယမ်း မီးကျောက်များတွင် တနေ့လျှင် ဝါဂွမ်းတန်ချိန် ထောင်နှင့်ချီ၍ ကုန်နေကြောင်း၊ မဟာမိတ် တပ်များကလည်း အလားတူ လက်နက်ပစ္စည်းများကို သုံးပြီး တိုက်ခိုက်နေကြကြောင်း၊ စက်သေနတ်တလက်အတွက် နေ့စဉ် ဝါဂွမ်းဘေထုပ်တဝက်ခန့် လိုအပ်လျက် ရှိကြောင်း . . .။

သတင်းစာကို လက်လွှတ်လိုက်သည်။ ပေါင်ပေါ်မှတဆင့် ကြမ်းပြင်ပေါ်သို့ လျှောကျ သွား၏။ ကော်နယ်လီယာ၏ ခေါင်းပေါ်မှကျော်ပြီး ဇီဇဝါနှင့် ခေါင်ရန်းပင်တွေကို လှမ်းကြည့် နေသည်။ ပြီးတော့ ဟိုမှာဘက်မှ ပြောင်းခင်းဆီကို ငေးနေပြန်၏။

နားမလည်နိုင်အောင် ဖြစ်ရသည်။ မယုံကြည်နိုင်အောင် ဖြစ်ရသည်။ သည်လှပသည့် ရှုခင်းများမှ အသီး အပွင့်များသည် မည်သို့ မည်ပုံ လူသတ်လက်နက်တွေ ဖြစ်ကုန်ကြပါလိမ့်။ သည်ကိစ္စကို ဘယ်တုန်းကမျှ အလေးအနက် မစဉ်းစားမိခဲ့။

အိမ်အတွင်းပိုင်းသို့ ဝင်လာခဲ့သည်။ ခန်းမထဲတွင် ကက်စတာနှင့် ဆုံသည်။ သူက လက်ထဲတွင် အရက်ခွက်ကို ကိုင်လျက်။

"မောင်က အချစ်ကို လိုက်ရှာနေတာ၊ နည်းနည်း မြည်းစမ်းကြည့်ပါဦး၊ သိပ်များ အချိုရဲသွားသလားလို့"

သူ ပြောသည့်အတိုင်း မြည်းကြည့်သည်။

"ဟုတ်တယ် မောင်၊ ချိုလွန်းတယ်၊ ဒါပေမဲ့ အယ်လီနာ ပြောတာကို သိပ်အတည် မယူနဲ့လေ၊ မြည်းမှ မမြည်း တတ်တာ၊ မောင့်ကို မေးစရာရှိလို့"

"မေးစေဗျား၊ အလို... ဘာများ အလိုတော် မကျလို့ပါလိမ့်၊ မျက်နှာထားက တည်တည် ကြီး"

ပြတင်းပေါက် နှစ်ပေါက်ကြားမှ ဆိုဖာတလုံးတွင် ဝင်ထိုင်လိုက်ပြီး-"စစ်ပွဲက လက်နက်ကြီးတွေ အကြောင်း အယ်လီနာ ခုပဲ ဖတ်လာတယ် မောင်၊ စိတ်ထဲ မှာ တမျိုးကြီးဖြစ်နေတယ်၊ အဲဒီကိစ္စ မောင် အလေးအနက် စဉ်းစားမိလားဟင်၊ အယ်လီနာ တို့ရဲ့ ခေးမဦးချ သမားရိုးကျအလုပ်ဟာ ခုတော့ လူသတ်လက်နက် ထုတ်လုပ်မှုအတွက် ကုန်ကြမ်း ဖြစ်နေပြီ"

ကက်စတာက မဲ့ပြုံးကလေး တချက် ပြုံး၏။ ပြီးတော့ ရေခဲချွေးတွေ သီးနေသည့် အရက်ခွက် နံဘေးတွင် အမှတ်ကလေးတခု လက်ညှိုးနှင့် ခြစ်လိုက်သည်။

"အင်း... မောင် တွေးကြည့်ဖူးပါတယ်"

"မောင် အယ်လီနာ့ကို အဲဒီအကြောင်း တခါမှ မပြောဖူးဘူးနော်"

"မောင့်ကို ခေတ်နောက်ကျတယ် ပြောချင်ပြော၊ ကိုယ်ဝန်ရှိစ အဲဒီအနိဋ္ဌာရုံတွေ အချစ် ကို မောင် မပြောချင်ဘူး"

"သတင်းစာ ဖတ်ပြီးတော့ မတင်မကျကြီး ဖြစ်နေတယ် မောင်၊ လူသတ်လက်နက် တွေအတွက် အယ်လီနာတို့ ကိုယ်ထိ လက်ရောက် အားပေးနေရာ ရောက်နေပြီလားလို့"

"ဘာဆိုင်လဲကွယ်၊ မောင်တို့ ဖြစ်စေချင်လို့ စစ်ဖြစ်နေတာမှ မဟုတ်တာ၊ တို့တာဝန် ဘာမှ မရှိပါဘူး"

ကက်စတာက အေးအေးဆေးဆေး လေသံဖြင့် ဆက်ပြောသည်။

"စပြီး တိုက်ကြကတည်းက သူတို့ ဘာလိုချင်လို့ တိုက်ကြတာလဲ၊ ကိုယ့်လက်ဖက်ရည် ပန်းကန်ထဲကို ပင့်ကူပြုတ်ကျမှာ စိုးရင် အစကတည်းက ပျော်ပွဲစား မထွက်နဲ့ပေါ့"

"အေး... ဟုတ်ပါပြီ၊ ဘယ်သူမှ ဝင်တားဆီးနိုင်တဲ့ ကိစ္စမှ မဟုတ်ဘဲနော်။ ဒါပေမဲ့ မောင်ရယ်၊ တကယ်လို့ အယ်လီနာတို့ ဝါဂွမ်းအစား စားပင်လိုဟာမျိုး စိုက်ခဲ့ရင် ပိုပြီး လိပ်ပြာ မသန့်ဘူးလား"

ကက်စတာက ခေါင်းယမ်းလိုက်သည်။

“ဘာဖြစ်လို့-”

အယ်လီနာက ထပ်မေးသည်။

ကက်စတာက ပြတင်းပေါက်ဆီကို ထသွားပြီး နေရောင်စူးနေသည့်အပေါက်မှ ခန်းဆီး ကို ဆွဲစေ့လိုက်သည်။ ပြန်လှည့် ပြီး ဆိုဖာတလုံး၏ နောက်မှီတွင် လက်ထောက် ရပ်သည်။

စကားလုံး ရှာနေ၏။ ဓမ္မဓိဋ္ဌာန်ကျကျ ပြောရမည့် အကြောင်းအရာအတွက် ရှင်းရှင်းလင်းလင်း ရှိစေချင်သည်။

“ဒီလိုလေ၊ မောင်တို့က ဒီလုပ်ငန်းနဲ့ အသက်မွေးလာကြတယ်၊ အသက်ရှင် ရပ်တည်မှု အတွက် လုပ်ခဲ့ကြရတာ မဟုတ်လား။ စစ်ဖြစ်လာပြီ ဆိုမှတော့ ဘာစိုက်စိုက် မထူးဘူး၊ စားစရာ ဖြစ်ဖြစ်၊ အထည်အဝတ် ဖြစ်ဖြစ်၊ ခဲယမ်းမီးကျောက်ဖြစ်ဖြစ် ဘာမှ မထူးဘူး။ အဲဒီ သုံးမျိုးလုံး မပါဘဲနဲ့ ဘယ်စစ်တပ်မှ စစ်တိုက်လို့ မရဘူး”

အယ်လီနာ ခေါင်းညိတ်လိုက်ရသည်။

“မောင်တို့ ရောင်းတာက ဘက်လိုက်ပြီး ရောင်းတာမှ မဟုတ်ဘဲ၊ နှစ်ဖက်လုံးကို ရောင်းနေတာပဲ။ ဘယ်သူက မှန်တယ်၊ ဘယ်သူက မှားတယ် ဆိုပြီး ဘက်ရွေးလို့ ရမလား။ မောင် ဖတ်ခဲ့တာ ကြာပြီ၊ သူတို့ စကားစစ်ထိုးနေကြတာတွေဟာ ကြာတော့ စိတ်ကုန်စရာ ကောင်းလာပြီ။ အမိနိုင်ငံတော်နဲ့ အလံတော်အတွက် တဲ့၊ သူ့ကျွန်မခံလိုတဲ့ အတွက်တဲ့၊ နှစ်ဖက်လုံးက အော်နေကြတာ။ ပြီးတော့ စစ်ရဲ့ အနိဋ္ဌာရုံအကြောင်းကိုလည်း ပြောလိုက်ကြတာ တခါ တည်း မိုးမွှန်နေတာပဲ၊ ဒါပေမဲ့ စစ်နိုင်ရင် ဘယ်လို အကျိုးအမြတ်ရမယ် ဆိုတာတော့ ဘယ်ဘက် ကမှ မပြောကြဘူး။ လက်နက်ခဲယမ်းမီးကျောက်ကိစ္စကို မောင် ရှင်းပြပါ့မယ်၊ ယမ်းမှုန့်ရယ်လို့ မပေါ်ခင်ကတည်းက စစ်တွေ အများကြီး ဖြစ်ခဲ့ဖူးတာပဲ။ လူသတ်တဲ့ နေရာမှာ ဘယ်နည်း က ပိုပြီး ကောင်းပါတယ်၊ မှန်ပါတယ် ဆိုတာမျိုး မရှိပါဘူး၊ လူသတ်တယ် ဆိုမှတော့ သေနတ် နဲ့ ပစ်သတ်သတ်၊ တင်းပုတ်နဲ့ ထုသတ်သတ် အတူတူပဲ မဟုတ်လား။ တိုက်ပိတ်၊ အစာငတ်ခံ ခိုင်းပြီး သတ်လည်း ဘာထူးလဲ။ ဂျာမန်တွေ ဗုံးကြဲလို့ သေကြ ကျေကြတဲ့ မြို့သူမြို့သားတွေ အကြောင်းကြားပြီး တို့တတွေ အထိတ်တလန့် ဖြစ်နေကြတယ်။ အင်္ဂလိပ်က ရိက္ခာလမ်း ကြောင်းတွေ ပိတ်ဆို့ထားလို့ ငတ်ပြတ် သေကြကျေကြတဲ့ ကလေးငယ်တွေလည်း မနည်းတော့ ပါဘူး အယ်လီနာရယ်”

ကက်စတာက ပခုံးတွန့်ပြီး အဆုံးသတ်လိုက်သည်။

အယ်လီနာက အခန်းထောင့်တနေရာကို မျက်မှောင်ကြုတ်ပြီး ကြည့်ရင်း-

"အင်း... ဝါမှ မစိုက်ရင်လည်း ဝက်သစ်ချမြိုင်ကို အဆုံးခံရမှာက ရှိသေးတာကိုးနော်"

"ဒါပေါ့ ဒါပေါ့၊ ဝက်သစ်ချမြိုင် ယာတောကြီး သူများလက်ထဲ ရောက်သွားရင်လည်း အဲဒီလူက ဝါပဲ ဆက်စိုက်မှာပဲ၊ ဘာမှ ရှည်ရှည်ဝေးဝေး တွေးနေမှာ မဟုတ်ဘူး။ တို့ လိပ်ပြာ သန့်နေရင် ပြီးတာပဲ၊ ဘယ်သူတွေမှ သေစေလိုတဲ့ ဆန္ဒ မောင်တို့မှာ မရှိဘူး။ ဒါကြောင့် ဝါကို ထွက်နိုင်သမျှ ထွက်အောင် စိုက်ရမယ်၊ ဝါဈေး တက်သည်ထက် တက်နေတာကိုလည်း ကျေးဇူးတင်ရမယ်"

အယ်လီနာက ကက်စတာကို လှောင်ပြုံး ပြုံး၍ မေးလိုက်သည်။

"ဘယ်သူ့ကို ကျေးဇူးတင်ရမှာလဲ"

"ဩော်.. အချစ်ကလည်းကွယ်၊ ဘုရားသခင် သိပါတယ်"

※※※

# (၃)

သည်နှစ် စုစုပေါင်း ရရှိသည့် ဝါဂွမ်းဘေထုပ်မှာ ၈၆၄ ထုပ် ဖြစ်သည်။ အောက်တိုဘာလ တွင် ပေါက်ဈေးမှာ တပေါင် လျှင် ၁၂ ဆင့် ဖြစ်၏။ မနှစ်က ဝါဂွမ်းနှင့် သည်နှစ် ဘေထုပ် ပေါင်းပြီး ပေါက်ဈေးနှင့် တန်ဖိုးသင့်လိုက်လျှင် ဒေါ်လာ တသိန်းဖိုး စုဆောင်းမိနေပြီ။ အယ်လီနာ က နေ့စဉ်ရက်ဆက် စာရင်းစာအုပ်ကြီးတွေနှင့် နပန်းလုံးနေ၏။ နောက်ဆုံးတွင် တချို့ တဝက်ကို မရောင်းသေးဘဲ ဆွဲထားဦးမည်ဟု ကြေညာလိုက်သည်။

"မစ္စတာတိုနယ်လီကို ပေးနိုင်ရုံနဲ့ ဘဏ်ကို နှစ်သောင်းဆပ်ဖို့ ထုတ်ရောင်းပြီး ကျန်တာ ကို ၁၉၁၆ ခုနှစ် ဈေးအတွက် ဆက်စောင့်မယ်၊ စစ်က မပြီးနိုင်သေးပါဘူးနော် မောင်ရယ်"

ကက်စတာက သဘောတူသည်။ ပြီးတော့ တဆက်တည်း ပြောသည်။

"အင်း... မောင်လည်း အဝတ်အစားကလေး ဘာလေး ချုပ်ဦးမှ"

"ဟုတ်တာပေါ့ မောင်ရဲ့၊ ချုပ်ရမှာပေါ့၊ အယ်လီနာလည်း မွေးဖွားပြီးလို့ ကိုယ်ရေ စစ်တာနဲ့ လူနဲ့ သူနဲ့တူအောင် ပြန်ဝတ်ရမယ်။ ဇာနားကွပ်အင်္ကျီ လှလှကလေးရယ်၊ သားရေ ဖြောင် ဖိနပ်တရန်ရယ် ဝယ်ရမယ်၊ ဖိနပ်ကြိုးထိုးတဲ့ အနားက အဖြူရောင်၊ ပိုးကြိုးက အနက် ရောင်ယူမယ်။ ပြီးတော့ ခုခေတ်စားနေတဲ့ စစ်သဘော်ာရောင် ဝတ်စုံတစုံလည်း ဝယ်ရမယ်၊ ဦးထုပ်က ငှက်မွေးအရှည်ကြီးနဲ့။ တော်တော့လို့ ပြောလေ မောင်ရဲ့၊ ကိုယ့်မိန်းမ ကိုယ်ကြည့်ပြီး ရယ်ချင်နေပြီလား ဟင်"

"ပြောပါဦးကွယ်၊ မောင့်မိန်းမ ဘယ်လောက် အဝတ်ဆင်းရဲနေတယ် ဆိုတာ မောင် အသိဆုံးပေါ့၊ အသစ်မဝယ်ရတာ ဘယ်လောက် ကြာပြီလဲဟင်"

"မောင် မမှတ်မိဘူးလား၊ ပြဲနေတဲ့ စကတ်အနက်ဟာ နောက်ဆုံး ဝယ်တာပေါ့။ ဩစတြီးယားမင်းသားကြီး အသတ်ခံရပြီး မကြာခင် ဝယ်တာလေ"

ကက်စတာက အယ်လီနာကို ရင်ခွင်ထဲ ဆွဲယူပြီး နမ်းလိုက်သည်။

ဇန်နဝါရီလထဲတွင် အယ်လီနာ သားကလေး မွေးသည်။ ကက်စတာက စိတ်ကူးတရ သားငယ်ကို "ဖီးလစ်လန်း" ဟု နာမည်မှည့်ဖို့ တိုက်တွန်းသည်။

ညှော်ခန်းရှိ ပုံကြီးထဲမှ ဆံပင်တုနှင့် ဝက်သစ်ချမြိုင်ကို တည်ထောင်ခဲ့သည့် ကက်စတာတို့ အဘေး ဖီးလစ်လန်း။

ကက်စတာက ကော်နယ်လီယာကို ခေါ်လာပြီး သူ့မောင်ကလေးကို ပြသည်။ ကော်နယ် လီယာက စိတ်ဝင်တစား ကြည့်ပြီး-

"အရုပ်ကလေးက အတက် ရှိတယ်နော်" ဟု မှတ်ချက်ချ၏။ ကော်နယ်လီယာ ကလေးက "တ" အက္ခရာနှင့် "သ" အက္ခရာကို ကွဲပြားအောင် မပြောတတ်သေး။

ကက်စတာက ပြုံးပြီး သမီးကလေး၏ ဆံပင်ကောက်ကောက် ကွေးကွေးကလေး တွေကို လက်ညှိုးဖြင့် လိုက်တို့နေသည်။ ဖအေ ထွက်သွားတော့ ကော်နယ်လီယာ နောက်မှ ကောက်ကောက်ပါအောင် လိုက်သွားသည်။ အယ်လီနာက ပုခက်တွင်းမှ သားကလေးကို ငုံ့ကြည့်လိုက်၏။ ပန်းနုရောင် ပြေးနေသည့် သေးသေးကွေးကွေးကလေး။ ရင်ထဲတွင် မိခင် မေတ္တာ အကြည်ဓာတ်ဖြင့် ဆွတ်ပျံ့အေးမြသွားသည်။

အိပ်ပျော်သွားသည်။ ကက်စတာက ပါးချင်းလာကပ်သဖြင့် နိုးလာ၏။ နောက်ဆုံး သတင်းကို လာပြောခြင်း ဖြစ်သည်။ ဂျာမန်ရေငုပ်သင်္ဘောတွေက ကုန်တင်သင်္ဘောတွေကို တိုက်ခိုက်သည့် သတင်းကြောင့် ကုန်သည်ကြီးများက ထိတ်လန့်နေကြသော်လည်း ဝါဂွမ်း ဈေးမှာ ၁၂ ဆင့်ခွဲ ဖြစ်နေပြီ ဆို၏။

အယ်လီနာက မျက်လုံးဖွင့်ကြည့်ပြီး မေးသည်။

"မဟာမိတ်တပ်တွေ"ဒါဒင်နေး" ကို ဖြတ်သွားပြီလား"

"ဟင့်အင်း . . . မဖြတ်နိုင်သေးဘူး"

"ဂျာမန်တွေကော ပါရီနား ရောက်ပြီလား"

"ဟင့်အင်း . . . မရောက်သေးဘူး"

"ဆောင်းဦးပေါက်လောက်မှာ ဝါဂွမ်းဈေး ဆယ့်ငါးဆင့်အထိ တက်လာလိမ့်မယ် မောင်၊ စိတ်သာ ချနေ"

※※※

၁၉၁၆ ခုနှစ် ဝါပွင့်ချိန်တွင် တပေါင်လျှင် ၁၄ ဆင့် ဈေးပေါက်နေပြီ။ သည်နှစ်နွေဦးပေါက် ဝါဆွတ်ချိန်တွင် ဝက်သစ်ချမြိုင် ဝါခင်းမှ ဘေထုပ်ပေါင်း ၁,၀၃၂ ထုပ် ရရှိလိုက်သည်။ ဝက်သစ်ချမြိုင်မှ ဝါထုတ်ရောင်းလေ့ရှိသည့် အောက်တိုဘာလတွင် တပေါင် လျှင် ၁၆ ဆင့်ဈေး ဖြစ်နေပြီ။

ဘဏ်နှင့် စာရင်းရှင်းနိုင်လောက်သည့် အရေအတွက်ကို ရောင်းပြီး ကျန်သည့် ဝါထုပ် တွေကို အယ်လီနာ ချီတုံချတုံ ဖြစ်နေသည်။

“အယ်လီနာတော့ သမ္မတ ရွေးကောက်ပွဲပြီးတဲ့အထိ ထားချင်သေးတယ် မောင်ရယ်” ကက်စတာကို အယ်လီနာက တောင်းတောင်းပန်ပန် ပြောသည်။ စင်စစ် အယ်လီနာ က သက်သက် အချိန်ဆွဲထားခြင်း ဖြစ်၏။ ကက်စတာ အလုပ်လုပ်ပုံ သိပ်ပြီး အားမရ။ အခြေ အနေကောင်းတုန်း ခါးတောင်းကျိုက် မဖြုတ်စတမ်း ကုန်းကျုံး လုပ်ရမည့်အစား ကက်စတာက ခပ်မှန်မှန်ပင် စခန်းသွားနေ၏။ သည်တော့ ကိုယ်တိုင် အလုပ်ခွင် ပြန်ဝင်ဖို့ အယ်လီနာ စိတ်သန်လာ၏။ ဖီးလစ်ကလေးကို နို့တိုက်ခဲ့သည်မှာ ၆ လ ပြည့်ခဲ့ပြီ။ ဝက်သစ်ချမြိုင်သည် ကြပ်ကြပ်မတ်မတ် လုပ်လျှင် ဘေထုပ် ၂,၀၀၀ အထိ ထွက်နိုင်ရမည်ဟု အယ်လီနာက ယုံကြည် ထား၏။ သည့်အတွက် တတ်နိုင်သမျှ မြန်မြန် အလုပ်ပြန်ဆင်းချင်နေခြင်း ဖြစ်၏။

အယ်လီနာ့ တသက်တွင် ၁၃ နှစ်သမီးအရွယ်က ဝက်သက်ပေါက်ချိန်နှင့် ကလေး မျက်နှာမြင်ချိန်က လွဲပြီး ဘယ်တုန်းကမှ အိပ်ရာထဲတွင် မနေဖူးခဲ့။ မိမိ၏ ခန္ဓာကိုယ် ကြံ့ခိုင်မှု ကိုလည်း အယ်လီနာက ယုံကြည်ထားသူ ဖြစ်သည်။ ဘယ်လောက်ပင်ပန်းပင်ပန်း မမှုခဲ့။ သည်တသားမွေးပြီးရင် အလျှင်အခြေအနေအတိုင်း ပြန်ဖြစ်ပါမည်လားဟု စိုးရိမ်ထိတ်လန့် နေ၏။

ကက်စတာက ဖွဲ့ရှိလှသူ မဟုတ်။ ပင်ပန်းလာပြီ ဆိုလျှင် ဣန္ဒြေပင် မဆောင်နိုင်ဘဲ တန်းအိပ်တတ်၏။ အလုပ်ခွင်ကို ငြီးငွေ့ပြီ ဆိုလျှင်လည်း အပေါင်းအသင်းတွေနှင့် ဆုံလိုက် ရမှ။ ငွေကလေး ပြန်ရှင်လာပြီ ဆိုသည်နှင့် ကားသစ်တစီး ဝယ်လိုက်၏။ အရက်ကောင်တာမှ ဗီရိုထဲသို့ အရက်ပုလင်းများ ပြန်ဖြည့်၏။ ထုံးစံအတိုင်း နောင်ခါလာ နောင်ခါဈေး သဘောထား လာပြန်၏။ အယ်လီနာ ကလေးမျက်နှာမြင်ပြီး နို့တိုက်မွေးမြူနေရသဖြင့် သူနှင့် ဒိုးတူပေါင်ဖက် လိုက်မလုပ်နိုင်သည့်အခါ သူတယောက်တည်း ပေါ့ပြက်ပြက် ဖြစ်လာပြန်သည်။

ပင်ပန်း လွန်းသည့် သည်အလုပ်ကို စိတ်ကုန်စပြုလာသည်။ တစုံ တခုသော ပြောင်းလဲမှုမျိုး ဖြစ်စေ ချင်လာ၏။ မိုးလင်းမှ နေဝင်ထိ အလုပ်လုပ်ရသည့် နွေရက်တရက်တွင် ကက်စတာက စစ်တပ်ဝင်ပြီး အမှုထမ်းဖို့ အလေးအနက် ပြောဖူးသည်။

အယ်လီနာက ကလေးနှစ်ကောင်နှင့် သည်လုပ်ငန်းကြီးတခုလုံး သူနှင့် ပစ်ထားခဲ့ တော့မှာလားဟု အထိတ်တလန့် ကန့်ကွက်သဖြင့် သူ့ရည်ရွယ်ချက် အကောင်အထည် မပေါ် ခြင်း ဖြစ်သည်။ နောက်ပိုင်းတွင် အယ်လီနာ သူ့ကို အကဲခတ်သည်။ စစ်သားစုဆောင်းရေးစခန်း ဓာတ်ပုံတွေ မြင်လျှင် ငေးကြည့်ပြီး ကျောင်းပိတ်ရက်တွင် ကျောင်းတက်နေရသည့် ကျောင်းသား ကလေးတယောက်လို စိတ်ပျက်လက်ပျက် ဖြစ်နေတတ်သည်။

သည်အကြောင်းကို ပြန်တွေးလျှင် အယ်လီနာ သက်ပြင်းချမိတတ်၏။ ကက်စတာ သည် ဗီဇကို မဖျောက်နိုင်သူပါတကား။ ကက်စတာကို လုံးဝပြောင်းလဲသွားအောင် ဘယ်လိုမျှ မတတ်နိုင်။ သူသည် ထက်မြက်၏။ အကြင်နာတရား ရှိ၏။ လူချစ်လူခင် ပေါ၏။ သို့သော် သူ့တွင် တခု လိုနေသည်။ ဝီရိယနှင့် လုံ့လ မရှိခြင်း ဖြစ်၏။

သူ့မှာ လိုအပ်နေသည်များက အယ်လီနာတွင် အလုံအလောက် ရှိ၏။ နောက်ဆုံးတော့ အယ်လီနာက မိမိမှာရှိသည့် လုံ့လ ဝီရိယနှင့် အင်အားသည် သူတို့လင်မယား နှစ်ယောက်လုံး အတွက် လုံလောက်သည်ဟု ယူဆထားလိုက်ရတော့၏။ အခြား အခြားသော ဇနီးသည်များ၏ လင်သားများနှင့် ကက်စတာကို ယှဉ်ကြည့်မိသည့်အခါတွင်မူ မိမိဘဝကို မိမိ ကျေနပ်ပျော်ရွှင် ရပြန်သည်။ ကက်စတာတွင် မည်သည့် ချွတ်ယွင်းချက်မျိုးတွေ ရှိနေစေကာမူ မြတ်နိုးစရာ အကောင်းဆုံး အရည်အချင်းနှစ်ခု ရှိ၏။

ကက်စတာသည် ဘယ်တော့မျှ ငြီးငွေ့စရာကောင်းသည့် လင်ယောကျာ်းမျိုး မဟုတ်။ နောက်တချက်မှာ ကက်စတာသည် ဇနီးမယားအပေါ် ဘယ်တော့မျှ အချစ်မလျော့။ သူ မြတ်နိုးမဆုံး ရှိနေကြောင်းကိုလည်း ဇနီးမယားအား ဘယ်တော့မျှ သံသယရှိအောင် မပြု။ အယ်လီနာကို ဘယ်ရွေ့ဘယ်မျှ ချစ်ကြောင်းကိုလည်း မကြာခဏ ပြောလေ့ရှိ၏။ မြို့ကို အစ်ဇဘယ် ပြန်ရောက်လာတော့ ပို၍ အလေးအနက်ထားကာ ပြောတတ်၏။

တနေ့တွင် ကားသစ်ကို လျှောက်မောင်းကြရင်း အစ်ဇဘယ်ကို လှမ်းမြင်လိုက်၍ အယ်လီနာက သူ မြို့ကို ပြန်ရောက်နေကြောင်း သိလိုက်ခြင်း ဖြစ်သည်။ ဝိုင်အိုလက်နှင့် အစ်ဇဘယ်တို့နှစ်ယောက် သမ္မတဝီလ်ဆင်ပုံကြီး ချိတ်ထားသည့် ရောမလမ်းဘေး ဆိုင်းဘုတ် ကြီး၏ အရိပ်တွင် ရပ်နေကြခြင်း

ဖြစ်၏။ ဆိုင်းဘုတ်ကြီး၏ အောက်တွင် "ကျွန်ုပ်တို့ စစ်ထဲ မပါအောင် သူက ကာကွယ်ပေးနေသည်" ဟူသည့် ကြွေးကြော်သံ စာတန်းကြီး ရေးထားသည်။

"သူ ဒီပြန်ရောက်နေတာ အယ်လီနာ မသိဘူး"

အယ်လီနာက စကားစလိုက်သည်။

"ကြာပြီပဲ သူ ပြန်ရောက်နေတာ၊ ဒါပေမဲ့ မောင်တွေ့တာ ဒါ ပထမဆုံးအကြိမ်ပါ"

ဝိုင်အိုလက်က လှမ်းပြီး လက်ပြသည်။ အစ်ဇဘယ်ကတော့ သူတို့ကို မမြင်တာလား။ မမြင်ချင်ယောင်ဆောင်တာလား မသိ၊ ငဲ့မကြည့်။ အယ်လီနာက ဖိနပ်မှ ကြိုးကလေးကို ငုံ့ကြည့်နေ၏။

"မောင်"

"ဗျာ၊ အချစ် ဘာပြောချင်လို့လဲ"

"ဟို .. ဟို . . အဲဒီနောက်ပိုင်း သူနဲ့ စကားပြောဖြစ်ကြသေးလား ဟင်"

"တခါ ပြောဖြစ်တယ်"

"ဘယ်တုန်းကလဲ"

"အဲဒီလိုဖြစ်ပြီး သိပ်မကြာခင်မှာပဲ၊ မဖြစ်သင့်ဘဲ ဖြစ်သွားတဲ့ ကိစ္စမို့ ကိုယ့်ကိုယ်ကိုယ် ရှက်လို့ မဆုံးတော့တဲ့အကြောင်း၊ ပြီး နောင် ဒါမျိုး ထပ်မဖြစ်အောင် ဆင်ခြင်မယ့်အကြောင်း သွားပြောတာ။ ခဏကလေးပဲ တွေ့ကြတာပါ၊ အဲဒါပဲ၊ အချစ် မောင့်ကို ကျွဲမြီးမတိုပါဘူးနော်"

အယ်လီနာ ခေါင်းခါသည်။

"ဟင့်အင်း . . . မတိုပါဘူး"

"အဲလိုမှပေါ့ကွယ်၊ အချစ်ကို မောင် ဘယ်လောက်ချစ်တယ် ဆိုတာ သိနေပြီပဲ၊ ဟောဒီ မောင့်မယားကလေးကို မောင်က ဘယ်အရာနဲ့မှ ယှဉ်လို့ မရအောင် ချစ်တာဗျ။ အချစ်ကိုချစ်တဲ့ မောင့်အချစ်ဟာ ဘယ်လောက် အင်အားကြီးမားသလဲ သိလား၊ ဘယ်အရာနဲ့မှ တားဆီးလို့ ရမှာ မဟုတ်ဘူး"

အယ်လီနာက စတီယာရင်ဘီးပေါ်မှ သူ့လက်ကို ထပ်ပြီး

တင်းတင်းဆုပ်ထားလိုက် သည်။

"လက်အိတ် အပေါက်အပြဲကို နောက် မဝတ်ရတော့ပါဘူး အချစ်ရယ်"

သူက အယ်လီနာ့ လက်ကို ငုံ့ကြည့်ပြီး ပြောလိုက်၏။

မစ္စတာဝီလ်ဆင်၏ ဒုတိယအကြိမ် ရွေးကောက်ပွဲ အနိုင်သတင်း မထွက်မချင်း ဝါဂွမ်း ဈေးက အီနေသည်။ ရွေးကောက်ပွဲ ပြီးသည်နှင့် တပေါင်လျှင် ၁၈ဆင့်ထိ ထိုးတက်သွားသည်။ ဘယ်တုန်းကမျှ မကြားဖူးသည့် ဈေး ဖြစ်၏။ အလုပ်သမားခကို တိုးပေးသည့်တိုင်အောင် အမြတ်က ထင်တာထက် အပုံကြီးများနေသည်။ ကက်စတာက ညစာစားပွဲကြီးတခု ကျင်းပဖို့ အဆိုပြု၏။ အယ်လီနာက သဘောတူလိုက်သည်။

ညစာစားပွဲတွင် ဝတ်ဖို့ ဝတ်ကောင်းစားလှတွေ ဝယ်သည်။

ကလေးများအတွက် ခရစ္စမတ်သစ်ပင်တပင် လုပ်ပေးသည်။ ဂျာမနီပြည်လုပ် ရွှေရောင်ဆံပင်နှင့် မျက်တောင်ခတ် သည့် ဘိုမရုပ်ကလေးတွေ ဝယ်မရတော့သော်လည်း ကော်နယ်လီယာက မပူဆာတော့။

ကော်နယ်လီယာနှင့် ဖီးလစ်တို့ မောင်နှမသည် မီးတွေ လင်းထိန်နေသည့် ခရစ္စမတ် သစ်ပင်ကြီးကိုသာ သဘောကျနေကြသည်။

ခရစ္စမတ်ကာလ ရင်ခုန်စရာတွေ တစခန်းရပ်သွားသည်နှင့် အမေရိကန်ပြည်တွင် လူတိုင်း စိတ်ဝင်စားစွာ စောင့်မျှော်နေကြသည့် အမျိုးသားရေးကိစ္စကြီးတရပ် ရှေ့တန်းသို့ ရောက်လာတော့၏။ သည်ပြဿနာသည် နေ့ချင်း ညချင်း ပေါ်လာသည့်ပြဿနာ မဟုတ်၊ တဖြည်းဖြည်း ကြီးထွားလာသည့် ပြဿနာ ဖြစ်၏။ ဥရောပစစ်ပွဲအသွင်မှသည် ပထမ ကမ္ဘာ စစ်ကြီး အဖြစ်သို့ ကူးစက်တောက်လောင်လျက် ရှိ၏။ အမေရိကန်နိုင်ငံသည် မဟာမိတ်များ ဘက်မှ ဝင်ရောက်တိုက်ခိုက်ရပေတော့မည်။ စစ်ထဲပါဖို့က သေချာသလောက် ဖြစ်နေပြီ။ ဘယ်တော့ ဝင်တိုက်မည် ဆိုသည်ကိုတော့ ဘယ်သူမျှ မပြောနိုင်ကြသေး။

အမေရိကန်နိုင်ငံ စစ်ထဲပါဖို့ ဟောကိန်းထုတ်နေသည့် အမေရိကန်ပြည်သူတို့၏ စိတ်ဓာတ်ကို သရုပ်ခွဲရခက်၏။ သူတို့ သည်လို ဟောကိန်းထုတ်သည်မှာ **"လူဝီတားနီးယား ကိစ္စ**[4]**"** ကြောင့် မဟုတ်။ သည်ကိစ္စမျိုးတွေက သူတို့အတွက် ရိုးနေပြီ။

"ဖုံး အကြွေမခံချင်ရင် အမေရိကန်တွေ စစ်ထဲပါဖို့ မကောင်းဘူး၊ ကိုယ့်ဘာသာ ကင်းကင်း ရှင်းရှင်း နေသင့်တယ်၊ လျှို့ဝှက်သည်းဖိုဝတ္ထု ဖတ်နေတာ မဟုတ်ဘူး၊

ဒါက တကယ့်အဖြစ် အပျက်။ ဝတ္ထုမှာက ကြောက်စရာကောင်းတဲ့ အခန်းတွေကို ကျော်ဖတ်သွားလို့ ရတယ်၊ တကယ့် အဖြစ်အပျက်မှာက ရှောင်ကွင်းလို့ရမှာ မဟုတ်ဘူး”

ဟု ဝေဖန်သူများလည်း ရှိ၏။ သည်ဝေဖန်ချက်များသည်လည်း သူတို့အတွက် အဆန်း မဟုတ်တော့။ အလွန်ကြီးမားသည့် အင်အားတရပ်က သူတို့ကို တစုံတခုဆီသို့ တွန်းအား ပေးနေသည်နှင့် တူ၏။ အမေရိကန် လူငယ်လူရွယ်တိုင်း ကက်စတာလို တက်ကြွနေသည်ကို အယ်လီနာ တွေ့ရသည်။

စစ်သားစုဆောင်းရေးစခန်းများ၊ မဏ္ဍာဆီကိုနယ်စပ်မှ စစ်ရေးလေ့ကျင့်မှုများနှင့် နိုင်ငံ ကာကွယ်ရေး အစီအစဉ်များ လှုပ်လှုပ်ရွရွ ဖြစ်နေ၏။ လာမည့်ဘေး ပြေးတွေ့ချင်စရာကောင်း အောင် အချိန်ဆွဲနေသည့် စစ်ပွဲအတွက် အစမ်းလေ့ကျင့်နေသည်နှင့် တူနေ၏။

အယ်လီနာက ကလေးများကို ကစားဖို့ ခြံထဲ ခေါ်ဆင်းလာခဲ့သည်။ မြက်ခင်းထဲတွင် အပေါင်းအသင်း ၆ ယောက်ခန့် စုဝေးပြီး သေနတ်ပစ်လေ့ကျင့်ဖို့ ပြင်ဆင်နေသော ကက်စတာ ကို တွေ့ရ၏။ အယ်လီနာ အထိတ်တလန့် ဖြစ်သွားသည်။ ကော်နယ်လီယာက လက်ခုပ်တီးပြီး ဝမ်းသာအားရ အော်သည်။

“ဟေး... တို့အဖေက စစ်သားကြီးကွ၊ ဖေဖေ ဟုတ်တယ် မဟုတ်လား ဟင်”

ကက်စတာက ကြည်နူးစွာ ပြန်ပြောသည်။

“မဟုတ်သေးပါဘူး သမီးကလေးရဲ့၊ ဒါပေမဲ့ ကြည့်. . .။ အယ်လီနာ ကလေးတွေကို ကိုင်ထားနော်”

အယ်လီနာက ကလေးနှစ်ယောက်ကို လက်ဆွဲထားလိုက်သည်။ ကက်စတာက သေနတ်ကို ချိန်၍ ပစ်သည်။ ပစ်ကွင်း အလယ်တည့်တည့် အမှတ်ကို ထိမှန်သည်။ သေနတ်သံ ထွက်လာတော့ ဖီးလစ်ကလေးက လန့်အော်ငိုသည်။ ကက်စတာက ကလေးတွေကို အိမ်ထဲ ပြန်ခေါ်ရန် အယ်လီနာကို ပြောလိုက်၏။

ကက်စတာ အိမ်ထဲ ပြန်ဝင်လာတော့ ရောက်မဆိုက် အယ်လီနာက မေးလိုက်သည်။

“ဒီအရှုပ်တော်ပုံကြီးထဲကို အမေရိကန်တွေ ပါကြတော့မှာလား ဟင်”

“ခုအတိုင်း ဆိုရင်တော့ ပါကြလိမ့်မယ် ထင်တယ်”

"မောင် ခု စစ်ထဲ ဝင်ချင်နေတုန်းပဲလား ဟင်"

"မသေချာပါဘူး အယ်လီနာရယ်၊ စစ်ဖြစ်လာရင်တော့ ဝင်ရမှာပေါ့"

"မောင်က ကျည်ဆန်မှန်မှာကို မကြောက်တောင်မှ ...။ မောင် မကြောက်မှန်း အယ်လီနာ သိပါတယ်လေ၊ မောင့်မှာ လုပ်စရာတွေ၊ တာဝန်တွေ အများကြီးဆိုတာ မောင် မတွေးမိဘူးလားဟင်၊ မောင် သွားရင် ဒီဝါခင်းကြီးကို ဘယ်သူ စိုက်မလဲ"

"မိန်းမကလည်းကွာ၊ သွားမှ မသွားသေးတာ၊ ဘာလို့ တွေးပူနေလဲ"

ကက်စတာက ခပ်ပေါ့ပေါ့ ပြန်ပြောသည်။ သူက ဆက်၍-

"မစ္စတာဝီလ်ဆင်က ဘာလုပ်ရမှန်း မသိဘဲ ဟိုလိုလို ဒီလိုလိုနဲ့ အချိန်ဆွဲနေရင်း ဒီကိစ္စ ပြီးချင်လည်း ပြီးသွားမှာပါကွာ"

သို့ရာတွင် သူ့ကို ကြည့်ရသည်မှာ ပို၍ ပို၍ စစ်တပ်ကို အာရုံစိုက်နေသည်။ အလိုလို နေရင်း ဝက်သစ်ချမြိုင်၏ စိုက်ပျိုးရေး၊ ထွန်ယက်ရေး တာဝန်အားလုံး အယ်လီနာတဦးတည်း ၏ ပခုံးပေါ်သို့ ရောက်လာတော့မည့်နှယ် ဖြစ်နေသည်။ အမေရိကန်က ပထမကမ္ဘာစစ်တွင် ဝင်တိုက်တော့မည်ဟု ကြေညာတော့ အယ်လီနာ မအံ့သြတော့။ သို့သော် ဝါဈေးတွေ ခေါင်ခိုက် အောင် တက်နေသည့် အချိန်တွင် မိမိအလုပ်ကို လှည့်မကြည့်တော့ဘဲ စစ်ရေးပြပွဲတွေကိုချည်း လိုက်ကြည့်ပြီး တနေကုန် စစ်ပွဲသတင်းတွေချည်း ပြောနေသည့် ကက်စတာကို ကြည့်ပြီး အယ်လီနာ အသည်းယားနေ၏။

"ဒီမယ် အယ်လီနာ၊ လူတွေက မစ္စတာဝီလ်ဆင်ကို ဘယ်လိုပဲ ဝေဖန် ဝေဖန်၊ သူဟာ စကားကို လေးလေးနက်နက် ပိုင်ပိုင်နိုင်နိုင်ပြောတတ်တယ် ဆိုတာတော့ ဘယ်သူမှ မငြင်း နိုင်ဘူး သိလား။ သူက "ကျုပ်တို့ဟာ ထာဝရ ငြိမ်းချမ်းရေးအတွက် ခုလို ဝင်တိုက်ရတာပါ ၊ ဒီအတွက် ဝမ်းမြောက်ဝမ်းသာ ဂုဏ်ယူပါတယ်၊ ကမ္ဘာ့နိုင်ငံအသီးသီးက ကမ္ဘာသူ ကမ္ဘာသား တွေ ငြိမ်းငြိမ်းချမ်းချမ်း နေနိုင်ဖို့ ဝင်တိုက်ရတာပါ"

"မောင် တောင်ဘက်ကွင်းက စိုက်ခင်းတွေအတွက် မြေသြဇာ မှာပြီးပြီလားဟင်"

"အင်း... မေ့နေတယ်၊ မနက်ဖြန် ဖုန်းဆက်လိုက်ပါ့မယ်၊ သမ္မတကြီး ပြောတာ မပိုင်ဘူးလားဟင် အယ်လီနာ၊ အဲဒီ မိန့်ခွန်းကို မဖတ်လိုက်ရဘူးလား။ 'ဒီလို မွန်မြတ်တဲ့ အလုပ်ကို လုပ်ဖို့ ကျုပ်တို့တတွေ သွေးနဲ့ ချွေးနဲ့ရင်းပြီး စွန့်စားကြရလိမ့်မယ်၊ ဒီလို စွန့်စားခဲ့ဖူးတဲ့ အစဉ်အလာကို သိကြတဲ့လူတိုင်းဟာ ဒီနေ့

အမေရိကန်ရဲ့ …’ ”

“မြေသြဇာမှာဖို့ မောင် မနေ့ကတည်းက ကတိပေးထားတယ်နော်၊ အလုပ်တွေကို ခုလို ပစ်စလက်ခတ်ထားရင် ဝါခင်းကြီး ဘာဖြစ်သွားမလဲဆိုတာ မောင် မစဉ်းစားမိဘူးလား”

“သြော်… အယ်လီနာရယ်၊ နေစမ်းပါဦး၊ မနက်ဖြန်ခါ လုပ်ပေးပါ့မယ်ဆို၊ မောင် ပြောနေတာတွေ စိတ်မဝင်စားဘူးလား”

“ဒုက္ခပါပဲ၊ မဝင်စားဘူး၊ မဝင်စားဘူး၊ ရှင့်ဒီမိုကရေစီအကြောင်း စိတ်ဝင်စားချိန် လည်း မရှိဘူး။ ကဲ… ဖုန်းနံပါတ် ပေး၊ ကိုယ့်ဘာသာကိုယ်ပဲ ဆက်တော့မယ်”

ခန်းမထဲရှိ တယ်လီဖုန်းဆီသို့ အယ်လီနာ ထသွားသည်။ မြေသြဇာကိစ္စကို တယ်လီဖုန်း နှင့် ပြောသည်။ သူ ရှိရာကို ပြန်လာခဲ့သည်။ ကက်စတာတယောက် သမ္မတဝီလ်ဆင်၏ ကွန်ဂရက်မိန့်ခွန်းကို ခေါင်းမဖော်တမ်း ဖတ်နေဆဲ။ အယ်လီနာ ကျောထဲ စိမ့်သွားသည်။ သည်လောက် ကြီးကျယ်သည့် လုပ်ငန်းကြီးကို မိမိတဦးတည်း ဦးဆောင်ရတော့မှာပါလား၊ တကိုယ် တော် ဆင်နွှဲရမည့် တိုက်ပွဲကြီး တပွဲပါတကား။

အယ်လီနာ ကြိုမြင်နေသည်။ မမြင်ချင်ယောင် ဆောင်၍ မရတော့။ ဝက်သစ်ချမြိုင် ကို သည်အတိုင်း မယားလက်တွင် ဝကွက်အပ်ပြီး ထသွားဖို့ ကက်စတာက ပြင်ဆင်နေ၏။

ကက်စတာအနေဖြင့် စစ်ထဲသို့ မဝင်ဘဲ နေနိုင်သည်။ သူက ၃၂ နှစ် ရှိပြီ မဟုတ်လား။ အသက် ၁၈ နှစ်မှ ၃၀ အရွယ်တွင်းသာ စစ်မှုမထမ်းမနေရ ဥပဒေပြုထားခြင်း ဖြစ်၏။ သို့သော် တနေ့နေ့ တချိန်ချိန်တွင် ကက်စတာ စစ်ထဲ ဝင်လိမ့်မည်ကို အယ်လီနာ့ စိတ်ထဲတွင် သိနေ၏။ သူ တကယ်ဝင်သွားသောအခါတွင် အယ်လီနာ မအံ့သြတော့။ သို့သော် စိတ်ပျက်လက်ပျက် ဖြစ်ကျန်ရစ်ခဲ့သည်။

အယ်လီနာက သူ့စာရင်းစာအုပ်တွေ၊ နေ့စဉ်မှတ်တမ်းစာအုပ်တွေနှင့် အလုပ်ရှုပ် နေ၏။ ကြမ်းပြင်ပေါ်တွင် ကစားနေကြသည့် ကော်နယ်လီယာနှင့် ဖီးလစ်ကိုလည်း တချက် ငဲ့ကြည့်ရသေးသည်။ ကက်စတာက သီချင်းတစာစာ အော်ဆိုပြီး အိမ်ထဲ ဝင်လာသည်။ အခန်းထဲ ရောက်တော့ ကော်နယ်လီယာကို ကောက်ယူပြီး မြှောက်လိုက်၏။ ကလေးကို ကြမ်းပြင် ပေါ် ပြန်ချပြီး အယ်လီနာဘက်သို့ လှည့်လိုက်သည်။

“မောင် စစ်ဝတ်စုံနဲ့ ဆိုရင် ကြည့်ကောင်းပါ့မလား ဟင်”

အယ်လီနာ့ လက်ထဲမှ ဖောင်တိန် လွတ်ကျသွားသည်။

“မောင် မဝင်ရသေးဘူး မဟုတ်လား ဟင်”

“ ဝင်ခဲ့ပြီ အယ်လီနာ”

သူက ရယ်ရယ်မောမောနှင့် ဖြေသည်။

“စာချုပ်ထဲမှာ လက်မှတ်ထိုးခဲ့ပြီလားဟင်”

အယ်လီနာ့ လည်ချောင်းထဲမှ ခဲရာခဲဆစ် ထွက်လာသည့် စိတ်ပျက် အားလျော့နေ သည့် အသံ။

“ဝင်တော့မယ်လို့ ကတိပေးခဲ့ပြီးပြီ။ ဒီနေ့ညနေ လက်မှတ်ထိုးမယ်လေ”

အယ်လီနာက ကုလားထိုင်မှ လေးကန်စွာ ထလိုက်သည်။ နံရံမှ ကြိုးကို ဆွဲလိုက်၏။ ဒစ်စီ ရောက်လာတော့ ကလေးတွေကို ခေါ်သွားဖို့ ပြောလိုက်သည်။ ဒစ်စီနှင့် ကလေး နှစ်ယောက် ထွက်သွားပြီး အခန်းတံခါး ပိတ်လိုက်မှ ကက်စတာဘက်သို့ လှည့်လိုက်၏။

“ဘာဖြစ်လို့လဲ အယ်လီနာရယ်၊ မောင့်ကို မသွားစေချင်လို့လား ဟင်”

ကုလားထိုင်တလုံး၏ နောက်မှီတန်းကို အယ်လီနာ တင်းတင်းဆုပ်ထားလိုက်သည်။ မျက်မှောင်ကြုတ်၍ စကား စသည်။

“ဒီမယ် မောင်၊ မောင် မတရားဘူး ထင်တယ်၊ တပ်ထဲဝင်ဖို့ ကတိပေးရုံ ပေးထားရသေး တယ် ဆိုရင်တော့ လက်မှတ်မထိုးဘဲ နေလို့ ရသေးတာပဲ၊ ဝက်သစ်ချမြိုင်ကို ဒီအတိုင်း မျက်နှာလွှဲ ခဲပစ် ထားခဲ့လို့ ရမလား”

“ဩော်... အချစ်ကလည်းကွယ်၊ စာမတတ်တဲ့ အိမ်ရှင်မတွေ ပြောနည်း ပြောမနေ စမ်းပါနဲ့”

“မဆိုင်ပါဘူး၊ အိမ်ရှင်မတယောက်အနေနဲ့ ပြောနေတာ မဟုတ်ဘူး၊ မောင့်ရဲ့ လုပ်ဖော်ကိုင်ဖက်တယောက်အနေ နဲ့ ပြောနေတာ သိလား။ မောင် မရှိရင် ဝက်သစ်ချမြိုင် ဘာဖြစ်သွားမလဲ၊ သိတယ် မဟုတ်လား”

ကက်စတာက ဘာမျှ နားမလည်သလို မျက်နှာနှင့်-

“ဘာဖြစ်ရမှာလဲ အယ်လီနာ၊ မင်း အားလုံး နားလည်နေပြီပဲ”

“နားလည်တာက တမျိုး၊ လက်တွေ့လုပ်တာက တမျိုးပဲ”

ကက်စတာက အမျိုးမျိုးဖျောင်းဖျ ချော့မော့ပြီး စည်းရုံးသည်။

“မောင်ရယ်၊ ဝက်သစ်ချမြိုင် ဝါခင်းကြီးဟာ အချိန်ပြည့် လုပ်ရတဲ့ အလုပ်ပါကွယ်၊ ဒီအိမ်ကြီးကို ထိန်းသိမ်းဖို့နဲ့ ဒီကလေးနှစ်ယောက် တာဝန်နဲ့ အယ်လီနာကို မသနားဘူးလား ဟင်၊ မောင့်မှာ အဲဒီ တာဝန်တွေ မရှိဘူးလား”

သူက အယ်လီနာဆီသို့ တိုးသွားသည်။

“ဒုက္ခပါပဲ အယ်လီနာရယ်၊ ဒါ စစ်ဖြစ်နေတာကွ၊ အဲဒါ မင်း သဘောပေါက်စမ်းပါကွယ်”

“သဘောပေါက်ပါတယ်၊ ဂျာမန်စစ်သားတွေက ဘီလူးသရဲတွေ၊ ကိုင်ဇာဘုရင်ကို လည်ပင်း ကြိုးကွင်းစွပ်မယ်၊ ဘာလင်ကို မီးရှို့ကြ။ ဒါတွေ ကြားရလွန်းလို့ နားကို လျှံနေပြီ၊ ဘာသဘော မပေါက်စရာရှိလဲ၊ မောင် ဒီက ထွက်ပြေးဖို့ ကြိုးစားတာ”

“ဘာ.. ထွက်ပြေးတာ ဟုတ်လား”

ကက်စတာ စိတ်ထိခိုက်သွားသည်။ သည်စကားကို ကြားရ၍ အံ့လည်း အံ့သြမိ၏။

“ဟုတ်တယ်၊ အိမ်ကို စိတ်ကုန်နေလို့ ထွက်ပေါက်ရှာတာ”

ကက်စတာ စိတ်ဆိုးသွားသည်။ သူ့မျိုးချစ်စိတ်ကို သည်မိန်းကလေး ဘယ်လိုမှ အသိအမှတ် မပြု။

“တိုင်းပြည်မှာ စစ်သားတွေ လိုနေတယ် ဆိုတာ မင်း မသိဘူးလား၊ နေရာတကာမှာ ဆိုင်းဘုတ်ကြီးတွေ ရေးပြီး စစ်မှုထမ်းဖို့ ခေါ်နေတာ၊ သတင်းစာတွေထဲကနေပြီး လှုံ့ဆော်နေ တာတွေ မင်း မသိဘူးလား။ လင်ယောကျ်ားတွေက စစ်ကို ရှေ့တန်းမှာ ဆင်နွှဲနေခိုက် အိမ်ရှင်မ များက နောက်ပိုင်းတာဝန်တွေ ယူကြဖို့ ဆောင်းပါးတွေလည်း မင်း မဖတ်ဘူးလား။ သားနဲ့သမီး ကြီးလာရင် သူတို့အဖေအတွက် ဂုဏ်ယူစရာကိစ္စကို မင်း မလိုချင်ဘူးလား ဟင်”

“သားနဲ့သမီးက အဲဒီဂုဏ်ထက် အိမ်ပိုင်ယာပိုင်ကို ပိုပြီး မက်မောကြမှာပါ၊ ဒီအိမ်ကြီး က ကြွေးတဝက်နဲ့ အိမ်ကြီးလေ”

“ဩော် . . အယ်လီနာရယ်၊ ဝက်သစ်ချမြိုင်ကို မင်း ဆက်ပြီး တာဝန်ယူရမှာပေါ့ကွာ” အယ်လီနာ့ အမူအရာက ပိုပြီး တည်ငြိမ်လာသည်။ အသံက ပိုပြီး အေးစက်လာသည်။

“ကောင်းပြီလေ၊ အယ်လီနာ ဆက်ပြီး တာဝန်ယူရမှာပေါ့၊ တခုတော့ရှိတယ် ကက်စတာ၊ ဘာဖြစ်လို့ ဒီတာဝန်ကို ယူရတယ် ဆိုတာကို အယ်လီနာ နားမလည်ဘူး လို့တော့ မပြောနဲ့။ ရှင်က သူရဲကောင်းတံဆိပ်ကို ရင်ဘတ်မှာ ချိတ်ဖို့ ရှင့်ပခုံးပေါ်က တာဝန်တွေကို ဒီက ကောင်မ အပေါ် တွန်းချပေးခဲ့တယ်၊ ကျွန်မသာ ဘာမှ မလုပ်တတ်တဲ့ ပေါ်ကြော့မိန်းမဆိုရင် ရှင် ဒီလို မျက်နှာလွှဲခဲ့ပစ် လုပ်မှာ မဟုတ်ပါဘူး။ ဝက်သစ်ချမြိုင်ကို ကာကွယ်ဖို့ထက် ကမ္ဘာကြီးကို ကာကွယ်ရမယ် ဆိုတဲ့ အတွေးမျိုးလည်း ဝင်မှာ မဟုတ်ဘူး။ ကဲ . . . ရှင့် စွန့်စားခန်းကြီးဖွင့်ဖို့ ကြွပေတော့”

“ဩော်... တော်ပါတော့ အယ်လီနာရယ်”

“တော်ပါပြီ၊ ရှင့်ကို ဘွဲ့ထူးဂုဏ်ထူးတွေ ပေးမယ့်ဆီကို သွားဖို့ ပြောနေတာပါ”

ကက်စတာ သရော်ပြုံး ပြုံးလိုက်သည်။

“အယ်လီနာ၊ မင်းဟာလေ ကိုယ် မြတ်နိုးတဲ့ အရာတွေကို မှိုချိုးမျှစ်ချိုး ပြောတဲ့နေရာ၊ သရော်တဲ့နေရာမှာ သိပ်ကို တော်ပါပေတယ်။ ကဲ. . . ကျေနပ်ပြီ မဟုတ်လား၊ ကိုယ် စုဆောင်း ရေးကို သွားတော့မယ်”

သူ ထွက်သွားတော့ အယ်လီနာ တယောက်တည်း ထိုင်ကျန်ရစ်သည်။ နဖူးကို လက် နှစ်ဖက်နှင့် ထောက်လျက်။ မဝေးတော့သော အနာဂတ်တွင်မှ ကျရောက်လာမည့် ဝန်ထုပ် ဝန်ပိုးကြီးသည် ယခုချက်ချင်း သူ့ခေါင်းပေါ် ရောက်လာသလို ခံစားလိုက်ရ၏။

မိနစ် အနည်းငယ်အတွင်း နောင်တကြီးစွာ ရမိသည်။ ပြောလိုက်သည့် စကားလုံးအတွက် စိတ်ဆင်းရဲရပြန်သည်။ ကက်စတာနှင့် တာဝန်ပိုင်းကိစ္စ အငြင်းအခုံ ဖြစ်ရသည်မှာ အချည်းနှီး ပါတကား။ သက်ပြင်းတချက် ချလိုက်သည်။ ဖောင်တိန်မှ မင်တွေ စွန်းသွားသည့် လယ်ဂျာ စာရွက်ကို လှန်လိုက်ပြီး နောက်တရွက် အသစ်ရေးသည်။ ကက်စတာ စခဲ့သည့် အလုပ်တွေကို အမွေခံပြီး တကိုယ်တော် တိုက်ပွဲဝင်ရတော့မည်ပေါ့။ တပ်ထဲ ဝင်ဖို့ကို တားလို့ မရသည့်အဆုံး

ရေငုံနှုတ်ပိတ် နေလိုက်တာက အကျိုးရှိမည် ထင်သည်။ သူ့ရဲကောင်းတဦး၏ ဇနီးပီပီပေါ့လေ။

သူ ပြန်ရောက်ရောက်ချင်း စိတ်လိုက်မာန်ပါ ပြောမိတာတွေကို တောင်းပန်လိုက်သည်။ သူက လုပ်ချင်တာကို လုပ်ခဲ့ရပြီမို့ ပျော်တပြုံးပြုံးနှင့် ပြန်လာရာမှ သည်ကိစ္စ သူ မေ့တောင် နေပြီ တဲ့လေ။ သူ ဘယ်လိုမှ သဘောမထားပါဘူး တဲ့။ စစ်ထွက်မယ့် ယောကျ်ားတိုင်းရဲ့ ဇနီး တိုင်းဟာ သည်လိုပါပဲတဲ့။ ပြီးတော့မှ ကျကျနနထိုင်ပြီး သူမရှိခိုက် လုပ်ဆောင်ရမည့် ဝက်သစ်ချ မြိုင် ယာတော၏ တာဝန်တွေကို မီးခိုးမဆုံး မိုးမဆုံး ညွှန်ကြားပါလေတော့၏။ ဘာမျှ မသိနားမလည်သည့် ကလေးတယောက်ကို ရှင်းပြနည်းမျိုးဖြင့် ခရေစေ့တွင်းကျ ရှင်းပြနေသည် လေ။

နောက်ဆုံး မခွဲခွာမီ ရက်များတွင် ကက်စတာသည် ထူးထူးခြားခြား မြူးကြွနေ၏။

လင်မယားနှစ်ယောက် ခွဲနေရမည့် ရက်တွေအတွက် အတိုးချပြီး ပျော်ပျော်ပါးပါး နေလိုက် ကြ၏။ စုဆောင်းရေး အခြေခံသင်တန်း စခန်းသို့ သွားမည့် နေ့တွင် အယ်လီနာက ဘူတာရုံသို့ ကားမောင်းပို့၏။ အကောင်းဆုံး ခွဲခွာခြင်းမျိုး ဖြစ်အောင် အတတ်နိုင်ဆုံး ကြိုးစားနေလိုက်သည်။

သူ နှုတ်ဆက်အနမ်း နမ်းတော့ အယ်လီနာ့ ရင်ထဲတွင် ဆို့တက်လာသည်။ မျက်ရည် တွေက ဘယ်လို ဘယ်လို စီးကျလာသည် မသိလိုက်။ သူ့ကို မလွှတ်တမ်း တအားသိုင်းဖက် နေမိကြောင်း ကိုယ့်ကိုယ်ကိုယ် သတိပြုလိုက်မိ၏။ ဩော်. . . မောင်ရယ်၊ ခေါင်းထဲသို့ လျှပ်ပြက် သလို တချက်ဝင်သွားသည်။ ဟင်.. တနေ့ တနေ့ လူတွေ သောင်းနှင့်ချီ၍ သေနေ သည့် စစ်ပွဲကြီးဆီကိုလေ။ ခေါင်းတွေ မူးရီမူးဝေ ဖြစ်သွား၏။

ကက်စတာက အယ်လီနာ့ လက်တွေကို ဖြည်းဖြည်းချင်း ဖြေပြီး လူချင်း ခွာလိုက်သည်။ ဟင် ... မောင် သွားရမှာက လူတွေ အများကြီး သေကြ ကျေကြတဲ့ စစ်မြေပြင်ကိုပါလား။ ဟင် . . . သူလို ငိုနေသည့် အမျိုးသမီးတွေ ပလက်ဖောင်း အပြည့်ပါလား။ အမျိုးသား တွေက အမျိုးသမီးများကို ရင်ခွင်ထဲမှ မတွန်းရက် တွန်းရက်နှင့် တွန်းခွာနေကြ၏။

ပါးပြင်ပေါ်သို့ တလိမ့်လိမ့် စီးကျနေသည့် မျက်ရည်တွေကို သုတ်ဖို့ မကြိုးစားတော့။ ခေါင်းတွေ မူးရိပ်ရိပ် ဖြစ်လာသည်။

ရထားထွက်သွားပြီး ကားဆီသို့ ပြန်လျှောက်လာသည်။

စတီယာရင်ဘီးပေါ်သို့ မျက်နှာ မှောက်ချပြီး တရှုပ်ရှုပ်နှင့် အားရပါးရ ငိုချလိုက်သည်။ အကြာကြီးငိုနေမိ၏။ ဖြေလို့မရ၊ ထိန်းလို့မရ။ ရင်ထဲတွင် ဘာမျှ မကျန်တော့သလို ဟာနေသည်။ ကားမောင်းပြန်နိုင်အောင် အကြာကြီး စောင့်ရ၏။

အိမ်ရောက်တော့ အခန်းတံခါးကို ပိတ်ပြီး ငုတ်တုတ်ထိုင်နေမိသည်။ ဝါဂွမ်းက ဖြစ်သည့် ယမ်းဘီလူး၊ နိုက်ထရိတ်ယမ်း အရည်၊ ပေါက်ကွဲစေတတ်သည့် ယမ်းမှုန့် . . . နားထဲတွင် ပဲ့တင် ရိုက်နေ၏။ ဖေဖေ ပို့လိုက်သည့် ဖြတ်ပိုင်းတွေကို ဖတ်ပြီး မျှော်လင့်ချက်တွေ၊ အောင်မြင်မှုတွေ ပေးခဲ့သည့် သည်စကားလုံးများသည် ခုတော့ သေမင်းခေါ်သံလို နားထဲတွင် ဆူညံစွာ ပဲ့တင် ထပ်နေပြီတကား။ ဝါဂွမ်းဈေး ဆင့် ၂၀ ပေါက်နေခြင်းသည် စစ်မြေပြင်တွင် တနေ့လျှင် လူနှစ်သောင်း သေကျေနေသည်ဟု အဓိပ္ပာယ်ဖွင့်ဆိုသလို ဖြစ်နေပြီ မဟုတ်လား။

နံရံကို အဓိပ္ပာယ်မရှိ စိုက်ကြည့်နေမိ၏။

"အင်း... ငါလို ခံစားနေရတဲ့ အမျိုးသမီးတွေ ဒီကမ္ဘာမှာ သန်းနှစ်ဆယ်တောင်ရှိပါလား"

※※※

# အခန်း (၁၀)

## (၁)

ကက်စတာ မရှိတော့သည့် နောက်ပိုင်းတွင် ဝက်သစ်ချမြိုင် စံအိမ်ကြီးသည် ပို၍ ကျယ်ဝန်းလာ၏။ ပို၍လည်း တိတ်ဆိတ် ငြိမ်သက်လာသည်၊ ခြောက်သွေ့လာသည်။

အိမ်ထောင်သက် ငါးနှစ်အတွင်းတွင် ကြာကြာခွဲ၍ မနေဖူးခဲ့ကြ။ အကြောင်းကိစ္စ ရှိ၍ ခရီးထွက်ကြလျှင်၊ သို့မဟုတ် ကတောက်ကဆတ် ဖြစ်၍ စိတ်ကောက်ကြလျှင် မနက်ဖြန်၊ သို့မဟုတ် သန်ဘက်ခါသည် မောင့်ရင်ခွင်သို့ ပြန်လည်တိုးဝင် နားနေရမည့် နေ့ဟု သိနေ ပြီးသား။ သည်တော့ ဟိုတုန်းက မောင့်ကို မလွမ်းဖူးခဲ့ဘူးပေါ့။ ခုတော့ ချစ်သူ ပြန်လာမည့် နေ့ကို မမှန်းဆနိုင်တော့။ မောင် စစ်မြေမှာ ကြာညောင်းရက်ရှည်နေမည့် ကာလက လတွေလား၊ နှစ်တွေလား မောင်ရယ်။ သူ့ အငွေ့အသက်တွေနဲ့၊ သူ့အရိပ်တွေ နေရာတိုင်းမှာ ရှိနေတဲ့ ဧရာမ စံအိမ်ကြီးရဲ့ အခန်းကျယ်ကြီးထဲမှာ အယ်လီနာ တယောက်တည်းရယ်လေ။

ကက်စတာက "တင်နက်ဆီ" ရှိ ဗိုလ်လောင်းသင်တန်းကျောင်းသို့ သတင်းပို့ရသည်။ တပ်ကို မရမနေ ဝင်မည်ဟု ဆုံးဖြတ်ပြီး အသက်ကို ၄ နှစ်လျှော့၍ လျှောက်လွှာတင်ခဲ့ခြင်း ဖြစ်သည်။ ဇနီးသည်ထံသို့ စာတွေ မကြာမကြာ ရေးပါ၏။ သို့သော် အထီးကျန်နိုင်လှသည့် အယ်လီနာ၏ ဘဝကို သူ့စာတွေက အလွမ်းပြေအောင် မစွမ်းဆောင်နိုင်ပေ။

ကက်စတာ မရှိတော့မှ သူနဲ့ စကားပြောနေရသည့် အချိန်တွေ တနေ့ တနေ့ ဘယ်လောက် များကြောင်း အယ်လီနာ တွေးမိတော့သည်။ ငါးနှစ်လုံးလုံး ဘာတွေများ ပြောဖြစ်ခဲ့ကြပါလိမ့်ဟု ပြန်စဉ်းစားနေမိသည်။ သူနှင့် စကားပြောခဲ့သည့် အချိန်တွေကို အလုပ်နှင့် အစားထိုးနေသည့်ကြားက ကွက်လပ်တွေ အများကြီး ကျန်နေခြင်း ဖြစ်၏။ လွမ်းတယ် . . . မောင်ရယ်။

ကင်မရာကို အဝတ်မည်းကြီး လွှမ်းပြီး ကလေးတွေကို ဓာတ်ပုံရိုက်သည်။ စာအိတ် ထဲ ထည့်ပေးဖို့ လိပ်စာကို လက်နှိပ်စက်နှင့် ရိုက်တော့ လက်နှိပ်စက်သံသည် မကြုံစဖူး တိတ်ဆိတ်နေသော အိမ်ကြီးထဲတွင်

ဟိန်းထွက်နေသည်။

"မဖြစ်ဘူး၊ ငါ ဒီအတိုင်း လွမ်းနေလို့ မဖြစ်ဘူး။ စစ်မပြီးခင် တချိန်လုံး အမှောင် ခန်းထဲမှာ ပိတ်ထားခံရတဲ့ ကလေးငယ်လို လုပ်နေလို့ မဖြစ်ဘူး"

မတ်တတ်ရပ်ပြီး နံရံမှ ခေါင်းလောင်းကြိုးကို ဆွဲလိုက်သည်။ ဘက်စီ ရောက်လာတော့ ကော်ဖီတအိုးနှင့် သတင်းစာ ယူခဲ့ရန် မှာလိုက်သည်။

မျက်နှာဖုံးသတင်းတွေက အားလုံး စစ်မြေပြင် သတင်းတွေချည်း။ စစ်ပွဲတွေနှင့် ဝါဂွမ်း ဆက်စပ်နေပုံကို တွေးရင်း ဖတ်နေ၏။ ဈေးနှုန်းသတင်း စာမျက်နှာသို့ လှန်လိုက်၏။ လည်ချောင်း ထဲမှ ကော်ဖီတွေ သီးမတတ် ဖြစ်သွား၏။ ဝါဂွမ်းဈေးက ၂၅ ဆင့်အထိ ရောက်နေပါပေါ့လား။ ကျောထဲ စိမ့်သွားသည်။ အသိဉာဏ်ထက် ခန္ဓာကိုယ်က ဦးစွာ ခံလိုက်ရသကဲ့သို့ ရှိ၏။ သည်ဈေးနှင့်ဆိုလျှင် ဘေထုပ် ၁,၀၀၀ ကို ဒေါ်လာက တသိန်းနှစ်သောင်းငါးထောင် တန်နေပြီ။ လုပ်ငန်းကုန်ကျစရိတ်တွေ ဘယ်လောက်များများ သည်နှစ် ထွက်လာမည့် အမြတ် ငွေတွေက ထောင်ပုံရာပုံ ဖြစ်နေတော့မည်။

ကက်စတာ စစ်ထဲဝင်သွားသည့် ကိစ္စကို အပြင်းအထန် ကန့်ကွက်ခဲ့၏။ တဆက် တည်းတွင် စိုးရိမ်စိတ်တွေနှင့် တွေး၍ ကြောက်ခဲ့၏။ သည်သောကတွေကြောင့် ဝက်သစ်ချ မြိုင်အတွက် ချမှတ်ထားသည့် စီမံကိန်းတွေကို မေ့မေ့လျော့လျော့ ဖြစ်နေခဲ့သည်။

သည်အမြတ်ငွေတွေနှင့် ဆိုလျှင် လွန်ခဲ့သည့် သုံးနှစ်က အိပ်မက်မက်ခဲ့သည့် ဝက်သစ်ချ မြိုင် စက်မှုလယ်ယာ စီမံကိန်းကို အကောင်အထည် မဖော်နိုင်စရာ အကြောင်း မရှိတော့။ စက်ကိရိယာတွေကို အသုံးပြုပြီး ထွန်ယက်စိုက်ပျိုးလိုက်လျှင် ကက်စတာ မျှော်မှန်းဖူးသည့် ကိန်းဂဏန်းတွေကို ရောက်အောင် ထုတ်လုပ်နိုင်မည်မှာ သေချာနေ၏။ တခုတော့ရှိသည်။ ဝါဂွမ်းတွေ များများထုတ်ပေးလေလေ ခဲယမ်းမီးကျောက်တွေ များများထွက်လေလေ၊ ကက်စတာ အိမ်ပြန်လာဖို့ အခွင့်အလမ်း နည်းလေလေ ဖြစ်နေ၏။ သည်လို စဉ်းစားမိတော့ ရှုံချင်သလိုလို ဖြစ်ရပြန်သည်။

သို့သော် သူပြန်လာလျှင် သူ့ရဲ့ ဘိုးဘွားပိုင် ဝက်သစ်ချမြိုင်ကို ပကတိပိုင်ဆိုင်မှုအတိုင်း နှင့် ပို၍ ပို၍ ခေတ်မီသည့် အထွက်တိုး စက်မှုလယ်ယာသုံး ဝက်သစ်ချမြိုင်အဖြစ် ကြိုဆို ပေးအပ်ချင်သေးသည်လေ။

သတင်းစာအောက်ပိုင်းကို ငုံ့ကြည့်သည်။ ကိုယ့်ကိုယ်ကိုယ် မလုံမလဲဖြစ်ပြီး ပြုံးမိ၏။ ကက်စတာ မရှိခိုက်တွင် ဆတက်ထမ်းပိုးတိုးပြီး အလုပ်လုပ်ရမည်

ဖြစ်သည်။ တွေးနေ ဆွေးနေ ၍ ကိစ္စပြီးမည် မဟုတ်။ ကက်စတာ ပြန်ရောက်လာလျှင် သူ မရှိ၍ လုပ်ငန်းတွေ လစ်ဟင်း ရသည်ဟု မဖြစ်စေရ။

ကြိုးကို ဆွဲလိုက်ပြန်သည်။ မနက်ဖြန်မှစ၍ မနက်တိုင်း ငါးနာရီတွင် နှိုးရန် ဘက်စီကို ပြောလိုက်သည်။

အလုပ်ခွင်သို့ စိတ်ရောကိုယ်ပါ ပြန်ဝင်၏။ ပထမဆုံး လုပ်ရမည့်အလုပ်မှာ စိတ်ချ ယုံကြည်ရသည့် မန်နေဂျာတယောက် ရှာဖွေရန် ဖြစ်သည်။ လုပ်ငန်းကို ချေးခါးအူမ နားလည်ပြီး မျက်နှာလွှဲရမည့် လူမျိုးကို ရှာရမည်။ လိုချင်သည့် အရည်အချင်းမျိုးနှင့် လူ ရဖို့က မလွယ်။ ဝါလုပ်ငန်းကို အောက်ခြေသိမ်း နောကျေသူ မရှိသလောက် ရှားကြောင်းကို အယ်လီနာ သိနေ၏။

အပေါ်ယံကြောလောက်သာ နားလည်သည့် ငွေလရောင်နှင့် အရက်ကောင်းကောင်း ကြိုက်တတ်သော အထည်ကြီးပျက် လူမျိုးတွေ ရှိသည်။ ပြီးတော့ အမေမှာ မှာသည့်အတိုင်း လုပ်တတ်သည့် ပေပေကျုံကျုံ ယာသမားတွေ ရှိသည်။ ရာသီဥတုအကြောင်းကို နားမလည်၊ ဈေးကွက်အကြောင်းကား ဝေလာဝေး။ သည်လုပ်ငန်းအကြောင်းကို အစအဆုံး နားလည်သူတွေ ရှိပြန်တော့လည်း သူတို့ကိုယ်ပိုင် ဝါခင်းတွေနှင့် လသာတုန်းဗိုင်းငင်ဖို့လောက်သာ အာရုံရှိနေ ကြသူများ ဖြစ်နေကြပြန်၏။

သည်တော့ ပြည်နယ်စိုက်ပျိုးရေးတက္ကသိုလ်နှင့် စိုက်ပျိုးရေးဦးစီးဌာနများသို့ စာရေး ရတော့၏။ စိုက်ပျိုးရေးစာစောင်များတွင် ကြော်ငြာထည့်ရတော့၏။ လျှောက်လွှာရှင် နှစ်ဒါဇင် လောက်ကို မိမိကိုယ်တိုင် လူတွေ့စစ်ဆေးသည်။

"ဝတ်" ဆိုသူ တယောက်ကို သဘောကျသဖြင့် ရွေးလိုက်၏။ လူက ပိန်ပိန်ပါးပါး၊ မျက်နှာပေါက်က မှုန်ကုပ်ကုပ်၊ ဝါအကြောင်း ကောင်းကောင်းနားလည်ပြီး အပင်ပန်းခံနိုင်မည့် ပုံမျိုး။ အစိုးရဝါ စိုက်ပျိုးခင်းတွင် အလုပ်လုပ်နေသူ ဖြစ်၏။ ဓာတ်မြေသြဇာနှင့် အစေ့အမျိုးမျိုးကို သုတေသနလုပ်ခဲ့ဖူးသူ ဖြစ်၏။ သီးနှံဖျက်ပိုးမွှားများ အကြောင်းကိုလည်း နားလည်ထားသူ ဖြစ်၏။

"ဝတ်" က တလလျှင် ဒေါ်လာ ၄၀၀၊ ရေမီးအစုံပါသည့် နေအိမ်တလုံးနှင့် ကား တစီးပေးဖို့ တောင်းဆိုသည်။

အယ်လီနာက သဘောတူလိုက်သည်။ နှစ်ဦးသဘောတူ စာချုပ်ချုပ်ကြ၏။

"ကျွန်မ လိုချင်တာကတော့ ဝက်သစ်ချမြိုင်ရဲ့ မြေဆီမြေနှစ်ကို

မဆုတ်ယုတ်စေ ဘဲနဲ့ ဝါအထွက်ကို တတ်နိုင်သမျှ တိုးထုတ်ဖို့ပဲ၊ အလုပ်နဲ့ ပတ်သက်လာရင် ကျွန်မ ကပ်စေး မနဲတတ်ဘူး၊ ကျွန်မ အလုပ်သမားတွေကို ဟောဒီ တနယ်လုံးမှာ အမြင့်ဆုံးလုပ်ခ ကျွန်မ ပေးမယ်။ အဲ. . . အလုပ်ချိန်မှာတော့ ဖရဲသီးခုတ်တမ်း ကစားနေတာတို့၊ ဘင်ဂျို တဒေါင်ဒေါင် တီးပြီး သီချင်း ဝိုင်းဆိုနေတာတွေတော့ မရှိစေရဘူး”

ဝတ်က မပြုံးမရယ်ဘဲ နားထောင်နေ၏။ သူ့မျက်နှာတွင် ပြုံးဖို့ အကြောင်းတွေ ပါမှ ပါရဲ့လား မသိ။

“ကျွန်တော် နားလည်ပါပြီ”

“ရှင် အလုပ်ခွင်ကို လေ့လာလေ၊ ဘာလိုလဲ ကျွန်မကို ပြော”

“ထွန်စက် လိုမှာတော့ သေချာပါတယ်”

“ဟုတ်ပြီ၊ ကျွန်မ ဝယ်ဖို့အစီအစဉ် ရှိပြီးသား၊ ဒီနှစ် ဘေထုပ် ၁,၂၀၀ ထုတ်နိုင်အောင် အကောင်းဆုံး အမျိုးအစားကို ကျွန်မ ဝယ်မယ်၊ ဒါထက် ရှင် အသက် ဘယ်လောက် ရှိပြီလဲ”

“လေးဆယ့်နှစ်နှစ် ရှိပါပြီ”

“ကျွန်မတို့ အလုပ်မစခင် ပွင့်ပွင့်လင်းလင်း ဆွေးနွေးထားကြရအောင်။ ကျွန်မအသက် နှစ်ဆယ့်ခုနစ်နှစ်ပဲ ရှိသေးတယ်၊ ကျွန်မဟာ အလုပ်ကို အောက်ခြေသိမ်း နားလည်နေတယ်လို့ ကျွန်မကိုယ်ကျွန်မ ဘယ်တော့မှ မထင်ဘူး။ အဲ.. ဒီလောက်လည်း ကျွန်မ မတုံးဘူး၊ ရှင် ကြိုက်တဲ့ အကြံဉာဏ် ကျွန်မကို ပေးနိုင်တယ်၊ ရှင့်ကို ကျွန်မ တယ်လီဖုန်းလည်း ပေးထားမယ်၊ ကြိုက်တဲ့အချိန် ကျွန်မဆီ ဆက်နိုင်တယ်။ ဒါပေမဲ့ ဝက်သစ်ချမြိုင်ကို ပိုင်တာက ကျွန်မနော်၊ ရှင် သဘော ပေါက်တယ် မဟုတ်လား”

အလွန်တည်သော သူ့နှုတ်ခမ်းထောင့်ကလေးတွေ ကွေးသည် ဆိုရုံကလေး ကွေးသွား၏။

“ဒါလောက်ထိ ပြောဖို့ မလိုပါဘူး မစ္စက်လန်း၊ ကျွန်တော် နားလည်ပါတယ်”

ပြီးတော့ နှစ်ယောက်သား လက်ဆွဲနှုတ်ဆက်လိုက်ကြသည်။

တရံရောအခါ က အိပ်မက်မက်ခဲ့သည့် စီမံကိန်းအတိုင်း အယ်လီနာ အကောင်ထည် ဖော်လျက် ရှိသည်။ ကိုယ့်ကိုယ်ကိုယ် ယုံကြည်မှုအပြည့်ဖြင့်၊

ပြီးတော့ ပျော်ရွှင်စွာဖြင့်၊ ဝက်သစ်ချ မြိုင် စိုက်ပျိုးရေးစနစ်ကို ပြောင်းပြန်လှန်ပစ်နေ၏။ လက်ထွန်စက်တွေ ဝယ်သည်။ မျိုးစေ့ချ ကိရိယာတွေ ဝယ်သည်။ ပြီးတော့ ပိုးသတ်ဆေးဘူးတွေ။ ကုန်တင်ကားကြီးတွေပါ လိုလေ သေးမရှိ အားဖြည့်ပေးသည်။ ကပ္ပလီအလုပ်သမားတွေကို နေ့တွက်ခတွေ တိုးပေးသည်။ သူတို့အတွက် နေအိမ်တွေကို ပြုပြင်ပေးသည်။ အလုပ်နှင့် ပတ်သက်လာလျှင်တော့ လုံးဝမညှာ။ ဝက်သစ်ချမြိုင် ယာခင်းကြီး လျင်မြန်စွာ တိုးတက်ပြောင်းလဲသောအခါ အိမ်စီမံခန့်ခွဲရေးကို အာရုံပြန်စိုက်ရပြန်၏။

ဝက်သစ်ချမြိုင် အိမ်ကြီးတွင် ရေနှင့် လျှပ်စစ်မီးကို အနည်းအကျဉ်း ပြုပြင်ထားသည်မှ လွဲပြီး ကျန်အပြင်အဆင် အားလုံးမှာ ပြည်တွင်းစစ်ကြီး မဖြစ်မီက ပုံစံအတိုင်း ရှိနေသေးသည်။ အယ်လီနာက ရေအိမ်အဟောင်းတွေကို ဖြိုချပြီး ခေတ်မီပစ္စည်းတွေ အစားထိုး တပ်ဆင်၏။ မီးဖိုဆောင်အတွက် လျှပ်စစ်မီးဖို ဝယ်ပေး၏။ အဝတ်လျှော်စက်၊ လေဖြင့် စုပ်ယူသည့် အမှိုက် သိမ်းစက်နှင့် အိမ်တွင်းပြော တယ်လီဖုန်းတွေပါ ဝယ်ပြီး ဝက်သစ်ချမြိုင်ကို အလှဆင်၏။ ခေတ်မီပစ္စည်းတွေကို မသုံးတတ် မစွဲတတ်၊ မကိုင်ရဲ မထိရဲသည့် အစေခံအချို့ အလုပ်ထွက် သွားကြသည်။ အယ်လီနာက မမှုတော့။ ဝက်သစ်ချမြိုင်သည် လုပ်အားများများ မလိုတော့။ ဝါခင်းစိုက်ကွင်းထဲတွင်လည်း စက်ပစ္စည်းတွေ အစားထိုးလိုက်၍ အလုပ်သမားဦးရေ လျော့ကျ သွားသည်။ စက်ရုံတွေနှင့် စစ်တပ်က လူတွေ အမြောက်အမြားခေါ်နေ၍ စိုက်ပျိုးရေးလောက တွင် လုပ်ခနှုန်းတွေ တက်ကုန်တော့၏။

လယ်ယာအလုပ်သမားတွေမှာ မရဖူးသည့် လုပ်ခတွေကို ရရှိနေကြ၏။ သည်နှစ်တွင်မှ ဝက်သစ်ချမြိုင်က အလုပ်သမားဦးရေ လျှော့ချပြီး စက်ပစ္စည်းတွေ အစားထိုးနိုင်လိုက်သည်မှာ တန်ဖိုးမဖြတ်နိုင်သည့် ပြုပြင်ပြောင်းလဲမှုတရပ် ဖြစ်သည်။

အမေရိကန် တနိုင်ငံလုံး စစ်သွေးစစ်မာန် ကြွနေ၏။ ကောင်းကင်တွင် လေယာဉ်ပျံသံ တွေ တဝေါဝေါ ဆူညံနေသည်။ မြေပြင်တွင် အော်ဟစ် အမိန့်ပေးသံတွေ၊ ချီတက် လှေ့ကျင့် နေသံတွေနှင့် ပွက်လောရိုက်နေသည်။ “ရန်သူကို အပြတ် ချေမှုန်းကြလော့” ဟူသည့် ရောမ ဆိုင်းဘုတ်ကြီးတွေကို နေရာအနှံ့ စိုက်ထူထား၏။ တတိုင်းပြည်လုံး ဆူညံနေသည်ကို အယ်လီနာ သတိမထားမိ။ စစ်တပ်နှင့် ပတ်သက်သည့် စေတနာ့ဝန်ထမ်းအလုပ်တွေ လုပ်ပေးဖို့ အဖွဲ့အစည်းတွေက မေတ္တာရပ်ခံသည့်အခါ “စစ်တပ်ကို ကျွန်မ လင်တယောက်လုံး ပေးထား ပြီးပြီ၊ အဲဒီ လင်အလုပ်တွေကို ကျွန်မပဲ လုပ်နေရတော့ ဘာအကူအညီမှ မပေးနိုင်တော့ပါဘူး” ဟု ပြောလွှတ်တတ်၏။

အလုပ်ကို သေလုမြောပါး လုပ်သည်။ ပင်ပန်းလွန်း၍ ညညဆိုလျှင် ခေါင်းချလိုက် သည်နှင့် အိပ်ပျော်သွားတတ်၏။ ရာသီဥတုက ပူပြင်းလှသည်။ တဖြည်းဖြည်း ကိုယ်အလေးချိန် လျော့လာသည်။ အေးအေးချမ်းချမ်း နေခဲ့ရသည့် အချိန်တွေကို မေ့လုနီးပါးရှိနေပြီ။ အိပ်မက်ဆိုး တွေမက်ပြီး နိုးလာလျှင် ပြန်အိပ်မရတော့။ သို့သော် မိုးလင်းလို့ စိမ်းလန်းစိုပြည်သည့် ဝါခင်း ပင်လယ်ကြီးကို မြင်လိုက်ရသည်နှင့် ရင်မှာ အေးသွား၏။ ခွန်အားတွေ ပြန်ပြည့်လာ၏။

"ဝတ်" က အယ်လီနာ၏ ညွှန်ကြားချက်များကို လေးလေးစားစား လိုက်နာဆောင်ရွက် ၏။ လူမည်းအလုပ်သမားတွေက အလုပ်ချိန်တွင် အလုပ်နှင့် တူအောင် လုပ်တတ်သွားလေပြီ။ အချိန်မှန်မှန် အလုပ်ဆင်းနေကြပြီ။ မမ်မီနှင့် ဒစ်စီက အိမ်သုံး ခေတ်မီပစ္စည်းကိရိယာများကို ကျင်လည်စွာ ကိုင်တွယ်သုံးစွဲတတ်နေပြီ ဖြစ်၍ ကျောအောင့် ခါးနာသည်အထိ မပင်ပန်းကြ တော့။

လယ်ထွန်စက်ကြီးတွေ ကွင်းထဲတွင် အလုပ်လုပ်နေသည့် မြင်ကွင်းကို ကြည့်နေ ရလျှင် အယ်လီနာ အားတက်သည်။ သူတို့စက်သံတွေက အယ်လီနာကို အားအင်ပြည့်ဖြိုး အောင် လုပ်ပေးနိုင်စွမ်း ရှိသည့်နှယ်။

ဝါပွင့်တွေ ပွင့်လာသည်။ ပွင့်ချပ်တွေ ကြွေသွားသည်။ ပြီးတော့ ဝါသီးကလေးတွေ နေရောင်ခြည်တွင် ပွင့်အာလာသည်။ "ဝတ်" ၏ အကူအညီဖြင့် ဝါကောက် အလုပ်သမားတွေ အများကြီး ရအောင် ခေါ်သည်။ ဝါကောက်သည့် လုပ်ငန်းမှာ ဝက်သစ်ချမြိုင်ဝါခင်းတွင် စက်နှင့် မလုပ်နိုင်သေးသည့် တခုတည်းသော လုပ်ငန်း ဖြစ်၏။ ဝါကောက်သည့် စက်တွေကို စိတ်တိုင်း မကျသေး၍ ဖြစ်သည်။ အယ်လီနာက ဝါကောက်သမားတွေကို ပေါင် ၁၀၀ လျှင် တဒေါ်လာ နှုန်း ပေးပြီး ခိုင်း၏။ နောက် တဒေါ်လာခွဲအထိ တိုးပေး၏။ နောက်ပိုင်းတွင် နှစ်ဒေါ်လာပေးလိုက်သည်။ ကားတစီးနှင့် ဝါခင်းအနှံ့ လျှောက်သွားပြီး အလုပ်သမားတွေကို အားပေး သည်။ သူတို့နေသည့် ရွာတွေအထိ ထရပ်ကားကြီးများဖြင့် အပို့အကြို လုပ်ပေးသည်။

စုစုပေါင်းဘေထုပ် တထောင်တရာနှင့် ဆယ့်ခြောက်ထုပ် ရလိုက်၏။ အယ်လီနာ ကျေနပ်သွားသည်။ တပေါင် ၂၇ ဆင့်ဈေးတွင် ထုတ်ရောင်းလိုက်၏။ တသက်နှင့် တကိုယ် မကြုံဖူးအောင် များလှသည့် စိုက်ပျိုးစရိတ်ကို နုတ်ပြီးသည့်တိုင်အောင် ထိုနှစ်အတွက် အသား တင်အမြတ်မှာ ဒေါ်လာခုနစ်သောင်း ကျော်သေးသည်။

※※※

(၂)

သည်ဆောင်းတွင်တော့ အယ်လီနာက ကောင်းကောင်း အနားယူလိုက်သည်။ အပေါင်း အသင်းဟောင်းများ အိမ်သို့ အလည်အပတ် သွားသည့်အခါ သွားသည်။ အိမ်မှာ ပါတီတပွဲပင် ပေးဖြစ်လိုက်သေး၏။ သို့ရာတွင် လုပ်စရာတွေ အပုံကြီး။

ကမ္ဘာစစ်သည် လူသားတို့၏ နေ့စဉ်လည်ပတ်နေသည့် ဘဝကို ခက်ခဲရှုပ်ထွေးအောင် ဖန်တီးလျက်ရှိ၏။ အယ်လီနာက သူ့အတွက်ရော၊ ကလေးတွေအတွက်ပါ အဝတ်အစားတွေ အားရပါးရ ဝယ်သည်။ ဈေးတွေ ဘယ်လောက်ထောင်တက်တက် ဝယ်နိုင်သည့် အင်အား လည်း ရှိသည်။ သို့ရာတွင် အရေးကြီးဆုံးဖြစ်သည့် အခြေခံစားကုန်တွေ ရဖို့ ခက်လာ၏။ သကြားမှာ ရွှေထက် ရှားသည့် ပစ္စည်း ဖြစ်နေပြီ။ အသားမှန်သမျှ စစ်တပ်က အကုန်သိမ်းနေ သဖြင့် ဈေးထဲတွင် ရှာမရတော့။ စစ်ရထားတွေက မီးသွေးအများကြီး သုံးနေသဖြင့် အိမ်ရှင်မ တွေ မီးသွေးကို တပြည်ချင်း ရှာဝယ်နေရသည်။

တိရစ္ဆာန်အဆီကို ပေါက်ကွဲစေတတ်သည့် လက်နက်များတွင် အသုံးပြုနေသဖြင့် ထောပတ်ဈေးက တပေါင်လျှင် ဆင့် ၈၀ အထိ ထိုးတက်သွားသည်။ ဂျုံဈေးမှာလည်း ထိုနည်း နှင်နှင်။ သည်တော့ ပေါင်မုန့်ကို ဂျုံစစ်စစ်ဖြင့် မဖုတ်နိုင်တော့ဘဲ အရောအနှောတွေ ထည့်လာ ရတော့၏။ စစ်အတွင်း ပေါင်မုန့်သည် ကြမ်းတိုက်သည့် အဝတ်ကို လုံးထွေးထားသည်နှင့် တူ နေတော့သည်။

အယ်လီနာက ကပ္ပလီတွေကို ထင်းခုတ်ခိုင်း၏။ သို့သော် လိုသလောက် ရအောင်ကား ခိုင်း၍ မဖြစ်။ တဖက်တွင် အလုပ်လစ်ဟင်းမည်ကိုလည်း စိုးရသေးသည် မဟုတ်လား။ ကလေး တွေအတွက်သာ မီးကို အမြဲဖိုထားစေပြီး အယ်လီနာက သူကိုယ်တိုင်အတွက် မခံနိုင်အောင် ချမ်းလွန်းမှသာ ဖိုခိုင်း၏။

ဥကြက်မတွေ မွေးသည်။ ဆောင်းသီးနှံ စိုက်ပျိုးသည်။ ထောပတ်ကို အိမ်တွင် ဖြစ်အောင် လုပ်သည်။ မမ်မီက ပြောင်းဆန်ဖြင့် ဘန်းမုန့်အလုံးကလေးတွေ၊ ဘီစကွတ်နွေးတွေ လုပ်တတ်၍ ကျေးဇူးတင်မဆုံး ဖြစ်နေရသည်။ စစ်ဒဏ်ကြောင့် ခံရသည့် ဒုက္ခပေါင်းများစွာကို ကလေးတွေ မခံစားရအောင် ကိုယ်စွမ်းရှိသမျှ၊ ဉာဏ်စွမ်းရှိသမျှ အကာအကွယ် ပေး၏။ သို့သော် လူမှာတော့ ဖတ်ဖတ်မောနေပြီ။

ကက်စတာထံမှ ပျော်စရာ စာတွေကို ဖတ်နေရလျှင် အယ်လီနာ

မောရပန်းရမှန်း မသိတော့။ သင်တန်းကျောင်းမှ ကိုလံဘီယာရှိ ဂျက်ဆန်စခန်းသို့ ဒုဗိုလ်ဘဝဖြင့် ပြောင်းရကြောင်း၊ စစ်ရေးလေ့ကျင့်မှုတွေ လုပ်နေရကြောင်း၊ "ဂျာမန်တွေကို နေ့တိုင်း လှံစွပ်နဲ့ ထိုးသတ်နေရတယ် အယ်လီနာရေ၊ ကောက်ရိုးရုပ်တွေကို ပြောတာနော်" စသည် စသည်ဖြင့် ခပ်ရွှင်ရွှင် ရေးပို့ သည့် စာများ။ သူ့စာတွေကို ဖတ်ပြီး သူ့ဘဝ သူ ပျော်နေကြောင်း၊ လုပ်ဆောင်ချက်မှန်သမျှကို အားရကျေနပ်နေကြောင်း သိသာနေသည်။ စာတွေဖတ်ပြီး ရယ်သည့်အခါ ရယ်မိ၏။ ပြင်းထန် လှသည့် သည်ဆောင်းဒဏ်ကို တချက်ကလေးမျှ မမှုဘဲ ချေးကျရာတွင် ပျော်နေသည့် သူ့ဝသီ ကို မကျေမနပ်လည်း ဖြစ်မိ၏။

စာတစောင်တွင်-

"မောင့်ဘဝမှာတော့ အပျော်ဆုံးနဲ့ အမှတ်ထင်ထင်ရှိဆုံး အချိန်တွေပဲ။ ကိုလံ ဘီယာဟာ ၁၈၄၉ ခုနှစ် တပိုက်မှာ ရွှေရှာတဲ့ လူတွေနဲ့ စည်ကားနေတဲ့ စန်ဖရန် စစ္စကိုလို ဖြစ်နေပြီ။ ကြက်ပျံမကျ စည်ကားနေပြီလေ။

စစ်မဖြစ်ခင်က ကိုလံဘီယာဟာ လူဦးရေသုံးသောင်းပဲ ရှိတဲ့ မြို့ငယ်ကလေး။ ခုတော့ ၁၆ ထပ်ရှိတဲ့ မိုးထိတိုက်ကြီးတွေ၊ ဘဏ်အဆောက်အအုံကြီးတွေနဲ့ ခေတ်မီ လှပနေပြီ။ အထက်တန်းကျောင်းကြီးကလည်း ကျောက်ဖြူသားနဲ့ ဆောက်ထားတာ ဆိုတော့ သိပ်အဆင့်အတန်း မြင့်တာပဲ။ မြို့ရဲ့ ကျက်သရေဆောင် "ကက်ပီတောလ်" ပြည်နယ် ခန်းမဆောင်ကြီးကတော့ ကိုလံဘီယာရဲ့ အဓိကရုပေါ့။ ၁၈၆၅ ခုနှစ်မှာ ဗိုလ်ချုပ်ရှာမင် တမြို့လုံး မီးတင် ရှို့ခဲ့တုန်းက သည်အဆောက်အအုံကြီး ပျက်စီးခဲ့ပုံ တွေကို မောင် တွေးကြည့်နေမိတယ်။ ဗိုလ်ချုပ် ရှာမင် မြို့ကို ဖျက်ဆီးခဲ့တဲ့ အချိန်က စပြီး ခုဂျာမနီနဲ့ စစ်မဖြစ်ခင်အထိ သည်မြို့ကလေးက သိပ်ပြီး တိတ်ဆိတ်ငြိမ်းချမ်း ခဲ့တယ်။

ခုတော့ မြို့စွန်မှာ ဂျက်ဆန်စစ်စခန်း ဆောက်ထားတယ်။ လေယာဉ်ပျံတက်သံ ဆင်းသံတွေက တချိန်လုံး နားပွင့်မတတ်ပဲ။ စစ်ရေးလေ့ကျင့်နေကြတဲ့ ကြည်းတပ် တွေကတော့ လမ်းတကာမှာ ရှောင်လို့ မလွတ်အောင်ပဲ။ မြင်းတပ်တွေ၊ တင့်ကားတပ် တွေကလည်း မျက်စိနောက်လောက်အောင်ပဲ အယ်လီနာရေ…။

မြို့ခံ လူဦးရေကို စစ်သားဦးရေ တသိန်းခွဲ ထည့်ပေါင်းလိုက်တော့ စဉ်းစား သာ ကြည့်တော့။ ပြီးတော့ စစ်တပ်နဲ့ တဆက်တည်း ဖြစ်လာတဲ့ အိမ်ထောင်သည်တွေ၊ မိသားစုတွေ၊ သူနာပြုတွေ၊ ကိုလံဘီယာကို လိုက်လာပြီး လည်ကြ ပတ်ကြတဲ့ မိတ်ဆွေအပေါင်းအသင်းတွေ၊ ပြီးတော့ စစ်တပ်နဲ့ ခွဲမရတဲ့ မိန်းမတွေ။ အို… ကိုလံဘီယာဟာ အိပ်ချိန်မရှိတဲ့ မြို့ကလေး ဖြစ်နေပြီ။

တည်းခိုခန်းတွေ သိပ်ဈေးကောင်းတာပေါ့။ ချာတူးလန် ပရိဘောဂတွေနဲ့ အိပ်ခန်း

တခန်းကို တပတ်မှာ ဒေါ်လာ ၃၀ တဲ့။ အချို့အရာရှိ ကတော်တွေက ချမ်းသာတဲ့ လူတွေဆိုတော့ တည်းခိုခန်းပိုင်ရှင်တွေက သူတို့အတွက် သီးသန့် ကေဘင်ကလေး တွေကို ပြုပြင်ပေးကြတယ်။ ဒါပေမဲ့ လုံလုံခြုံခြုံ မဟုတ်ပါဘူး။

စားသောက်ဆိုင်တွေလည်း အလျှဉ်မီအောင် မရောင်းနိုင်တော့ဘူး။ ကုန်မျိုးစုံ ဆိုင်တွေ ရှေ့မှာ တန်းစီနေတဲ့ လူတန်းကြီးတွေ အမြဲတမ်း ရှိနေတယ်။ သကြားတပေါင် ကို ရဖို့ တနေကုန် တန်းစီရတယ်လေ။ (ဈေးက ကြည့်ဦး၊ တပေါင် ဆင့်လေးဆယ်)

အမေရိကန် ဒေါ်လာဈေးနှုန်းက ထိုးကျနေတယ်။ တပတ်ကို သုံးဒေါ်လာ ရတဲ့ ရှုံးလုလင်ရဲ့ လစာက ဒေါ်လာ ၂၀ အထိ တက်သွားတယ်။ ဓာတ်လှေကားမောင်း အလုပ်နဲ့ တက္ကစီကားမောင်း အလုပ်ကို ဝင်လုပ်နေကြတဲ့ ၁၀ တန်း ကျောင်းသူကလေး တွေရဲ့ လခက စစ်မဖြစ်ခင် သူတို့အဖေတွေ ရတဲ့ လခထက် အပုံကြီး ပိုရနေတယ်။

မီးသွေးဈေးက တပြည်ကို တဒေါ်လာအထိ တက်လာတယ်။ သည်တော့ ကပ္ပလီမကလေးတွေ အားလုံး ထင်းသည်တွေ ဖြစ်ကုန်တော့တာပေါ့။ သဘာဝ မိခင် က သူတို့ကို သူဌေးဖြစ်အောင် လုပ်ပေးနေတာလေ။ ကာရှိလိုင်းနား တောင်ပိုင်းမှာ သည်နှစ်ဟာ အအေးဆုံးပဲ တဲ့။ တပတ်မှာ တခါလောက် နှင်းမုန်တိုင်း ကျတယ်။ မြောက်ပိုင်းသား ရဲဘော်တွေဟာ ထွေးနွေးတဲ့ သူတို့အရပ်ကို တအောက်မေ့မေ့ ဖြစ်နေ ကြပြီး တောင်ပိုင်းဆောင်းကို ညစ်တီးညစ်ပတ် စကားလုံးတွေနဲ့ တိုင်းထွာဆဲဆို နေကြတယ်။ သူတို့ကို ဘယ်သူမှ အပြစ်မတင်နိုင်တော့ဘူးလေ။ အပင်တွေမှာ ဟီးလေး ခိုနေတဲ့ ဆီးနှင်းခဲတွေဟာ သုံးပေလောက် ရှည်နေတယ် ဆိုတော့ စဉ်းစားသာ ကြည့် တော့ အယ်လီနာရေ…။

မောင်တို့ အရာရှိတွေ အတွက်တော့ မီးသွေး လုံလုံလောက်လောက် ရပါတယ်။ အရပ်သားတွေ အတွက်တော့ မလွယ်ကြောပဲ။ ကျောင်းတွေ ပိတ်ထားရတယ်။ ဘုရားရှိခိုးကျောင်းတွေတောင် ပိတ်ထားရတယ်။ စစ်တပ်အတွက် မီးသွေး မလောက် မှာ စိုးလို့လေ။

ကျောင်းတွေ ပိတ်ထားတော့ ကျောင်းသားတွေက နှင်းတောထဲမှာ တနေကုန် ထွက်ဆော့လိုက်၊ ရုပ်ရှင်ကြည့်လိုက်နဲ့ပေါ့။ ပြနေတဲ့ ကားတွေ နာမည်ကို ကြည့်ဦး လေ။ "တိရစ္ဆာန်ဘုရင် ဘာလင်ကိုင်ဇာ"တဲ့၊ "ဝိညာဉ် လေလံပွဲ" တဲ့။ ပြီးတော့ "ကိုင်ဇာ ဘုရင်ကို ငရဲပို့ကြစို့" တဲ့။ ဘယ်လောက် လန့်ဖို့ ကောင်းတဲ့ နာမည်တွေလဲ။ သချ်ာတွေ မတွက်ရတော့ လွတ်လပ်နေကြတဲ့ ကျောင်းသူ၊ ကျောင်းသားကလေးတွေနဲ့ မောင်တို့ ရောနှောပြီး ရုပ်ရှင်ကြည့်ကြရတယ်။ ဂျာမနီရဲ့ မဟာမိတ် တူရကီ စစ်သားတွေက အမေရိကန် အမျိုးသမီးကလေးတွေကို အဓမ္မကျင့်တဲ့ အခန်းတွေ၊ ဂျာမန်စစ်သားတွေ က ကလေးငယ်တွေကို လှံစွပ်နဲ့ ထိုးသတ်နေတဲ့ အခန်းတွေ၊ ဘာသာရေး အဆောက် အအုံတွေကို ဂျာမန်တွေ ဖျက်ဆီးတဲ့ အခန်းတွေ။

မောင်တော့ ဒါတွေကို တဝက်တောင် မယုံပါဘူး။ ဒါပေမဲ့ ဥရောပကို သည်အဖြစ်ဆိုးတွေထဲက ဆွဲတင်ဖို့နဲ့ ကော်နယ်လီယာနဲ့ ဖီးလစ်ကလေးတို့ အရွယ်မရောက် ခင် သည်အမင်္ဂလာ သွေးဇာတ်လမ်းတွေ တခန်းရပ်ဖို့ ပါဝင်လှုပ်ရှားခွင့် ရတာကို မောင် ဝမ်းသာနေတယ် မိန်းမရေ..။

တာဝန်ပိုင်းနဲ့မို့ပါ အချစ်ရယ်၊ မောင် အချစ်ကို သိပ်လွမ်းပါတယ်။ မောင့်ဆီကို တခါလောက် သူများ အရာရှိကတော်တွေလို လာခဲ့ပါလားကွယ်။ သည်တော့မှ စစ်ဆိုတာ ဘာလဲလို့ မောင့်မယားကလေး သိသွားမယ်လေ။ မောင် နှစ်ရက်လောက် ခွင့်ရအောင် လုပ်မယ်။ အခန်းကလေး တခန်းငှားပြီး မောင်တို့ တွေ့ကြတာပေါ့။ မောင်တို့ အချစ်တွေ ပြန်လည် ဆန်းသစ်ကြရအောင်နော်။ သိပ်လွမ်းတယ်ကွယ်---”

သူ့စာကို ဖတ်ပြီး နံဘေးတွင် ချထားလိုက်၏။ မီးမရှိသည့် မီးလင်းဖိုထဲသို့ ငေးကြည့် နေရင်း အယ်လီနာ တကိုယ်တည်း ပြုံးနေမိသည်။ ဟေမန္တ ဆောင်းလရာသီလယ်တွင် အခန်းမှာ ရေခဲပြင်ပေါ်မှ အက်စကီမိုး အိမ်တမျှ အေးလှ၏။ သို့သော် မောင့်စာကို ဖတ်ပြီးတော့ နွေးသွားသည်။ ယခုပဲ သူ့ရင်ခွင်ထဲ ရောက်သွားသလို ပူနွေးစွာ ခံစားလိုက်ရ၏။ သူ သွားခါစ ရက်တွေတုန်းက ဆိုလျှင် အထီးကျန်ဝေဒနာကို အလူးအလဲ ခံစားခဲ့ရသည်။ ခွင့် ဘယ်တော့ ပြန်ရမလဲဟု မေးသည့် ကြေးနန်းတွေကို ရိုက်လိုက်သည်မှာ အကြိမ်ကြိမ်။

လိုက်သွားဖို့ အပြေးအလွှား စီစဉ်သည်။ မီးသွေးတင်သည့် တွဲထဲတွင် ငါးပိသိပ် ငါးချဉ် သိပ် လိုက်လာခဲ့၏။ ဒူးခေါင်းက ရှေ့မှ မုတ်ဆိတ်မွေး၊ ပါးသိုင်းမွေးတွေနှင့် လူကြီးကျောကို ထောက်နေ၏။ ပြတင်းပေါက်ဘောင်ကို မေးတင်ရင်း တညလုံး အိပ်ငိုက်ပြီး လိုက်လာခဲ့၏။ လမ်းကြားကလေးထဲက တည်းခိုခန်း ခပ်စုတ်စုတ်ကလေးတွင် ကက်စတာက စီစဉ်ထားသည်။ တရက်ကို ၁၅ ဒေါ်လာ ပေးရသည် တဲ့။ မီးဖို မပါ၊ အနွေးဓာတ် မရှိ။ အိပ်ရာပေါ်မှ အခင်းက ခပ်ချာချာ။ စောင်က နှစ်ယောက် မခြုံလောက်။ ပါလာသည့် ကုတ်အင်္ကျီကို ထပ်ခြုံရ၏။ မှန်တင်ခုံပေါ်က မှန်မှာ ကျောက်ပေါက်မာ နိုင်းချင်းနှင့် ပုံရိပ် မထင်တော့။ အဖာတရာနှင့် ကော်ဇောအစုတ်ကြီးကို ခင်းထားသည်။ သောက်ရေ၊ သုံးရေအတွက် တန်းလျားတဖက်စွန်းတွင် ကိုယ်တိုင် သွားယူရသည်။

သို့ရာတွင် နှစ်ယောက်စလုံး သည်ဒုက္ခတွေကို သတိမရကြ။ ကွဲနေသည့် ရက်တွေကို အတိုးချပြီး ၄၈ နာရီလုံးလုံး အတူနေကြသည်။ မောင်နဲ့သာ အတူနေရမယ် ဆိုရင် သည့်ထက် စုတ်သည့် အခန်းတွင်လည်း နေနိုင်ပါ၏။ တသက်မက နေနိုင်ပါသည်။

အိမ်ပြန်ရောက်တော့ လူဝီစီးယားနား ရာသီဥတုက ကာရိုလိုင်းနားထက် ပိုပြီး တောက်ပ နွေးထွေးနေသည်ကို တွေ့ရ၏။ မြက်ခင်းတွေ စိမ်းနေပြီး

ဖယောင်းပန်းတွေ ပွင့်နေ၏။ သို့သော် ကက်စတာ မရှိသော ဝက်သစ်ချမြိုင်သည် သာလာယံဇရပ်သဖွယ် ကျက်သရေ ကင်းမဲ့နေ သည်။ ထွန်ယက် ပြင်ဆင်ရတော့မည့် ရာသီရောက်လာပြီး အလုပ်တွေ ဖိလုပ်ရတော့မှာမို့ ဝမ်းသာနေမိ၏။ မောင်က ပြောသည်။ အချစ် သိပ်ပိန်သွားတယ် တဲ့။ အလုပ်တွေ ဘယ်လောက် ပင်ပန်းနေကြောင်း တလုံးတပါဒမျှ မပြောခဲ့၊ ပြောချိန်လည်း မရခဲ့ဘူး မဟုတ်လား။ ကိုယ့်ကိုယ်ကိုယ်တော့ ဘယ်သတိထားမိပါ့မလဲ။ ဝါဂွမ်းဈေးကို သတင်းစာတွင် ဖတ်ရတိုင်း အင်အားတွေ တိုးနေသလိုတောင် ဖြစ်နေသေးတာပဲ။ ဝါဈေးက တက်လို့ ကောင်းတုန်း။ တပေါင်ကို ၂၃ ဆင့်ထိ ရောက်နေပြီလေ။

※※※

## (၃)

ပြေါ်လထဲတွင် ကက်စတာ့စာတွေ အလာရပ်သွားသည်။ ဘာအကြောင်းမျှ မကြားဘဲ တုံ့ခနဲရပ်သွားခြင်း ဖြစ်၏။ သည်တော့မှ တွေးကြည့်ရတော့သည်။ စစ်ထွက်ယောက်ျားတို့သည် သူတို့၏စစ်ကြောင်းကို ကြိုတင်သိခွင့် မရှိကြသည့် အကြောင်း။

နေ့စဉ် စာမျှော်သည်။ မောင် ပြန်လာမည့် ခြေသံကို အစဉ်နားစွင့်သည်။ မလာသည့် အဆုံး ဆောက်တည်ရာမရ စိုးရိမ်စိတ်ကို အလုပ်တွေနှင့် ဖိထားလိုက်၏။ ဘာကိုမျှ စဉ်းစား ချိန်မရအောင် နားချိန်မယူတမ်း လုပ်၏။ ဤတွင် ဘော့ပါ စယ်က အတင်းလာပြီး ကျန်းမာရေး ကို စစ်ဆေးသည် တဲ့လေ။ ဘော့က လက်ကောက်ဝတ်မှ သွေးတိုးစမ်းပြီးတော့ စိတ်ပျက် လက်ပျက် ပြုံးသည်။ ပြီးတော့ ခေါင်းယမ်းသည်။

"မင်းဟာ ဘယ်လို ပြောလို့မှလည်း မရပါလား အယ်လီနာရယ်၊ အိပ်ရာထဲမှာ တလ လောက် အနားယူဖို့ ကိုယ် မပြောခဲ့ဘူးလား" တဲ့။

"အို.. မဟုတ်တာ ဘော့ကလည်း၊ အလုပ်တွေကို ပစ်ထားလို့ ဘယ်ရမလဲ"

သူက မျက်လုံးကို ဖြဲကြည့်သည်။

"အိုင်ယာလန်သားတွေ ပြောတာ မင်း မကြားဖူးဘူးလား အယ်လီနာ။ ဆယ်မိနစ်ကို သူ့ရဲ့ဘောကြောင်ရတာ ကျန်တသက်လုံး သေနေရတာထက်တော့ အဓိပ္ပာယ်ရှိတယ် တဲ့"

"အယ်လီနာ မသေနိုင်ပါဘူး ဘော့ရယ်"

"မင်း သိပ်အားနည်းနေတယ် အယ်လီနာ၊ သွေးအားနည်းရောဂါ ဝင်လာရင် သိပ် ကြောက်စရာ ကောင်းတယ်နော်"

ဘော့က ဆူပူကြိမ်းမောင်းပြီး သံခဓာတ်ပါသည့် ဆေးတွေနဲ့ ညွှန်ကြားချက်တွေ အများ ကြီး ပေးသွားသည်။ သို့သော် သူ သတ်မှတ်ပေးသွားသည့် စည်းကမ်းချက်တွေက ဘယ်လိုမျှ မလုပ်နိုင်သည့် စည်းကမ်းချက်တွေ။ တနေ့ ကိုးနာရီ အိပ်ရမည် တဲ့၊ ပြီးတော့ နေ့ခင်းမှာ အနားယူရဦးမယ် တဲ့။ အားလုံး ခေါက်ထားလိုက်သည်။

နောက်ဆုံးတော့ ကက်စတာ့ထံမှ စာ ရောက်လာသည်။ ချက်ချင်း အားတွေ အင်တွေ ပြည့်ဖြိုးလာသလို ခံစားလိုက်ရ၏။ ဘော့ ပြောသည့် သွေးအားနည်းရောဂါ မဟုတ်နိုင်ပါဘူး။ ခေါင်းမူးတာကတော့ အကြောတက်တာ ဖြစ်မှာပါဟု တွေးမိလိုက်သည်။

မောင်က ပြင်သစ်ကို ရောက်နေသည် တဲ့လေ။ သူ ရောက်နေသည့် အရပ်ကို ပြောပိုင်ခွင့် မရှိဘူး တဲ့။ အလွန်လှသည့် တိုင်းပြည်ဖြစ်ကြောင်း၊ ဗုံးဒဏ်ခံနေရသည့်အထဲမှာပင် စိမ့်စမ်း ရေတံခွန်တွေနဲ့ အလွန်လှနေသေးကြောင်း၊ သေနတ်သံတွေ ဆူညံနေသည့်ကြားမှ ကျေးငှက် သာရကာတို့ ကောင်းကင်တခိုတွင် ဝဲပျံလျက် ရှိကြကြောင်း... စသည် စသည်။

“မောင် ခုကားမောင်း နေရတယ်လေ။ ဗိုလ်မှူးကြီးတွေအတွက် ရိက္ခာနဲ့ ကြေးနန်းသတင်းတွေ အပို့အယူ လုပ်ပေးရတယ်။ စစ်တပ်ဆိုတာ အလှူအိမ်မှာ ထမင်း ကောင်းကောင်း ချက်ဖူးရင် ထမင်းချက်ရာထူး ရတာပဲ။ ဒါကြောင့် မောင်လည်း ဒရိုင်ဘာ ဖြစ်နေတာပေါ့။ အမယ် ဒီမှာ ကားမောင်းရတာ လွယ်တယ် မထင်နဲ့နော်။ မီးမရှိ၊ လမ်းမရှိတဲ့ နေရာတွေ မောင်းရတာ ဗျား။ လမ်းဆိုလို့ ရှားမှရှား။ တွေ့ပြန်ရင် လည်း ဗုံးဒဏ်နဲ့ ပျက်စီးနေတဲ့ လမ်းတွေချည်း။ အများအားဖြင့်ကတော့ ရွှံ့ထဲ ဗွက်ထဲ မောင်းရတာ များပါတယ်။ ဒါပေမဲ့ သိတယ် မဟုတ်လား၊ အချစ်ရဲ့ မောင်က ကားသရဲပဲ။ အဲဒီလို ခဲရာခဲဆစ် မောင်းနေရတာ ပိုပျော်နေတယ်။ မောင့်ကားက မီးလည်း မပါဘူး၊ မောင့်ကားကို တားဆီးမယ့် ယာဉ်ထိန်းရဲတွေ၊ အချက်ပြမီးတွေလည်း မရှိဘူး၊ မှိုင်းနှုန်း သတ်မှတ်ချက်လည်း မရှိဘူး။ လမ်းပေါ်မှာ ဆေးဖြူတွေနဲ့ ရေးပြီး ဟိုဘက် မတိုးရ၊ ဒီဘက် မကူးရ ဆိုပြီးတော့လည်း ချုပ်မထားဘူး။ “ဩ‥‥‥ ကက်စတာ့ကားနဲ့ ပြန်လိုက် သွားမလို့လား၊ အေး - . ဘုရားသာ တပြီး စီးပေတော့” လို့ ပါတီပွဲအပြီးမှာ ပြောလေ့ ရှိတဲ့ မချောတွေလည်း ဒီမှာ မရှိဘူးလေ။ ကဲ‥‥ ကားမောင်းရတာ ဘယ်လောက် ပျော်စရာ ကောင်းမလဲ ဆိုတာ စဉ်းစားကြည့်တော့။

အချစ်ကို မောင် အများကြီး ရေးပြစရာတွေ ရှိတယ်။ ဒါပေမဲ့ ခွင့်မပြုဘူးလေ။ အချစ်ရဲ့ ဓာတ်ပုံတပုံ လောလောဆယ် ရိုက်ပြီး ပို့ပေးပါ။ သမီးနဲ့ သားပုံလည်း အသစ် ရိုက်ထည့်ပေးပါဦး။ မောင့်အိတ်ထဲက ပုံတွေက သိပ်နွမ်းကုန်ပြီ။ သမီး အရပ်ထွက် လာရဲ့လား၊ ဘယ်လောက် မြင့်နေပြီလဲ၊ မောင့်ကို မှတ်မိသေးရဲ့လား ဟင်။ ကဲ. မောင် တော်ဦးမယ်။ အချစ် မောင့်အတွက် ဘာမှ မပူနဲ့နော်။ မောင်က စစ်မြေမှာပျော်နေတာ။”

မောင့် လက်မှတ်ထိုးထားသည့် နေရာကလေးကို အမှတ်မထင် ငုံ့ပြီး မွှေးမွှေးနမ်းလိုက်မိသည်။ ဩော်. . . မောင်ရယ်၊ ရင်ထဲတွင် နွေးနေ၏။

သဲအိတ်တွေ ဝိုင်းထားတဲ့ ဗုံးကျင်းထဲမှာ နေပြီး ပစ်ခတ်နေရတာနဲ့ စာရင်တော့ မောင် ခုလို နေရတာ ပိုပြီး အန္တရာယ်ကင်းမယ် ထင်ပါရဲ့ ဆိုပြီးတော့လည်း စိတ်သက်သာရာ ရသွား ၏။ မောင့်အတွက် စိတ်ပူစရာအကြောင်း

မရှိပါဘူးဟု ကိုယ့်ကိုယ်ကိုယ် အားပေးလိုက်သည်။ မောင့်လို စိတ်ကောင်း နှလုံးကောင်းရှိပြီး လူတကာချစ်ခင်တဲ့ လူမျိုးဟာ မြေးတွေ၊ မြစ်တွေ ရတဲ့အထိ အသက်ရှည်ဦးမှာ။

သားနှင့် သမီးက ဝရန်တာတွင် ကစားနေကြသည်။ စာအိတ်ထဲတွင် ပါလာသည့် မောင့်ဓာတ်ပုံကို ယူပြီး သူတို့ ဆီကို ထလာခဲ့သည်။ မောင်နှမနှစ်ယောက် စစ်သားလုပ်တမ်း ကစားနေကြ၏။ သတင်းစာကို ကြက်မောက်ပုံစံဦးထုပ် လုပ်ပြီး ဆောင်းထားကြသည်။ ဒစ်စီ လက်ရာ ဖြစ်မည် ထင်၏။ ဒစ်စီက စစ်သား ဆိုလျှင် ပြည်တွင်းစစ်တုန်းက စစ်သားတွေ ဆောင်းသည့် ဦးထုပ်ကိုသာ အားလုံး ဆောင်းကြသည် ထင်နေပုံရ၏။ မောင်နှမနှစ်ယောက် ပခုံးပေါ်တွင် တံမြက်စည်းတွေ ထမ်းပြီး ဘယ်ညာ လျှောက်နေကြသည်။ စစ်ချီသီချင်းတွေကို မပီကလာ ပီကလာဖြင့် အော်ဆိုလျက်...။

သည်တော့လည်း လှိုက်လှိုက်လှဲလှဲ ရယ်မောဖြစ်ပြန်သည်။ သူတို့အဖေ့ ဓာတ်ပုံကို ထောင်ပြပြီး-

"သမီး ကော်နယ်လီယာ၊ လာ... ဒီမှာ ကြည့်စမ်း"

ကော်နယ်လီယာက လှည့်ကြည့်ပြီး မကျေနပ်သံဖြင့်-

"ဟာ... မေမေကလည်း"

"လာပါ သမီးရဲ့၊ ဒီကို လာကြည့်ပါဦး"

"တပ်ခွဲ.. သတိ"

ကော်နယ်လီယာက ဖီးလစ်ကို အမိန့်ပေးလိုက်သည်။ ဖီးလစ်က သူ့အရပ်ထက် ရှည်သည့် တံမြက်စည်းကြီးကို ထမ်းလျက်။ ကော်နယ်လီယာက ရှေ့တလှမ်း တိုးလာသည်။

"ကျုပ်က ဗိုလ်ကြီး၊ ဘာလို့ ခေါ်တာလဲ"

ဓာတ်ပုံကို ထိုးပေးလိုက်သည်။ ဓာတ်ပုံထဲတွင် ပြုံး၍ ကြည့်နေသော ဖအေကို ကြည့်ပြီး ကော်နယ်လီယာကလေး၏ မျက်နှာမှာ ဝင်းထိန်သွားသည်။ ဓာတ်ပုံကို စိုက်ကြည့်နေရင်း အလွန်လှသည့် သူ့မျက်လုံးကလေးတွေ ပို၍ ရွှန်းလဲ့လာသည်။

"ဖေဖေက မချောဘူးလားဟင် မေမေ"

မောင့်ခတ်ပုံတွေကို ပြတိုင်းပြတိုင်း သူ့အဖေအပေါ် ချစ်မြတ်နိုးသည့် အမူအရာတွေ သူ့မျက်နှာနှင့် သူ့မျက်လုံးများတွင် အထင်းသား ပေါ်လာတတ်သည်။ မနာလိုချင်စရာပင် ကောင်းနေ၏။ သည်လို စည်းစိမ်ချမ်းသာနှင့် သူတို့နေနေရသည်မှာ သူ့အဖေ ရုပ်ချောသဘော ကောင်းနေလို့ မဟုတ်ဘဲ အမေ၏ အားအင်တွေကြောင့် ဖြစ်ကြောင်း သူကလေး မသိရှာ။ ဖအေလို တချိန်လုံး ထွေးထွေးပိုက်ပိုက် လုပ်နေချိန် မပေးနိုင်ခဲ့တော့လည်း မအေကို မသိမသာ စိမ်းသလို ဖြစ်နေ၏။

ကော်နယ်လီယာက သူ့အဖေ့ပုံကို အကြာကြီး စိုက်ကြည့်နေပြီးမှ -

“ဖေဖေ ဘယ်တော့ ပြန်လာမှာလဲ မေမေ”

“စစ်ပြီးရင် ပြန်လာမှာပေါ့ သမီးရယ်”

“ဖေဖေက ဂျာမန်စစ်သားတွေကို သေနတ်နဲ့ ပစ်သလားဟင် မေမေ”

ဖီးလစ်ကို ခေါ်ပြီး ခတ်ပုံကို ပြတော့ သူက သေသေချာချာ ကြည့်ပြီး-

“စစ်တားကောင်လေး” ဟု ပြောသည်။

ဖီးလစ်ကလေးမှာ နှစ်နှစ်ပြည့်ပြီ။ သူ့အဖေကို လုံးဝ မမှတ်မိတော့။

“အဲဒါ တို့အဖေ ဖီးလစ်ရဲ့”

ကော်နယ်လီယာက ဝင်ပြောသည်။ သို့သော် ဖီးလစ်က စိတ်မဝင်စား။

“အနော်လည်း စစ်တားပဲ”

“ဟုတ်ပါတယ် သားရဲ့၊ သားလည်း စစ်သား၊ သားဖေဖေလည်း စစ်သားပဲ”

သူတို့ မောင်နှမနှစ်ယောက် စစ်ချီသီချင်းတွေ ဆိုပြီး ထွက်သွားကြသည်။ မြို့ကို သွားပြီး လုပ်စရာ ကိစ္စတွေ ရှိနေသေးသည်။ အဝတ်လဲဖို့ အပေါ်ထပ် တက်ခဲ့သည်။ ကက်စတာ့ အခန်း ထဲသို့ ဝင်ကြည့်၏။ မှန်တင်ခုံရှေ့တွင် အကြောင်သား ရပ်နေမိသည်။ အဝတ်တွေမှာ စီစီညီညီ ခေါက်လျက်သား။ လက်ကိုင်ပဝါ အထပ်ပေါ်တွင် သူ့နာမည် ထိုးထားသည့် ငွေခွား ကလေး တင်လျက်။ ယူပြီး နမ်းလိုက်မိသည်။ ပထမဆုံး တွေ့ကြသည့် နေရာကို မြင်ယောင်လာသည်။

ပြတင်းပေါက်မှ ကွင်းပြင်ဆီသို့ လှမ်းကြည့်သည်။ သည်နှစ်လည်း ဝါခင်းတွေ အောင်မြင်ဦးမှာ မုချ။ မိမိလုပ်အားအတွက် ကျိတ်ပြီး ကျေနပ်နေ၏။

ကိုယ့်အခန်း ကိုယ် ပြန်လာခဲ့သည်။ အဝတ်လဲနေရင်း အခန်းအပြင်အဆင်ကို သဘော ကျနေသည်။ ရေချိုးကန်သစ်ထဲတွင် ရေနွေးနှင့် ချိုးရသည့် အရသာက ထူးခြားလှ၏။ ဆံပင် အခြောက်လှန်းသည့် လျှပ်စစ်လေမှုတ်ကိရိယာကလည်း ကုပ်ပေါ်တွင် ဝဲကျနေသည့် ဆံပင် တွေကို လှိုင်းတွန့်မပျက်စေဘဲ လျင်စွာ ခြောက်သွေ့စေ၏။ မှန်ထဲတွင် ကိုယ့်ရုပ် ကိုယ်ပြန် ကြည့်မိ၏။ မိန်းမချောစာရင်းကို မဝင်ပေမယ့် မျက်နှာမှာ ရှင်းသန့် ကြည်လင်၏။ လေးနက် တည်ကြည်သည့် အလှတမျိုး။ ကိုယ်နေဟန်မှာ မြင့်မားသည့် အရပ်အမောင်းနှင့် အချိုးကျကျ သွယ်လျစွာ ကျက်သရေရှိ၏။

အိထွေးနေသည့် အညိုရောင် တာဖက်တာအင်္ကျီကို ဝတ်သည်။ ဖိနပ်နှင့် လက်အိတ်က ရှန်ပိန်အရောင်။ ဝတ်ကောင်း စားလှများနှင့် ကင်းကွာခဲ့သည်မှာ ကြာပြီ ဖြစ်၍ ဆင်ယင်ထုံးဖွဲ့ပြီး သည့်အခါ ကြည်နူးနေမိ၏။ ကျေနပ်နေမိ၏။ ကားလှလှကလေးဖြင့် မြို့ထဲသို့ မောင်းသွား ရဦးမည်လေ။ ပို၍ ကြည်နူးရပြန်၏။

စီးပွားကုန်သွယ် လောကမှာ လူတွေ၏ ဆက်ဆံရေးသည် အယ်လီနာ့ အပေါ်တွင် သိသိသာသာကြီး ပြောင်းလဲလာကြပေပြီ။ ဤသည်မှာလည်း ကြည်နူးစရာတမျိုးပင်။ လွန်ခဲ့ သည့် သုံးနှစ်က စီးပွားရေး ချွတ်ခြုံကျစဉ် မိမိဝယ်နေကျ ဈေးဆိုင်တွေမှ လူတွေ၏ မျက်နှာ တွေနှင့် ဆက်ဆံပုံတွေကို ပြန်လည်မြင်ယောင်လာသည်။ ခုတော့ မြို့ကလေးပါ ပြောင်းလဲ နေပြီ။ ပို၍ စည်ကားလာ၏။ ဆိုင်ကြီးတွေမှာ ဝယ်သူတွေနှင့် ရှုပ်ယှက်ခတ်နေသည်။ လမ်းဘေး တွင် ကားတွေ တဝီဝီနှင့် ဆူညံနေသည်။

ပန်းခြံထဲတွင် အမျိုးသမီးကလေးတွေ လမ်းသလားနေကြသည်။ သူတို့ အဝတ်အစား တွေက ပန်းခြံထဲက မြေစိုက်ထီးကြီးများ၏ အရောင်အသွေးနှင့် လိုက်ဖက်လှသည်။ နေရောင် ခြည်တွင် အရာအားလုံးသည် တောက်ပနေ၏။ လောကသည် သစ်လွင်နေ၏။ လူတိုင်းလူတိုင်း တက်ကြွ ရွှင်လန်းနေကြသည်။ ပန်းခြံထဲမှ တောင်ထန်းရွက်တွေက လေအဟှေ့တွင် မင်္ဂလာ ရှိလှသည့် ဝါဂွမ်းဈေး အကြောင်းကို တီးတိုး ပြောဆိုနေကြသည့်နှယ်။

အအေးနှင့် ကုန်မျိုးစုံ တွဲရောင်းသည့် ဆိုင်တဆိုင်ရှေ့တွင် ကားထိုးရပ်သည်။ ဟွန်းတီး ပြီး အအေးတခွက် မှာလိုက်၏။ စားသောက်ဆိုင်တိုင်းတွင် လူတွေ စည်ကားနေသည်။ ဝါဂွမ်းဈေးက ၃၂ ဆင့်ထိ ရောက်နေပြီ မဟုတ်လား။ ဝါစိုက်ပျိုးရေးသမားတိုင်း သူဌေး ဖြစ်နေကြ၏။ တပြိုင်တည်းတွင် လူသုံးကုန်ပစ္စည်းဆိုင်တွေလည်း သူဌေးဖြစ်ကုန်ကြ၏။

အအေးခွက် လာပေးသည့် အရောင်းဈေးသည်ကလေးကို အခြား အလှပြင်ပစ္စည်းတွေ ပါ မှာပြီး ဝယ်လိုက်၏။ နွေဦးရာသီက အိုက်စပ်စပ်မို့

ချိုချိုအေးအေး သောက်ရသည်မှာ အရသာရှိလှသည်။ ပွန်ချောင်းကလေးကို နှုတ်ခမ်းနှင့် တေ့၍ စုပ်နေစဉ် အစ်ဇဘယ်ကို လှမ်းမြင်လိုက်သည်။ ရောင်စုံထီးကလေးကို ပခုံးပေါ် ထမ်းပြီး လမ်းပေါ်တွင် လှုပ်လီလှုပ်လဲ့ လျှောက်နေခြင်း ဖြစ်၏။ သူနှင့် မတွေ့သည်မှာ ကြာပြီ။ အထီးကျန် အဖော်မဲ့ဘဝရဲ့သားကောင် ဖြစ်နေရှာသည် ထင်ပါရဲ့၊ သူ့ဝေဒနာ ကြေညာခြင်းကို နားထောင်မည့် သူ လိုက်ရှာနေသည် ထင်ပါရဲ့။ အအေးဆိုင်ရှေ့သို့ ရောက်သည့်အခါ လင်မနစ်တလုံး မှာပြီး သောက်နေသည်။

မျက်နှာချင်းဆိုင်မှ လာနေသည့် ညစ်ညစ်ပေပေ ကောင်ကလေးနှစ်ယောက်က ကား ပေါ်တွင် ထိုင်လျက်သား အအေးသောက်နေသည့် အယ်လီနာကို မြင်သွားသည်။ တဖိတ်ဖိတ်တောက်နေသည့် ခေတ်ပေါ်ကားကလေးကို သူတို့ နှစ်ယောက်သား ကြည့်နေကြသည်။ ကားနောက်ခုံပေါ်တွင် ပါဆယ်ထုပ် အရွယ်မျိုးစုံကို တလှည့်၊ အယ်လီနာ့ကို တလှည့် ကြည့်ပြီး သူတို့ နှစ်ယောက်အနက် အရပ်ပိုရှည်သည့် တယောက်က သီချင်းအော်ဆိုတော့ သည်။

“ခေတ်ပျက်သူဌေးရဲ့ သမီးပျို… အသုံးအစွဲ ကြီးလှသကို၊

အိုး… ဟိုး… အသုံးအစွဲ ကြီးလှသကို”

အစ်ဇဘယ် သူတို့နှစ်ယောက်ကို လှမ်းကြည့်ပြီး ရယ်လိုက်၏။ ကောင်ကလေး နှစ်ယောက်ကို ထီးနှင့် ကွယ်ပြီး ရယ်နေခြင်း ဖြစ်သည်။ သို့သော် သူ့ပခုံးစွန်းနှစ်ဖက်က ထီး နှင့် မလုံသဖြင့် ရယ်နေမှန်း သိသာနေသည်။ အတွေ့အကြုံ ရင့်နေပုံရသည့် ကောင်ကလေး နှစ်ယောက်က အယ်လီနာဆီမှ အစ်ဇဘယ်ဆီသို့ အာရုံပြောင်းလိုက်ကြသည်။

သူ့ဆီသို့ လျှောက်သွားပြီး-

“ကျွန်တော်တို့ ရုပ်ရှင်ကြည့်ဖို့ မရှိလို့ပါ အစ်မရယ်၊ တပြားတချပ်လောက် …”

“အို… ရမှာပေါ့ကွယ်၊ မမ ပေးမှာပေါ့”

အလွန့် အလွန် ပျော်ရွှင်ကြည်နူးသည့် အသံကို အယ်လီနာ အတိုင်းသား ကြားလိုက်သည်။ အစ်ဇဘယ်က ကောင်ကလေး နှစ်ယောက်ကို ပိုက်ဆံအိတ်ထဲမှ နှိုက်ပြီး ရုပ်ရှင်ဖိုး ပေးလိုက် သည်။ ကောင်ကလေးနှစ်ယောက် ဝမ်းသာအားရ လမ်းပေါ်သို့ ပြေးထွက်သွားကြ၏။ အစ်ဇဘယ် အအေးဆိုင်ထဲသို့ ဝင်သွားသည်။ အယ်လီနာက ကားဟွန်းကို ဖိတီးလိုက်၏။

ဘာပြုလို့ မခံချိမခံသာ ဖြစ်ရပါလိမ့်ဟု အယ်လီနာ သူ့ကိုယ်သူ အပြစ်တင်နေမိသည်။ လမ်းပေါ်က ကလေကချေ ကောင်ကလေးတွေ နောက်တောက်တောက်လုပ်လို့ အစ်ဇဘယ် ဟားတိုက်နေတာ ငါနဲ့ ဘာဆိုင်လို့လဲ။

"ကျေးဇူးတင်ပါတယ် မစ္စက်လန်း၊ နောက်လည်း ကျွန်တော်တို့ဆိုင်ကို အားပေးပါ ခင်ဗျာ"

အအေးဆိုင်ပိုင်ရှင်ကိုယ်တိုင် ထွက်လာပြီး ပြောတော့ ပြုံးပြလိုက်ရ၏။ ဆိုင်ရှင်အား ဖန်ခွက်ပြန်ပေးပြီး ကားကို ဝူးခနဲ မောင်းထွက်လာခဲ့သည်။ တလမ်းလုံး အစ်ဇဘယ့် နာမည်ကို တတွတ်တွတ် ရွတ်ဆိုလာခဲ့မိ၏။ မြို့ပြင်ရောက်လာပြီး မြစ်ကမ်းနံဘေးမှ ဝက်သစ်ချပင်တွေ တန်းနေသည့် နေရာကို ရောက်တော့ အစ်ဇဘယ်ကို အလိုလို မေ့သွားတော့သည်။ လမ်းဘေး ဝဲယာမှ ဝက်သစ်ချမြိုင် ဝါခင်းများက စိတ်၏ တည်ငြိမ်အေးချမ်းမှုကို ပေးနိုင်သည့် ရှုခင်းသာ မဟုတ်လား။ အစ်ဇဘယ်၏ အနှစ်မဲ့ဘဝနှင့် မိမိ၏ အောင်မြင်မှုတွေကို ယှဉ်ပြီး စဉ်းစားမိ၍ အိမ်အဝင်တွင် ပြုံးမိလိုက်သေးသည်။

ညေ့ခန်းတွင် မန်နေဂျာ "ဝတ်" စောင့်နေသည်ကို တွေ့ရ၏။ အံ့ဩသွားသည်။ သူက အိမ်ကို လာခဲသည့် ပုဂ္ဂိုလ် မဟုတ်လား။

သူ့မျက်နှာမှာ ခါတိုင်းထက် ပိုပြီး သုန်မှုန်နေ၏။

"ကျွန်တော် မစ္စက်လန်းကို အထိတ်တလန့်တော့ မဖြစ်စေချင်ပါဘူး၊ ဒါပေမဲ့ ကျွန်တော် တို့ အလုပ်သမားတွေ တော်တော်များများ ဖျားနာနေကြပါတယ်၊ ဒါကြောင့် ဝါကောက်ဖို့ လူငှားတွေ ခုကတည်းက ရှာထားဖို့ လိုမယ် ထင်ပါတယ်"

"ရှင် . . . ဖျားနာကြတယ် ဟုတ်လား၊ ဘယ်လို ဖြစ်ကြတာလဲ"

သူက ဖုန်ဒုတက်နေသည့် သူ့ဖိနပ်ကို ငုံ့ကြည့်နေရာမှ-

"ကျွန်တော်လည်း သေသေချာချာတော့ မသိဘူး ခင်ဗျ၊ သူတို့ကတော့ "စပိန်တုပ်ကွေး" လို့ ပြောနေကြတာပဲ"

"စပိန်တုပ်ကွေး . . . ဟုတ်လား၊ တခါမှ မကြားဖူးပါလား၊ ခုလို လာပြောတာ ကျေးဇူး ပဲ ဝတ်၊ ကျွန်မ ဆရာဝန် လွှတ်ဖို့ စီစဉ်လိုက်ပါ့မယ်။ သိပ်စိုးရိမ်ဖို့ မလိုပါဘူး ထင်တယ်၊ ဝါ ကောက်ချိန်က လိုသေးသားပဲ"

"ဟုတ်တော့ ဟုတ်ပါတယ်၊ ဒါပေမဲ့ ရောဂါ ဖြစ်နေတဲ့ လူတွေက သိပ်များလာတော့ မစ္စက်လန်း သိထားဖို့ လိုမယ် ထင်လို့ပါ"

ကျေးဇူးတင်ကြောင်း နောက်တကြိမ် ထပ်ပြောလိုက်သည်။ ဝတ်က လိုသည်ထက် ပို၍ စိတ်ပျက်နေသည့် အမူအရာနှင့် ထပြန်သွားသည်။

ဘော့ပါစယ်ဆီသို့ ချက်ချင်း ကောက်ပြီး ဖုန်းဆက်သည်။

“မနက်ဖြန် ခဏ လာခဲ့ပါဦး ဘော့ရယ်”

“ ရတယ်လေ၊ အယ်လီနာ မင်း ဘာဖြစ်ပြန်ပြီလဲ”

“ဘာမှ မဖြစ်ပါဘူး ဘော့ရဲ့၊ အယ်လီနာ့ အလုပ်သမားတွေ ဘာဖြစ်ကုန်ကြမှန်း မသိဘူး”

“ဘာလဲ၊ တုပ်ကွေးလား အယ်လီနာ”

“ဟုတ်တယ်၊ စပိန်တုပ်ကွေး ဆိုလား”

“ဟုတ်တယ်၊ သိပ်အဖြစ် များနေတယ်”

“စိုးရိမ်စရာ ကောင်းလား ဘော့၊ ပြီးတော့ အဲဒါက ဘယ်လို ဖျားတာမျိုးလဲ ဟင်”

“အဲဒီ မေးခွန်းနှစ်ခုလုံးကို ကိုယ် မဖြေနိုင်သေးဘူး အယ်လီနာ၊ ဒါပေမဲ့ ကိုယ် လာခဲ့ ပါ့မယ်လေ”

နောက်တနေ့ မနက်တွင် အလုပ်သမားတန်းလျားဆီကို ဘော့ သွားရောက် စစ်ဆေး သည်။ ပြီးတော့ ဝက်သစ်ချမြိုင် အိမ်ကြီးသို့ ပြန်လာသည်။ သူ့မျက်နှာ အောက်ပိုင်းကို စည်းနှောင်ထား၏။ သူ့မျက်လုံးက ညှို့မှိုင်းနေသည်။

“မင်းလည်း ပါးစပ်နဲ့ နှာခေါင်းကို မျက်နှာဖုံး စည်းထားတော့ အယ်လီနာ၊ သူတို့တွေနဲ့ မင်း ဆက်သွယ်နေရတော့ ကူးစက်နိုင်တယ်။ ကလေးတွေကို ဘယ်မှ ပေးမထွက်နဲ့တော့၊ ဒီအဖျားဟာ ဘယ်လောက်ထိ အန္တရာယ်များတယ် ဆိုတာ ဘယ်သူမှ မသိသေးဘူး၊ ဘာပဲ ဖြစ်ဖြစ် အတင့်မရဲတာ အကောင်းဆုံးပဲ”

“ဂရုစိုက်ပါ့မယ်” ဟု ကတိပေးလိုက်၏။ ကလေးများအတွက် ပန်းကန်ခွက်ယောက် တွေကို ပိုးသတ်ဆေးပါသည့် ဆပ်ပြာဖြင့် အထပ်ထပ်ဆေးဖို့ အမိန့်ပေးလိုက်၏။

နောက်တနေ့တွင် နီးလ်ရှာရမီ ဖုန်းဆက်သည်။ ကလယ်ရာ နေမကောင်း၍ ညစာ စားဖို့ ဖိတ်ထားသည့် အစီအစဉ် ဖျက်လိုက်ကြောင်း။

"ဒုက္ခပါပဲကွာ၊ လူတိုင်း ကွေးနေကြတော့တာပဲ" ဟု နီးလ်က ညည်းညူသည်။

ကလယ်ရာ ဖြစ်တာကိုတော့ သိပ်မအံ့သြချင်။ သူ့မှာ တခုမဟုတ်တခု ဖြစ်နေတာ မဟုတ်လား။ သူက ဝေဒနာ ဖြစ်ရတာကို အရသာခံနေတဲ့ မိန်းကလေး။ သို့သော် ဖေဖေ့စာ ရောက်လာတော့ စိုးရိမ်စပြုလာသည်။ ညီမ ဖလောရင့်တယောက် တော်တော်ကလေး ပြင်းပြင်း ထန်ထန် ဖြစ်နေကြောင်း ဖေဖေ ရေးလာသည်။ အပ္ပလ္လုန်းမိသားစုတွင် ဖျားနာခြင်း မရှိသလောက် ကျန်းမာရေး ကောင်းကြသည်။ ဖလောရင့်ကို လာကြည့်ချင်ကြောင်း စာပြန်ရေးလိုက်သည်။ မေမေ့ထံမှ အမြန်ပို့ စာတစောင် ရောက်လာသည်။ နယူးအော်လင်းမှာ အခြေအနေဆိုးနေ ကြောင်းနှင့် မလာခဲ့ဖို့ တားသည်။

ဝတ် အိမ်သို့ တယ်လီဖုန်းဆက်ပြီး အခြေအနေကို မေးကြည့်သည်။

"ကျွန်တော် အတတ်နိုင်ဆုံး ကြိုးစားနေပါတယ် မစ္စတ်လန်း၊ ဒါပေမဲ့ ဒီအတိုင်း ဆိုရင် တော့ ကျွန်တော်တို့ ဝါ ကောက်ချိန်ကို ဘယ်လို စီစဉ်ရမယ် ဆိုတာ မစဉ်းစားတတ် အောင် ဖြစ်နေပါတယ်"

မြင်းတကောင်ကို ဆွဲထုတ်ပြီး စိုက်ကွင်းဆီသို့ စီးထွက်လာခဲ့သည်။ ဝါပင်များတွင် ဝါသီးစိမ်းစိမ်းကလေးတွေ ပွတ်သိပ်နေ၏။ မကြာမီအတွင်း ပွင့်အာလာကြတော့မည်။ ဝါခင်း ကြီးက ဆွတ်မည့် ခူးမည့် သူကို စောင့်နေမည် မဟုတ်။ သီးချိန်တန်သီးပြီး ပွင့်ချိန်တန်လျှင် ပွင့်လိမ့်မည်။ ဒုက္ခပါပဲ၊ အလုပ်သမားမရှိဘဲ မိုးကုပ်စက်ဝိုင်းထိ ကျယ်ပြောသည့် ဝါခင်း ကြီးကို ဘယ်လိုလုပ်ပြီး သိမ်းမည်နည်း။ တုပ်ကွေးရောဂါကပ်ဘေး မဆိုက်သေးမီ လွန်ခဲ့သည့်နှစ် ဝါခူးချိန်ကတည်းက အလုပ်သမား ရှားနေပြီးသား။ စိတ်ပျက်လက်ပျက်နှင့် ငိုချပစ်လိုက်ချင် ၏။ ဝက်သစ်ချမြိုင် အလုပ်သမားများသည် အဆင့်မြင့်မြင့် စားသောက် နေထိုင်ကြရသည့် အလုပ်သမားများ ဖြစ်သည်။ ကျန်းမာသန်စွမ်းသည့် အလုပ်သမားများသည် ခုတော့ တယောက် ပြီး တယောက် အတုံးအရုံး လဲနေကြပြီ ဆို၏။ သူတို့တတွေ စိတ်ဓာတ်အကျကြီး ကျနေ ကြသည် ဆို၏။

နောက်ရက်ပိုင်းတွင် ဘော့ပါစယ်ကို မကြာ မကြာ ခေါ်ပြီး ကုသစေသည်။ သို့သော် ဘော့တယောက် နေ့စဉ် လာရန် မလွယ်တော့။ နေထွက်မှ နေဝင်ထိ သူ့တွင် နားချိန် ဟူ၍ မရှိတော့။ သူ့မျက်နှာသည် ပင်ပန်းနွမ်းနယ်မှုဖြင့် ချောင်ကျလျက် ရှိသည်။

တနေ့ မနက်တွင် သည်ရောဂါ၏ ဇာစ်မြစ်ကို ဘော့အား မေးကြည့်သည်။

"ဘယ်လို ဘယ်လို စဖြစ်တာလဲ ဘော့"

"ကိုယ်လည်း ခုထိ မသိပါဘူး အယ်လီနာရယ်"

ဘော့ စိတ်ပျက်လက်ပျက် ဖြေသည်။

"ကောလာဟလ သတင်းတခုထွက်နေတာ ဘော့ ကြားလား၊ ဒီနိုင်ငံထဲကို ရောက်နေ တဲ့ ဂျာမန် စပိုင်တွေဆီက စကူးစက်တာ တဲ့"

ဘော့က ပခုံးတွန့်ပြီး-

"တခြားနိုင်ငံတွေမှာ မဖြစ်ဘဲ အမေရိကန်တနိုင်ငံတည်းမှာ ကွက်ဖြစ်နေတယ် ဆိုရင် တော့ စဉ်းစားစရာပေါ့။ ဒါပေမဲ့ ဒီတုပ်ကွေးက ဆွစ်ဇာလန်မှာရော၊ တရုတ်ပြည်မှာရော၊ ဖီဂျီ ကျွန်းမှာရော ဖြစ်နေတာပဲ"

"တုပ်ကွေး မမိအောင် ဘယ်လို ကာကွယ်ထားရမလဲ ဟင်"

ဘော့ သက်ပြင်းချသည်။

"ပွင့်ပွင့်လင်းလင်း ပြောရရင် ဘယ်လိုကာကွယ်ရမယ် ဆိုတာရော ဘယ်လို ကုသရ မယ် ဆိုတာပါ ကိုယ် မသိသေးဘူး အယ်လီနာ။ ဘယ်သူမှလည်း မသိသေးဘူး။ ဖြစ်လာရင် အိပ်ရာ ထဲမှာ ကောင်းကောင်းနားပြီး နေကောင်းမှ အပြင်ထွက်၊ ဒါပဲ ရှိတယ်"

လက်နှစ်ဖက်ကို တင်းတင်းဆုပ်ထားလိုက်ပြီး-

"ဒုက္ခပါပဲ ဘော့ရယ်၊ ဝါခူးချိန်ကလည်း နီးနေပြီ၊ ဘယ့်နှယ် လုပ်ရမလဲ ဟင်"

"ဘုရားရေ၊ ဝါဂွမ်းက ပြဿနာ မဟုတ်ဘူး ခင်ဗျ၊ ဒါက သေရေးရှင်ရေးကိစ္စ။ တချို့ မြို့တွေမှာ အခေါင်းတွေ ရောင်းမလောက် ဖြစ်နေပြီ"

ဘော့ ပြန်သွားတော့ အခန်းထဲတွင် တယောက်တည်း ခေါက်တုံ့ခေါက်ပြန် လမ်းလျှောက် နေမိ၏။ ညဉ့်နက်သည်အထိ အိပ်ဖို့ သတိမရ။ ၁၄ ရာစုခေတ်က ဥရောပလူဦးရေ လေးပုံ တပုံ သေဆုံးခဲ့သည့် ပလိပ်ရောဂါ ကပ်ဘေး အကြောင်းလည်း ဖတ်ဖူး၏။ ခြင်ကောင်သည် လူကို ယားဖုကလေးတွေကလွဲပြီး ဘာမျှ ဒုက္ခမပေးနိုင်ဟု ယုံကြည်ခဲ့ကြစဉ်က အမေရိကန် ဆိပ်ကမ်းမြို့ကြီးများတွင် ကြောက်မက်ဖွယ် ဖြစ်ပွားခဲ့သည့် ငန်းဝါ ဖျား အကြောင်းကိုလည်း ဖတ်ဖူးပါ၏။ သို့သော် သည်လို ရောဂါဿရကပ်ဆိုးကြီးနှင့် မိမိကိုယ်တိုင် ရင်ဆိုင်တိုးရမည် ဟုတော့

လုံးဝမမျှော်လင့်ခဲ့။ ဝတ်ရုံဖြူနှင့် အမျိုးသမီးတွေ၊ အမျိုးသားတွေ၊ ရောမခေတ်ခွဲခန်းကြီးတွေ ထွန်းကားနေသည့် ခေတ်ကို အထင်ကြီးမိခြင်းလည်း ဖြစ်၏။ သည်အဖြစ်အပျက် မျိုးသည် ကျောက်မထိုးဘဲ စုန်းနတ် တစ္ဆေတွေကို အားကိုးခဲ့သည့် ခေတ်တွင်သာ ဖြစ်ဖို့ကောင်း သည့် အဖြစ်ဆိုးများ ဖြစ်၏။ ယခုတော့ အလွန်တိုးတက်နေပါသည် ဆိုသော နှစ်ဆယ်ရာစုခေတ် တွင် ကပ်ဘေးဆိုးကြီးကို သည်အတိုင်း လက်ပိုက်ကြည့်နေရမလို ဖြစ်နေ၏။ နောက်ပြီးတော့ ခေတ်အမီဆုံး စက်ကိရိယာတွေ တပ်ဆင်ထားသည့် ဝက်သစ်ချမြိုင် ဝါလုပ်ငန်းကြီးတွင် နောက်ဆုံး အဆင့်ဖြစ်သည့် ခူးခြွေသိမ်းဆည်းရေးတွင် ဆင်ပြောင်ကြီး အမြီးကျမှတကာ လက်မှိုင်ချ နေရတော့မလို ဖြစ်နေ၏။

နောက်တနေ့တွင် ဒစ်စီ အိပ်ရာထဲ လဲတော့သည်။ ကလေးတွေ ဒစ်စီကို တမေးတည်း မေးနေကြသည်။ သည်တော့မှ ဝက်သစ်ချမြိုင်တွင် ဒစ်စီ၏ အခန်းကဏ္ဍကို သဘော ပေါက်ရ၏။ ကွင်းထဲသို့ ဆင်းသွားသည့်အခါ ကလေးတွေကို ဘက်စီနှင့် ထားခဲ့ရသည်။ ဘက်စီက ကလေးကောင်းကောင်း ထိန်းတတ်သူ မဟုတ်။ ကလေးတွေကို ကူးစက်မှာ စိုးရိမ်သည့် စိတ်က ထိပ်တက်လာသည်။ နောက်နှစ်ရက်အကြာတွင် မမ်မီပါ ဖျားတော့သည်။ သည်တော့ မီးဖိုချောင်ကို ကိုယ်တိုင်ဝင်ရတော့သည်။ ခုမှ စိတ်ပျက်လက်ပျက်နှင့် ခေါင်းကုတ်မိတော့ သည်။ ဘာမျှ မည်မည်ရရ မချက်တတ်။ တတ်သမျှ မှတ်သမျှ ချက်ပြုတ် ကျွေးသည်။ ကလေးတွေက ပူညံပူညံ လုပ်တော့၏။ ဘာလုပ်ရမှန်း မသိအောင် ဦးနှောက်ခြောက်နေရသည့် အထဲ သူတို့ကို စိတ်ရှည်ရှည်ထားပြီး သည်းညည်းခံနေရသည်က တမျောင့်။

ဝါသီးကလေးတွေ ပွင့်အာလာပြီ။ သို့သော် ဝါခင်းလွင်ပြင်ကြီးက ကျီးနှင့်ဖုတ်ဖုတ်။ လူသူ အရိပ်အယောင် မမြင်ရ။ သည်တော့ ကြံမိကြံရာ ကြံရတော့၏။ လမ်းနံဘေးတွင် ဆိုင်းဘုတ်ကြီးတွေ ရေးပြီး ထောင်သည်။ သတင်းစာများတွင် ကြော်ငြာတွေ ထည့်သည်။ ဝါကောက် သမားတွေ လိုကြောင်း၊ နေ့တွက်ကောင်းကောင်း ပေးမည် ဖြစ်ကြောင်း၊ ပေါင်တရာလျှင် နှစ်ဒေါ်လာထိ ပေးမည် ဖြစ်ကြောင်း။ သို့သော် မဖြစ်စလောက် တုံ့ပြန်မှုသာ ရ၏။

လမ်းဘေးကွေးကြော်သံ ဆိုင်းဘုတ်ကြီးများနှင့် မျိုးချစ်စိတ်ရှိကြသည့် ပုဂ္ဂိုလ်တွေက တသံတည်း ဟစ်နေကြ၏။ "အမေရိကန်သည် ဥရောပကို လွတ်မြောက်စေမည်"၊ "ဥရောပ ကို အဝတ်ဆင်ပေးကြ"၊ "ဥရောပကို လက်နက်ခဲယမ်း မီးကျောက်တွေ ပို့ကြ" စသည် စသည် ဖြင့်။

အမျိုးသားတွေ ထောင်ပေါင်းများစွာ တပ်ထဲ ပါသွားကြသည်။ စစ်ကြောင့် ဖြစ်ပေါ် လာသည့် လုပ်ငန်းသစ်များတွင် ထောင်ပေါင်းများစွာ ဝင်သွားကြသည်။

ကျန်သည့် ပြည်သူ တဝက်လောက်က ဆေးရုံရောက်နေကြသည်။ ရွှေနှင့် စက်ပြီး ပေးသည့်တိုင်အောင် ဝါကောက် ဖို့ အလုပ်သမား အလုံအလောက် မရနိုင်တော့။

လူနည်းစုကလေးဖြင့် တန်းစီ၍ ခူးဆွတ်နေသော မြင်ကွင်းကို ကြည့်ပြီး မခံချိမခံသာ ဖြစ်လာ၏။ ဝါ ဈေးက ၃၂ ဆင့် ထိ ရောက်နေပြီ။ သည်လို အလုပ်သမား ရှားပုံမျိုးနှင့် ဆိုလျှင် ထပ်တက်ဦးမှာ မုချ။ သည်ဈေးနှင့် သည်ဝါဂွမ်း အားလုံးသာ ရောင်းရလျှင် ဝက်သစ်ချမြိုင်ကို မောင့်လက်ထဲသို့ ကြွေးမြီကင်းကင်းနှင့် အလှအပပြင်ဆင်ပြီး အပ်နိုင်သည်။ မောင့်ကို ငွေပုံ ပေါ်ထိုင်ပြီး သုံးချင်တိုင်း သုံးစမ်းဟု စိန်ခေါ်ပြီး ပေးအပ်လိုက်ချင်၏။ သို့သော် စေတလုံးပိုင်ရှင် တဦးဦးက ပဥ္စလက်နည်းနှင့် ဖန်ဆင်းပေးမှသာ ဝါဂွမ်းအားလုံး အမိုးအကာအောက်သို့ တဝက် လောက် ရောက်တော့မည် ဖြစ်၏။

ဝတ်ကို ခေါ်ခိုင်းလိုက်သည်။

“ရှင် ဒီအတိုင်း ထိုင်ကြည့်နေတော့မှာလား ဝတ်”

သူ ဘာမျှ မတတ်နိုင်မှန်း သိ၏။ ရင်ထဲ ပေါ့သွားအောင် ပြောလိုက်ခြင်းသာ ဖြစ်သည်။ ဝတ်က ခေါင်းယမ်းသည်။ ခေါက်တုံ့ခေါက်ပြန် လျှောက်နေသော သူ့အလုပ်ရှင် အမျိုးသမီးကို ကြည့်ပြီး-

“ကျွန်တော်လည်း တတ်နိုင်သမျှ ကြိုးစားတာပဲ မစ္စက်လန်း”

“ရှင် ကြိုးစားတာတော့ ဟုတ်ပါပြီ၊ ခုနေ မိုးရွာချရင် ဘယ့်နှယ်လုပ်မလဲ”

ဝတ်က သက်ပြင်းချသည်။

“ဩော်… မစ္စက်လန်းရယ်၊ ကျွန်တော်လည်း ဘာတတ်နိုင်မှာလဲဗျာ”

ဒူးပေါ်က လက်နှစ်ဖက်ကို တဖက်နှင့်တဖက် ဖျစ်ဖျစ်မြည်အောင် ချိုးနေလိုက် ၏။ ဖျတ်ခနဲ ထရပ်လိုက်သည်။

“ဝတ်၊ ရှင် ပြန်တော့၊ ဆိုင်းဘုတ်တွေကို ပြင်ရေးလိုက်၊ နှစ်ဒေါ်လာခွဲ ပေးမယ်လို့”

“ဗျာ. . . နှစ်ဒေါ်လာခွဲ ဟုတ်လား၊ နီဂရိုးတွေတော့ ပိုးအကျီအကျားတွေ၊ ဖိနပ်အဝါ တွေ တကားကားနဲ့ တွေ့ရဦးတော့မှာပဲ”

“ကျွန်မ ဝါတွေသာ အားလုံး ရပစေ၊ သူတို့ကို ဘယ်လောက် ပေးရ ပေးရ

ကျွန်မ ဂရုမစိုက်ဘူး”

ဝတ်က နောက်တကြိမ် သက်ပြင်းတချက်ချပြီး ထွက်သွားသည်။ ဝတ် ထွက်သွား ပြီးတော့ ခန်းမဆီသို့ လျှောက်လာခဲ့သည်။ ခေါင်းတွေ ပူလာသည်အထိ ဆက်စဉ်းစားသည်။ ဘယ်နည်းဘယ်ပုံ လူရှာရပါ့မလဲ။ ဝရန်တာတွင် ကော်နယ်လီယာတို့ မောင်နှမနှစ်ယောက် ရန်ဖြစ်နေကြသည်။ နှစ်ယောက်လုံးကို ချော့မော့ပြီး သူတို့နှစ်ယောက်အတွက် ညစာကျွေးဖို့ မီးဖိုခန်းထဲသို့ ဝင်ခဲ့ရ၏။ တအိမ်လုံးလည်း ရှုပ်ပွနေပြီ။ ဒစ်စီနှင့် မမ်မီတို့ နှစ်ယောက်လုံးက မထနိုင်သေး။ နောက်ထပ် အိမ်စေမကလေးနှစ်ယောက်လည်း တုပ်ကွေးမိပြန်သဖြင့် အနား ပေးထားရသည်။ ကျန်သည့် အိမ်ဖော်တွေက ဝက်သစ်ချမြိုင်အိမ်ကြီးကို အားလုံး ထောင့်စေ အောင် မလုပ်နိုင်ကြ။ ဖုန် ဒုတက်နေ၏။ ကလေးကစားစရာတွေ၊ သတင်းစာတွေက ပြန့်ကျဲ လျက်။ ဘယ်သူမျှ သိမ်းဆည်း ရှင်းလင်းချိန် မရကြ။ တအိမ်လုံး ဝရုန်းသုန်းကားဖြစ်နေသည့် အတွက် မနေတတ် မထိုင်တတ် ဖြစ်နေရသည့် အထဲတွင် ကော်နယ်လီယာတို့ မောင်နှမက တမောင့်။ စောင့်ထိန်းမည့်သူ မရှိတော့ တဂျီဂျီ ပူဆာနေ၏။ ဝါသိမ်းဖို့ ကိစ္စကြီးက ခေါင်းထဲ တွင် ဝင်လာပြန်သောအခါ ဆက်၍ သည်းညည်းမခံနိုင်တော့အောင် ဖြစ်လာသည်။

ကလေးတွေကို ညစာ ကျွေးသည်။ မမ်မီ၏ လက်ရာကို စားနေကျ ဖြစ်နေ၍ သူတို့ကို ဘယ်လိုမျှ စိတ်တိုင်းကျ ဖြစ်အောင် လုပ်မပေးနိုင်။ သည်တော့ အမျိုးမျိုး ကြေးများကြတော့၏။ စိတ်ကို ချုပ်တည်းရလွန်းသဖြင့် အသားတွေ ဆတ်ဆတ်တုန်လာသည်အထိ ဖြစ်ရ၏။ သူတို့ နှစ်ယောက်ကို ချော့မော့သိပ်ပြီးမှ ကိုယ့်ဗိုက်ကိုယ် ဖြည့်ဖို့ သတိရ၏။ မီးဖိုချောင်ထဲသို့ ပြန်ဝင်သည်။ ပြောင်းဖူးပေါင်မုန့်ကို မတ်တတ်ရပ်လျက်သား စားနေစဉ် လူနာတွေကို ကြည့်ဖို့ ဘော့ ရောက်လာသည်။ ဝိုင်အိုလက်လည်း ပါလာ၏။ ဝိုင်အိုလက်က ဘော့ကို လိုက်ပြီး ကားမောင်းပို့နေရသည်။ ကားမောင်းသွားနေခိုက်သာ ဘော့တယောက် အနားရ၏။ ဘော့က လူနာတွေကို ကြည့်ပေးနေခိုက် ဝိုင်အိုလက်နှင့် နှစ်ယောက်တည်း ကျန်ရစ် သည်။ ဝိုင်အိုလက်က ဖြစ်ချင်တိုင်း ဖြစ်နေသည့် ဧည့်ခန်းကို ကြည့်နေ၏။ နှစ်ယောက်သား ဘာမျှ မပြောမိကြ။ စကားများများ မပြောနိုင်လောက်အောင် နှစ်ယောက်လုံး ပင်ပန်းနေကြ သည် မဟုတ်လား။ ဝိုင်အိုလက် မနက်အစောကြီးကတည်းက ဘော့ကို တအိမ်ဝင်တအိမ် ထွက် ကားမောင်းပေးနေရခြင်း ဖြစ်၏။ “ခုနေ လိုတဲ့ဆုကို တောင်းလို့ဆိုရင် ဂျုံအစစ်နဲ့ ဖုတ်တဲ့ ပေါင်မုန့်ကောင်းကောင်း ကလေးများ စားရတဲ့ နေရာရယ်၊ ပြီးတော့ မီးသွေးတွေ လိုသလောက် ဝယ်လို့ရတဲ့ နေရာရယ်၊ ပြီးတော့ “စစ်ကြီး ပြီးဆုံးပြီ” ဆိုတဲ့ သတင်းပါတဲ့ မနက် သတင်းစာရယ်” သူ လိုချင်တာတွေကို ပြောနေသော ဝိုင်အိုလက်ကို ကြည့်ပြီး အယ်လီနာက ခြောက် ကပ်စွာ ရယ်သည်။ ဘော့ ပြန်ရောက်မလာမချင်း သူတို့နှစ်ယောက် သည်အကြောင်းကိုပဲ ညည်းညည်းညူညူ

ဆက်ပြောနေကြသည်။

ဘော့က မျက်နှာစည်းဖို့ အစတွေ တပုံကြီး ထပ်ပေးခဲ့သည်။ ပြီးတော့ သံဓာတ်ပါ သည့် ဆေးတွေ မှန်မှန်စားဖို့ သတိပေးသွားသည်။

ကြိုးစားပြီး ပြုံးလိုက်သည်။

"သံတွေ စားရလွန်းလို့ ဗိုက်ထဲမှာ မီးရထားသံလမ်းတခုစာလောက် ရနေပါပြီ ဘော့ရယ်"

"ဒါပေမဲ့ မင်း ကြည့်ရတာ ကိုယ် အားမရဘူး အယ်လီနာ"

သူတို့လင်မယားကို တံခါးဝထိ လိုက်ပို့သည်။ ဝိုင်အိုလက်က သူ့လက်ကို ပခုံးပေါ် တင်ပြီး နှစ်သိမ့်သည်။

"သိပ်လည်း စိတ်ပျက်မနေပါနဲ့ကွာ၊ အဆင်ပြေသွားမှာပါ။ မင်းဟာ အားလုံးကို ကျော်ဖြတ်ပြီး အနိုင်ယူခဲ့တာချည်းပဲ မဟုတ်လား"

ဘာမျှ ပြန်မပြောလိုက်မိ။ တံခါးမကြီးကို ပိတ်ပြီး အိပ်ခန်းဆီသို့ ပြန်လာခဲ့သည်။ ခုတင်ပေါ်တွင် ကန့်လန့်ဖြတ် ပစ်လှဲချလိုက်၏။ တဒိုင်းဒိုင်း ခုန်နေသည့် နားထင်မှ သွေးကြော တွေကို လက်နှစ်ဖက်နှင့် ဖိထားလိုက်သည်။

အင်း .. လောက လောက၊ အရာရာကို အောင်မြင်နေတဲ့ လူတွေ ဆိုပြီး သူတို့ကို စာနာသနားမယ့် လူဟာ လောကမှာ မရှိသလောက်ပါပဲကလား။ အဲဒီလို လူမျိုးတွေဟာ အားငယ်မိပြီ ဆိုလျှင် ကလေးတယောက်လို အားငယ်တတ်တယ်။ သူတို့ကို ထွေးပွေ့ အားပေးမယ့် ရင်ခွင်ကို တောင့်တကြတယ်ဆိုတာ ဘယ်သူမှ မသိကြဘူး ထင်ပါရဲ့။

နောက်တနေ့ မနက်တွင် နွမ်းနေသည့် မျက်နှာကို မှန်ထဲတွင် မြင်ရ၏။ အိမ်က ခဏ ထွက်သွားရင် ကောင်းမယ် ထင်တယ်ဟု တွေးမိ၏။ နံနက်စာ ပန်းကန်တွေကို ဆေးနေသည့် ဘက်စီကို ရပ်ခိုင်းလိုက်ပြီး ကလေးတွေနှင့်နေရန် မှာခဲ့သည်။

ကားကို ထုတ်ပြီး မြို့ထဲသို့ ခပ်ဖြည်းဖြည်း မောင်းထွက်လာခဲ့သည်။ ပြဿနာတွေကို စဉ်းစားရန် အကောင်းဆုံး အချိန်မှာ ကားကို မှန်မှန်မောင်းနေသည့် အချိန် မဟုတ်လား။

လမ်းနံဘေးတွေမှာ ဆိုင်းဘုတ်ကြီးတွေ စီတန်းနေသည်။ ဆိုင်းဘုတ်ထဲမှ

စစ်သားရုပ် က လမ်းသွားလမ်းလာတွေကို ငုံ့ကြည့်ပြီး ပြုံးပြနေ၏။ ပြုံးနေသော သားကို ကြည့်ပြီး ကြည်နူး နေသည့် မိခင်၏ ပုံကြီးလည်း ပါ၏။ ပုံထဲမှာ စစ်သားကလေးက ၁၈ နှစ်သားအရွယ်၊ မိခင်၏ ပုံက အသက် ၈၀ လောက်။ အဆီအငေါ် မတည့်သည့် အချက်ကို သတိပြုမိ၏။ သည်ပုံတွေက ဝါကောက်သမား ဘယ်မှာရမယ် ဆိုတာ မညွှန်နိုင်ပါကလား။ "ကြက်ခြေနီကို ဝင်ကြလော့" ဟု လှုံ့ဆော်နေသည့် အမျိုးသမီး လှလှကလေးများ၏ ပုံတွေလည်း ပါ၏။ သမ္မတဝီလ်ဆင်၏ ပုံတွေနှင့် ၃၁ ဆက်မြောက် သမ္မတဟားဘတ်ဟူးဘား၏ ပုံတွေအောက်တွင် -

"ရိက္ခာဖြင့် စစ်အနိုင်တိုက်မည်၊ ရိက္ခာကို ထိန်းသိမ်းကြ"

"ပြောင်းဖူးပေါင်မုန့်ကို စားသည့် အိမ်တိုင်းသည် တိုက်ပွဲကို ထောက်ခံနေကြသည်"

"သကြားကို ချွေတာကြ"

"သီးနှံစိုက်ခင်းထဲတွင် အလုပ် လုပ်နေသည့် ယောကျ်ားကလေး၊ မိန်းကလေးတိုင်း သည် လွတ်လပ်ရေးတိုက်ပွဲဝင် စစ်သားများ ဖြစ်ကြသည်"

သည်ဆိုင်းဘုတ်ကို ဖတ်ပြီးတော့ ခြေထောက်က ဘရိတ်ပေါ်သို့ အလိုလိုရောက်သွား ၏။ ဆောင့်နင်းပြီးသား ဖြစ်သွားသည်။ ကားကို ပစောက်ကွေ့ ဆွဲကွေ့ချလိုက်သည်။ ထွန်ခြစ် ကို ပခုံးပေါ် ထမ်းထားသည့် စိုက်ခင်းထဲမှ အလုပ်သမားကလေး တယောက်၏ပုံကို မော်ကြည့် ပြီး ရယ်လိုက်မိ၏။

ငါပြောလို့ အပေါက်အလမ်း တည့်ပါ့မလား မသိဘူးဟုလည်း တွေးမိ၏။ စကားလုံး ရွေးဖို့တော့ ခက်မည် မထင်ပါဘူး။ ခုတလော လေးမိနစ်တကိုယ်တော် ပန်းခြံမိန့်ခွန်းတွေကို နေ့တိုင်း ဖတ်နေတာပဲ။ ဤသို့ အားတင်းမိသလို တဖက်ကလည်း ငါ လုပ်ကောင်းပါ့မလား၊ လုပ်သင့်ပါ့မလားဟုလည်း ချီတုံချတုံ ဖြစ်မိပြန်သည်။ ရှေ့တည့်တည့် လမ်းပေါ်သို့ အကြာကြီး စိုက်ကြည့်နေမိ၏။ အို... သည်အခြေအနေရောက်အောင် ငါ လုပ်ခဲ့တာမှ မဟုတ်ဘဲ၊ တားလို့ ဆီးလို့လည်း မရတော့တဲ့ အတူတူ သည်အခြေအနေကိုပဲ ငါ ပြန်အသုံးချရမှာပေါ့။

ကားစက်ကို နှိုးပြီး အထက်တန်းကျောင်းဆီသို့ တန်းမောင်းတော့၏။ ကျောင်းအုပ် ဆရာကြီးကို ရုံးခန်းထဲတွင် အသင့်တွေ့ရသည်။ အကျိုးအကြောင်းကို ပြောပြလိုက်၏။

"ကျောင်းသူ၊ ကျောင်းသားကလေးတွေဟာ စစ်အောင်နိုင်ဖို့ အရေးတော်ပုံမှာ

သိပ်ပါ ချင်ကြပါတယ် ဆရာကြီး၊ ဒါပေမဲ့ သူတို့အရွယ်ကလေးတွေနဲ့ ဒီစစ်ကြီးမှာ ဘာမှ ဝင်မလုပ် နိုင်ကြဘူးလို့ ထင်နေကြရှာပါတယ်။ ရန်ပုံငွေထည့်ဖို့ သူတို့ ကလေးတွေဟာ မုန့်ဖိုးထဲကဖဲ့ပြီး ငွေစုတံဆိပ်ခေါင်း ဝယ်တတ်ကြပါတယ် ဆရာကြီး၊ ဒါပေမဲ့ ဆရာကြီးတို့ ကလေးတွေဆီက သတ်မှတ်ထားတဲ့ ရန်ပုံငွေကို ဘယ်တော့မှ အပြည့်အဝ မရခဲ့ဘူး မဟုတ်လား”

ဆရာကြီးက ခေါင်းညိတ်ပြီး ဝန်ခံသည်။

“ကျွန်မက ဝါဂွမ်းပေါင်တရာကို နှစ်ဒေါ်လာခွဲတောင် ပေးမှာ ဆရာကြီးရဲ့။ ဒီနည်းနဲ့ သူတို့ကလေးတွေဟာ တိုက်ပွဲဝင် ရဲဘော်ကလေးတွေ ဖြစ်လာမယ်၊ နောက်တန်းကနေပြီး အထောက်အကူပြု စစ်တပ်တတပ် ဖွဲ့စည်းပေးလိုက်သလို ဖြစ်သွားမယ်။ ဝါကောက်လို့ ရတဲ့ သူတို့လုပ်ခနဲ့ ငွေစုတံဆိပ်ခေါင်း ဝယ်ထားလိုက်ရင် ဆရာ့ကျောင်းသားတွေရဲ့ ရန်ပုံငွေ ထည့်ဝင်ကြေးဟာ သတ်မှတ်ချက်ကို ကျော်ပြီး တခြား ဖွံ့ဖြိုးရေးကိစ္စတွေကိုတောင် ဆက်လုပ် နိုင်ဦးမယ်”

ဆရာကြီးက အာရုံစိုက်ပြီး နားထောင်နေသည်။

“ကောင်းပါတယ် မစ္စက်လန်း၊ အလွန်ကောင်းတဲ့ အစီအစဉ်ပါ၊ မနက်ဖြန် ကျောင်းသား ရိပ်သာထဲမှာ စုဝေးပြီး မစ္စက်လန်း မိန့်ခွန်းပြောပါ၊ ကျုပ်လည်း စည်းရုံးထားပါ့မယ်”

“ဝမ်းသာပါတယ် ဆရာကြီး၊ ဒါထက် ဘင်ခရာတီးဝိုင်းခေါင်းဆောင် ကျောင်းသား က ဘယ်သူပါလဲ ဆရာကြီး”

ဆရာကြီးက ကျောင်းသားအမည်ကို ပြောပြသည်။ ကျောင်းဆင်းသည်နှင့် တပြိုင်နက် ဘင်ခရာခေါင်းဆောင်နှင့် တွေ့ပြီး ဆွေးနွေးလိုက်သည်။ နောက်တနေ့မနက် ခန်းမဆောင် စင်မြင့်တွင် အယ်လီနာ မိန့်ခွန်းပြောသည့်အခါ ဘင်ခရာတီးဝိုင်းက နံဘေးမှ အသင့်။ ခန်းမဆောင်တခုလုံး ကျောင်းသားပရိသတ်ဖြင့် ပြည့်ကျပ် နေ၏။

“ဆယ့်ငါးလက်မ အမြောက်ကြီးတွေ တချက်ပစ်တိုင်း ဝါဂွမ်းဘေထုပ်တထုပ် ကုန်နေတယ်”

အသံက တည်ငြိမ်ပြတ်သား၏။ အောင်မြင်ကြည်လင်၏။

“ဒီစစ်ပွဲကြီး အောင်နိုင်ရေးဟာ အမေရိကန် တောင်ပိုင်းပေါ်မှာ အများကြီး တည်နေ တယ်၊ အမေရိကန်တောင်ပိုင်းဟာ ကမ္ဘာ့ဝါခင်းကြီး မဟုတ်လား၊

ရှေ့တန်းမှာ တိုက်နေကြတဲ့ စစ်တပ်ကြီးတတပ်လုံးဟာ မောင်လေးတို့၊ ညီမလေးတို့ ပါဝင်တဲ့ နောက်တန်းရဲ့ အထောက် အကူပြု ပံ့ပိုးမှုလုပ်ငန်းတွေ အများကြီး လိုနေတယ်။ ဒါကြောင့် ဝက်သစ်ချမြိုင်ကို ကျောင်းအား ချိန်တွေမှာ လာပြီး လုပ်အားပေးကြပါ၊ အဲဒီ လုပ်အားနဲ့ ကမ္ဘာ့လွတ်မြောက်ရေး တိုက်ပွဲကို ဆင်နွှဲကြပါ”

လက်ခုပ်သံကြီး ထုနှင့် ထည်နှင့် ပေါ်လာသည်။

အသံကို မြှင့်ပြီး ဆက်ပြောသည်။

“ကျေးဇူးတင်ပါတယ်၊ ပြင်သစ် စစ်မြေပြင်ကို အသက်မစေ့လို့ မလိုက်ရတဲ့ မောင်လေး တွေ၊ မိန်းကလေးဖြစ်နေလို့ စစ်သား မလုပ်နိုင်တဲ့ ညီမလေးတွေ သဘောပေါက် စေချင်ပါတယ်။ စစ်သားဆိုတာ တိုက်ပွဲဝင်ရတယ်၊ တိုက်ပွဲဝင်ရတဲ့ လူတိုင်းဟာ စစ်သားပဲ၊ ဒါကြောင့် တရား သောစစ်ပွဲအတွက် ခဲယမ်းမီးကျောက် ထုတ်လုပ်ပေးဖို့ ဝက်သစ်ချမြိုင် ဝါခူးစစ်တပ်ကြီးဖွဲ့ပြီး စစ်အနိုင်တိုက်ကြပါစို့”

ဘင်ခရာဝိုင်းမှ “တပ်ဦးကြယ်တံခွန်” သီချင်းတီးလုံး မြိုင်မြိုင်ဆိုင်ဆိုင် ပေါ်လာသည်။ ထိုင်နေသည့် ကျောင်းသားတွေ မတ်တတ်ရပ်လျက်သား ဖြစ်သွားသည်။ လက်ခုပ်သံတွေ၊ ခရာသံတွေ ဆူညံသွားသည်။

“အားလုံးကို ကျေးဇူးတင်ပါတယ်”

ဆူညံနေသည့် အသံတွေ လွှမ်းသွားအောင် အော်ပြောလိုက်သည်။

“ညနေ သုံးနာရီ ကျောင်းဆင်းချိန်မှာ မင်းတို့ကို ထရပ်ကားတွေ လာစောင့်နေလိမ့် မယ်”

ထိုနေ့ ညနေတွင် ကြွေးကြော်သံ စာတန်းများ ပတ်ပတ်လည် ချိတ်ဆွဲထားသည့် မော်တော်ကားကြီးတွေ ကျောင်းဆင်းချိန်တွင် ရောက်လာသည်။ ဝက်သစ်ချမြိုင်သို့ သွားရာ လမ်း တလျှောက်လုံးတွင် ဘင်ခရာအဖွဲ့က တက်ကြွဖွယ် မျိုးချစ်သီချင်းများကို တီးမှုတ်လိုက် လာသည်။ ဝက်သစ်ချမြိုင် ဝါ ခင်းသည် ကျောင်းသားလူငယ်တွေနှင့် ပျားပန်းခပ်မျှ စည်ကား လာတော့၏။ ပိုစတာတွေ ဝေဝေဆာဆာနှင့် အုတ်အော်သောင်းတင်း လှုပ်ရှားလာတော့၏။

“အမေရိကန် လက်နက်တွေကို ဝါဂွမ်းဖြင့် တည်ဆောက်စို့”

“ဝါကောက်သမားတွေ၏ တိုက်ပွဲ အောင်ရမည်”

ဘေထုပ်ချိန်သည့် ဂိုဒေါင်ကြီးတခုလုံး ဆိုင်းဘုတ်တွေ ပြည့်နေသည်။

“အမေရိကန်အတွက် လုပ်အားပေးကြ”

“ဝါကောက်ရင်း လုပ်အားပေးကြ”

“လုပ်အားခနဲ့ ရန်ပုံငွေ ပါဝင်ကြ”

ကျောင်းသားတွေ ဝါကောက်နေကြသည့် ရက်ပိုင်းတွင် အယ်လီနာက ဆိုင်းဘုတ် တွေကို မြို့ပေါ်အထိ တက်ထောင်သည်။

“စစ်ကို ဝါဂွမ်းနဲ့ အနိုင်တိုက်မည်”

“ဝါခင်းထဲမှ ကျောင်းသားကလေးတွေက ကိုင်ဇာဘုရင်ကို ဆန့်ကျင်တိုက်ခိုက်နေ သည်”

“ဗုံးကျင်းထဲက စစ်သားများလို တိုက်ဖို့ ဝက်သစ်ချမြိုင်မှာ တို့နဲ့အတူ လက်တွဲကြ” တပတ်လျှင် ငါးရက်ကို ညနေ ကျောင်းဆင်းချိန်တွင် အလုပ်စသည်။ စနေနှင့် တနင်္ဂနွေ နေ့များတွင် တနေ့လုံး အလုပ်ဆင်းကြသည်။ စနေနေ့ မနက်တိုင်း အကျွေးအမွေးနှင့် ဖျော်ဖြေမှု တမျိုးမျိုး လုပ်ပေးသည်။ ဘင်ခရာတီးဝိုင်းက ရှေ့ဆုံးမှ ချီတက်၏။ နှစ်ယောက် တတွဲ တန်းစီ ပြီး နောက်မှ လိုက်ကြသည်။

ကျောင်းသူ၊ ကျောင်းသား တယောက်စီကို လေးထောင့်ကွက်ကလေးများ ပါသည့် ကတ်ပြားကလေးတွေ ပေးထားသည်။ ဝါပေါင် ၂၀ ဆွတ်လို့ရတိုင်း လေးထောင့်ကွက်ကလေး တကွက်တွင် ချိန်တွယ်ဌာနမှ မှတ်ပေးသည်။ နေ့တွက်ကို ဝတ်က ရှင်းပေးသည်။

“သူတို့ကို တဒေါ်လာတန်တွေ ပေးနော်၊ ဒါမှ များတယ် ထင်ရမှာ။ ပြီးတော့ ထောင်မလဲ သဲကော်တွေ ဖြစ်ပစေ”

အယ်လီနာ ဝတ်ကို ညွှန်ကြားသည်။ ဝတ်က အယ်လီနာကို ငေးကြည့်နေပြီး သက်ပြင်း ချ၏။ ပြီးတော့ မရယ်မပြုံးနှင့်-

“မစ္စက်လန်း၊ ခင်ဗျားဟာ တကယ့်အမျိုးသမီးပဲ၊ ကျွန်တော်တော့ အံ့ရော”

အယ်လီနာ ရယ်သည်။

“စကတည်းက ရှင့်ကို ကျွန်မ ပြောခဲ့သားပဲ”

ကျောင်းသူ၊ ကျောင်းသားကလေးတွေ၏ လှုပ်ရှားမှုကို ပို၍ ကျော်ကြားအောင် လှုံ့ဆော် ပေးသည်။ နယူးအော်လင်း သတင်းထောက်တွေကို ဖိတ်ပြီး

ဝက်သစ်ချမြိုင်မှ ဝါခူးစစ်တပ်ကြီး အကြောင်းကို ရှင်းပြသည်။ ရှေ့တန်းသို့ ပံ့ပိုးနေသည့် နောက်တန်းတပ်ဖွဲ့ ပုံသဏ္ဍာန်ရောက် အောင် ဖွဲ့ဖွဲ့နွဲ့နွဲ့ ပြောပြသည်။ သည်တော့ သတင်းစာတိုက်တွေက ခါတိုပုံသတင်းထောက် တွေ လွှတ်ပေးသည်။ နောက်နေ့များတွင် ရောမ ဝါခင်းကြီးထဲ၌ စီတန်းဝါကောက်နေသည့် ကျောင်းသားတပ်ကြီး၏ ခါတ်ပုံတွေ သတင်းစာတိုင်းတွင် ပါလာ၏။

နိုင်ငံရေးလောကနှင့် လူမှုရေးနယ်ပယ်တွင် အယ်လီနာ နာမည်ကြီးသွားပြန်၏။ တိုင်းပြည် အကျိုးပြုလုပ်ငန်းကို အလုပ်နိုင်ဆုံး အမျိုးသမီး ဟူ၍။ ကြာတော့ အချို့ ကျောင်းသူ၊ ကျောင်းသား တွေ တုပ်ကွေးမိကြသည်။ အချို့ အပင်ပန်းမခံနိုင်၍ လစ်ကုန်ကြသည်။ အချို့က ဖွဲ့ကောင်းကောင်း နှင့် ဆက်လုပ်နေဆဲ။ စာရင်းချုပ်လိုက်တော့ စီမံကိန်း အောင်မြင်သည်။ ဝါတွေ အလေအလွင့် မရှိ ရလိုက်သည်။ ကျောင်းသူ၊ ကျောင်းသားတွေက ငွေဖောဖောသီသီ ရကြ၍ အယ်လီနာကို ကျေးဇူးတင် မဆုံးတော့။

သည်နှစ် ဘေထုပ် ၁,၂၀၀ ရလိုက်၏။ ၃၈ ဆင့်ဈေးနှင့် ရောင်းသည်။ ၁၉၁၈ ခုနှစ် ရောင်းရငွေထက် ဒေါ်လာ နှစ်သိန်း ပိုသေးသည်။

※※※

# (၄)

လုပ်စရာကလေးတွေ မဆိုသလောက် ကျန်နေသေးသည်။ သည်ကိစ္စပြီးလျှင် အားလုံး အေးပြီ။ နောက်ဆုံးချက်တစောင်ပဲ ရေးဖို့ ကျန်တော့၏။ သည်အလုပ်ပြီးလျှင် ဝက်သစ်ချ မြိုင်ပေါ်တွင် ကြွေးဟူ၍ တပြားတချပ်မျှ ကျန်တော့မည် မဟုတ်။

မိမိ၏ အောင်မြင်မှုအတွက် ရင်ခုန်ကြည်နူးနေ၏။ တပြိုင်တည်းတွင် ပင်ပန်းနွမ်းနယ်မှု ဒဏ်ကို အလူးအလဲ ခံနေရသည်။ တညနေလုံး ကြွေးဆပ်ဖို့ ချက်လက်မှတ်တွေ ထိုင်ရေးနေ ခဲ့သည်။ နာရီကို ကြည့်လိုက်တော့ ည ၁၀ နာရီ ထိုးပြီ။ ထပ်ရေးစရာ တစောင်သာ ကျန်တော့၏။ နေ့ခင်းကမှ ရောက်လာသည့် ဘဏ်စာရင်းရှင်းတမ်းကို လှန်လှောကြည့်နေသည်။ ပင်ပန်း လှပြီဖြစ်သည့် လက်ချောင်းကလေးတွေက စာရွက်ကို အနိုင်နိုင် ကိုင်ထားရ၏။

ကြိုးစားခဲ့သမျှတွေ အကောင်အထည်ပေါ်ဖို့ လက်လှမ်းတမီတွင် ရောက်နေပြီ။ တနှစ် လုံး၏ အသားတင်အမြတ်ကို မသိရသေး။ လက်ကျန်ရှင်းတမ်းဆွဲပြီးမှ သိရမည် ဖြစ်၏။ သို့သော် ခန့်မှန်းခြေ အမြတ်ကိန်းဂဏန်းတွေကို မျက်စိထဲတွင် မြင်ယောင်ပြီး ပျော်နေ၏။ စိတ်ထဲက ပျော်နေခြင်းသာ။ ခန္ဓာကိုယ် အစိတ်အပိုင်းတွေက ပင်ပန်းလှပြီ။ မျက်စိတွေ ပြာဝေနေ၏။ ချက်လက်မှတ် ရေးဖို့ပင် မလွယ်တော့။ သည်ည အိပ်ရေးဝဝ အိပ်လိုက်ရလျှင် မနက်ဖြန် လန်းသွားမှာပါ။ မိုးလင်းမှပဲ စာရင်းတွေ ဆက်လုပ်မည်ဟု ကိုယ့်ကိုယ်ကိုယ် နှစ်သိမ့် လိုက်သည်။

စိတ်ထဲတွင်တော့ သိပ်ပျော်နေသည် ထင်နေ၏။ တညလုံး ကောင်းကောင်း အိပ် မပျော်။ ခေါင်းတွေ ကိုက်နေသည်။ နာရီစက်သံကိုပင် မခံနိုင်လောက်အောင် ဖြစ်လာ၍ စားပွဲတင် နာရီကို ယူပြီး ရေချိုးခန်းထဲ ရွှေ့ထားလိုက်သည်။ နောက်ဆုံးတွင် အိပ်ပျော်သွား၏။ ခြောက် အိပ်မက်တွေ မက်ပြီး လန့်နိုးလာသည်။ နိုးလာတော့ အဆစ်အမြစ်တွေ ကိုက်ခဲနေ၏။ ဤတွင် ကျန်သည့် ချက်လက်မှတ်တစောင်ရေးဖို့က ရောမအလုပ်ကြီးတခု ဖြစ်နေတော့သည်။

ကိုယ့်ကိုယ်ကိုယ် အားမလို အားမရဖြစ်ကာ အောက်ထပ်သို့ ဆင်းလာခဲ့၏။ ခြေလှမ်း တွေက ဒယီးဒယိုင် ဖြစ်နေသည်။ စားချင်စိတ်မရှိဘဲ ကြက်ဥတလုံးပြုတ်ပြီး စားလိုက်သည်။ ပြီးတော့ ကော်ဖီတအိုး ဖျော်သောက်သည်။ သို့သော် ခေါင်းက ဆက်ကိုက်နေဆဲ။ စိတ်ပျက် သွားသည်။ ဘယ်သူမျှ လာပြီး

အနှောင့်အယှက် မပေးဖို့ အိမ်စေတွေကို အမိန့်ပေးပြီး အလုပ် ခန်းဆီသို့ လာခဲ့၏။

လက်ဆစ်ကလေးတွေက စပြီး ကိုက်ခဲနေသဖြင့် စားပွဲအံဆွဲကိုပင် အနိုင်နိုင်ဖွင့်ရ၏။ ဖောင်တိန်အဖုံးကို ကလေးတယောက် ဖွင့်သလို ခဲရာခဲဆစ် ဖွင့်သည်။ ချက်စာအုပ်ကို လှန်လိုက်သည်။ ၁၀ မိနစ်အတွင်း ငါ ပြီးအောင် ရေးမယ်၊ ကိုယ့်ကိုယ်ကိုယ် အားတင်းလိုက် သည်။

အသိအာရုံတွင် တခုပြီးတခု နောက်ကြောင်းပြန် ရုပ်ရှင်လို ထင်ဟပ်လာသည်။ ဝက်သစ်ချမြိုင် ပိုင်နက်တခုလုံး အပေါင်ပစ္စည်း ဖြစ်ရပုံ၊ ဝါဂွမ်းဈေးကွက် ပျက်ပုံ၊ ဝါဂွမ်းကို ခဲယမ်းမီးကျောက် လုပ်ကြပုံ။ ပြီးတော့ လယ်ထွန်စက်တွေ၊ နှစ်ပေါင်းများစွာ အပင်ပန်းခံခဲ့ရ တာတွေ။ ချက်လက်မှတ်ပေါ်ကို စာတလုံးရေးချဖို့ အလွန်ခက်နေပါပေါ့လား။ ဝလုံးတန်း အရွယ် ကလေးတယောက် ရေးနေသလို အားယူပြီး ရေး၏။ ဟင်... ဘာမှ သဲသဲကွဲကွဲ မမြင်ရတော့ပါလား၊ တကိုယ်လုံး ပိုပြီး ကိုက်သည်အထိ ကိုက်ခဲလာ၏။

သည်တော့မှ အထိတ်တလန့် ဖြစ်မိတော့သည်။ အို... မဖြစ်နိုင်ပါဘူး၊ ငါ မဖျားနိုင်ဘူး၊ ဘယ်တုန်းကမှ မဖျားဖူးတာပဲ၊ ဘယ်တုန်းကကော ဖျားချိန်ရှိခဲ့လို့လဲ၊ သည်ချက်တစောင်ကို ပြီးအောင် ရေးရဦးမည်လေ၊ ပြီးတော့ ချက်တွေ သက်ဆိုင်ရာကို ပို့ဖို့ စာတွေလည်း ရေးရဦးမယ်၊ အဖြစ်မခံနိုင်ဘူး၊ တုပ်ကွေး အဝင်မခံနိုင်ပါဘူး။

မည်သို့ပင် အားတင်းစေကာမူ စိတ်သွားရာသို့ ကိုယ်မပါတော့။ တုပ်ကွေးက သူ့အသွေး ထဲ အသားထဲသာမက အဆစ်အမြစ် မှန်သမျှဆီသို့ ပျံ့နှံ့ကူးစက်ပြီး တဆစ်ချင်း ပြုတ်ထွက် ကုန်မတတ် အပြင်းအထန် တိုက်ခိုက်၏။ မျက်နှာပေါ် ဝဲကျနေသည့် ဆံပင်တွေကို သပ်တင်ဖို့ လက်မမြှောက်နိုင်တော့။ တဖြည်းဖြည်းနှင့် တဒိုင်းဒိုင်း ကိုက်ခဲနေသော ဦးခေါင်းကို မတ်မတ် မထူနိုင်အောင် ဖြစ်လာသည်။ ဇက်ကျိုးကျသွား၏။ သတိမရတချက် ရတချက် ဖြစ်သွား၏။ ကိုယ်တွေ ချစ်ချစ်တောက် ပူလာသည်။ သို့သော် ရင်ထဲတွင်ကား ချမ်းလွန်း၍ ဆတ်ဆတ် တုန်နေ၏။ ကျောရိုးတလျှောက် ရေခဲတုံးတွေ ကပ်ထားသလို ခံစားရ၏။

အခန်းထဲတွင် ထိုင်နေရင်း မူးရီမူးဝေ ဖြစ်လာသည်။ အခန်းတခုလုံး ချာချာလည် နေ၏။ တခဏမျှ မျက်လုံးတွေ ပြန်ကြည်လာသည်။ ချက်တစောင် ရေးရဦးမှာပါလား၊ ဖောင်တိန်ကို တင်းတင်းဆုပ်လိုက်၏။ သက်ပြင်းတချက် ချသည်။ ချက်စာအုပ်ကို ငုံ့ကြည့် သည်။ ကျန်သည့် အပိုင်းကို ဆက်ရေးသည်။ လေးလံစွာ တလုံးချင်း ရေးနေရဆဲ။ ဖောင်တိန် လက်ထဲမှ လွတ်ကျသွားသည်။ ပေါင်ပေါ်တွင် တင်နေ၏။ စကတ်တွင် မင်တွေ ကွက်သွား၏။ မျက်တောင် တဖျပ်ဖျပ် ပုတ်ခတ်ပြီး အကြောင်သား ငုံ့ကြည့်နေ၏။ ပေါင်ပေါ်မှ ဖောင်တိန်က

ချာချာလည်နေသည်။ မီးဖိုမှ မီးလျှံ၏ အရောင်တွင် အခန်းထဲရှိ အရာဝတ္ထုတိုင်းသည် ယိမ်းထိုး လှုပ်ရှားနေ၏။ တကိုယ်လုံး ကြွေမွကုန်မတတ် ကိုက်ခဲသည့် ဝေဒနာကို ခံနေရဆဲမှ တခု တည်းသော အလင်းရောင်ကို အာရုံခံစားလိုက်မိ၏။ သည်အခါ ဘာတွေ ဖြစ်နေဖြစ်နေ ဂရု မစိုက်တော့။ တာဝန်တွေ ကျေပွန်ခဲ့ပြီလေ။

လျှော့ကျသွားသည်ကို သတိထားလိုက်မိသည်။ ထိုင်နေသည့် ကုလားထိုင် လက်တန်း တဖက်ကို ဖမ်းဆုပ်ထားလိုက်၏။ သတိ ရှိသေးသည်။ ကြမ်းပြင်ပေါ် ရောက်နေသည်ကို သိ၏။ ဦးခေါင်းက ကုလားထိုင်ပေါ်တွင် တင်လျက်။ စိတ်ကူးတွေ ခေါင်းထဲတွင် ရှုပ်ယှက်ခတ်နေ သည်။ ကလေးတွေကို ဘယ်သူ ညစာကျွေးပါ့မလဲ။ ဘော့ပါစယ် ခဏ ခဏ သတိပေးသည်ကို အမှတ်ရလိုက်သည်။ “မင်း တနေ့မှာ အရုပ်ကြိုးပြတ် လဲလိမ့်မယ် အယ်လီနာ” တဲ့၊ ဘယ်တတ်နိုင်ပါ့မလဲ။ လုပ်စရာ ရှိတာကို မလုပ်ဘဲ နေလို့မှ မရတာ။ ခုတော့ ဘာမှ ဂရုမစိုက် တော့။ ဖြစ်ချင်ရာ ဖြစ်လေ၊ ရည်ရွယ်ချက် အားလုံး အောင်မြင်ခဲ့ပြီပဲ၊ တိုက်ပွဲတွေ အဆင့်ဆင့် အောင်နိုင်ခဲ့ပြီပဲ။

ချက်လက်မှတ်တွေ သက်ဆိုင်ရာကို ဘယ်သူ သွားပို့ပါ့မလဲ မသိဘူး၊ ဝက်သစ်ချမြိုင် ကို ကြွေးနွံ့ဗွက်ထဲက ဆွဲတင်မယ့် ချက်လက်မှတ်တွေလေ၊ ကြွေးတွေ ကင်းသွားပြီ ဆိုလျှင် ကျန်သည့် ပိုက်ဆံနှင့် ဘာမျှ မလုပ်ဘဲနှင့် တသက်လုံး ထိုင်စားနိုင်ပြီ။

နောက် တနာရီကြာမှ ကာမီယိုက အယ်လီနာ မေ့မြောနေသည်ကို တွေ့သည်။ ကြမ်းပြင်ပေါ်တွင် လဲကျနေရင်း “ပြီးတယ်၊ ငါ့အလုပ်တွေ ပြီးတယ်” ဟု မပီမသနှင့် ကယောင်ကတမ်းတွေ ပြောနေ၏။

ကာမီယိုက ပန်းခြံစောင့် ကောင်ကလေးတယောက်ကို ခေါ်ပြီး အယ်လီနာ့ကို အပေါ် ထပ်သို့ သယ်ယူသည်။ ထိုအချိန်တွင် အယ်လီနာ လုံးဝ သတိမရတော့။ ကယောင်ကတမ်းတွေ လျှောက်ပြောနေ၏။

※※※

## (၅)

တုပ်ကွေး ဆိုတာ ဒါပါလားဟု နားလည်ရ၏။ ဦးခေါင်းမှသည် ခြေဖျားထိ နာကျင် ကိုက်ခဲနေ၏။ သည်လောက် ပြင်းထန်သည့် ဝေဒနာကို တခါမျှ မခံစားဖူးခဲ့။ မျက်လုံးထဲတွင် အမှောင်ထုကြီးသာ မြင်နေ၏။ တခါတခါ စူးရှလွန်းသည့် အဖြူရောင်နှင့် အနက်ရောင်တွေ တအား လင်းလက်သွား၏။ မျက်လုံးတွေ ကန်းကုန်ပြီလား အောက်မေ့ရ၏။ နားထဲတွင် အသံတွေ ကျယ်လောင်စွာ ကြားနေသည်။ ၁၇ ဆင့်၊ ဆင့် ၂၀၊ ၂၇ ဆင့်၊ ဆင့် ၃၀။ ပါးစပ်ကလည်း လိုက်ဆိုနေမိ၏။

အတော်ကြီးကြာမှ အိပ်ရာပေါ်တွင် ရောက်နေကြောင်း သတိထားမိ၏။ တခန်းလုံး မှောင်နေ၏။ မျက်စိမှိတ်ထားလို့ ထင်ပါရဲ့။ တယောက်ယောက်က အကျီလက်မောင်းကို ပင့်တင်နေသည်ကို အယ်လီနာ သိလိုက်၏။ မျက်လုံးကို အားယူဖွင့်ကြည့်လိုက်သည်။ ကိုယ့်ခုတင်ပေါ်ကိုယ် ရောက်နေတာပါလား။ ဟုတ်ပါတယ်၊ ကြက်သွေးရောင် ခုတင်အမိုးနဲ့။ မျက်နှာစိမ်း အမျိုးသမီးတဦးက အိပ်ရာပေါ်မှာ ကုန်းပြီး ဘာလုပ်နေပါလိမ့်၊ မျက်နှာ အောက်ပိုင်းကို မျက်နှာဖုံး စည်းထား၏။ တကိုယ်လုံး အဖြူရောင် ဆင်ထားသည်။ အမျိုးသမီး ကို ကြည့်ပြီး ပြောလိုက်သည်။

“သုံးဆယ့်ရှစ်ဆင့်”

အမျိုးသမီးက သူ့စကားကို လုံးဝဂရုမစိုက်။ ထိုအမျိုးသမီးက နံဘေးကို ဖယ်လိုက်တော့ ခုတင်ခြေရင်းတွင် ထိုင်နေသည့် လူတယောက်ကို တွေ့ရသည်။ သူ့ကိုတော့ မြင်ဖူး သလိုလို။ သူကလည်း မျက်နှာအောက်ပိုင်းကို မျက်နှာဖုံး စည်းထား၏။ သူ့ကို စိုက်ကြည့် နေမိ၏။ သူကလည်း ပြန်ကြည့်နေသည်။ လူက ထောင်ထောင်မောင်းမောင်း၊ ခပ်တောင့်တောင့်၊ မျက်လုံးက အပြာရောင်၊ မျက်နှာက နီစပ်စပ်၊ နည်းနည်းကလေး ခေါင်းထောင်ဖို့ ကြိုးစား ကြည့်သည်။ ထိုလူကြီးက ခုတင်ခြေရင်းမှ ဖေးမ ပေး၏။ ရောမ သူ့လက်ကြီးများတွင် လက်သည်းက လေးထောင့်ကြီးတွေနှင့်။ မှတ်မိပြီ၊ ဝါဠမ်းဈေးတွေကို တတွတ်တွတ် ရွတ်နေရာမှ ရပ်လိုက် သည်။ ထူးဆန်းသည့် စိတ်၏ ငြိမ်းချမ်းအေးမြမှု တမျိုးသည် ကိုက်ခဲနေသည့် တကိုယ်လုံးသို့ ဆွတ်ပျံ့သွား၏။ ခဏကလေး အသာငြိမ်နေလိုက်ပြီးမှ လေသံဖြင့် ခေါ်လိုက်သည်။

“ပါပါ”

ခုတင်ခြေရင်းမှ ခုန်ထပြီး ချက်ချင်း ခေါင်းရင်းသို့ ရောက်လာသည်။ ဘာမျှ ဆက် မပြောနိုင်။ ခုတင်အောက်တွင် တစောင်းထိုင်ပြီး မိုးကြည့်နေသည့် ဖေဖေ့မျက်နှာကို နီးကပ်စွာ မြင်ရသည်။ စောင်အောက်မှ လက်ကို ထုတ်လိုက်သည်။ ဖေဖေက ညင်သာစွာ ဆွဲယူပြီး ဆုပ်ထား၏။

"သမီး နေကောင်းသွားပြီ၊ ဘာမှ မပူနဲ့တော့"

မျက်နှာဖုံးအောက်မှ ထွက်လာသည့် ဖေဖေ့အသံ။ သူ့လက်ကို ပြန်ဆုပ်ထားလိုက် သည်။ ပြီးတော့ မျက်လုံးတွေကို အသာကလေး ပြန်မှိတ်လိုက်သည်။ အရေးကြုံလျှင် ဖေဖေဟာ အမြဲတမ်း အဆင်သင့်ပါလား၊ ဖေဖေ ဘယ်လောက် ဂရုတစိုက် ပြုနေသည်ကို တွေးကြည့်မိ၏။ ငါကိုယ်တိုင် ဘာမှ မလုပ်နိုင်တော့ပါကလား။ လူမမာ ဘဝကို လုံးဝ ရောက်နေပြီပဲကိုး။

ရက်သတ္တပတ်ပေါင်းများစွာ အဖျားဒဏ်ကို အလူးအလဲ ခံနေရသည်။ အခြားကိစ္စတွေ ကို ဘာမျှ သတိမရသလောက်ပင်။ အိပ်ရာထဲတွင် နှစ်ချီ၍ လဲနေသည် ထင်၏။ အသက်မရှူ နိုင်၊ စကားမပြောနိုင်သည့် အခါများတွင် ဝေဒနာကို ဆက် မခံစားချင်တော့။ တခါတည်း သေသွားရင် ကောင်းမှာပဲဟုပင် တွေးမိ၏။ ခံစားနေရသည့် ဝေဒနာမှာ သာမန်တုပ်ကွေး မဟုတ်တော့ဘဲ အလွန်ကြောက်စရာ ကောင်းသည့် အဆုတ်အအေးမိရောဂါပါ ဝင်လာ၍ ရက်ရှည်ခံနေရခြင်း ဖြစ်သည်။

နာလန်ထလာတော့ အယ်လီနာ့ ခန္ဓာကိုယ်မှာ အရိုးပေါ် အရေတင်လောက်သာ ကျန်တော့သည်။ တဖြည်းဖြည်းချင်း အသိအာရုံတွေ ကြည်လင်လာ၏။ စဉ်းစားနိုင်လာ၏။ သည်တော့မှ နောက်ကြောင်းတွေ ပြန်မေးရသည်။

ဖေဖေတယောက် တချိန်လုံး အနားက မခွာဘူး တဲ့။ သိပ်အရေးကြီးမှ သူ့အလုပ်ခွင် ကို ခဏတဖြုတ် လစ်သွားတတ်တယ် တဲ့။ ဖေဖေ ရောဂါတာစခန်းကို ပြန်ပြေးခိုက်တွင် မေမေက ရင်အုပ်မကွာ ပြုစုသတဲ့။ ပြီးတော့ ညီမတွေရော တချိန်လုံး ဆိုပါလား။ ကလေးတွေကို နယူးအော်လင်း အိမ်ကို ပို့ထားသည်။ မမ်မီနှင့် ဒစ်စီတို့သည် နေကောင်းနေကြပြီ။ ထိတ်လန့် တုန်လှုပ်ဖွယ် အဖြစ်ဆိုးကြီးကို ကျော်ဖြတ်ခဲ့ကြလေပြီ။

သူနာပြုဆရာမက အယ်လီနာကို ဘီးတပ်ကုလားထိုင်ပေါ်သို့ ပွေ့တင်သည်။ ပြီးတော့ ပြတင်းပေါက်ဆီသို့ တွန်းသွားသည်။ မှုန်ပြာရီနေသော ဆောင်း၏ နံနက်ခင်းတွင် နေရောင်ခြည် မှာ တောက်ပနေ၏။

"အစ်မ အမျိုးသားဆီက စာတွေ ရောက်နေပါတယ်၊ မစ္စတာ အပွင်ဂျွန်း သိမ်းထား ပါတယ်ရှင့်"

ဆရာမကလေးက ပြောတော့-

"လုပ်စမ်းပါကွယ်၊ ဖတ်ပါရစေ" လို့ အငမ်းမရ ပြန်ပြောလိုက်မိသည်။

ဆရာမကလေး ပြုံးပြီး ထွက်သွားသည်။ အောက်ထပ်တွင် ကော်ဖီသောက်နေသော ဖေဖေ့ကို သွားခေါ်သည်။ ပြန်တက်လာတော့ ဖေဖေနှင့်အတူ ဘော့ပါစယ်ပါ ပါလာ၏။ ဘော့ကို လက်လှမ်းပေးလိုက်သည်။

"ငါ မပြောဘူးလားလို့" ပြောမနေပါနဲ့တော့ ဘော့ရယ်"

ဘော့ကို တောင်းပန်လိုက်သည်။

"မပြောပါဘူး အယ်လီနာရယ်၊ မင်းဟာမင်း ဒဏ်ခတ်ခံပြီးပြီပဲ"

"ဒါပေမဲ့ သမီး ခု ကောင်းကောင်းကြီး နေကောင်းသွားပါပြီ"

ဖေဖေ ပြောပြောဆိုဆို အနားတွင် လာထိုင်သည်။

"ပါပါ့ဆီမှာ ကက်စတာ့ စာတွေ ရှိတယ်ဆို"

"ဟုတ်တယ်လေ၊ ဟောဒီမှာ အဆင်သင့်ပဲ"

စာတွေကို ကုတ်အင်္ကျီအိတ်ကပ်ထဲမှ ဖေဖေ ထုတ်ပေးသည်။

"စာတွေ ဖောက်ဖတ်ပြီး သမီးကိုယ်စား ပါပါ စာပြန်ရတာကိုတော့ ပါပါ့ကို ခွင့်လွှတ် နော်၊ ပါပါ မလုပ်ချင်ဘဲ လုပ်ရတာလေ၊ အကျိုးအကြောင်း သမီး မပြန်နိုင်တော့ ပါပါ ပြန်ရေးရတာပေါ့"

ဖေဖေ့လက်ထဲမှ စာတွေကို လှမ်းယူလိုက်သည်။

"သူ ဘာတွေ ရေးလာလဲ ပါပါ ... ဟင်"

ဖေဖေရယ်သည်။

"ရေးတာတွေကတော့ အများကြီးပေါ့၊ ပါပါ ပြန်ပြောရင် သမီး ရှက်နေမှာပေါ့၊ သမီး အတွက်တော့ ကြည်နူးစရာတွေ ချည်းပဲပေါ့။ သူလည်း မကြာခင် ပြန်လာတော့မှာပါကွယ်"

ခန္ဓာကိုယ်ထဲသို့ အားတွေ အင်တွေ ဘယ်က ဘယ်လို ဝင်လာသည် မသိ။ ဘီးတပ်ကုလား ထိုင်မှ ယောင်ယမ်းပြီး ထရပ်လိုက်သည်။ ဘော့က ပခုံးကို လှမ်းကိုင်ထားလိုက်၏။

"အိမ်ပြန်လာမယ် ဟုတ်လား ပါပါ၊ သူ... သူ ဒဏ်ရာရလို့လား ဟင်"

"စိတ်အေးအေး ထားစမ်းပါ အယ်လီနာရယ်"

အယ်လီနာ့ ပခုံးကို ညင်သာစွာ ကိုင်လျက်က ဘော့ တိုးတိုးကလေး ပြောသည်။

"တို့အားလုံး မင်းကို မင်္ဂလာသတင်းထူးကြီးတခုကို ပြောဖို့ အခြေအနေ မပေးခဲ့ဘူး လေ၊ စစ်ကြီး ပြီးသွားပြီ အယ်လီနာရဲ့"

"ဟင်... စစ်ကြီး ပြီးသွားပြီ ဟုတ်လား၊ ဘုရား... ဘုရား"

လက်နှစ်ဖက်နှင့် မျက်နှာကို အုပ်လိုက်သည်။ ကုလားထိုင်ပေါ်တွင် အသင့်ပါလာသော ခေါင်းအုံးပေါ်သို့ မျက်နှာမှောက်ထားလိုက်၏။ မျက်ရည်ကို ထိန်းဖို့ အားအင် မရှိလှသေး။ ခေါင်းပြန်မော့ကြည့်လိုက်တော့ ဘော့နှင့် ဖေဖေ စိတ်မကောင်းသလို တယောက်မျက်နှာ တယောက် ကြည့်နေကြ၏။

ဖေဖေက အနားတိုးပြီး-

"ငိုလေ သမီး. . . ငိုချလိုက်၊ ရှက်မနေနဲ့၊ လွန်ခဲ့တဲ့ အပတ်ထဲတုန်းက စစ်ပြီးသတင်း ကြားရပြီး တတိုင်းပြည်လုံး ဝမ်းသာလွန်းလို့ မျက်ရည်ကျပြီးပြီ။ သမီးတယောက်တည်းပဲ ကျန်နေတာ"

သည်တော့မှပင် အယ်လီနာ ရှိုက်နိုင်တော့သည်။

"ပါပါ"

"သမီး... အယ်လီနာ"

"ဝက်သစ်ချမြိုင်ကို သမီး ကယ်တင်ခဲ့ပြီးပြီ၊ စစ်ပြီးပြီ ဆိုတော့ ဝါဈေးတွေ ကျတော့ မှာပေါ့နော်။ ဒါပေမဲ့ သမီး ဂရုမစိုက်တော့ဘူး၊ သမီး တာဝန်ကျေခဲ့ပြီပဲ။ မဟုတ်ဘူးလား ဟင်... ပါပါ

"သိပ်ဟုတ်တာပေါ့ သမီးရယ်၊ သိပ်မှန်တာပေါ့"

# အခန်း (၁၁)

## (၁)

ကျန်သည့် ဆောင်းနှောင်းရက်ပိုင်း တချိန်လုံး မောင် ပြန်လာမည့် နေ့ကို အမျှော် စိုက်ရင်း အချိန်ကုန်ရသည်။ နာလန်ထ ကာလ ကုန်ဆုံးခဲ့ပြီမို့ ကောင်းစွာ ကျန်းမာနေပြီ။ မောင့်ကို လွမ်းလွန်း၍ ဆောက်တည်ရာမရ ဖြစ်နေသည့် စိတ်ကို ဝက်သစ်ချမြိုင် စံအိမ်ကြီးအား မွမ်းမံ ပြင်ဆင်ခြင်းဖြင့် အာရုံပြောင်းရ၏။ မောင့်ကို လှပသစ်လွင်နေသည့် ဝက်သစ်ချမြိုင်မှ ကြိုမည် လေ...။

ဖိတ်ဖိတ်တောက်နေအောင် ပြုပြင်သည်။ လိုက်ဖက်သည့် အရောင်အသွေး အမျိုးမျိုး ရွေးကာ ဆေးသုတ်သည်။ ဝက်သစ်ချမြိုင် အိမ်ကြီးသည် အိမ်ပုံစံနှင့် ပရိဘောဂပစ္စည်း များမှလွဲ၍ ၂၀ ရာစု ခေတ်မီအိမ်ကြီး ဖြစ်နေပြီ။ အုပ်ဝေနေသည့် ဝက်သစ်ချကိုင်းတွေကို ခုတ်ပစ်သည်။ ပန်းဥယျာဉ် အနေအထားတွေကို ပြောင်းပစ်သည်။ နယူးအော်လင်းမှ လျှပ်စစ် အင်ဂျင်နီယာတဦးနှင့် အဖွဲ့ကို ခေါ်ယူပြီး ခေတ်မီ မီးပစ္စည်းတွေ တပ်ဆင်သည်။

ကက်စတာ့ အခန်းထဲတွင် ခေတ်မီ ဖုန်းတလုံး တပ်ဆင်ပေးသည်။ တအိမ်လုံးကို ဆက်နိုင်သည့် တယ်လီဖုန်း။ ဆောင်းရာသီတွင် သုံးဖို့ အနွေးဓာတ်ပေးသည့် ကိရိယာ၊ နွေရာသီ အတွက် နောက်ဆုံးပေါ် နံရံမြှုပ်ပန်ကာ။ အစုံတပ်ဆင် ပေးထားသည်။ ရေချိုးခန်းကို နှစ်ဆ တိုးချဲ့ပြီး ဆောက်သည်။ အခင်းကို အပြာရောင် ဘိလပ်မြေနှင့် အချောကိုင်ပြီး နံရံကိုလည်း အပြာရောင်သုတ်သည်။ အလိုအလျောက် တိုက်ပေးသည့် ဝက်မှင်ဘီးနှင့် ဖိမ်ခံပစ္စည်းတွေ အားလုံး တပ်ဆင်ပေးသည်။ ရောမ ရေချိုးခန်းကြီးကလည်း အပြာရောင်၊ နံဘေးတွင် မှန်ကြီး ကပ်ထား၏။

မုတ်ဆိတ်ရိတ်သည့် မှန်ကို လင်းစေသည့် မီးရောင်က တိုက်ရိုက် မဟုတ်၊ တဆင့်ပြန် အလင်းရောင်။ ရေပိုက်တွေက ရေအေးပိုက်၊ ရေနွေးပိုက်၊ ပေါင်းစပ်ကိရိယာတွေ၊ ထိန်းချုပ် ကိရိယာတွေနှင့်။ အရောင်စုံ မျက်နှာသုတ်ပဝါတွေတွင် ကက်စတာ့ နာမည် အတိုကောက် စာလုံးတွေ ထိုးထားပေးသည်။ ဂဏန်းတွက်ရမည်ကို အလွန်မုန်းသည့် မောင့်အတွက် ဂဏန်း တွက်စက်တလုံးကိုလည်း ဝယ်ထားပေးသည်။ နောက်ဆုံးပေါ်

ဇိမ်ခံကားကြီးတစီးဝယ်ပြီး ကားဂိုဒေါင်ကိုပါ အသစ်ဆောက်လိုက်သည်။ အယ်လီနာကိုယ်တိုင်အတွက်မူ လက်ရှိ "ရုဒ်စတား" ကားကလေးကိုပင် ဆက်ထားသည်။

မိမိ ဖန်ဆင်းခဲ့သမျှကို လျှောက်ကြည့်ပြီး အယ်လီနာ ကြည်နူးနေ၏။ ဝက်သစ်ချမြိုင် အိမ်ကြီး၏ ကလေးခန်းမှစပြီး ပိုင်နက်တခုလုံး အံ့ဖွယ်ကောင်းလောက်အောင် ပြောင်းလဲ သွားပြီ။ သူ့နေရာနှင့် သူ အားလုံး မျက်စိပသာဒ ဖြစ်စဖွယ် အဆင်ပြေ ညီညွတ်လျက် ရှိ၏။ ခေတ်မီ လှပလျက် ရှိ၏။

တအိမ်လုံးတွင် လူအားနှင့် လုပ်ရမည့် အလုပ်ဟူ၍ မကျန်တော့သလောက်ပင်။ ခလုတ် ကို နှိပ်လိုက်ရုံ၊ ဖိလိုက်ရုံဖြင့် ကိစ္စဝိစ္စတွေ ပြီးမြောက်နေ၏။ အပြင် ကွင်းလုပ်ငန်းတွင်လည်း ဝါကောက်သည့် အလုပ်မှလွဲပြီး အားလုံးစက်မှုပစ္စည်းတွေ အစားထိုးပြီးပြီ။

မောင် ပြန်လာရင် ရင်သပ်ရှုမောနှင့် တအံ့တသြ ထွက်လာမည့် အာမေဍိတ်သံတွေ ကို ကြိုပြီးကြားယောင်ကြည့်နေမိ၏။ ပထမတော့ ပါးစပ်အဟောင်းသား ဖြစ်နေမည် ထင်သည်။ ပြီးတော့ "ကြည့်စမ်း၊ မောင်ဖြင့် ဒီလိုအခန်းမျိုးကို အိပ်မက်တောင် မမက်ဖူးဘူး အချစ်ရယ်" လို့ ပြောမလား၊ "ဟင်. . . ဒါတွေ မောင့်အတွက် လုပ်ထားတာ၊ ဟုတ်လား" လို့ပဲ မယုံနိုင်သလို ပြောလေမလား။

သည်လို တုံ့ပြန်မှုကလေးတွေ မောင့်ဆီမှပြန်ရရင် သေပျော်ပါပြီ။ ကွင်းထဲမှာ အပင်ပန်း ခံခဲ့သမျှတွေ၊ အဖျားဒဏ်ကို သေကောင်ပေါင်းလဲ ခံခဲ့ရတာတွေ အားလုံး အကြောင်း မဟုတ် တော့ပါ။ ဝက်သစ်ချမြိုင်ကို လက်ဝယ်ပိုင်ပိုင် ပြန်ရပြီ။ မိမိ၏ လုပ်အားသက်သေသည် ဝက်သစ်ချ မြိုင်တွင် အစဉ်တည်နေတော့မည်။ ပြီးတော့ မောင့်ရင်ခွင် မှီနွဲ့ကာ ရိုးမြေကျ ပေါင်းသင်း နေထိုင်မည်။

မောင် ပြန်လာမည့် ရက်သည် ရာသီဥတု သာယာသည့် နွေဦး ဖြစ်သည်။ ပန်းခြံထဲ တွင် ဖယောင်းပန်းနှင့် နှင်းဆီတွေ လှိုင်လှိုင်ပွင့်နေပြီ။ သစ်ခွပန်းတွေက သစ်ပင်တွေပေါ်တွင် တောက်ပ ဝင်းလက်နေကြ၏။ ကွင်းထဲတွင် ဝါပင်ကလေးတွေ ဖြောင့်တန်းစွာ စိမ်းလန်းနေကြပြီ။

မောင့်ကို နယူးအော်လင်းထိ သွားကြိုသည်။ ရောမ လူအုပ်ကြီးထဲတွင် ရပ်နေရင်း လူတွေကို မမြင်။ ထောင်ပေါင်း များစွာသော စစ်သားအားလုံး၏ မျက်နှာသည် တပုံစံတည်း ဖြစ်နေ၏။

ဟော... ဟိုမှာ တွေ့ပြီ၊ မောင်မှ မောင်အစစ်၊ ဟောတော့်... သူက မမြင်ဘူး။ မောင်က လူတကာကို ပြုံးပြီး နှုတ်ဆက်နေသည်။ လူအုပ်ကြီးကို အတင်းတိုးဖဲ့ပြီး

ရှေ့တိုး သည်။ ခရီးသိပ် မရောက်လှ။ ဟော .. သူ လှမ်းမြင်သွားပြီ။ မောင် သတင်းထောက်တွေကို အတင်း တိုးထွက်လာသည်။ လူတွေကို ရှိသမျှခွန်အားနှင့် တွန်းထိုးပြီး သွားသည်။ မောင့်ရင်ခွင် ထဲကို တအားပြေးဝင်လိုက်၏။ မောင်က တအားပြန်ဖက်ထားသည်။ ဘဝတလျှောက်လုံးမှာ ရင်အခုန်ဆုံးနဲ့ အပျော်ဆုံး တဒင်္ဂပါ မောင်ရယ်၊ ဘာဆိုဘာမျှ သတိမရ၊ ဘာမျှမမြင်။ တအား သိုင်းဖက်ထားသည့် မောင့်လက်တွေရယ်၊ မွတ်မွတ်သိပ်သိပ် နမ်းနေတဲ့ ပူပူနွေးနွေး မောင့်အနမ်း တွေရယ်က လွဲပြီး ဘာမျှ မသိ။ ဘာတွေ ပြောဖြစ်သည် မသိ။ မောင် ပြန်လာပြီ၊ ဝက်သစ်ချ မြိုင်ကို ပြန်ရောက်လာပြီ၊ တသက်လုံး မခွဲမခွာနေဖို့ ပြန်လာပြီ ဆိုသည့်အသိမှလွဲ၍ အာရုံတွင် ဘာမျှ မထင်လာ။

ဘယ်လောက်ကြာကြာ လူအုပ်ကြီးထဲတွင် ဖက်ပြီး နမ်းနေမိကြသည်ကိုလည်း မသိ။ ဘင်ခရာသံတွေ ဆူညံလာမှပင် ပတ်ဝန်းကျင်ကို ဂရုပြုမိတော့သည်။ အော်သံ ဟစ်သံ၊ အမိန့် ပေးသံတွေ ဆူညံနေသည့် ကြားမှ သီချင်းသံနှင့် ဘင်ခရာသံတွေ စီထွက်လာသည်။

သည်တော့မှ တယောက်ကို တယောက် ခွာလိုက်ပြီး စေ့စေ့ကြည့်ကြသည်။ ပြိုင်တူ ရယ်ကြသည်။

"မောင်တို့ တန်းစီပြီး ဂုဏ်ပြုခံရဦးမယ် အချစ်ရဲ့"

မြို့သူမြို့သားတွေ ပျော်ရွှင်ငြိမ်းချမ်းနေချိန်၌ စစ်သားများ၏ ရင်ထဲတွင် ဗလောင်ဆူနေ သည်။ နှစ်ရှည်လများ ကွဲကွာနေရသည့် မိဘ၊ ချစ်သူများ၏ ရင်ခွင်မှ ထွက်ပြီး တန်းပြန်စီရဦး မည်မဟုတ်လား။ ကမ္ဘာ့စစ်ပြန်ကြီးများကို မြို့က ထိုက်ထိုက်တန်တန် ကြိုဆိုဂုဏ်ပြုကြဦးမည် မဟုတ်လား။

မောင့်ကို လူတွေ ခင်ကြမင်ကြ၊ ဂုဏ်ယူကြလျှင် အယ်လီနာ အမြဲတမ်း ကြည်နူးခဲ့၏။ ခုတော့ အောင့်သက်သက် ဖြစ်နေသည်။ ဘယ်သူ့ဂုဏ်အပြုမှ မခံစေ့ချင်။ မောင်သည် အချစ် တဦးတည်း၏ မောင်သာ ဖြစ်ပြီး အချစ်တဦးတည်းသာ မောင့်ကို ဂုဏ်ပြုချင်သည်လေ။

နောက်ဆုံးတော့ ဝက်သစ်ချမြိုင်သို့ ပြန်လာခဲ့ကြ၏။

ကာမီယိုက ဖိတ်ဖိတ်လက်နေသည့် ကက်စတာ့ ကားကြီးနှင့် ဒယ်လ်ရှိုင်း ဘူတာတွင် လာကြိုနေသည်။ ကက်စတာက ပြေးသွားပြီး ကာမီယိုကို လက်ဆွဲနှုတ်ဆက်သည်။ ကာမီယို သွားတွေ ဖွေးခနဲပေါ်လာသည်အထိ ပြုံးပြီး သူ့ဆရာသခင်ကို ခြေဆုံး ခေါင်းဆုံး ကြည့်သည်။

“ကျုပ်ဆရာ ပါလို့ ဒီစစ်ကြီးကို နိုင်တာဗျ”

ဟု ဂုဏ်ယူဝင့်ကြွားစွာ ပြောလိုက်သည်။

“ဒစ်စီတို့၊ မမ်မီတို့ကော နေကောင်းကြရဲ့လား ကာမီယို”

“နေကောင်းပါတယ် ဆရာ၊ ဆရာ့ကို မျှော်ရလို့ သူတို့လည်ပင်းတွေ ရှည်ထွက်ကုန်ပြီ ဆရာရဲ့”

“ကလေးတွေကို ဘာလို့ ခေါ်မလာတာလဲ ကာမီယို”

“အိမ်မှာပဲ စောင့်နေပါတယ် ဆရာ၊ မလေး ကော်နယ်လီယာက လိုက်ချင်လွန်းလို့ ဆွေ့ဆွေ့ခုန်နေတာပဲ”

“ဖီးလစ်ကလေး မောင့်ကို မှတ်မိပါ့မလား အယ်လီနာ”

“သူ့စိတ်ထဲမှာ မောင့်ကို ရှစ်ပေလောက် မြင့်တဲ့ ခါးလွတ်ကိုင် စစ်သားကြီး အောက်မေ့ နေမှာပေါ့၊ ဒါထက် ဒီကားကို မောင် သဘောကျရဲ့လား”

ကက်စတာက ရပ်ထားသည့် ကားကြီးကို မျက်လုံးအပြူးသားနှင့် ကြည့်ပြီး-

“ဘုရား... ဘုရား၊ ဒါ မောင်တို့ကား ဟုတ်လား”

ကက်စတာက ကားပေါ်သို့ ဖြည်းဖြည်း တက်သည်။ နောက်ကြည့်မှန်ကို ချိန်သည်။ နှင်းမှောင်ကျလျှင် ဖွင့်မောင်းရသည့် ရှေ့မီးဝါကို ဖွင့်ပြီး မီးလုံးလင်းပုံကို ဆင်းကြည့်သည်။

ပြီးတော့ အယ်လီနာကို စိုက်ကြည့်လိုက်၏။

“ဒါ ဘယ်လောက် ပေးရလဲ”

“သိပ်မမှတ်မိဘူး မောင်၊ ပြန်ကြည့်ရဦးမယ်”

“မောင်းကြည့်ရအောင်နော်”

“သဘောလေ၊ မောင့်ကားပဲဟာ”

“ဘာ... မောင့်ကား ဟုတ်လား”

အယ်လီနာ ပျော်သွားသည်။

"ဟုတ်တယ်၊ အယ်လီနာမှာ "ရုဒ်စတား" ကလေးတစင်း သတ်သတ်ရှိတယ်"

ကက်စတာက ပတ်ဝန်းကျင်ကို တချက် ဝေ့ကြည့်သည်။ ရှုခင်းတွေ ပြန်လည် ဆန်းသစ်နေသည်ဟု ခံစားရ၏။

"မောင်ဖြင့် ဒီကားမျိုး စီးရဖို့ အိပ်မက်တောင် မမက်ဖူးဘူး"

"မောင် အိပ်မက် မမက်ဖူးတာတွေ အများကြီး တွေ့ရဦးမယ် သိလား"

အယ်လီနာက သူ့လက်ကို တအားဆုပ်ပြီး ပြောလိုက်သည်။

"မောင်းချင်ရင် မောင်းလေ၊ ကာမီယို နောက်မှာ ထိုင်ပစေပေါ့"

"ဟင့်အင်း . . . သူပဲ မောင်းပစေ၊ မောင်တို့ နောက်ခန်းမှာ ထိုင်ပြီး စကားပြောမယ်"

နှစ်ယောက်သား နောက်ခန်းသို့ တက်သည်။ ကက်စတာက အတွင်းမီးတွေကို ကစား ကြည့်၏။ ပြီးတော့ စကားပြော ခွက်ထဲသို့ ပြောကြည့်၏။ ပြတင်းပေါက်မှန်တွေကို အတင်အချ လုပ်ကြည့်၏။

"ကားကြီးကလည်း အထဲမှာ ဆပ်ကပ်တောင် ကလို့ ရတယ်"

ဟု မှတ်ချက်ချ၏။ အယ်လီနာက နောက်ကို မှီပြီး-

"လှတယ် မဟုတ်လား မောင်"

"အင်း... လှပါတယ်"

ဒယ်လ်ရှိုင်းမြို့ထဲသို့ ဖြတ်မောင်းရင်း ကက်စတာ ကျီးကန်းတောင်းမှောက် ဖြစ်နေ သည်။

"ကိုစတွန်း" စတိုးက တတိုက်လုံး ဆေးတွေ သုတ်ထားပါလား၊ ဟော... အအေး ဆိုင်တွေရောပဲ။ ဟ.... ပန်းခြံထဲမှာလည်း ပန်းခင်းကြီးက ပိုကျယ်လာသလိုပဲ၊ တမြို့လုံး ပြောင်းလဲနေပါလား အယ်လီနာရယ်"

အယ်လီနာ ဝမ်းသာအားရ ရယ်သည်။

"ဝါဂွမ်းဈေးက သုံးဆယ့်ရှစ်ဆင့်လေ မောင်ရဲ့"

"သုံးဆယ့်ရှစ်ဆင့် ဟုတ်လား၊ အဲလောက် တက်သွားတယ် ဟုတ်လား"

“အယ်လီနာ ရေးတဲ့အထဲ မပါဘူးလား၊ ဖျားနေတုန်းမှာ အဲဒီအထိ ထိုးတက်သွား တာ ထင်တယ်”

သည်တော့မှ စိုးရိမ်တကြီး သူ ငုံ့ကြည့်သည်။

“ခုကော ကောင်းကောင်း ကျန်းမာပြီလား”

“ကောင်းနေပါပြီ မောင်ရဲ့၊ အရင်ကထက်တောင် ပိုပြီး နေကောင်းနေတယ်”

“အင်း... ဘုရားသခင် ကျေးဇူးတော်ပေပဲ၊ ကိုယ့်အိမ် ကိုယ် ပြန်လာရတာ တယ် ပျော်စရာ ကောင်းတာပဲကွယ်”

ကက်စတာက မြစ်ရှူခင်းတွေနှင့် တဖက်မှ စိုက်ကွင်းကို အငမ်းမရ စောင်းကာ ငုံ့ကာ ကြည့်ရင်း လိုက်လာသည်။

“ကိုယ့်ရပ် ကိုယ့်ရွာနဲ့ ဒီရှုခင်းတွေကို မောင် ဘယ်လောက် လွမ်းတယ် ဆိုတာ ပြောမပြ တတ်လောက်အောင်ပဲ အယ်လီနာရယ်၊ အရိပ်အာဝါသ ကောင်းလှတဲ့ ဟောဒီ ဝက်သစ်ချမြိုင် အသွားလမ်းရယ်၊ စနေနေ့ ညနေပိုင်းတွေမှာ မြို့ကို သွားလေ့ရှိကြတဲ့ နီဂရိုးတွေနဲ့ သူတို့ မြည်းတွေရယ်၊ အအေးဆိုင်ရယ်၊ ပေါက်တူးတွေနဲ့ ဝါခင်းထဲမှာ အလုပ်လုပ်နေကြတဲ့ မောင်တို့ အလုပ်သမားတွေရယ်၊ ပြီးတော့ ပြောင်းဖူးပေါင်မုန့်၊ ဖရဲသီး၊ ပြီးတော့ သလဲသီးပင်တန်းတွေ ကွယ်နေတဲ့ ဝက်သစ်ချမြိုင်”

အယ်လီနာ့ လက်တွေကို သူ့လက်နှစ်ဖက်နှင့် ဆုပ်ပြီး လှိုက်လှဲတိုးညင်သော အသံဖြင့်-

“သိပ်အောက်မေ့တာပဲ အချစ်ရယ်”

လှပသစ်လွင်နေသည့် ဝက်သစ်ချမြိုင် ရောက်ရင် ကက်စတာ ရင်သပ်ရှုမော ဖြစ်နေမည့် ပုံကို ကြည့်ချင်စိတ်ဖြင့် အယ်လီနာ ရင်ခုန်နေသည်။

“ဒီအချိန်မှာ ဒီလောက် မြင့်နေတဲ့ ဝါခင်းမျိုး မောင့်တသက် တခါမှ မတွေ့ဖူးဘူး”

ကက်စတာက အယ်လီနာကို ကျောပေးပြီး ဝါခင်းတွေဆီမှ မျက်နှာမလွှဲတမ်း ငေးလိုက် လာသည်။

“ပေါက်တူးလိုက်ဖို့ မလိုသေးဘူးလား အယ်လီနာ၊ အလုပ်သမားတွေလည်း

တယောက် မှ မမြင်ပါလား”

“သိပ်မရှိတော့ဘူးလေ၊ သိပ်လည်း မလိုတော့ဘူး”

“ဟင်... ဘာဖြစ်လို့...”

အယ်လီနာ မဖြေလိုက်နိုင်မီ သူက ဆက်ပြီး-

“ဟော့ ... ဂေါ်ပြားကြီးတွေ ချွန်ထွက်နေတဲ့ ဟိုဟာက ဘာကြီးလဲ၊ စက်ကြီးလား ဟင်"

“ဝါစိုက်စက်လေ၊ ဒါကြောင့် အလုပ်သမားတွေ များများ မလိုတော့ဘူးလို့ ပြောတာ ပေါ့"

အယ်လီနာကို လှည့်ကြည့်သည့် သူ့မျက်လုံးတွေက မယုံကြည်နိုင်အောင် အံ့သြနေကြ ၏။ နှုတ်ခမ်းများကမူ ပြုံးတုံ့တုံ့။

“စက်ကြီးက အရုပ်ဆိုးလိုက်တာနော်၊ မောင် ဒါတွေ ကိုင်တွယ်တတ်အောင် လေ့ကျင့် ရဦးမှာပေါ့၊ ဟုတ်လား”

“စာထဲမှာ ထည့်ရေးလိုက်သားပဲ”

“ဒါပေမဲ့ ဒါလောက် မြန်မြန် ဝယ်ဖြစ်မယ်မှ မထင်တာ”

“သိပ်အလုပ်ဖြစ်တာပဲ မောင်”

“ဟုတ်လား၊ ဝါတွေက သိပ်သန်တာပဲကွယ်၊ ဟိုမြစ်ဘက်က အိမ်ဖြူဖြူကလေးတွေက ဘာအတွက်လဲ ဟင်”

“အလုပ်သမား အိမ်ရာလေ၊ ကပ္ပလီတွေ နေကြတာ”

“ဝက်သစ်ချမြိုင် လုပ်သားအိမ်ရာတွေ ဟုတ်လား”

အယ်လီနာ ခေါင်းညိတ်ပြရင်း-

“တန်းလျားဟောင်းတွေ ဖျက်ပစ်လိုက်ပြီလေ၊ အဲဒီတိုက်လုံးကလေးတွေမှာ ခန်းဆီး တွေ ဘာတွေနဲ့ အကျ လုပ်ပေးထားတယ်”

“ တကယ်ပါပဲကွာ”

ကက်စတာ ပြုံးသည်။

“သူတို့ ရိုရိုသေသေ သုံးတတ်ကြပါ့မလား မသိဘူး”

“ပညာပေးရတာပေါ့ မောင်ရယ်၊ အစကတော့ သူတို့ ကောင်းကောင်းမွန်မွန် နေရမှန်း ဘယ်သိပါ့မလဲ”

“မောင် ရှိနေရင်တော့ လုပ်ဖြစ်မှာ မဟုတ်ဘူး”

“ဘာဖြစ်လို့”

“သူတို့က ယင်တလောင်းလောင်းနဲ့ နေရတာကို ပျော်နေရင် ဒီအတိုင်းပဲ ထားလိုက် ပေါ့၊ ဘာလို့ သူတို့ ပျော်ရွှင်မှုကို ပိတ်ပင်မလဲ။ သူတို့တတွေ ဝါခင်းကို ကောင်းကောင်းလုပ်ရင် ပြီးနေတာပဲ မဟုတ်ဘူးလား”

အယ်လီနာ ရယ်သည်။ လမ်းချိုးတခုကို ချိုးအကွေ့တွင်-

“ဟော.. ဝက်သစ်ချမြိုင်”

ကက်စတာက ဝမ်းသာအားရ ပြောလိုက်သည်။

“ဟင်. . . ဝက်သစ်ချပင်တွေ ဘယ်လို ဖြစ်ကုန်တာလဲ၊ ပိုငယ်သွားကြသလိုပဲ”

“အကိုင်းတွေကို ချိုင်လိုက်တာလေ၊ ဥယျာဉ်သမား နှစ်ယောက်ကို နယူးအော်လင်းက ခေါ်ပြီး လုပ်ခိုင်းတာ”

“ပန်းခြံနဲ့ မြက်ခင်းကလည်း ပုံစံပြောင်းနေပါလား”

“ပန်းပွင့်တွေက မပြုပြင်ဘဲ ထားတော့ ရိုင်းလာတယ်၊ တောဝင်လာတယ်လေ။ မြက်ခင်းရော ပန်းပင်တွေပါ တလက်စတည်း ပြင်လိုက်တယ်”

ကား အိမ်ရှေ့တွင် ထိုးဆိုက်သည်နှင့် အိမ်ထဲမှ အော်သံတွေ ဆူညံစွာ ထွက်ပေါ်လာ သည်။

“ဖေဖေ... ဖေဖေ” နှင့် အော်ပြီး ကော်နယ်လီယာ ပြေးထွက်လာသည်။ သူ့အဖေ ရင်ခွင်ထဲကို တအားခုန်ဝင်လိုက်သည်။ ဆွေ့ဆွေ့ခုန် ဝမ်းသာနေ၏။ ဖီးလစ်က လုံးဝ မမှတ်မိ။ ရင်တွေတော့ ခုန်နေသည်။ မေမေက ဖေဖေဆိုတဲ့ လူအကြောင်း အများကြီး ပြောထားသည် မဟုတ်လား၊ သိပ်အံ့သြစရာ

ကောင်းတဲ့လူတဲ့။

ကက်စတာက နှစ်ယောက်လုံးကို လက်တဖက်စီနှင့် ချီထားသည်။ သားအဖတွေ မေးကြ၊ ပြောကြနှင့် ဆူညံနေသည်။

"ဖေဖေ၊ သမီးဂါဝန် လှလားဟင်"

ကော်နယ်လီယာက မေးသည်။

"သမီးက သိပ်ထွားလာတာပဲ၊ ဖီးလစ် . . . မင်း ငါ့ကို သိလားဟင်"

"သိတယ်... စစ်တား၊ အနော့ ဖေဖေ"

ကက်စတာက သူတို့ကို အိမ်ထဲသို့ ခေါ်သွားသည်။ အယ်လီနာက နောက်မှ ကပ်လျက်။ ဧည့်ခန်းထဲ ရောက်တော့ ကက်စတာက ကလေးနှစ်ယောက်ကို ချပြီး ဒူးထောက်၍ သေတ္တာကို ဖွင့်နေ၏။ ကစားစရာတွေ၊ အရုပ်ကလေးတွေ ထွက်လာတော့ ကော်နယ်လီယာတို့ မောင်နှမ နှစ်ယောက် လက်ခုပ်လက်ဝါးတီးပြီး ပျော်နေကြသည်။ အယ်လီနာက သားအဖသုံးယောက် ကို လက်ပိုက်ပြီး ပြုံးကြည့်နေ၏။ သားရော သမီးပါ သိပ်လှသည့် ကလေးတွေ ဖြစ်သည်။ ပန်းကလေးများလို ကျန်းမာ လန်းဆန်းသည်။ သည်ကလေးတွေ ဖအေ ဖြစ်ရခြင်းအတွက် ကက်စတာ ကျေနပ်ဂုဏ်ယူနေပုံရ၏။

"ပေါက်စနလေးတွေ မဟုတ်တော့ဘဲ ခုလို ထွားထွားကျိုင်းကျိုင်း တွေ့ရတော့ မောင် သိပ်ဝမ်းသာတာပဲ အယ်လီနာ ရယ်၊ ကော်နယ်လီယာလောက် လှတဲ့ ကလေး ရှိပါ့မလားဟင်"

"သူ့ကိုယ်သူ လှမှန်းလည်း သိတယ်ရှင့်၊ ကောင်းကောင်း ထိန်းရမှာနော်၊ မဟုတ်ရင် မောင့်သမီး မှန်ရှေ့က ထွက်တော့မှာ မဟုတ်ဘူး။ သားလေးကိုကော မောင် သဘော မကျဘူး လား"

"ကျပါတယ် အချစ်ရယ်၊ မောင့်ကို စိမ်းနေသေးတော့ သူနဲ့ ရင်းနှီးအောင် လုပ်ရဦး မယ်လေ"

အယ်လီနာက ကက်စတာ့ လက်မောင်းကို ဆွဲပြီး-

"လာ . . မောင့်ကို ပြစရာတွေ ရှိသေးတယ်၊ အယ်လီနာဖြင့် ဘယ်က စရမှန်းတောင် မသိဘူး"

ကက်စတာက ခုမှ ဧည့်ခန်းပတ်ပတ်လည် လှည့်ကြည့်လိုက်သည်။

"မောင် တအိမ်လုံးကို လိုက်ကြည့်ချင်တယ်၊ သေတ္တာကို အပေါ်ထပ် ပို့ပေးဖို့ ကာမီယို ကို ပြောလိုက်မယ်နော်"

သူက နံရံဆီသို့ လှမ်းသွားသည်။

"ဟင် ... ဆွဲကြိုးတွေကော" ဟု နားမလည်သည့် အမူအရာနှင့် လှမ်းမေးသည်။

အယ်လီနာက လက်ကို ဖြုတ်လိုက်ပြီး အခန်းထောင့်သို့ လျှောက်သွားသည်။ အနက် ရောင် စတုဂံပုံ ပလတ်စတစ်ပုံးထဲမှ စကားပြောခွက်ကို ကောက်ကိုင်ပြီး -

"ဘက်စီ၊ ကာမီယိုကို ပြောလိုက်စမ်း၊ မစ္စတာကက်စတာ့ ပစ္စည်းတွေ သူ့အခန်း ပို့လိုက်လို့။ ပြီးတော့ မမ်မီကို ပြော၊ ကော်ဖီကျကျတအိုး ဖျော်ပြီး အပေါ်ထပ် ပို့လိုက်လို့"

ကက်စတာက ပါးစပ်အဟောင်းသားနှင့် ကြောင်ကြည့်နေသည်။

"တယ်ဟုတ်ပါလား ဟေ့"

"အိမ်တွင်းပြော တယ်လီဖုန်းလေ၊ သူတို့တွေ ပြေးလွှား မနေရတော့ဘူးပေါ့၊ လာလေ ... သွားစို့"

အဆောင်ဆောင် အခန်းခန်းမှ လျှပ်စစ်ပစ္စည်းတွေကို လိုက်ပြသည်။ ကက်စတာ အံ့သြပြီးရင်း အံ့သြရင်း ဖြစ်နေ၏။ သူ့ရုံးခန်းထဲတွင် အသင့်တွေ့ရသည့် ဂဏန်းတွက်စက်ကို ကြောင်ကြည့်နေသည်။

"မီးဖိုချောင်နဲ့ ခဝါလုပ်ငန်းကိုတော့ မောင် သိပ်စိတ်မဝင်စားပါဘူး၊ ဒါပေမဲ့ လိုက်ကြည့် ပါဦး"

"အင်း... အင်း... ကြည့်တာပေါ့"

အယ်လီနာ မီးဖိုချောင်တံခါးကို ဖွင့်လိုက်သည်။ မီးဖိုခန်းက သစ်လွင် တောက်ပနေ သည်။ ပြတင်းပေါက်တွင် ခန်းဆီးတွေ တပ်လျက်။ မမ်မီက လျှပ်စစ်မီးဖိုနှင့် ချက်ပြုတ်နေ သည်။

"ဟိုတယ် မီးဖိုခန်း ကျနေတာပဲဟေ့" ဟု ကက်စတာ မှတ်ချက်ချ၏။

“အိမ်မှာတော့ အနိုပ်စားတွေချည်းပဲ မာစတာ ကက်စတာ”

မမ်မီက ဝင့်ကြွားစွာ ဆို၏။

“ဟုတ်ပါတယ်ဗျာ၊ အားလုံး အနိုပ်စားတွေချည်းပါပဲ၊ ဒါပေမဲ့ ဒီမီးဖိုနဲ့ ချက်ရတာ အားရရဲ့လား မမ်မီ”

“အစကတော့ ကြောက်တာပေါ့၊ သိပ် မကိုင်ရဲဘူး၊ ခုတော့ လုပ်တတ်သွားပြီလေ၊ သိပ် အဆင့်အတန်း မြင့်တာပဲ၊ ရှင်းလို့. . . သန့်လို့”

မမ်မီက ဂုဏ်ယူသည့် အမူအရာနှင့် ရှင်းပြ၏။

“အင်း . . . အင်း... ဟုတ်တာပေါ့”

နှစ်ယောက်သား ခန်းမဆောင်ဘက်ဆီသို့ ထွက်ခဲ့သည်။

“မောင် ဘာငိုင်နေတာလဲ၊ သဘောကျရဲ့လား ဟင်”

“အိုး... သဘောကျရမှာပေါ့လေ၊ မောင့်အတွက် သိပ်ပြီး ဆန်းသစ်နေလို့ပါ”

ကက်စတာ့ အခန်းသို့ တက်လာခဲ့ကြပြန်သည်။ နံရံတွင် မြှုပ်ထားသည့် ပန်ကာ ခလုတ်ကို အယ်လီနာ ခပ်ကြွားကြွား ဖွင့်ပြလိုက်၏။

“မောင်တော့ ဘာပြောရမှန်းတောင် မသိတော့ပါဘူးကွယ်”

အယ်လီနာ ရယ်နေသည်။ ကက်စတာက အခန်းကို ဖြတ်လျှောက်သွားပြီး ရေချိုးခန်း တံခါးကို ဆွဲဖွင့်လိုက်၏။

“ဘုရား... ဘုရား...၊ ဒါ မောင့်ရေချိုးခန်း ဟုတ်လား ”

“ဒါပေါ့ မောင်ရဲ့၊ ဟောဒီမှာ ကြည့်”

အယ်လီနာက ခလုတ်တခု နှိပ်လိုက်သည်။ နံရံထဲမှ ဝက်မှင်ဘီးတခုထွက်လာပြီး မောင်းတံ က ရှေ့တိုးနောက်ငင် ခပ်သွက်သွက် ပြေးနေသည်။ အယ်လီနာက နမူနာဝင်ပြီး ရပ်ပြသည်။ ငုံ့ကြည့်ဖို့ မလို၊ အလိုအလျောက် ဖိနပ်တိုက်ပေးသည့် ကိရိယာ။ ပြီးတော့ ရေနွေး၊ ရေအေး ရောစပ်သမသည့် ရေပိုက်ခေါင်း သုံးပုံကို လုပ်ပြသည်။ မှန်နှင့် အလင်းရောင် ထိုးပုံကို အလျှော့ အတင်း လုပ်ပြသည်။

ကက်စတာက ကစားစရာဆိုင်ထဲ ရောက်နေသည့် ကလေးငယ်ကလေးလို အခန်း လယ်တွင် ရပ်နေသည်။

"ရေတခါချိုးဖို့အတွက် ဒါတွေ အားလုံး လုပ်ထားတာ ဟုတ်လား၊ အချစ်အတွက် ရေချိုးခန်းကကော.."

"အယ်လီနာ့အခန်းကို နောက်မှ ကြည့်တာပေါ့"

ထိုစဉ် အခန်းတံခါးခေါက်သံ ကြားရသည်။ ကော်ဖီလင်ပန်းကို ကိုင်ပြီး ကာမီယို ဝင်လာ၏။ ကော်ဖီဗန်းနှင့် ကရားကမူ ဝက်သစ်ချမြိုင်၏ မိရိုးဖလာ ငွေထည်ပစ္စည်းဟောင်း များ ဖြစ်၏။

"ကောင်းတယ်၊ ကော်ဖီတခွက်လောက် သောက်လိုက်မှ၊ ခေါင်းတွေကို နောက်နေ တာပဲ"

နှစ်ယောက်သား ထိုင်လိုက်ကြသည်။ အယ်လီနာ ကော်ဖီငှဲ့ပေး၏။

"ပြောပါဦး မောင်ရဲ့၊ မောင် ဘယ်လို ထင်လဲ ဆိုတာ"

"အင်း... သိပ်ကောင်းပါတယ်၊ ဒီခေတ်ပေါ် ပစ္စည်းတွေကို သုံးနေကျသွားရင် ပြောတာ နော်"

"ဒါပေါ့ မောင်ရဲ့၊ သိပ်ကို သက်သောင့်သက်သာ ရှိတာပဲ၊ အလုပ်ချိန်နည်းသွားပြီး နားချိန်အများကြီး ပိုရလာတယ်လေ"

ကက်စတာက ကော်ဖီအိုးမှ လက်ကိုင်ကို ပုတ်ပြီး -

"အင်း . . ဒီကော်ဖီအိုးနဲ့ မမ်မီလက်ရာ ကော်ဖီကို ပြန်သောက်ရတာ သိပ်အရသာ ရှိတာပဲ၊ မမ်မီဟာ ကော်ဖီဖျော်တဲ့ နေရာမှာ နှစ်ယောက် မရှိဘူး၊ ဟင်"

ကက်စတာ ပြောလက်စ စကားကို ရပ်ပစ်လိုက်သည်။

"ဘာလဲ မောင်ရဲ့"

ကော်ဖီအိုးကို မျက်လုံးပြူး ကြည့်နေပြီး -

"ဒီအနားက အချိုင့်ကလေး ဘယ်ရောက်သွားလဲ"

"ဩော်. . . မောင်ရယ် . . . အလန့်တကြား ဘာများလဲလို့၊ ငွေပန်းထိမ်ဆရာ

ခေါ်ပြီး ပြုပြင်လိုက်တာပေါ့”

“သြော်... ပန်းထိမ်ဆရာနဲ့ ပြုပြင်လိုက်တာကိုး”

ကက်စတာ ကော်ဖီခွက်ကို ချပြီး မတ်တတ်ရပ်သည်။

“အယ်လီနာ ဆင်းနှင့်လေ၊ ညစာ မစားခင် မောင် ရေချိုးလိုက်ဦးမယ်”

“ဘာဖြစ်လို့လဲ မောင်ရဲ့၊ ပစ္စည်းတွေ အယ်လီနာ နေရာချထား ပေးဦးမယ်လေ”

“ရတယ် ရတယ်၊ မောင့်ဘာသာ လုပ်မယ်”

သူ့အပါးမှ ခွာခဲ့ရသည်။ သူက ပြုပြင်ထားသည့် ပန်းခြံဆီကို ငေးကြည့်နေ၏။

“မောင်ရယ်. . . ဘာဖြစ်လို့လဲကွယ်”

“အို.... ဘာမှ မဖြစ်ပါဘူး၊ မောင် ရထားပေါ်မှာ သိပ်ပင်ပန်းလာလို့ပါ ၊ ဆာလည်း သိပ်ဆာလာတယ်၊ အချစ် ဘာတွေ ချက်ခိုင်းထားလဲ ဟင်"

“မောင် ကြိုက်တဲ့ ပုစွန်တုပ်ရယ်၊ ကဏန်းပေါင်းရယ်၊ ပြီးတော့ ထမင်းရယ်”

ကက်စတာ ပြုံးသည်။

“အားပါး... သွားရည်တောင် ယိုလာပြီ၊ ဒါထက် အချိုတည်းဖို့ကော ဘာရှိလဲ၊ မြေပဲယို မရှိဘူးလား”

“ရှိပါတယ် မောင်ရဲ့”

ကက်စတာက အိမ်ပတ်ပတ်လည်ကို ကြည့်လိုက်ပြီး-

“ဒီအိမ်ကြီးနဲ့ ... မြေပဲယိုနဲ့ . . ဒီရေချိုးခန်းကြီးနဲ့”

သူက ရှေ့ဆက် မပြောတော့ဘဲ ရယ်နေသည်။

“ဘာရယ်တာလဲ၊ မြေပဲယိုနဲ့ ဘာဆိုင်လို့လဲ”

“အင်း. . . အင်း.. မဆိုင်ပါဘူး၊ မောင် ခံတွင်းတောင်းတာကို စားရမယ် ဆိုလို့ ဝမ်းသာလို့ပါ အယ်လီနာရဲ့။ မမ်မီကို မြန်မြန်သာ လုပ်ခိုင်းထားပါ၊ မောင် နှစ်မိနစ်အတွင်း ရောက်လာမယ်”

အယ်လီနာ သူ့အခန်းထဲမှ ထွက်ခဲ့သည်။ လှေကားခုံရင်းတွင် ပွတ်လုံးကို ကိုင်ပြီး ရပ်နေ၏။ သူ့အခန်းတံခါးဆီသို့ ပြန်ကြည့်နေမိ၏။ သူ့လှုပ်ရှားသံတွေကို ကြားနေရသည်။ အောက်ထပ်မှ ကလေးတွေ၏ အသံကိုလည်း ကြားနေရ၏။

ရင်ထဲတွင် ဟာနေသည်၊ ထူးဆန်းနေသည်ဟု ခံစားရ၏။ မောင့်အိမ်အပြန်သည် ထင်သလောက် တက်တက်ကြွကြွ မရှိပါကလား၊ ပြောင်းလဲနေသည့် ဝက်သစ်ချမြိုင်ကို လှိုက်လှိုက်လှဲလှဲ နှုတ်မဆက် သလိုပါပဲလား၊ အောက်ထပ်သို့ လေးကန်စွာ တထစ်ချင်း ဆင်းလာ ခဲ့၏။ လှေကားရင်းတွင် ရပ်ပြီး တွေးနေသေးသည်။

သူ့မှာ ပြောစရာတွေ ရင်နှင့်အမျှ ပါလာလို့ ဝက်သစ်ချမြိုင် ချီးမွမ်းခန်း မဖွင့်နိုင်တာ ထင်ပါရဲ့လေ။ ငါ့ကိုယ်က အတွေးခေါင်လွန်းပါတယ်။

ကက်စတာက အပေါ်ထပ် လှေကားရင်းမှ နေ၍-

“အယ်လီနာ၊ သူငယ်ချင်းတွေကို ဒီညနေ ဖိတ်မထားဘူးလား” ဟု အော်မေးသည်။

အယ်လီနာက လှေကားပေါ်သို့ မော်ကြည့်ပြီး -

“ဟင့်အင်း ဖိတ်မထားမိဘူး မောင်”

ရင်ထဲတွင် နင့်ခနဲ ဖြစ်သွား၏။ စိတ်ထဲတွင် ထင်ထားသည်နှင့် တခြားစီ ဖြစ်နေ၏။ ပြန်ရောက်စနေ့တွင် နှစ်ယောက်တည်း လွတ်လွတ်လပ်လပ် ထွေးထွေးပိုက်ပိုက် နေလိမ့်မည်ဟု ထင်ထားခဲ့သည် မဟုတ်လား။

“ခေါ်လိုက်ပါကွာ၊ နီးလ်ရယ်၊ ဘေ့ရယ်၊ ဝိုင်အိုလက်လည်း ခေါ်ကွာ။ မောင် သူတို့နဲ့ တွေ့ချင်လှပြီ”

“ကောင်းပြီလေ၊ ခေါ်လိုက်ပါ့မယ်” ဟု ပြောလိုက်ရ၏။

သူက လေကလေး တချွန်ချွန်နှင့် သူ့အခန်းဆီသို့ ပြန်သွား၏။ အယ်လီနာ ခေါင်းကို ဖြည်းညင်းစွာ ခါနေမိသည်။ မပျော်တော့၊ တမျိုးကြီးပဲကွယ်၊ အထီးကျန်နိုင်ဆဲပါလား။

※※※

ရက်သတ္တတပတ် ကုန်ဆုံးသွားခဲ့ပြီ။ ရင်ထဲမှာ ဟာနေတုန်းပင်။ နှစ်နှစ်ကာကာကို မပျော်မိ။ သူနှင့်အတူ မြင်းကိုယ်စီဖြင့် လုပ်ငန်းခွင်အနှံ့ လျှောက်ကြည့်၏။ တိုးတက်နေသည့် လုပ်ငန်းခွင်ကို ချီးကျူးပြောဆို၏။ သို့ရာတွင် မျှော်မှန်းထားသလောက် သူ ပျော်ရွှင်သည်ကို မတွေ့ရ။ အလျင်တုန်းက ကက်စတာ မဟုတ်တော့သလို၊ သူ့စိတ်တွေက အဝေးသို့ ပျံ့လွင့်နေ သလို ထင်ရ၏။ ထွန်စက်တွေ အလုပ်လုပ်ပုံကို အားတက်သရော ရှင်းပြနေစဉ်တွင် သူ့မျက်လုံး တွေက ဟိုး . . . အဝေးကြီးသို့ ငေးချင် ငေးကြည့်နေတတ်၏။ ခတ်မြေသြဇာကြဲသည့် စက်သစ် ကို မောင်းပြနေချိန်တွင် ကြည့်နေပုံက ဝတ်ကျေ တမ်းကျေ သဘောမျိုးမျှသာ။

မောင် အရင်လို မဟုတ်တော့တာ သေချာသည်။ ဟိုတချိန်က မောင်သည် အလွန် ရွှင်သည့်၊ တက်ကြွသည့်၊ အားမာန်ရှိသည့် မောင် မဟုတ်လား၊ ဝက်သစ်ချမြိုင်ကို အလွန်မြတ်နိုး တွယ်တာသည့် မောင် မဟုတ်လား။ ဒါကြောင့် သူ ပြန်လာလျှင် ဝက်သစ်ချမြိုင် တဖြစ်လဲ နေပုံကို ထောင့်စေ့စေ့ စစ်ဆေးလိမ့်မည်၊ စိုက်ခင်းတွေကို သေသေချာချာ လေ့လာလိမ့်မည် ဟု ထင်ခဲ့၏။

ခုတော့ ကက်စတာတယောက် ဘာကိုမျှ အားတက်သရော မရှိလှ။ ဝတ်ကျေဝတ်ကုံ သဘောမျိုးလောက်သာ လုပ်နေသည်။ လှိုက်လှဲ ပျော်ရွှင်မှုမျိုးလည်း သူ့မျက်နှာတွင် တွေ့ရ ခဲလှ၏။

ပြင်သစ် စစ်မြေပြင်မှ ပြန်လာကြသည့် စစ်သားအချို့မှာ စိတ်ခတ်ပျက်ပြားနေပြီး ဌာနေပြန်ရောက်သည့်တိုင် ပုံမှန်နေ့စဉ်ဘဝကို ခွင်ကျအောင် မနေတတ်ဘဲ ဖြစ်နေကြကြောင်း ကြားရ၏။ သို့သော် ကက်စတာက သည်လိုလည်း မဟုတ်။ စစ်မြေပြင်၏ အနိဋ္ဌာရုံတွေကို ကက်စတာ များများစားစား မကြုံခဲ့ရ။

ကက်စတာသည် သူ့စစ်မြေ အတွေ့အကြုံများကို လွတ်လွတ်လပ်လပ် ပြောပြတတ် သည်။ ပြောနေရင်း "စစ် အကြောင်းတွေ နားမထောင်ချင်ကြပါနဲ့တော့ကွာ၊ ကြားရတာလည်း လူတိုင်း နားငြီးငွေ့လောက်ပါပြီ" ဟု စကားဖြတ်ပြီး အကြောင်းအရာ ပြောင်းပစ်တတ်သည်။

သူ့အပေါင်းအသင်းတွေက "ကက်စတာ ဆိုတဲ့ မောင်ဟာ သိပ်ပျော်တတ်တဲ့

မောင်၊ တို့အသိုက်အဝန်းမှာ သူ မရှိရင် ပြည့်ကို မပြည့်စုံဘူး” ဟု ပြောလျှင် ရင်ထဲတွင် အစိုင်အခဲလို စုဝေးနေသည့် ဝေဒနာမျိုးကို ဖုံးကွယ်ပြီး အယ်လီနာ ပြုံးနေရသည်။

မှန်ပါသည်။ ကက်စတာသည် အလွန် ချစ်စရာကောင်းပြီး အလွန်ပျော်တတ်ပါသည်။ သို့သော် အယ်လီနာ ဘယ်သူ့မျှ ဖွင့်မပြောဘဲ ရင်ထဲတွင် ကြိတ်မှိတ်သိုဝှက်ထားသည့် အချက် တချက် ရှိ၏။ ကက်စတာသည် သူ့အပေါင်းအသင်းတွေနှင့် ပျော်စရာ ကောင်းသလောက် မိမိနှင့် နှစ်ယောက်တည်း အချိန်များတွင် ပျော်စရာ မကောင်းသည့် အချက်ပင် ဖြစ်ပါ၏။

ဘာများ အလိုမကျလို့ပါလိမ့်။ ဖွင့်တော့ မပြော။ သို့သော် အယ်လီနာ့ စိတ်ထဲက သိနေ သည်။ စကားပြောလျှင် ဟိုယခင်ကလို အူလှိုက်သည်းလှိုက် မရှိ။ သည်မျှ ကွဲကွာနေရသည့် အချိန်တွေအတွက် အတိုးချပြီး ပြန်လည်ရှင်သန်လိုက်မည် ဟူသည့် မျှော်လင့်ချက်တွေ သဲထဲ ရေသွန် ဖြစ်နေရပြီ။ ဟိုတုန်းက အချစ်မျိုးကို အယ်လီနာ ပြန်မတွေ့ရတော့ပြီဟု ခံစားနေရ၏။ စိတ်တူကိုယ်တူ မဟုတ်တော့။ တယောက်အလိုကို တယောက်က မပြောဘဲနှင့် သိသိနေ ကြသည့် ချစ်စရာ အဖြစ်မျိုးတွေ မရှိတော့။ အတူနေပြီး နှစ်ယောက်ကြားတွင် လေဟာနယ်ကြီး တခုလုံး ခြားနားနေသလို ခံစားရ၏။

ကလေးတွေနှင့်အတူ လင်မယားနှစ်ယောက် ကစားကြ၏။ ပွဲလမ်းသဘင်များသို့ အတူသွားကြ၏။ ဝက်သစ်ချမြိုင်တွင် ပါတီပွဲတွေ ကျင်းပ၏။ သို့သော် နှစ်ယောက်တည်း လွတ်လွတ်လပ်လပ် နေရသည့် ညနေတွေ မရှိတော့သလောက် ဖြစ်လာ၏။

မောင့်ပခုံးကို မှီပြီး၊ မောင့်မျက်နှာကို ကြည့်ပြီး၊ မောင့်ရင်ခွင်မှာ မှေးပြီး အေးအေး ငြိမ်ငြိမ်ကလေးနေဖို့ အချိန်တွေ၊ စကားတွေ ဖောင်ဖွဲ့ဖို့ အချိန်တွေ ဟိုတုန်းကလို မရှိတော့ ဘူးလေ။ မောင့်ကို လူတွေ ပို၍ ပို၍ လေးစားလာကြသည်။ မောင်က ပို၍ ပို၍ ခံ့ညားလာသည်။ စစ်ပြန် သူရဲကောင်းကြီး မဟုတ်လား။ အယ်လီနာ လိုချင်သည်မှာ သည်အရာတွေ မဟုတ်။ ဪ... မောင်ရယ်၊ မောင် မသိဘူးလားကွယ်။

နှစ်ဦးကြားမှ မမြင်ရသည့် ကွာဟချက် ချောက်ကမ်းပါးကြီးကို ပေါင်းကူးတံတား ထိုးဖို့ အယ်လီနာ ထပ်ကြိုးစားသည်။ ရင်ထဲတွင် ခံစားနေရသည့် ဝေဒနာကို မေ့ထားပြီး သူစိတ်ဝင်စားမည့် အကြောင်းအရာတွေကို ရွေးပြောသည်။

မောင် မရှိတုန်း မောင့်သူငယ်ချင်းတွေ ဘယ်လိုစားလို့ ဘယ်လိုနေကြသည့် အကြောင်း ပြောလျှင် သူ သဘောကျနေတတ်၏။ ဝါခင်းတွေ အကြောင်း

ပြောလျှင်တော့ စိတ်ဝင်စားသလို နားထောင်၏။ သို့သော် စကားဖြတ်ပြီး "မောင် ဘယ်လိုထင်လဲ ဟင်" လို့ မေးလိုက်လျှင်တော့ "မောင် ဘယ်သိမလဲကွယ်၊ ဝက်သစ်ချမြိုင်က အပြောင်းလဲကြီး ပြောင်းလဲနေတော့ မောင် မနည်း အမီလိုက်ရဦးမှာ" ဟု ယဉ်ကျေးစွာသာ ပြန်ပြောတတ်၏။

"မောင်က ဝါအကြောင်းကို အယ်လီနာထက် အပုံကြီး ပိုသိတာပဲကွယ်"

"မိန်းမရယ်.. မင်းကိုယ်မင်း ဖော့ပြောမနေပါနဲ့ကွာ၊ မင်း လုပ်သွားတာတွေဟာ အံ့သြကုန်နိုင်ဖွယ်တွေပါ၊ ကိုယ့်အမြင်တွေကို မေးမနေပါနဲ့တော့"

ရင်ထဲတွင် ဟာသွားပြန်သည်။

"မောင် အယ်လီနာကို ချစ်ရဲ့လား ဟင်"

"ဗျာ. . ဗျာ.. ဘယ်လို မေးလိုက်တာလဲ အချစ်ရယ်၊ မောင် စစ်မြေပြင်မှာ နေခဲ့တဲ့ တချိန်လုံး မောင့်အိတ်ထဲမှာ မင်းဓာတ်ပုံ မရှိတဲ့ အချိန်ဟာ သူများတွေကို ထုတ်ပြနေတဲ့ အချိန်ပဲ ရှိပါတယ်ကွယ်"

"မောင် တကယ် ပြောတာလား၊ အဲဒီလောက် ချစ်သေးရဲ့လား"

"အမြဲတမ်း ချစ်တယ်၊ အချစ်ကို မောင် ဟိုတုန်းကလည်း ချစ်ခဲ့တယ်၊ ခုလည်း ချစ်တယ်၊ တသက်လုံးလည်း ချစ်သွားမယ်။ အဲဒါ မင်း မသိဘူးလား ကလေးမရယ်"

"သိပါတယ် မောင်ရယ်၊ မောင် ထုတ်ပြောတာ ကြားချင်လို့ပါ" ဟုသာ ပြန်ပြောတတ် တော့သည်။

ဟုတ်ပါတယ်၊ မောင်ဟာ ငါ့ကို သိပ်မြတ်နိုးရှာပါတယ်၊ ဘာပြုလို့ ငါ ဒါလောက် အဖြစ်သည်းနေရပါလိမ့်။ တနေ့တော့ တပ်ထဲတုန်းက မိတ်ဆွေတယောက်ကို မောင် ဖိတ်လာ သည်။ ဧည့်သည်က အယ်လီနာဆီကို တန်းတန်းမတ်မတ် လျှောက်လာပြီး ရင်းနှီးကျွမ်းဝင်သည့် အပြုံးဖြင့်-

"အယ်လီနာ မဟုတ်လား၊ ကျွန်တော် မမှားပါဘူးနော်၊ ကျွန်တော် တရင်းတနှီး နှုတ်ဆက်တာ ခွင့်လွှတ်နော်။ မရင်းနှီးဘဲ နေပါ့မလားဗျာ၊ အယ်လီနာ့ နာမည်ကို ကျွန်တော် စစ်အတွင်း တလျှောက်လုံး ကြားနေခဲ့ရတာပဲ" ဟု ပြောလာတော့ ဧည့်သည်ကို ကျေးဇူးတင် မဆုံး ဖြစ်ရသည်။ တရင်းတနှီးပင် ပြန်လည် ဆက်ဆံမိသည်။

ညော့သည်က ကက်စတာ တပ်ထဲတွင် ဘယ်လောက် လူချစ်လူခင်များကြောင်းတွေ ပြောနေသည်။

"ကက်စတာ လူကြိုက်များတဲ့ အကြောင်းတော့ အယ်လီနာ ကြားရလွန်းလို့ နားငြီးနေရော့မယ်"

ကက်စတာက အရက်ဝိုင်းအတွက် ပြင်ဆင်နေစဉ် ညော့သည်နှင့် နှစ်ယောက်တည်း ကျန်ရစ်ခိုက်တွင် ညော့သည်က-

"အံ့ရောဗျာ .. ကိုယ့်မိန်းမကို ကိုယ် ဒါ လောက် အမွှမ်းတင်တဲ့ လူ၊ ကိုယ့်မိန်းမအတွက် ကိုယ် ဂုဏ်ယူတဲ့ လူမျိုး ကျွန်တော်ဖြင့် တခါမှ မတွေ့ဖူးဘူး။ အယ်လီနာ အကြောင်းကို ပြောပြီ ဆိုရင် အသံတိုးတိုးကလေးနဲ့ အူလှိုက်သည်းလှိုက် ပြောတာ"

နောက်တရက်တွင် ဝက်သစ်ချမြိုင်၌ စားသောက်ပွဲ ကျင်းပသည်။ ထုံးစံအတိုင်း ကက်စတာက ညော့ဝတ်ကျေလွန်းသည့် အိမ်ရှင်၊ မြူးကြွနေသည့် အိမ်ရှင်၊ အယ်လီနာ သူ့ကို စောင့်ပြီး အကဲခတ်နေ၏။ တခြားသူတွေနဲ့ ဆိုရင်တော့ မောင်ဟာ ဟိုတုန်းက အတိုင်းပါပဲလား၊ ဘာဖြစ်လို့ ချစ်လှပါတယ် ဆိုတဲ့ အယ်လီနာနဲ့ကျမှ ရှိုးတိုးရှန့်တန့် ဖြစ်နေတာလဲ မောင်ရယ်၊ တမင်တကာ လုပ်နေတာတော့ မဟုတ်ဘူး ထင်ပါရဲ့၊ အယ်လီနာ့ ရင်ထဲမှာ ဘယ်လိုခံစားနေရတယ် ဆိုတာ မောင် မသိဘူးနော်၊ မောင့်အလိုကို အယ်လီနာ မပေးနိုင်တာများ ရှိနေလို့လား ဟင်၊ မောင့်မှာ မထွေးနိုင် မမျိုနိုင် ဘာပြဿနာတွေ ရှိနေလို့လဲကွယ်။

အယ်လီနာ အားမလျှော့သေး။ ညော့သည်တွေ ပြန်သွားပြီးတော့ မောင်နဲ့ စကား လက်ဆုံကျအောင် ကြိုးစားသည်။ စစ်ပြီးခေတ် ကွန်ဖရင့်တွေအကြောင်း ဆွေးနွေးသည်။ သူ့အမြင်၊ ကိုယ့်အမြင်တွေ ဖလှယ်သည်။ ကမ္ဘာ့နိုင်ငံပေါင်းချုပ် အသင်းကြီးပေါ် မစ္စတာဝီလ်ဆင် ၏ သဘောထား အကြောင်းကို မေးတော့ သိပ်အလုပ်ဖြစ်မည် မထင်ကြောင်း ပြန်ပြောသည်။ မောင်က သမ္မတကြီးကို ကြည်ညိုရင်းစွဲ ရှိသော်လည်း အမေရိကန်ပြည်ထောင်စုသည် ဥရောပ စစ်ပွဲအတွက် အနစ်နာခံထားခဲ့ပြီး ဖြစ်သည့်အတွက် ကိုယ့်တိုင်းပြည် ပြန်လည်ထူထောင်ရေး ကိုသာ အာရုံစိုက်သင့်ကြောင်း မောင်က ယူဆသည်။ မောင် စကားပြောပုံက ယဉ်ကျေး သိမ်မွေ့လွန်းနေ၏။ ဇနီးနှင့် နှစ်ကိုယ်တည်း စကားပြောနေသည်နှင့် မတူဘဲ နံဘေးတွင် ခယမပျိုကလေးတယောက် ရှိနေသည့်အလား။

နွေနှောင်း ရက်ပိုင်းများတွင် အယ်လီနာတယောက် အပျော်ကြီး ပျော်နေသည်။ ပင်လုံးညွတ်မျှ သီးပွင့်ဝေဆာနေသည့် ဝါခင်းကြီးကို ကြည့်ပြီး ပျော်နေခြင်း ဖြစ်၏။ ဝက်သစ်ချ မြိုင် သက်တမ်းတလျှောက်တွင် ဘယ်တုန်းကမျှ

မမြင်ဖူးသည့် မြင်ကွင်း။ ကက်စတာ ရင်သပ် ရှုမောဖြစ်ဖို့ မကောင်းပါလား။ သို့သော် ကက်စတာက "အင်း- အားရစရာကြီးပဲ" ဟု သာမန် မျှသာ မှတ်ချက်ချ၏။ သူ့အပေါ်တွင် အပြစ်မြင်၍လည်း မဖြစ်။ မည်သို့ ယူဆရမှန်းလည်း မသိတော့။ ဟိုတုန်းကဆိုလျှင် ဝါဂွမ်းစိုင်ကလေးအား ချစ်သူ၏ ဆံပင်ကို သပ်ပေးသလို တယုတယ ကိုင်တွယ် ပွတ်သပ်နေတတ်၏။ ခုတော့ သည်လို မဟုတ်ပြီ။ အပေါင်းအဖော်တွေ စုံသည့် စားသောက်ပွဲမှ လွဲပြီး ကျန်သည့် အရာအားလုံးကို သူ လှိုက်လှိုက်လှဲလှဲ မရှိတော့။ ပြီးတော့ အရက်ပိုသောက်လာ၏။ ထုတ်ဖော် ကြေညာခြင်း မပြုသည့် နှစ်ဦးကြားမှ ချောက် ကမ်းပါးကြီး ပို၍ နက်ရှိုင်းလာမည်ကို တွေးပြီး ကြောက်လာသည်။

သူ တက်တက်ကြွကြွ လှုပ်ရှားသည့် ကိစ္စဆိုလို့ တခုပဲ ရှိသည်။ ကော်နယ်လီယာ ကလေးကို ကျောင်းအပ်တော့မည် ဖြစ်၍ ရွှင်ပျသွက်လက်နေခြင်း။ ကလေးတွေနှင့် ကျပြန် တော့လည်း သူ ပျော်ပျော်ရွှင်ရွှင် အနေသား။ နောက်ဆုံးတွင် အယ်လီနာ သူ့အာရုံကို အလုပ် ထဲတွင် ပြန်လည် မြှုပ်နှံရတော့၏။ သည်နှစ် ဝါဂွမ်းများများ ရရှိရေးအတွက် ဦးတည်လိုက် တော့၏။

သည်နှစ် ဝါခူးလုပ်သား ပြဿနာ လုံးဝ မပေါ်တော့။ ဌာနေပြန် စစ်သားတွေက အထောင်အသောင်းမို့ အလုပ်သမားတွေ များနေပြန်သည်။ ဝါဂွမ်းဈေးက တက်ကောင်းတုန်း။ ပြီးခဲ့သည့်နှစ်က ဝါဂွမ်းတွေကို လူသုံးပစ္စည်းအဖြစ် မဖန်တီးကြဘဲ လူသတ်ပစ္စည်းများအဖြစ် ထုတ်လုပ်ခဲ့ကြ၍ တကမ္ဘာလုံး အဝတ်ချို့တဲ့နေဆဲ ဖြစ်၏။ သည်နှစ် ထွက်လာမည့် အမြတ် ကိန်းဂဏန်းကို ကြိုတွက်ပြီး အယ်လီနာ ကြည်နူးနေမိပြန်၏။ ဝါကို စိတ်မဝင်စားတော့သလို လုပ်နေသော ကက်စတာကို အာရုံပြောင်းစေမည့် အခြေအနေဖန်လာ၍ အယ်လီနာ ဝမ်းသာရ ပြန်သည်။ ဝါ၏ အနာဂတ်သည် သိပ်မရှိတော့။ လာမည့်နှစ် ဆိုလျှင် ဈေးကျတော့မည်။ သည်တော့ အစားထိုးစိုက်မည့် သီးနှံတွေ အကြောင်းကို သူနှင့် တိုင်ပင်ရသည်။

"ထွန်စက်နဲ့ပဲ ဆက်ပြီး စိုက်ပျိုးချင်တယ်ပေါ့ ဟုတ်လား"

သူ မေးခွန်းထုတ်သည်။

"ဒါပေါ့ မောင်ရဲ့၊ ဘာလို့ မဖြစ်ရမှာလဲ၊ ဘယ်လိုစားပင်မျိုး စိုက်ရင် အကောင်းဆုံး ဖြစ်မလဲ၊ မောင် စဉ်းစားလေ"

"အကောင်းဆုံးကတော့ စတော်ဘယ်ရီပဲ"

"စမ်းကြည့်မယ်လေ၊ မြေတွေ အများကြီး ရှိတာပဲ။ အမျိုးစုံ စိုက်ရင်

မကောင်းဘူးလား မောင်။ အတွေ့အကြုံ မရှိခင် အစတော့ ရှုံးချင် ရှုံးမှာပေါ့၊ ရှုံးပစေလေ၊ အရှုံးခံနိုင်တဲ့ အခြေအနေ ရှိနေတာပဲ”

သူ့နှုတ်ခမ်းတွင် အပြုံးငယ်ကလေးတခု ပေါ်လာသည်။

“မောင်တို့ ဒီအတိုင်း ဝါဂွမ်းနဲ့ပဲ ဆက်ပြီး စခန်းသွားလည်း ရပါတယ်ကွယ်”

“ရတာတော့ ရတာပေါ့ မောင်ရယ်၊ ဒါပေမဲ့ ဘာအဓိပ္ပာယ် ရှိမှာလဲ၊ ဝါဈေး ကျတော့ မယ် ဆိုတာလည်း သိနေပြီပဲ။ အယ်လီနာတော့ သီးနှံတွေစိုက်ရင် အကျိုးရှိမယ် ထင်တာပဲ၊ အဲဒီလို စမ်းသပ်ကြည့်ရမှာကို မောင် မပျော်ဘူးလား ဟင်”

“ဒါပေမဲ့ ဝက်သစ်ချမြိုင် တခွင်လုံးကို ဝါဂွမ်းအတွက် မင်း စီမံကိန်း ချထားပြီးသားပဲ အယ်လီနာ၊ ဒီအတိုင်း ဆက်ပြီး မတောင့်မတ မကြောင့်မကြ နေသွားနိုင်ပြီပဲ။ တပေါင်ကို ဆယ်ဆင့်အထိကျတောင် ဂရုစိုက်စရာမှ မရှိဘဲ”

“ဩော်. . . မောင်ရယ်၊ ဒီလိုလည်း ဘယ်ဟုတ်ပါ့မလဲ”

“ဘာလို့ မဟုတ်ရမှာလဲ၊ ဒီအတိုင်း သက်သောင့်သက်သာ ဆက်နေသွားကြတာပေါ့”

“မောင်ကလည်းကွယ်၊ လုပ်စရာတွေက အများကြီးရယ်၊ အများကြီးလည်း လုပ်နိုင် တယ်။ အဲဒီလို စမ်းသပ်ရင်း စွန့်စားပြီး လုပ်ရတာ သိပ်ပျော်စရာ ကောင်းမှာပဲနော်။ မြေကို ပထမ ပြုပြင်မယ်၊ ပြီးတော့ အသီးအပင်မျိုးစုံ စိုက်မယ်၊ အရောင်စုံ၊ အသွေးစုံ ဖူးပွင့်ပြီး သီးနှံ မျိုးစုံ ထွက်လာမယ်၊ ဘယ်လောက် ကြည်နူးစရာ ကောင်းလိုက်မလဲ”

သူက မတ်တတ် ထရပ်သည်။

“လုပ်ချင်လည်း လုပ်ကြည့်လေ၊ စတော်ဘယ်ရီစိုက်ရင် ဖေဖော်ဝါရီ ဈေးကွက်ကို မီအောင် စောစောစိုက်ရမယ်၊ ကုန်စိမ်းနဲ့ ပတ်သက်ပြီး သိပ်အတင့်မရဲရဘူး၊ ဈေးကွက်ကို ပို့ဖို့ သိပ်ကရိကထ များတယ်။ တရက်တလေ တွက်ကိန်းလွဲတာနဲ့ ဝက်ဝက်ကွဲ ရှုံးတတ်တယ်။ ဆလတ်တို့၊ ဂေါ်ဖီတို့၊ မုန်လာဥနီတို့ စိုက်ပေါ့။ တရုတ်နံနံတို့၊ ပြောင်းတို့၊ ကြက်သွန်ဖြူတို့၊ မုန်လာတို့လည်း ဖြစ်တာပဲ”

အယ်လီနာက သူ့ကို ကြည့်ပြီး ခေါင်းယမ်းလိုက်၏။

“မောင် ဒါတွေ သိရက်၊ နားလည်ရက်နဲ့ ဘာလို့ စိတ်မဝင်စားတာလဲ ဟင်။ တကယ် လုပ်ရင် တကယ် ဝင်ငွေကောင်းမှာ”

ကက်စတာ ပြုံးလိုက်သည်။

“မင်း သိပ် ချမ်းသာချင်တာပဲလားဟင် အယ်လီနာ”

“အို… ချမ်းသာချင်တာပေါ့၊ မချမ်းသာချင်တဲ့ လူ ဘယ်မှာ ရှိမလဲ မောင်ရယ်”

ကက်စတာ အယ်လီနာ့ဆီကို ထလာသည်။ နားထင်ပေါ်တွင် ဝဲကျနေသည့် ဆံပင် တွေကို သပ်တင်ပေးပြီး ငုံ့နမ်းသည်။

“မင်းကတော့ တကယ်ပါပဲကွာ၊ ရှားပါတယ်။ သိပ်ပူတာပဲနော်၊ မောင် ကာမီယိုကို ဘီယာအေးအေးကလေး မှာလိုက်မယ်”

“နေပါ၊ အယ်လီနာ မှာပေးပါ့မယ်”

အယ်လီနာက တယ်လီဖုန်းနှင့် လှမ်းမှာလိုက်သည်။ အားအားရှိ သောက်ဖို့ပဲ စိတ်ကူး နေသည်ကို မကျေနပ်၊ ဆူဆူပူပူ လုပ်ပစ်လိုက်ချင်သည်။ သူက ပြန်ပြီး အော်ဟစ် ငြင်းခုံလျှင် ခံသာဦးမည်။ ခုတော့ ကက်စတာက နေရာတကာ အလျှော့ပေးနေရုံမက ကျိုးနွံသည့် အမူ အရာပါ လုပ်နေတတ်၍ အယ်လီနာ အခံရ ခက်နေ၏။

“မြို့ထဲကို သွားစရာ ရှိသေးတယ်၊ လုပ်စရာကလေးတွေ ရှိသေးတယ်” ဟု စကား ဖြတ်ပြီး ထွက်လာခဲ့၏။

ကားကို ထုတ်ပြီး မောင်းထွက်လာခဲ့၏။ မြစ်ကမ်းနဖူးနှင့် ပြိုင်နေသည့် နေရာရောက် တော့ အရှိန်လျှော့ပြီး ဖြည်းဖြည်းချင်း မောင်းသည်။ စင်စစ် မြို့ထဲတွင် ဘာကိစ္စမျှ မရှိ။ သက်သက် ထွက်လာခဲ့ခြင်း ဖြစ်သည်။ ဆံပင်တွေကို လေထဲတွင် ပျံ့ဝဲနေစေလိုက်သည်။ လတ်ဆတ်သည့် လေကို ဝဝကြီး ရှူလိုက်၏။ ကိုယ့်ဘာသာကိုယ် မေးခွန်းတွေ ဆက်တိုက် မေးနေမိသည်။

“ငါ ဘာဖြစ်နေတာပါလိမ့်၊ မောင်ကကော ဘယ်လို ဖြစ်နေရတာလဲ၊ အယ်လီနာ နူနေ ရွဲနေလို့ သဘောမကျနိုင်အောင် ဖြစ်နေတာလား မောင်ရယ်”

ဘယ်လိုမှ အဖြေရှာမရ။

※※※

# (၃)

ဝါတွေ သိမ်းပြီးလို့ ဘေထုပ်ထုပ်ပြီးချိန်တွင် အယ်လီနာကို ဝတ် လာတွေ့သည်။ ထူးထူးခြားခြား သေသေသပ်သပ် ဝတ်ဆင်ထား၏။ ဦးထုပ်ကို နောက်သို့ ခပ်လန်လန် ဆောင်း လျက်။ စာရင်းစာရွက်တွေကို လှမ်းပေးရင်း

"ကြည့်ပါဦး မစ္စက်လန်း" ဟု ပြောပြီး နောက်သို့ ပြန်ဆုတ် ရပ်နေသည်။ အလုပ်ရှင် အမျိုးသမီး၏ ဂုဏ်ပြုချီးကျူး စကားကို ငံ့လင့်နေခြင်း ဖြစ်၏။

အယ်လီနာ ဇယားတွေကို ငုံ့ကြည့်ပြီး ပါးစပ်အဟောင်းသား ဖြစ်သွားသည်။ ဘေထုပ် စုစုပေါင်း ၁,၃၂၆ ထုပ်။

"အံ့သြစရာပဲ ဝတ်"

"ဟုတ်ကဲ့ ခင်ဗျာ"

ဝတ်က ယဉ်ကျေးစွာ ထောက်ခံသည်။

"ဂုဏ်ယူလောက်တဲ့ အောင်မြင်မှုကြီး တရပ်ပါပဲ ဝတ်"

အယ်လီနာ ဝတ်ကို လှိုက်လှိုက်လှဲလှဲ လက်ဆွဲ နှုတ်ဆက်လိုက်သည်။ ဝတ်က နှုတ်ခမ်းကို တင်းတင်းစေ့ပြီး ပြုံးလိုက်၏။

"ကျွန်မ ရှင့်ကို ဆုကြေးအဖြစ် သတ်သတ်ပေးပါဦးမယ်"

"တကယ် ပြောတာလား မစ္စက်လန်း"

"တကယ်ပေါ့ ဝတ်ရဲ့၊ ဘေထုပ်တထုပ်ကို တဒေါ်လာပေးမယ်၊ ဘယ့်နှယ်လဲ"

"ကျေးဇူးတင် မဆုံးတော့ပါဘူး ခင်ဗျာ"

"ခဏ နေဦးနော်၊ ကျွန်မ အမျိုးသားကို ပြောပြချင်သေးလို့"

စာကြည့်ခန်းဝသို့ ပြေးသွားပြီး ကက်စတာကို အော်ခေါ်သည်။ ကက်စတာက ထွက်လာပြီး-

"ဘာတွေများ ဝမ်းသာအားရ ဖြစ်နေတာလဲ အယ်လီနာရဲ့၊ ဪ...

ဝတ်လည်း ရောက်နေတာကိုး”

“မင်္ဂလာနံနက်ခင်းပါ မစ္စတာလန်း”

ဝတ်က တလေးတစား နှုတ်ဆက်သည်။

“ဒီနှစ် ဘယ်လောက် ထွက်တယ်လို့ မောင် ထင်လဲဟင်၊ ၁,၃၂၆ ထုပ်တောင် ရတယ် မောင်ရဲ့”

'ဟာ... တယ် ဟုတ်ပါလား”

ကက်စတာက ဝတ်ကို အပြုံးဖြင့် ဂုဏ်ပြုလိုက်၏။

“ကျွန်တော့် အမျိုးသမီးက ခင်ဗျား တကယ်တော်ကြောင်း ခဏ ခဏ ပြောနေတာဗျ၊ ကျွန်တော် ယုံပါပြီ”

ဆုကြေးရမည့် အကြောင်း ကြားပြီးနောက် ဝတ် မျက်နှာ ထူးထူးခြားခြား ရွှင်ပျနေ သည်။ သူက-

“ဟုတ်ကဲ့ခင်ဗျာ၊ ကျွန်တော် တယောက်တည်း တော်လို့ လုပ်ငန်းအောင်မြင်တာ မဟုတ်ပါဘူး၊ ကျွန်တော့် လုပ်အားနဲ့ အကြံဉာဏ်ဟာ သုံးပုံ တပုံထက် မပိုပါဘူး။ တကယ် က မစ္စက်လန်းရဲ့ အစွမ်းသတ္တိကြောင့် အောင်မြင်တာပါ”

“ရှိတော့ ရှိတယ်၊ ရှားတယ်ပေါ့၊ ဟုတ်လား”

“ဟုတ်ပါတယ်၊ ဆရာ ပြောတာ အဟုတ် မှန်ပါတယ်။ ဆရာပဲ စဉ်းစားကြည့်ပါ၊ လွန်ခဲ့တဲ့ ခြောက်နှစ်လောက်က ရှစ်ရာ အနိုင်နိုင်ထွက်တဲ့ မြေကြီးက ထောင့်သုံးရာကျော် ထွက်တယ် ဆိုတော့..."

“အင်း.. မဆိုးပါဘူး”

ကက်စတော့ အသံက ခြောက်ကပ်ကပ်။

“ဝတ် ခဏ နေဦးနော်၊ ကျွန်မ တခါတည်း “ချက်” ရေးပေးလိုက်မယ်”

အယ်လီနာ အလုပ်ခန်းထဲသို့ ခပ်သုတ်သုတ် ဝင်သွားသည်။ ခဏနေပြီး ချက်လက်မှတ် တစောင် ကိုင်၍ ပြန်ထွက်လာသည်။ ကက်စတာနှင့် ဝတ်တို့ နှစ်ယောက် စကားလက်ဆုံ ကျနေကြ၏။ ဝတ်က ကက်စတာနှင့် စကားပြောရာတွင်

ပို့ပြီး စိတ်ပါလက်ပါ ရှိသည်ဟု အယ်လီနာ ထင်၏။

"လူဝီစီးယားနားပြည်နယ် တနယ်လုံးမှာ စစ်ရွေးတဲ့ ပညာသင်ဆုကို ရတယ်ဆိုတော့ တကယ် ဝမ်းသာစရာပေါ့ ဆရာရယ်၊ မဟုတ်ဘူးလား၊ ရောမ တက္ကသိုလ်ကြီးထဲမှာ စာမေးပွဲ ပြိုင်ဖြေကြရတာ"

"ရှင်တို့ ဘယ်သူ့အကြောင်း ပြောနေကြတာလဲ"

အယ်လီနာ ဝင်မေးလိုက်သည်။

"ကျွန်တော့်သမီးကလေး အကြောင်းပါ မစ္စက်လန်း"

"သြော်.. ဟုတ်လား"

သူ့အိမ်တဝိုက်တွင် အပျိုမကလေးတယောက် မြင်မိသည်ကို ခုမှ အမှတ်ရသည်။ သို့သော် ဝတ်က သူ့အကြောင်း ပြောဖူးသူ မဟုတ်၍ မသိခဲ့။

"ရော့... ရှင့်အတွက် ချက်လက်မှတ်၊ ကျေးဇူးတင်ပါတယ် ဝတ်"

"ကျွန်တော်ကလည်း ကျေးဇူးတင်ပါတယ် ခင်ဗျာ"

အယ်လီနာက လှေကားထစ်တွင် ထိုင်ပြီး ဆောင်းအမီ စက်တွေကို ပြင်တန်တာ ပြင်၊ ကြွခိုင်ရေး လုပ်တန် လုပ်ထားပြီး အသင့်ရှိနေဖို့ ညွှန်ကြားနေ၏။ ကက်စတာ အခန်းထဲတွင် လမ်းလျှောက်နေသည်။ ငါနဲ့ကလွဲပြီး လူတိုင်းနဲ့ သူ ရင်းနှီးတယ်ဟု ဝတ်ကို ပြောနေရင်း တွေးမိလိုက်၏။ ဝါအထွက် တိုးလာကြောင်း ပြောတော့ ဝတ်ကျေဝတ်ကုံပဲ ပြုံးသည်။ ဝတ်၏သမီး ပညာသင်ဆုရသည့် အကြောင်းကိုတော့ စိတ်ဝင်စားစွာ သူ နားထောင်၏။ ပြီးတော့ ဝတ်က သူ့သမီးအတွက် ဒါလောက် ဝမ်းသာဂုဏ်ယူနေတဲ့ ကိစ္စကို ငါ့ ကျတော့ ဘာလို့များ မပြော ပါလိမ့်။

မည်သည့် အပြစ်မျိုးကိုများ ကျူးလွန်ထားမိလို့ပါလိမ့်။ လူဝီစီးယားနားတနယ်လုံး တွင် ဝါအထွက် စံချိန်တင်ရလောက်အောင် သေလုခမန်း အလုပ်လုပ်ခဲ့ခြင်းသည် ပြစ်မှုကြီး တခုလို ကျူးလွန်ခြင်းလား။

"ဒါပါပဲ ဝတ်၊ နောက် လိုရင် ကျွန်မ ထပ်ပြောမယ်"

ကက်စတာ စာကြည့်ခန်းထဲသို့ ဝင်သွားသည်။ အယ်လီနာက ခန်းမဆောင်ကို ဖြတ် လျှောက်လာပြီး ဧည့်ခန်းတွင် ထိုင်၏။ မဂ္ဂဇင်းတအုပ်ကို ယူပြီး ပေါင်ပေါ်

တင်ထားလိုက် သည်။ သူ ထွက်လာလျှင် စာဖတ်နေဟန် ဆောင်ရန် ဖြစ်၏။ ကက်စတာက ပေါ်မလာ။ ရင်ထဲတွင် ဘယ်တုန်းကမျှ မနာဖူးသည့် နာကျင်ခြင်းမျိုးကို နင့်နေအောင် ခံစားလိုက်ရ၏။ ခြောက်နှစ်လုံးလုံး ကျွန်မတယောက်တည်း ဝက်သစ်ချမြိုင်အတွက် အလုပ်လုပ်ခဲ့သည်။ ဝက်သစ်ချမြိုင်ကို ချောက်ကမ်းပါးထဲမှ ဆွဲတင်ခဲ့သည်။ ဝက်သစ်ချမြိုင်ကို ခင်တွယ် မြတ်နိုး လှပါသည် ဆိုသော ကက်စတာက ခုတော့ သူနှင့် မဆိုင်သလို လုပ်နေသည်။ အခံရခက်လှ၏။ ညစာဝိုင်းတွင် ကက်စတာက ထုံးစံအတိုင်း စကားတွေ ဖောင်ဖွဲ့နေသည်။ ရွှင်ပျနေ၏။ စားသောက်ပြီးစီးသည့်အခါ ကလေးခန်းကို သွားကြ၏။ သားနှင့် သမီးကို ကက်စတာက အိပ်ရာဝင် ပုံပြင်တွေ ပြောပြသည်။ မောင်နှမနှစ်ယောက် တခစ်ခစ်ရယ်ရင်း အိပ်ပျော်သွား ကြ၏။ ကလေးတွေနှင့် ဆုံလျှင် ကက်စတာသည် ဘာမျှ ဆိုဖွယ်ရာ မရှိသည့် ဖခင်တဦး ဖြစ်သည်။

ကလေးခန်းက အထွက်တွင် အယ်လီနာက-

"မောင် ဒီည ဘယ်သူတွေကို ဖိတ်ထားသေးလဲ"

"ဟင့်အင်း၊ ဘယ်သူ့မှ ဖိတ်မထားဘူး၊ ဘာဖြစ်လို့..."

"ဒါဖြင့် အယ်လီနာ့ အခန်းထဲ သွားရအောင်နော်၊ စကားလေး ဘာလေး ပြောရတာ ပေါ့"

"ကောင်းသားပဲ၊ မောင်လည်း ပြောစရာ ရှိတယ်"

အယ်လီနာ ဝမ်းသာသွားသည်။ အခန်းထဲတွင် မီးလင်းဖို မီးလျှံသည် အသက်ဝင် လှုပ်ရှား နေ၏။ ကက်စတာ ပြောသမျှ ကို စိတ်ဝင်စားစွာ နားထောင်နေသည်။ ကက်စတာက အိတ်ထဲမှ ခရီးစဉ် စာရွက်ကို ထုတ်ပြီး-

"ဒီနေ့မှ စာတိုက်က ရောက်လာတာ၊ အပျော်ခရီးထွက်မယ့် ဖိမ်ခံသင်္ဘောကြီးတစင်း ရဲ့ ကြော်ငြာလေ၊ ခရီးစဉ်က ခြောက်ပတ် ကြာမယ်တဲ့၊ အနားယူရင်း လိုက်သွားကြရင် မကောင်း ဘူးလား အယ်လီနာ"

"အို... သိပ်ကောင်းတာပေါ့ မောင်ရာ"

အယ်လီနာက ဝမ်းသာ အံ့ဩလှစွာဖြင့် ပြောလိုက်သည်။ အေးအေးလူလူ ပင်လယ်ခရီး ထွက်ရင်း စကားတွေ အများကြီး ပြောဖြစ်ကြမည်၊ မောင် အလိုမကျတာတွေကို သိအောင် လေ့လာမည်၊ မောင့်အလိုကို အတတ်နိုင်ဆုံး လိုက်လျောပြီး အကျိတ်အခဲတွေ ချေဖျက်မည်၊ မောင့်ကို အလျှင်ကလို ရင်ခုန်စေမည်၊ ပျော်ပုံသစ်စေမည်။ အို. . . ပျော်စရာ ကောင်းလိုက်မည့် ဖြစ်ခြင်း။

“အယ်လီနာ သိပ်ပျော်တာပဲကွယ်၊ မနက်ဖြန်တောင် စ ထွက်လိုက်ချင်တယ်”

“သင်္ဘောကြီးက တကယ်ခမ်းနားတဲ့ ဇိမ်ခံသင်္ဘောကြီးပဲတဲ့၊ မောင်လည်း ဒီသင်္ဘော ကြီး အကြောင်း ဖတ်ဖူးတယ်၊ ပျော်စရာကောင်းတဲ့ မြို့ကြီးတွေကို အားလုံး ဆိုက်ပေးတယ် တဲ့။ ဒီမှာ ကြည့်လေ”

ကက်စတာက အယ်လီနာကို ကြော်ငြာစာရွက်ခေါက် ကမ်းပေးလိုက်သည်။ သင်္ဘောကြီး၏ လှပခမ်းနားပုံကို ကြည့်၍ ခရီးသွားချင်စိတ်တွေ တဖွားဖွား ပေါ်လာသည်။ ခရီးစဉ်ကို ကြည့်ပြီး အယ်လီနာ ဇဝေဇဝါ ဖြစ်သွားပုံရ၏။ ပြက္ခဒိန်ကို လှမ်းကြည့်လိုက် သည်။

“အင်း... နယူးအော်လင်းကနေ ဖေဖော်ဝါရီလ တရက်နေ့မှ ထွက်မယ် ဆိုတော့ ဒီသင်္ဘောကြီးက အမြဲတမ်း ထွက်နေတာ မဟုတ်လား မောင်၊ နောက် တခေါက်မှ လိုက်ရင် မကောင်းဘူးလား ဟင်”

“ဟင် . . . ဘယ်လို ဖြစ်လို့လဲ၊ ခါတိုင်း အလောတကြီး လုပ်တတ်တဲ့ မောင့်မိန်းမ ဘာဖြစ်သွားတာလဲ၊ အဝတ်အစား ဝယ်ဖို့ နှစ်လ သုံးလ မလိုဘူး ထင်ပါတယ်ကွာ”

ကက်စတာက ရယ်ပြီး ပြောသည်။

“အို... မောင်ကလည်း ဘယ်ကလာ၊ ခရီးထွက်ဖို့ အယ်လီနာ ဈေးဝယ်ရင် တပတ် အတွင်း ပြီးပါတယ်။ ခုနေ ထွက်သွားရင် မတ်လကုန်လောက်ထိ ပြန်ရောက်နိုင်မှာ မဟုတ်ဘူး မို့လား၊ အလုပ်တွေ သိပ်ပူမယ့် အချိန်လေ မောင်ရဲ့”

“ဩော်... အယ်လီနာရယ်၊ တို့ မန်နေဂျာတယောက် ဘာလုပ်ဖို့ ငှားတာလဲ”

“ဝတ်က ဝါဂွမ်းအကြောင်းက လွဲပြီး ဘာမှ နားလည်မှာ မဟုတ်ဘူးလေ၊ စားပင် သီးနှံတွေ စိုက်ဖို့ ပြောထားတာ မောင် မေ့သွားပြီလား။ မောင်ရော၊ အယ်လီနာရော ရှိနေဖို့ လိုမယ် ထင်တယ်”

“အင်း... အဲဒါ မေ့နေတယ်”

ကက်စတာက အယ်လီနာ့ ပေါင်ပေါ်မှ ကြော်ငြာစာရွက်ခေါက်ကို ကောက်ယူပြီး အိတ်ထဲ ပြန်ထည့်လိုက်သည်။

“နောက်တခေါက်အတွက် ကြိုတင်လက်မှတ်ဝယ်ဖို့ မောင် မနက်ဖြန် နယူး

အော်လင်းကို စာလှမ်းရေးလိုက်မယ်၊ ဒါဆို အလုပ်လည်း မပျက်တော့ဘူး”

အယ်လီနာက မီးဖိုထဲကို ကြည့်ပြီး ပြုံးလိုက်သည်။

“စပြီး စမ်းသပ်စိုက်ရမယ် ဆိုတော့ စရိတ်တော့ တက်မှာပဲနော် မောင်၊ ဒါပေမဲ့ ရှုံးတော့ မရှုံးနိုင်ပါဘူး၊ ဟုတ်တယ် မဟုတ်လား မောင်”

ကက်စတာ ထိုင်ချလိုက်သည်။ မီးဖိုထဲသို့ ကြည့်နေ၏။ ခဏနေပြီး ထရပ်လိုက် ပြန်သည်။

“ဒီမယ် အယ်လီနာ၊ အရှုံး၊ အမြတ်နဲ့ ငွေကလွဲပြီး မင်း ဘာမှ မစဉ်းစားတော့ဘူး ဟုတ်လား”

အယ်လီနာ ရှေ့သို့ ကိုင်းပြီး-

“မောင် ဘာပြောတယ်၊ မောင် ပြောတာ အယ်လီနာ နားမလည်ဘူး”

“မောင် ပြောတာက မင်း ရှာထားတဲ့ ငွေပုံပေါ်မှာ ထိုင်ပြီး နောက်ထပ်ငွေတွေ ငမ်းငမ်းတက် လိုချင်နေတုန်းပဲလား၊ လောဘ မသတ်တော့ဘူးလားလို့ ပြောတာ။ ရှင်းပြီလား”

“ဟင် . . . မောင် ဘယ်လို ပြောလိုက်တာလဲ၊ မောင် ခုလို နေရတဲ့ ဘဝကို သဘော မကျဘူးလား ဟင်”

“မောင် သဘောကျပါတယ်၊ တော်လောက်ရောပေါ့၊ ဘာလို့ ငွေနောက်ကို အတင်း လိုက်နေတာလဲ အယ်လီနာရယ်၊ မင်း ဘယ်လို ဖြစ်သွားတာလဲ ဟင်”

သူက စိတ်ပျက်လက်ပျက် အမူအရာနှင့် ပြောလိုက်သည်။ အယ်လီနာ နဖူးကို လက်နှင့် သပ်လိုက်ပြီး-

“သြော်... ဒီလိုကိုး၊ ဒါကြောင့် မောင် အယ်လီနာကို စိတ်ပျက်လက်ပျက် ဖြစ်နေ တာပေါ့ ဟုတ်လား”

စိတ်ထဲတွင် နင့်ခနဲ နာသွားသည်။ မွန်းကျပ်သွားသည်။

“မင်းကို မောင် သိပ်ချစ်တယ် အယ်လီနာ”

ကက်စတာက စိတ်ပါလက်ပါ ပြော၏။

"ဒါပေမဲ့ ဟိုတုန်းက မောင် ချစ်ခဲ့တဲ့ အယ်လီနာ့ နေရာမှာ နောက်တယောက် ရောက်နေသလို ဖြစ်နေတယ်။ ခု မင်း လုပ်နေပုံဟာ ဘဏ်စာရင်းနဲ့ ငွေကလွဲပြီး ဘာမှ အရေး မကြီးသလို ဖြစ်နေတယ်။ ဒီမယ် အယ်လီနာ၊ ဒီခရီးကို ဘယ်တော့သွားသွား မောင့်အတွက် အရေးမကြီးပါဘူး၊ မသွားဖြစ်လည်း အကြောင်း မဟုတ်ဘူး။ မောင့်အတွက် အဲဒါတွေထက် အရေးကြီးတာက ကမ္ဘာမြေကြီးပေါ်မှာ ရှိတဲ့ အရာတိုင်းကို မင်း တန်ဖိုးတွက် မျက်စိနဲ့ချည်း ကြည့်မနေဖို့ပဲ။ ဝက်သစ်ချမြိုင်ဟာ ခု အားလုံး အသားကျနေပြီ၊ သာမန်ကြီးကြပ်မှုနဲ့ လွှတ်ပေး ထားလို့ ရပြီ။ ဒါကို ဘာပြုလို့ မင်း ဒါလောက်တောင် အမြတ်များများ လိုချင်နေရတာလဲ"

"နေပါဦး၊ နေပါဦး… မောင်"

အယ်လီနာက ခပ်ဖြည်းဖြည်းနှင့် နားလည်အောင် ရှင်းပြသည်။

"မောင့်အမြင် မှားနေတယ်ကွယ်၊ အယ်လီနာဟာ အချိန်တွေ အများကြီး ယူပြီး ဘာမှ စဉ်းစားချိန် မရခဲ့ပါဘူး၊ မောင် ထွက်သွားတော့ ဝက်သစ်ချမြိုင်ရဲ့ ကြွေးတွေဟာ တဝက်တောင် မဆပ်ရသေးပါဘူး။ ကမ္ဘာမှာ လုပ်ခတွေ အမြင့်ဆုံးနဲ့ အလုပ်သမား အရှားဆုံးကာလတွေကို တိုက်ပွဲဝင်ခဲ့ရတယ်၊ ကျော်ဖြတ်ခဲ့ရတယ်။ ဒီတော့လည်း အိပ်ပျော်မနေတဲ့ တချိန်လုံး ငွေ အကြောင်းတွေပဲ စဉ်းစားခဲ့ရတယ်"

*"ခု ဆက်တွေးနေဖို့ မလိုတော့ဘူးလေ၊ ကြွေးလည်း တပြားမှ မရှိတော့တာပဲ။ ဝင်ငွေတွေ အများကြီး ရနေပြီ၊ လိုတာထက် အားလုံး ပိုနေပြီ"

"အောင်မြင်ပြီဆိုပြီး ဒီအတိုင်း ရပ်နေလို့ ဘယ်ဖြစ်မလဲ မောင်ရဲ့၊ လက်ကြောမတင်း တဲ့ လူပျင်းဘဝ ရောက်သွားမှာပေါ့"

"မင်းကို ဒီအတိုင်း ရပ်နေဖို့လည်း မောင် မပြောပါဘူးကွယ်၊ စစ်အတွင်းကလို နေ့ မအိပ် ညမအိပ် လုပ်နေဖို့ မလိုတော့တဲ့ အကြောင်းသာ မောင် ပြောတာပါ"

အယ်လီနာ ခေါင်းခါသည်။ ရင်ထဲတွင်တော့ နာနေဆဲ။ သို့သော် အကြောင်းရင်းကို သိရပြီမို့ ရှင်းရှင်းလင်းလင်း ဖြစ်သွားသလိုတော့ ခံစားရ၏။

"ဒါ ဖြင့် ဝက်သစ်ချမြိုင်ကို ကိုယ်ဖိရင်ဖိလုပ်ဖို့ မလိုတော့ဘူးပေါ့၊ ကြိုးကြိုးစားစား ထောင့်စေ့စေ့လုပ်ဖို့ မလိုတော့ဘူးပေါ့… ဟုတ်လား။ အယ်လီနာ့ အမြင်တော့ ဒီအတိုင်း ဒူးနန့်ပြီး အငြိမ့်သား ထိုင်စားနေလို့ မဖြစ်ဘူးထင်တယ် မောင်။ အယ်လီနာ အလုပ်တခုကို လုပ်ပြီ ဆိုရင် ကြိုးကြိုးစားစား လုပ်တတ်တယ်၊ အောင်မြင်မှုကို ရချင်တယ်၊ အောင်မြင်မှုရဲ့ အသီးအပွင့်ကို မက်မောတယ်၊

အဆိုးရွားဆုံးအချိန်တွေမှာ မောင် အပြင်ရောက်နေတော့ ဘာမှ မသိဘူးပေါ့လေ”

“မင်း ပြောတာ သိပ်မှန်တယ်၊ ကိုယ်မှ ဒီမှာ မရှိတာပဲ” အယ်လီနာ မတ်တတ် ထရပ်လိုက်သည်။

“မောင် ရှိနေရင်လည်း . . .”

“ကိုယ် ရှိနေရင် ဒီလို ဖြစ်လာမှာ မဟုတ်ပါဘူး”

“ဩော် . . မောင်ရယ်၊ အယ်လီနာရဲ့ ကြိုးစားမှုတွေကို မောင် ဘာမှ အသိအမှတ် မပြုဘူးပေါ့၊ ဟုတ်လား”

အယ်လီနာ့ အသံက ပြောရင်း မာလာသည်။

“ဝက်သစ်ချမြိုင်ကို ကြွေးမြီကင်းကင်းနဲ့ ခေတ်မီ ဝက်သစ်ချမြိုင်အဖြစ် မောင် ပြန်ပြီး ပိုင်ဆိုင်ရတာ မောင် သဘော မကျဘူးလားဟင်။ စဉ်းစဉ်းစားစားပြောပါ မောင်၊ ဟိုတုန်းက အခြေအနေနဲ့ ခုအခြေအနေလည်း ယှဉ်ကြည့်ပါဦး”

“အဲဒါကိုပဲ တချိန်လုံး စဉ်းစားနေခဲ့တာ၊ တချိန်လုံး ယှဉ်ကြည့်နေခဲ့တာ”

“ဒါဖြင့် ကြွေးတွေ ကျေသွားတာ မောင် ဝမ်းမသာဘူးလား ဟင်”

“သာပါတယ်”

“ဒါဖြင့် ဘာလဲ၊ အယ်လီနာ့ကို ပြောပါဦး။ မောင် ဂုဏ်မယူဘူးလား၊ သစ်လွင် လှပ နေတဲ့ ဝက်သစ်ချမြိုင်ကို မချစ်ဘူးလား”

“သစ်လွင်တဲ့ ဝက်သစ်ချမြိုင် .... ဟုတ်လား၊ ချစ်ရမယ်... ဟုတ်လား။ ဖို့ဒ်ရဲ့ မော်တော်ကား စက်ရုံကြီးနဲ့ တူနေတဲ့ အိမ်ကြီး ဘယ်သူက ချစ်မလဲ”

သူက ချာခနဲ လှည့်ထွက်သွားပြီး တံခါးပေါက်တွင် ရပ်နေသည်။ အယ်လီနာ ကြက်သေ သေနေ၏။ မတုန်မလှုပ် ကျောက်ရုပ်။ အံ့ဩလွန်းသဖြင့် အသက်ရှူဖို့ပင် မေ့နေ၏။ ကက်စတာ က တံခါးဖုကို လက်တဖက်နှင့် ကိုင်ပြီး-

“ပြန်လာကတည်းက ဒီအကြောင်းကို မပြောမိအောင် မျိုသိပ်ထားခဲ့တယ်။ ဝက်သစ်ချ မြိုင်ကို မင်း လုပ်ထားသမျှ ကိုယ်တခုမှ မကြိုက်ဘူး အယ်လီနာ။ စက်တွေ ခလုတ်တွေကို ကိုယ်မုန်းတယ်၊ ရေချိုးခန်းကြီးရော၊ တယ်လီဖုန်းတွေကိုရော တခုမှ မကြည့်ချင်ဘူး။ ပြီးတော့ ဂဏန်းတွက်စက် တဲ့၊ အေးဆေးတည်ငြိမ်ပြီး ရိုးရာအစဉ်အလာကြီးခဲ့တဲ့ ဝက်သစ်ချမြိုင်မှာ အလှတွေ

တခုမှ မရှိတော့ဘူး၊ ဝါတွေ ထုတ်ပေးနေတဲ့ စက်ရုံတရုံ ဖြစ်သွားပြီ”

သူက တံခါးကို ဆွဲဖွင့်လိုက်သည်။

“နေပါဦး…နေပါဦး”

မျက်နှာကို ကျာပွတ်နှင့် ဖြတ်အရိုက်ခံလိုက်ရသလို စူးစူးရှရှ နာကျင်သွား၏။ စိတ်ကို ထိန်းရလွန်းသဖြင့် အသားတွေ ဆတ်ဆတ်တုန်လာသည်။

“မောင် စဉ်းစဉ်းစားစားလည်း ပြောပါကွယ်၊ ပေါ့ပေါ့တန်တန် လုပ်ခဲ့လို့ ဒေဝါလီခံ ရမယ့် အဖြစ်မျိုးလည်း ကြုံခဲ့ပြီးပါပြီ”

“ဒေဝါလီခံရမယ့် အဖြစ်မျိုးနဲ့ ကြုံခဲ့တာ မှန်တယ်၊ အဲဒါက စစ်မဖြစ်ခင် ဟိုဘက်ပိုင်း က ဖြစ်ခဲ့တာ၊ ခု အားလုံး ရှင်းသွားပြီပဲ၊ ဘာလို့ ကျွန်လို ဆက်လုပ်နေမလဲ”

“ကျွန်လို လုပ်လို့လည်း အမြတ်နှစ်ဆ တက်လာတာ မဟုတ်ဘူးလား”

“သိတယ် သိတယ်၊ မင်းခေါင်းထဲမှာ အဲဒီအမြတ်က လွဲပြီး ဘာမှ မရှိဘူး။ မင်းဟာ ငွေစိတ်မွှန်၊ ပစ္စည်းစိတ်မွှန်ပြီး လုပ်ချင်ရာတွေ လျှောက်လုပ်ခဲ့တယ်။ ထွေးနွေးတဲ့ မျိုးဆက်သွေး ရဲ့ ပြယုဂ်ဖြစ်တဲ့ ဝက်သစ်ချမြိုင်ရဲ့ အလှအပတွေ ဘာမှ မကျန်တော့ဘူး။ ကိုယ့်ကို မွေးခဲ့တဲ့ ဝက်သစ်ချမြိုင်ဟာ ကိုယ် သေတဲ့အခါမှာလည်း ဒီအတိုင်းပဲ ရှိစေချင်ခဲ့တာ။ ခုတော့ မင်း အားလုံး သိမ်းကျုံးပြီး တံမြက်စည်းနဲ့ လှည်းပစ်လိုက်ပြီ။ ဝက်သစ်ချမြိုင်ကို တည်ဆောက်ခဲ့တဲ့ ငါ့ဘိုးဘွားတွေရဲ့ လက်ရာ ဆိုလို့ ဘာမှ မကျန်တော့ဘူး၊ နောက်ဆုံး အဘွားလက်ထက်က ကော်ဖီအိုးကိုတောင် မင်း ချမ်းသာ မပေးဘူး”

အယ်လီနာ့ရင်တွေ နိမ့်ချည်မြင့်ချည် ဖြစ်လာသည်။ ဒေါသအမျက် ခြောင်းခြောင်း ထွက်လျက် ရှိ၏။ မျက်လုံးတွေက မီးဝင်းဝင်း တောက်လာသည်။

“ရှင် … ရှင်ဟာ သောက်ရူးပဲ”

“ဟုတ်တယ်၊ မင်းဘက်က ကြည့်ရင် ငါက သောက်ရူးပဲ။ စိတ်ကူးယဉ်နေတဲ့ အရူး တမျိုးပဲ။ ငါ့ဘက်က ကြည့်ရင်လည်း မင်းဟာ ဘီလူး သဘက်စီးနေတဲ့ အရူးပဲ။ ဒီမယ် အယ်လီနာ၊ လူဆိုတာ ပေါင်မုန့်တခုတည်းနဲ့၊ ထမင်းတမျိုးတည်းနဲ့ အသက်ရှင်နေတဲ့ သတ္တဝါ မဟုတ်ဘူး”

အယ်လီနာ ဘာပြောရမှန်း မသိတော့။ နာကျင်လွန်းသည့် ဝေဒနာတမျိုးကို

ပြင်းပြစွာ ခံစားနေရသည်ဟုတော့ နားလည်လိုက်သည်။ အသံတိုးတိုးကလေးဖြင့် -

“အယ်လီနာ့ လုပ်ရပ်တွေကို မောင် ကြိုက်မယ် ထင်ခဲ့တာ၊ ချမ်းချမ်းသာသာ နေရတဲ့ ဘဝကို မောင် မက်မောမယ် ထင်ခဲ့တာ ”

“နီဂရိုးတယောက် ချမ်းသာတာမျိုး ဘာလုပ်မှာလဲ”

“နီဂရိုးတယောက် ချမ်းသာနည်းမျိုး၊ ဟုတ်လား”

အသက်ကို ခဲရာခဲဆစ် ရှူနေရ၏။ တသက်နှင့် တကိုယ် သည်လိုဒေါသမျိုး တခါ မှ မဖြစ်ဖူးခဲ့။

“ဟုတ်တယ်လေ၊ ငွေရွှင်နေတဲ့ ကပ္ပလီတွေ မင်း မတွေ့ဖူးဘူးလား၊ ပိုးအင်္ကျီ ကြောင်ကြောင်ကျားကျားတွေ ဝယ်ဝတ်၊ ခုတ်စက်ဝယ်ဖွင့်နဲ့ သူတို့ဘဝမှာ ဆူဆူညံညံ တောက်တောက် ပြောင်ပြောင်တွေ များနိုင်မှ လူရာဝင်သလိုပဲလေ။ ခု မင်း လုပ်နေတာတွေဟာ အဲဒီကပ္ပလီတွေနဲ့ ဘာထူးသေးလဲ။ ဟုတ်ပြီ၊ ငါ ပြောပြမယ်၊ မင်း အဲဒီပုံစံနဲ့ ရပ်ပြီး သေသေ ချာချာ နားထောင်၊ အိမ်ပြန်မလာခင် ခေတ်ပျက်သူဌေးတွေကို သရော်ထားတဲ့ ကာတွန်းတွေ ဖတ်ခဲ့ရတယ်၊ ကိုယ့်ကိုယ်ကိုယ် အဟုတ်ကြီးထင်ပြီး လောဘရမ္မက်တွေ ငမ်းငမ်းတက်နေတဲ့ လူတွေကို သရော်ထားတဲ့ ပုံတွေ။ ကိုယ့်မိန်းမဟာ အဲဒီ အတန်းအစားထဲ ရောက်နေမှန်းကို ကိုယ် မသိခဲ့ဘူး”

အယ်လီနာ လည်ချောင်းထဲတွင် ဆို့သည်ထက် ဆို့လာပြီ။ လက်တဖက်နှင့် တဖက် ကို တအားဖျစ်ညှစ်ထားသည်။ ကက်စတာက အတောမသတ်သေး။

“ဆင်ထားလိုက်တဲ့ ခလုတ်တွေ၊ ဝယ်လိုက်တဲ့ စက်တွေ၊ မင်း ဘယ်လောက် စီးပွားရှာ တော်တယ် ဆိုတဲ့ ပြယုဂ်တွေပေါ့... ဟုတ်စ။ ဘာဖြစ်လို့ မင်းရဲ့ ရွှေလည်တိုင်မှာ စိန်တွေ မစီသေးတာလဲ”

“ကျွန်မအပေါ်မှာ မြင်တဲ့ မောင့်ရဲ့ အမြင်တွေပေါ့လေ”

အသက်ရှူ မဝသဖြင့် စကားသံက တိုးတိုးပဲ ထွက်တော့၏။

“ကျွန်မရဲ့ ကြိုးစားမှုတွေအတွက် ရှင် ပေးတဲ့ ဆုလာဘ်ပေါ့၊ ဟုတ်လား ကက်စတာ”

“မင်း ဘယ်လောက် ပင်ပန်းဆင်းရဲခဲ့တယ် ဆိုတာ သိတယ်လေ၊ ဒါကြောင့် မပြောဘဲ အောင့်အည်းနေခဲ့တာပေါ့”

“မျက်စိနှစ်လုံး ဖွင့်နေတဲ့ တချိန်လုံး အလုပ်နဲ့ လက်နဲ့ မပြတ်လုပ်ခဲ့တယ်၊ ပင်ပန်း ဆင်းရဲတာ အကြောင်း မဟုတ်ပါဘူး၊ ရောဂါဖြစ်ပြီး သေလုမြောပါး ဖြစ်ခဲ့တာလည်း အကြောင်း မဟုတ်ဘူး၊ ဘာပြုလို့လဲ သိလား၊ ကျွန်မ ရုန်းကန်လှုပ်ရှားမှု မှန်သမျှ “ရှင့်အတွက်” ဆိုတဲ့ စိတ်ဓာတ်ကြောင့် ရှင့် . . . သိရဲ့လား”

*“ဗျာ... ကျုပ်အတွက် ဟုတ်လား ကက်စတာက ပညာရှိ ပြုံးမျိုး ပြုံးလိုက်သည်။

“မင်းပြောနေတဲ့ အဓိပ္ပာယ်မဲ့ အချက် အားလုံးထဲမှာ အဲဒီအချက်က အဓိပ္ပာယ်မရှိဆုံး ပဲ၊ မင်းစိတ်ထဲက ကိုယ့်အတွက်လို့ ထင်နေခဲ့တယ် ဟုတ်လား၊ အမှန်က မင်းအတွက် မင်းလုပ် နေတာ အယ်လီနာ။ မင်းရဲ့ ကိုယ်ထူကိုယ်ထ အရည်အချင်းတွေ ဘယ်လောက် ရှိတယ်၊ ကိုယ့် အားကိုယ်ကိုး အားမာန် ဘယ်လောက်ရှိတယ် ဆိုတဲ့ သူမတူအောင် စွမ်းဆောင်နိုင်တဲ့ သတ္တိတွေ ကို သက်သေပြဖို့ မင်း လုပ်နေတာပါ။ ကိုယ့်အတွက် လုပ်တယ်ဆိုရင် ဝက်သစ်ချမြိုင်ကို ကိုယ်မြတ်နိုးတဲ့ ပုံစံအတိုင်း မင်း လုပ်ရမှာပေ့ါ။ မင်း ကိုယ့်အကြောင်းကို ကောင်းကောင်း သိပါတယ် အယ်လီနာ၊ အိမ်နဲ့ မတူဘဲ ပြပွဲခန်းမနဲ့ တူနေတဲ့ ဒီလိုအခန်းတွေကို ကိုယ် မခင် တွယ်တတ်မှန်း မင်း သိပါတယ်။ မင်း ကြိုက်တာကို မင်း လုပ်ခွင့် မရှိဘူးလို့ ပြောနေတာ မဟုတ်ဘူးနော်၊ ကိုယ်လည်း ကြိုက်သလို နေနေတာပဲ။ အဲ. . . တခုတော့ ရှိတယ်၊ မင်းလုပ်ရပ် တွေဟာ တစုံတယောက်အတွက် မဟုတ်ဘဲ မင်းအတွက် လုပ်နေတယ် ဆိုတာတော့ ကိုယ် စွဲစွဲမြဲမြဲ ယုံတယ် အယ်လီနာ”

“မောင် သဘောကျမယ် ထင်ခဲ့လို့ပါ မောင်ရယ်” အယ်လီနာက ကြိုးကြိုးစားစား ပြောလိုက်သည်။

“ဩ... ကဲ- ထားပါလေ၊ မင်း လိုချင်တာက မင်း လုပ်ရပ်တွေကို ဂုဏ်ယူစေချင်တာ မဟုတ်လား။ မင်း လုပ်ရပ်တွေအတွက် ကိုယ် ဘယ်လောက် ဂုဏ်ယူခဲ့တယ် ဆိုတာ ဘုရား သခင် သိတယ် အယ်လီနာ”

အယ်လီနာ ကက်စတာ့ကို ခြေဆုံးခေါင်းဆုံး ကြည့်သည်။ သူက လက်တဖက်ကို ဘောင်းဘီအိတ်တွင် နှိုက်ပြီး တခြမ်းဖွင့်ထားသည့် တံခါးဝမှ ရပ်ပြောနေခြင်း ဖြစ်သည်။ ပြုံးထားသည့် အပြုံးက ခံစားမှု ကင်းမဲ့နေ၏။ သူ့မျက်နှာပေါ်တွင် တခါတရံသာ တွေ့ဖူး သည့် ရက်စက်ပြုံး။ အယ်လီနာ သည်အပြုံးကို အကြောက်ဆုံး။ ကျောထဲ စိမ့်သွားသည်။

“မောင် ပြောတာတွေ တော်တော်များသွားပြီ၊ ပြောလို့ အားရပြီလား ဟင်”

"သိတယ်၊ စကားကြော ရှည်သွားမှန်း သိတယ်၊ မျိုသိပ်ထားရတာက ကြာပြီလေ"

"စောစောပြောရောပေါ့ မောင်ရယ်၊ အယ်လီနာမှာဖြင့် ဘာဖြစ်လို့ မောင် မျက်နှာညို နေပါလိမ့်ဆိုပြီး စဉ်းစားရလွန်းလို့ ရူးချင်သလိုလိုတောင် ဖြစ်နေတာ"

"ကိုယ်တော့ မင်း အဲဒီလို စဉ်းစားနေတယ် မထင်ပါဘူး။ မင်းလုပ်သမျှ ကိုယ် လက်ခုပ်တီးပေး နေခဲ့သားပဲ"

"နေပါဦး၊ ဘာလို့ အမှန်အတိုင်း စောစောစီးစီး ဖွင့်မပြောတာလဲ"

"ဘယ်ပြောနိုင်ပါ့မလဲ၊ ကြိတ်မှိတ်ပြီး မျိုသိပ်ထားရတာပေါ့။ မင်းအတွက်လည်း စိတ်မကောင်း ဖြစ်ရတယ် အယ်လီနာ"

"အယ်လီနာ့အတွက် စိတ်မကောင်း ဖြစ်ရတယ်.

"ဟုတ်တယ်လေ၊ မင်းက မင်းရဲ့ အောင်မြင်မှုတွေကို သိပ်ကျေနပ်နေတာကိုး၊ မင်း ဖန်ဆင်းသမျှ အရာအားလုံးအတွက် မင်း သိပ်လှပနေတာကိုး"

"ဟုတ်တယ်၊ အယ်လီနာ အဲဒီအတိုင်း ထင်ခဲ့တယ်၊ ခုလည်း ထင်တုန်းပဲ။ အယ်လီနာဟာ အမြဲတမ်း လှပတာ၊ သေသပ်တာ၊ စနစ်တကျ ရှိတာကို ကြိုက်တယ်။ မောင် . . . ကြိုက်ကြိုက် မကြိုက်ကြိုက် ဒီအတိုင်း ထားရမှာပဲ"

"သဘောပါ၊ ဆိုလိုတာက ကိုယ်ဟာ ဘဝကို ပျော်ပျော်ရွှင်ရွှင် နေတတ်တယ်၊ နေချင် တယ်။ ဒါပေမဲ့ ဒီဘဝမျိုးကိုတော့ မပျော်ပိုက်နိုင်ဘူး၊ ကိုယ့်ကို ပျော်ရွှင်စေချင်ရင် အဲဒီ သောက်ရေချိုးခန်းကြီးကို အရင်ဆုံး ပြင်ပစ်ရမယ်၊ မျက်စိနောက်စရာတွေကို ရှင်းပြီး အဖြူ ရောင်သန့်သန့် ပြန်သုတ်ရမယ်၊ အသုဘယာဉ်နဲ့ တူတဲ့ ကားကြီးအစား ရိုးရိုးနဲ့ စက်ကောင်း ကောင်း ကားလေးတစီးပဲ စီးမယ်၊ အမြုတ်တွေ သိပ်ရနေတဲ့ ဝါခင်းနေရာတွေမှာ ဖရဲတွေ အများကြီး ညှပ်စိုက်မယ်။ လူမည်း အလုပ်သမားတွေ ပျော်ပျော်ပါးပါး စားကြပါစေပေါ့၊ လုံလုံလောက်လောက် စားစရာရှိနေရင် တော်ရောပါ့ ၊ မင်း နေ့စဉ်နဲ့အမျှ တွက်နေတဲ့ အမြတ် တွေ မရလည်း အကြောင်း မဟုတ်ဘူး။ ဒီဝက်သစ်ချမြိုင်ကို ကိုယ် ခင်တွယ်ခဲ့ဖူးတဲ့ ဝက်သစ်ချ မြိုင် ဖြစ်အောင် ပြန်လုပ်ယူရမယ်"

အယ်လီနာ အခန်းကို ဖြတ်လျှောက်လာသည်။ ကက်စတာနှင့် မျက်နှာချင်းဆိုင် ရပ်၏။

"ရှင် လုပ်ချင်တိုင်း လုပ်လို့ ဘယ်ရမလဲ"

“ဘာဖြစ်လို့… ”

“ဒီမယ် ကက်စတာ၊ ရှင် သေသေချာချာ နားထောင်၊ ရှင် နားထောင်ဖို့ အလှည့် ရောက်ပြီ”

အယ်လီနာ့ အသံက ရှင်းလင်း ပြတ်သားလာသည်။

“ရှင် ပစ်စလက်ခတ်လုပ်လို့ ဖြစ်ချင်တိုင်း ဖြစ်ပြီး ကုန်းကောက်စရာမရှိတဲ့ ဘဝကနေ ကျွန်မ ပြန်လည်ထူထောင်ခဲ့ရတယ်။ ခုမှ ရှင်က ဟိုပုံသဏ္ဍာန် မကြိုက်ပါဘူး၊ ဒီပုံသဏ္ဍာန် မကြိုက်ပါဘူး လုပ်တယ်။ ကျွန်မ လုံးဝဂရုမစိုက်ဘူး နားလည်လား။ တရားဥပဒေအရ ဝက်သစ်ချမြိုင်ဟာ ကျွန်မလက်ထဲ ရောက်ပြီ ဆိုတာ ရှင် နည်းနည်းကလေးမှ မရိပ်မိဘူးလား”

ကက်စတာက ဘာမျှ ပြန်မပြောနိုင်။ အယ်လီနာကို အကြောင်သား ငေးကြည့်နေ၏။ အယ်လီနာ စကားဆက်သည်။ စကားလုံးတိုင်းသည် တဦးနှင့် တဦးကို ဝေးသည်ထက် ဝေးအောင် လုပ်နေဘိသို့။

“မပြေးသော် ကန်ရာရှိနေပြီ ကက်စတာ၊ ဝက်သစ်ချမြိုင်ကို ကျွန်မ ရောက်လာကတည်းက ဒီမြေတွေနဲ့ ဒီအိမ်ကြီးကို ရှင် မပိုင်တော့ဘူး၊ အရှေ့တောင် ငွေလဲဘဏ်က သနားလို့ ရှင့်ကို နေခွင့်ပေးထားတာ။ သူတို့က ရှင့်ကို မောင်းချမယ် လုပ်တော့ ကျွန်မက စပြီး အလုပ် လုပ်တယ်။ ပထမတန်ွေ ရှင့်ဆီမှာ ကျွန်မ လေ့လာရတယ်၊ ဒါပေမဲ့ အလုပ်စတဲ့နှစ်မှာ ကတည်းက ရှင့်ထက် ကျွန်မ ပိုပြီး အပင်ပန်းခံခဲ့တယ်၊ ဝါဈေးကွက်တွေ ပိတ်လို့ ငတ်မယ်လုပ် တော့ ပရိဘောဂတွေကို ချရောင်းပြီး အိမ်ရဲ့အသက်ကို ဆက်တာလည်း ကျွန်မပဲ၊ အတွင်း ပစ္စည်းတွေကို ပေါင်ပြီး အတိုးတွေ ဆပ်ခဲ့တာလည်း ကျွန်မပဲ။

ဖေဖေ့ဆီက စာရောက်လာလို့ ဝါဂွမ်းရဲ့ အသုံးဝင်ပုံတွေ တွက်ပြီး ဆီဘက်စတိန်ကို ရောင်းခိုင်းထားတဲ့ ဝါဂွမ်းတွေ မရောင်းဖို့ လှမ်းပိတ်နေချိန်မှာ ရှင်က အစ်ဇဘယ်ဗားကိုး ဆိုတဲ့ မိန်းမနဲ့သွားပြီး အိပ်နေတယ်လေ၊ ခြူးတပြားမှ မရှိတဲ့အချိန်မှာ မစ္စတာတိုနယ်လီဆီက စိုက်ပျိုးစရိတ်ချေးပြီး ကျွန်မပဲ လုပ်ငန်းစခဲ့တယ်။ အဲဒီအချိန်မှာ ရှင်က ကိုယ့်ကြောင့် တင်တဲ့ ကြွေးကို ကိုယ်မဆပ်ဘဲ မျိုးချစ်စိတ် ပြင်းပြလှပါချေရဲ့ ဆိုပြီး စစ်သတင်းတွေပဲ ထိုင်ဖတ်နေ တယ်။“မင်းလုပ်ရင် ဖြစ်ပါတယ်ကွာ” ဆိုပြီး မိန်းမသားဖြစ်တဲ့ ကျွန်မပခုံးပေါ်ကို မတန်တဆ တာဝန်ကြီး တွန်းချပေးခဲ့တယ်။ အဲဒီလို ကျွန်မကို ရှင်ထားခဲ့ပြီး ထွက်သွားတဲ့ နောက်ပိုင်းမှာ ရှင့်လို မျိုးချစ်စိတ်ပြင်းပြပြီး အမျိုးသားရေးလှုပ်ရှားမှုတွေမှာ ကျွန်မ လျှောက်ပါ နေရင် ဝက်သစ်ချ မြိုင်ဆိုတာ ဒီနေ့ မရှိတော့ဘူးရှင့် သိရဲ့လား။ ရှင် ဒီကို ပြန်လာတဲ့ အချိန်မှာ နေစရာရယ်လို့

ရှိနေသေးတာ ဝက်သစ်ချမြိုင်ကို ကျွန်မ ပြန်ဝယ်ထားလို့ နားလည်လား။ အဲ... ကျွန်မ လုပ်ပုံကိုင်ပုံတွေကို ရှင် မကျေနပ်ဘူး ဆိုရင်တော့ ဝမ်းနည်းပါတယ်လို့ ပြောရုံက လွဲပြီး ကျွန်မ ဘာမှ မတတ်နိုင်ဘူး”

ကက်စတာ မတုန်မလှုပ် ကျောက်ဆစ်ရုပ်လို နားထောင်နေ၏။ အယ်လီနာ စကားစ ပြတ်သွားမှ မသိမသာ လှုပ်ရှားလာသည်။ အိတ်ထဲ နှိုက်ထားသည့် လက်တဖက်ကို ထုတ် သည်။ တံခါးဖုကို နောက်ပြန်ကိုင်သည်။

“မင်း ပြောတာတွေ အားလုံး မှန်တယ်”

သူ့အသံက တိုးလွန်းလှ၏။

“လက်စသတ်တော့ ကိုယ်က ဒီအိမ်မှာ ဧည့်သည်ပဲ၊ ဧည့်သည် တယောက်အနေ နဲ့ ရိုင်းပျမိတာ ခွင့်လွှတ်ပါ”

ပြောပြောဆိုဆို အခန်းထဲမှ ထွက်သွားသည်။

အယ်လီနာ သူ ထွက်သွားသည်ကို စောင့်ကြည့်နေ၏။ ရင်ထဲတွင်တော့ ပေါ့သွား သလိုလို၊ အောင်နိုင်လိုက်သလိုလို ခံစားရ၏။ သို့သော် နာကျင်နေဆဲ။ ကက်စတာ သူ့အခန်း ထဲသို့ ချိုးဝင်သွားသည်။ ပြီးတော့ တံခါးကို ဆွဲပိတ်လိုက်၏။

အခန်းထဲတွင် ဗီရိုဖွင့်သံ၊ အံဆွဲတွေ ဆွဲသံများ ကြားနေ၏။ ဖြုန်းခနဲ ရင်တွေ ခုန်လာသည်။ ရင်ဘတ်ကို လက်တဖက်နှင့် ယောင်ယမ်းပြီး ဖိလိုက်မိ၏။ သည်မျှ ရက်ရက်စက်စက် ပြောဖို့ ရည်ရွယ်ရင်းစွဲ မရှိခဲ့ပါ။ ပြောမိသည့် စကားတွေကို နားထဲတွင် ပြန်လည်ကြားယောင် လာ၏။ ဘုရား . . . ဘုရား၊ ဘယ်ယောက်ျားမျှ ခံနိုင်စွမ်းရှိမည့် စကားလုံးများ မဟုတ်ပါလား။ အထူးသဖြင့် ကက်စတာလို ယောက်ျားမျိုးအတွက် ပို၍ ပြင်းထန်သည့် စကားလုံးတွေပါလား။ ကက်စတာ့ အခန်းထဲမှ လှုပ်ရှားသံတွေက ပို၍ မြန်ဆန်လာသည်။ ဘုရား... ဘုရား အခြေ အနေကို တွေးမိလိုက်သည်နှင့် တပြိုင်နက် ရှေ့မှ နံရံကြီးတခုလုံး ယိမ်းထိုးလှုပ်ရှားသွား သည်ဟု ထင်လိုက်ရ၏။

သူ့အခန်းဆီသို့ တအား ပြေးချသွားသည်။ တံခါးကို ကမန်းကတန်း ဆွဲဖွင့်လိုက် သည်။

သားရေသေတ္တာ နှစ်လုံးက ကြမ်းပြင်ပေါ်တွင် ဖွင့်လျက်သား။ တဝက်တပျက် ထည့်ပြီး နေပြီ။ ဖိနပ်တွေ၊ ညဝတ်အင်္ကျီတွေပါ လုံးထွေးပြီး ပစ်ထည့်ထားခြင်း ဖြစ်၏။ အံဆွဲတွေက ဆွဲဖွင့်ထားလျက်သား။ အဝတ်ဗီရိုနှင့် ကြမ်းပြင်ပေါ်မှ သေတ္တာတွေဆီသို့ ကူးချည် သန်းချည် နှင့် ယောက်ယက်ခတ်နေသည်။ အယ်လီနာ

ဝင်လာသည်ကို မြင်တော့ တချက် လှမ်းကြည့်ပြီး ပစ္စည်းတွေကို ဆက်သိမ်းနေသည်။

"မောင် အဲဒါ ဘာလုပ်တာလဲ ဟင်၊ ဘယ်သွားမလို့လဲ"

အယ်လီနာ့ အသံက ဆို့ဆို့နင့်နင့် ပြောမေးလိုက်၏။

"ဘယ်ရယ်လို့ မသိသေးဘူး"

ကက်စတာက သေတ္တာနံဘေးတွင် ဒူးထောက်လျက် သွားပွတ်တံကို အိတ်ထဲသို့ ထည့်ရင်း မော်မကြည့်ဘဲ ပြန်ပြောသည်။

"အယ်လီနာ စိတ်လိုက်မာန်ပါ ပြောမိတာပါ မောင်ရယ်၊ အယ်လီနာ မပြောသင့်ပါဘူး၊ ခွင့်လွှတ်ပါ မောင်ရယ်"

"ကိုယ့်အခြေအနေ ကိုယ် သိဖို့ ကောင်းတယ်"

ကက်စတာ့အသံက တည်ငြိမ်နေပြီ။

"ခြောက်လလုံးလုံးကြီး တပြားတချပ်မှ မပေးဘဲ စားသောက်နေတဲ့ ညော့်သည်မှန်း ကိုယ့်ကိုယ်ကိုယ် မသိခဲ့ဘူး၊ ကိုယ်ဟာ တကယ့် ငတုံးပဲ"

အယ်လီနာက လက်ချောင်းကလေးတွေကို ဆက်ပြီး ဖျစ်ဖျစ်မြည်သည်အထိ ချိုးလိုက် သည်။

"မောင်ရယ် . . . တောင်းပန်နေပါတယ်၊ အယ်လီနာ့ကို ခွင့်မလွှတ်နိုင်ဘူးလား ဟင်၊ ဒေါသဖြစ်လွန်းလို့ ပြောမိတာပါ ။ မောင် ထင်တဲ့ အဓိပ္ပာယ်မျိုး ပြောတာ မဟုတ်ပါဘူး မောင်ရယ်၊ အယ်လီနာ့ကို ခွင့်လွှတ်ပါ"

အယ်လီနာ သနားစဖွယ် တောင်းပန်၏။ ငိုသံကလေးများ လှိုင်းထလျက်။

"ကဲ... ဖယ်ပါ၊ အဲဒီဘက်က ကုတ်အင်္ကျီ ယူမလို့"

အယ်လီနာ ဖယ်ပေးလိုက်ရသည်။ လှည့်မကြည့်ဘဲနှင့် သိလိုက်၏။ မတ်တတ် မီးတိုင် အုပ်ဆောင်းပေါ်တွင် ကုတ်အင်္ကျီ တင်ထားခြင်း ဖြစ်မည်။ ကုတ်အင်္ကျီကို လှမ်းယူပြီး ခေါက် သည်။

အယ်လီနာ ဘာဆက်ပြောရမှန်း မသိဘဲ အားငယ် နွမ်းလျစွာ ရပ်ကြည့်နေသည်။ ကက်စတာက ရှိသမျှ ပစ္စည်းအားလုံး သိမ်းထည့်နေ၏။

တခုပြီးတခုပစ်ထည့်နေခြင်း ဖြစ်၏။ ပြီးတော့ သေတ္တာကို ပိတ်သည်။ တော်တော်နှင့် ပိတ်မရ။ သေတ္တာခါးပတ်ကြိုးနှင့် ခါးပတ်ကွင်းမှ အပေါက်တွေ လွဲလိုက်၊ အဖုံးမှ ချိတ်နှင့် ကိုယ်မှ ချိတ် မမိလိုက်နှင့် အလုပ် ရှုပ်နေသေးသည်။ ပြီးတော့ မတ်တတ်ရပ်လိုက်သည်။ သေတ္တာကို လက်တဖက်ဆီမှာ ဆွဲပြီး အယ်လီနာ ရပ်နေသည့် ရှေ့မှ ဖြတ်ပြီး အခန်းထဲမှ ထွက်သွားတော့သည်။

အယ်လီနာ နောက်မှ ပြေးလိုက်သွား၏။ လှေကားဆင်းခါနီးတွင် မီသည်။

"မောင်ရယ်... အယ်လီနာ နောက်ထပ် တောင်းပန်ပါတယ်ကွယ်၊ မသွားပါနဲ့၊ ဒီတခါ ထပ်ပြီး မောင်နဲ့ မခွဲပါရစေနဲ့ မောင်ရယ်... နော်"

ကက်စတာက သေတ္တာနှစ်လုံးကို ချလိုက်သည်။ နောက်သို့ တပတ်လှည့်ပြီး အယ်လီနာ့ကို စိန်းစိန်းကြည့်သည်။ ခြေဆုံး ခေါင်းဆုံး ကြည့်သည်။ သူ့မျက်နှာက ကျောက်ရုပ် မျက်နှာနှင့် တူနေ၏။ နှုတ်ခမ်းထောင့်ကလေးတနေရာတွင်သာ မသိမသာ ကွေးညွတ်နေ သည်။

ပြီးတော့ တလုံးချင်း ပြောလိုက်၏။

"မင်းဟာ လမ်းပေါ်က အပေါစား မိန်းမတယောက်ရဲ့ အတွေးအခေါ်မျိုးပဲရှိတဲ့ မိန်းမ၊ ငါ့ကို တားနေစရာ မလိုတော့ဘူး"

သေတ္တာနှစ်လုံးကို ကောက်ကိုင်ပြီး လှေကားမှ ဆင်းသွားသည်။ လှေကားထိပ်တွင် အယ်လီနာ မတ်တတ်ရပ်ပြီး ကျန်ရစ်၏။ ဆို့နင့်နေသော လည်ချောင်းကို လက်တဖက်နှင့် ပင့်ကိုင်ထားလိုက်သည်။ အသက်ကို အနိုင်နိုင် ရှူနေရ၏။ စကား မပြောနိုင်တော့။ အိမ်ရှေ့ တံခါးပိတ်သံနှင့် မရှေးမနှောင်း ကားထွက်သွားသံ ကြားလိုက်ရ၏။

ညပိုင်းတွင် ကပ္ပလီလူစိမ်းတယောက် ကားကို ပြန်ပို့သည်။ တံခါးဖွင့်ပေးသည့် ကာမီယို က စာရွက်ပိုင်းကလေး တရွက် ယူလာပေးသည်။

"မင်း ကားကို ခဏ ယူသွားရတဲ့အတွက် စိတ်မကောင်းပါဘူး၊ ဒါပေမဲ့ ဓာတ်ဆီ အပြည့် ပြန်ထည့်ပေးလိုက်ပါတယ်"

※※※

# အခန်း (၁၂)

## (၁)

တပတ်လုံး သူ့ဆီမှ သတင်းမရ။ နောက်မှ စာကြောင်း လေးကြောင်းမျှ ပါသော စာတိုကလေးတစောင် ရောက်လာသည်။ မစ္စစ်စပီမြစ်ညာမှ အစိုးရဝါခင်းတခုတွင် အလုပ် ဝင်လုပ်နေကြောင်းလောက်သာ ရေးထားသည့် စာ။ နောက်ထပ် မရေးတော့။ ရေးစရာ မရှိ၍ မရေးခြင်းလား၊ မိမိကို တမင်နှိပ်စက်နေခြင်းလား ဟူသည်ကို အယ်လီနာ မဝေခွဲတတ်။

ဘယ်တုန်းကမျှ သည်လို စိတ်ဆင်းရဲ၊ ကိုယ်ဆင်းရဲခြင်းမျိုး မဖြစ်ဖူးခဲ့။ အထီးကျန် နိုင်လွန်းလှသည်။ မရေမရာ နိုင်လွန်းလှသည်။ ဘယ်တုန်းကမျှလည်း မိမိသိက္ခာကို သည်ရွေ့ သည်မျှ မောက်ကျော် စော်ကားခံရခြင်း မရှိခဲ့ဖူး။ ဝက်သစ်ချမြိုင်မှ သူ့သဘောနှင့် သူ ထွက် သွားခြင်းဖြစ်၍ ပြန်ဖို့ ကိုယ့်ဘက်မှ စပြီး မပြောနိုင်။ ပြန်လည်ပေါင်းစည်းရေးတွင် နှောင့်နှေး နေသည်မှာ သူ့ကြောင့်လား၊ ကိုယ့်ကြောင့်လား ဟူသည်ကိုလည်း မဝေခွဲတတ်။

မမာသည့် နှစ်က ဆောင်းကို ပြန်သတိရမိသည်။ ခန္ဓာကိုယ်မှ ဝေဒနာသည် အာရုံ ခံစားမှုများကို တစစီ ဖွဲ့ခြွေနေသလို ခံစားခဲ့ရ၏။ ယခု ခံစားနေရသည့် ဆောက်တည်ရာ မရသော စိတ်ဆင်းရဲမှု ဝေဒနာတမျိုးကမူ နှလုံးသည်းပွတ်တွေကို နုပ်နုပ်စဉ်းနေဘိသို့ ရှိ၏။ အိမ်ပတ်ဝန်းကျင်ကို လမ်းလျှောက်သည်။ လူရှင်းသည့် ဘက်သို့ ကားလျှောက် မောင်းသည်။ သို့သော် လှုပ်ရှားမှု အားလုံးသည် စိတ်ညို့ခံထားရသူတယောက်နှင့် တူနေ၏။

အလွန်မတန် အမြင်ကြည်လင်ပြီး ရှင်းလင်းပြတ်သားခဲ့သည့် စိတ်အာရုံသည် ယခုတော့ နောက်ကျုရီဝေလျက် ရှိသည်။ လမ်းပေါ်က အပေါစားမိန်းမ တယောက်ရဲ့ အတွေးအခေါ် တဲ့။

အိပ်မပျော်သည့် ညများတွင် မျက်စိကြောင်ပြီး အဖြစ်အပျက်ကို ပြန်စဉ်းစားသည့် အခါ ရက်ဒေါ်သဖြင့် ဆတ်ဆတ်ခါ နာကြည်းရပြန်သည်။ ဟိုတုန်းက ဆိုလျှင် "အပြောအဆို မယဉ်ကျေးဘူး၊ တဲ့တိုးနိုင်လွန်းတယ်၊ အနုပညာကို မခံစားတတ်ဘူး" စသည်လောက်သာ ဝေဖန်ဖူးသည်။

နောက်ဆုံး ပြောခဲ့သည့် စကားလုံးတွေကို ပြန်တွေးမိပြန်သည်။ ပိသာလေးနှင့် ဘေးပစ်သည့် အမုန်တရားတွေမို့ သူ ခံနိုင်ရည် မရှိခြင်း ဖြစ်၏။ မတတ်နိုင်ဘူးလေ၊ အစော်ကား ခံရလွန်းတော့လည်း သဘာဝအရ တုံ့ပြန်ရမည် မဟုတ်လား။

စိတ်လှုပ်ရှားစဉ် ခဏမျှသာ။ အောက်မေ့လွမ်းတမှုက ရင်မှာ ကြီးစိုးနေမြဲ။ မောင့်ကို ချစ်သည့် အချစ်က အတိုင်းအဆ မရှိ အချစ်မျိုး။ အစားထိုးမရသည့် အချစ်မျိုး မဟုတ်လား ကွယ်၊ တလောကလုံးမှာ မောင့်ထက် ပိုပြီး မြတ်နိုးရတဲ့ အရာ အယ်လီနာ့မှာ မရှိတာ အမှန် ပါကွယ်၊ ပြန်လာပါတော့. . . မောင်။

စာတစောင် ကောက်ရေးသည်။

"ကလေးတွေကလည်း မောင့်ကို တဖွဖွ မေးနေကြပြီ" ဟု စပြီးမှ ဆုတ်ပစ်လိုက်သည်။ ကလေးတွေ တဖွဖွ မေးနေသည်ကတော့ အမှန်။ သို့သော် သားသမီးတွေကို ခုတုံး မလုပ်ချင်။ သူ့ဘက်က သည်အတိုင်း ထင်သွားမှာကိုလည်း မခံနိုင်။ ကလေးတွေကို ဖေဖေ မကြာခင် ပြန်လာမှာပါဟုသာ နှစ်သိမ့်ထားရသည်။ ပတ်ဝန်းကျင် အမေးအမြန်းတွေကိုတော့ ဝါဂွမ်းကိစ္စ နှင့် ခရီးသွားနေသည်ဟု ခပ်ပြတ်ပြတ် ပြောထားလိုက်သည်။ ထူးထူးထွေထွေ ထပ်မမေးကြ တော့။ ဘယ်သူနှင့်မျှ မတွေ့ချင်၊ စကားပြောချင်စိတ် မရှိသဖြင့် အချိန်ရတိုင်း ကားလျှောက် မောင်းနေလိုက်၏။ မိမိ ကိုယ်ရေးကိုယ်တာကို ဘယ်သူနှင့်မျှလည်း မတိုင်ပင်လို။

သို့သော် တဖြည်းဖြည်းနှင့် ကိုယ့်အတွင်းရေး ကိစ္စသည် ပတ်ဝန်းကျင်နှင့်ပါ ဆက်နွှယ် လျက် ရှိကြောင်းကို ခံပြင်းဖွယ်ရာ ရေးရေးမြင်လာသည်။ ကောလာဟလတွေ တခုပြီးတခု ထွက်လာသည်။ အမှောင်လမ်းမှ ပင့်ကူအိမ်တွေနှင့် တူသည်။ တခုပြီးတခု ဖယ်ရှားသွားရင်း သွားရင်းနှင့် ပင့်ကူအိမ် မရှိတော့သည့်တိုင်အောင် မျက်စိထဲတွင် ရှိနေသေးသည်ဟု မြင်ယောင် နေတတ်သလို ဖြစ်လာ၏။

မြို့ထဲ ရောက်၍ အအေးဆိုင် ဝင်ဖြစ်သည်။ ကိုကာကိုလာ ဖန်ခွက်ကို ကိုင်ပြီး ကလယ်ရာ နှင့် ဆီလ်ဗီယာတို့ တွတ်ထိုးနေကြသည်။ အယ်လီနာကို မြင်တော့ တုံ့ခနဲ စကားရပ်ပြီး လိုအပ် သည်ထက် ပိုသည့် ပျူငှာမှုမျိုးနှင့် ခေါ်သည်။

"ဟော… အယ်လီနာ ပါလား၊ လာလေကွယ်… ထိုင်ပါဦး"

အယ်လီနာက အချိန်မရလို့ပါဟု အကြောင်းပြပြီး နို့ခဲတထုပ်နှင့် ဖီးလစ်အတွက် ဘီးတချောင်း ဝယ်ခဲ့သည်။ ဖီးလစ်၏ ရွှေရောင်ဆံပင်ကလေးများမှာ မိန်းကလေးတွေ မနာလိုချင်စရာ ကောင်းလောက်အောင် လှသည်။ အခွေခွေ

အလိပ်လိပ်ကလေးတွေ။ ပတ်ဝန်း ကျင်ကို တချက် ဝေ့ကြည့်လိုက်သည်။ ဆီလ်ဗီယာက ရာသီဥတု အကြောင်းကို အဆက် အစပ်မရှိ ပြောနေပုံ ရ၏။

သူ့အရွယ်နဲ့ ဘာပြုလို့များ လည်ပင်း အတွန့်တွေ ဘာတွေ ဝတ်နေရပါလိမ့်၊ ဘာပြုလို့ ဒါလောက် နှုပ်ချင်နေရပါလိမ့်၊ ပြီးတော့ ဘာပြုလို့ ငါ့ကို ခဏခဏ ခိုးကြည့်နေကြပါလိမ့်။ အယ်လီနာ တောင်စဉ်ရေမရ တွေးနေ၏။

အိမ်ရောက်တော့ ကလေးတွေအတွက် ညစာကျွေးဖို့ စီစဉ်ပေးရန် မီးဖိုဆောင်သို့ ဝင်ခဲ့ သည်။ ဒစ်စီနှင့် ဘက်စီ စကား ပြောနေကြသည်ကို တဝက်ပွင့်နေသော တံခါးရွက်ကြားမှ လှမ်းမြင်ရ၏။

"ဟင်... ဟုတ်ရဲ့လားဟာ" ဟု ဒစ်စီက တစုံတခုကို မယုံကြည်သလို ပြန်မေး သည်။ ဘက်စီက-

"မသိဘူးလေ၊ အဲဒီလို ပြောနေကြတာ ကြားတာပဲ"

အယ်လီနာ အထဲ ဝင်သွားတော့ သူတို့နှစ်ယောက်လုံး ချာခနဲ လှည့်ပြီး ပျာပျာသလ ` နှင့်-

"ဟုတ်ကဲ့ မမလေး၊ ဘာလုပ် ပေးရမလဲရှင့်" ဟု ပြိုင်တူ မေးကြသည်။ သူတို့သာ လူဖြူမတွေ ဖြစ်လျှင် မျက်နှာတွေ နီရဲနေမည် ထင်၏။

"သစ်ဖြူတော" စခန်း လက်ဖက်ရည်ပွဲကို လာခဲ့ပါမည်ဟု အယ်လီနာ ကတိပေးထား သည်။ အခြား ပြည်နယ်တခုမှ ရောက်လာမည့် ကလယ်ရာ၏ အစ်မဖြစ်သူ မစ္စက်မေနုဒ် အတွက် ကြိုဆိုသည့် လက်ဖက်ရည်ပွဲ ဖြစ်သည်။ လက်ဖက်ရည်ဝိုင်းမှာ ငြီးငွေ့စရာ ကောင်းလှသည်။ အားလုံး ပျင်းတိပျင်းတွဲနှင့်။ အကျိုးအကြောင်း ဘာမျှ မသိရှာသည့် မစ္စက်မေနုဒ်က အကြောင်းအရာတခုကို စလိုက်မှ အားလုံး လှုပ်လှုပ်ရှားရှား ဖြစ်သွားသည်။

"ဒါထက် အစ်ဇဘယ်တယောက် အကြောင်း ဘာမှ ပြောသံ မကြားပါလား၊ မြို့ထဲ မှာကော ရှိသေးရဲ့လားကွဲ့"

ကလယ်ရာက ပျာပျာသလဲ ဝင်၍-

"ရှိပါတယ်၊ ဒီမှာပဲ ရှိနေပါသေးတယ်"

သူ့အစ်မ၏ အမေးကို ပြန်ဖြေနေသည့် ကလယ်ရာ့ မျက်နှာမှာ ပျက်နေသည်။ တဆက် တည်းတွင် ဝိုင်အိုလက်ကို စန္ဒရားတီးဖို့ တိုက်တွန်းလိုက်၏။ အခြား

အမျိုးသမီးနှစ်ယောက်၊ သုံးယောက် စန္ဒရားဆီသို့ အလောတကြီး ထသွားကြသည်။ သူတို့ အမှုအရာတွေက အချဉ်ခွက် မှောက်သွား၍ စားပွဲခင်းတွေ စွန်းပေသွားသည့်အတွက် လက်နှင့်တိုက်မိသည့် ဧည့်သည်ကို ဂရုမြွေမပျက်စေရန် ဧည့်ခံနေသည့် အိမ်သည်နှင့် တူနေ၏။ ဝိုင်အိုလက်က စိတ်မပါ လက်မပါ ပုံစံနှင့် ထသွားသည်။ အယ်လီနာ တယောက်တည်း ဝေဖာဘီစကွတ်ကို ဝါးရင်း အလံတိုင် တခုလို ထီးထီးကြီး ဖြစ်နေ၏။ ဝိုင်အိုလက်ကို သဘောကျနေ၏။ ဝိုင်အိုလက်က လက်တွေ့ ကျသည်။ သူများကိစ္စကို စိတ်မဝင်စားတတ်။

သည်အဖြစ်မျိုးကလေးများသည် မမြင်ချင်ဟန်ဆောင်နေရန် မဖြစ်နိုင်လောက်အောင် ရံဖန်ရံခါ ကြုံလာသောအခါ ကိုယ့်သိက္ခာ ကိုယ် ထိန်းသည့်အနေဖြင့် မသိကျိုးကျွန် ပြုနေလိုက် တော့၏။ အတင်းအဖျင်းများသည် မီးဖိုဆောင်မှ ဧည့်ခန်းသို့ တိုင်အောင် လှိုင်လှိုင်ကြီး ပျံ့လွင့် နေ၏။ နားနှင့်ဆတ်ဆတ် ကြားသည့်တိုင်အောင် မကြားဟန်ပြု၍ နေတတ်လာ၏။ဘယ်သူ ကမျှ တိုက်ရိုက်လာပြောခြင်း မဟုတ်။ သို့သော် ပတ်ဝန်းကျင်တခုလုံးကို ကြည့်ပြီး အလိုလို သိနေ၏။

အယ်လီနာကို ဖိတ်သည့် ပွဲတိုင်း အစ်ဇဘယ်ကို မဖိတ်ကြ။ အစ်ဇဘယ် အမည်ကို အယ်လီနာရှေ့တွင် ထုတ်ပြော ဖြစ်ကြသည်မှာ သည်တကြိမ်တည်းသာ ဖြစ်၏။ ပြီးတော့ အယ်လီနာကို အသိအကျွမ်း အားလုံးက ခါတိုင်းထက် ပိုပြီး ကြင်ကြင်နာနာ ဆက်ဆံနေ၏။ ဒါကိုတော့ အယ်လီနာ မခံနိုင်၊ ဒေါသထွက်ရ၏။

အယ်လီနာ ဆိုသည့် မိန်းမက တွယ်ရာမဲ့ ဘဝမှာပင် အရှုံးပေးတတ်သူ မဟုတ်။ ရွက်မရှိလျှင် တက်၊ တက်မရှိလျှင် လက်ချည်း လှော်မည့် မိန်းမ။ ဖိတ်သမျှပွဲကို တက်သည်။ လမ်းတွေ့သမျှ အသိအကျွမ်းတွေကို နှုတ်ဆက်သည်။ လူကြီးများအတွက် ညစာစားပွဲကို တခမ်းတနား ဖိတ်ကျွေးသည်။ ကလေးများအတွက်လည်း ပါတီပွဲ သီးသန့်ကျင်းပပေးသည်။ တကိုယ်တည်းရှိနေသည့် အချိန်များတွင်တော့ အိပ်ခန်းထဲတွင် ခေါက်တုံ့ခေါက်ပြန် လမ်း လျှောက်နေတတ်၏။ သည်ကော်ဇောပေါ်မှာ ငါ လျှောက်နေတာ မိုင်ပေါင်း တော်တော်များပြီ ဟု ကိုယ့်ကိုယ်ကိုယ် သတိထားမိသည့် အချိန်ထိ လျှောက်သည်။ ထိုစဉ် မိမိကိုယ်ကိုယ်လည်း အပြစ်တင်မိ၏။ ကက်စတာကိုလည်း အပြစ်တင်၏။ အစ်ဇဘယ်ကိုလည်း မုန်း၏။ သို့သော် တခု ဆုံးဖြတ်ထား၏။ ယင်းတခုတည်းသော ဆုံးဖြတ်ချက်မှာ ရင်ထဲတွင် လောင်မြိုက်နေ သည့် သောကမီးကို ဘယ်သူမျှ မရိပ်မိရန် ဖြစ်၏။

ခန်းမဆောင်ဘက်ဆီသို့ လျှောက်လာခဲ့သည်။ ဝက်သစ်ချမြိုင်၏ ဘိုးစဉ် ဘောင်ဆက် ပန်းချီကားကြီးများကို မော်ကြည့်နေ၏။ “လန်း” မျိုးဆက်မှ

ယောက်ျားသားများကို လက်ထပ် ခဲ့သည့် အမျိုးသမီးပုံများကို သေသေချာချာ လိုက်ကြည့်သည်။ အားလုံး နပိုလီယံခေတ် ဆင်ယင် ထုံးဖွဲ့မှုများဖြင့် ဝတ်ဆင်ကြ၏။ ဂါဝန်ခါးစည်းက ရင်ညွှန့်နားတွင် တက်စည်းထားသည်။ အင်္ကျီလက်က ဘူးပွင့်ပုံစံ။ သူတို့အပြုံး၏ နောက်ကွယ်မှ ခံစားမှုများကို ရှာဖွေကြည့်သည်။ ပျော်ရွှင် ကြည်နူးနေကြသည်လား၊ စိတ်ပျက် အားငယ်နေကြသည်လား၊ သောကကို ရင်စည်း ပြီးခံရင်း ပြုံးနေကြသည်လား။ သူတို့ အပြုံးများမှာ အသိရခက်သည့် အပြုံးများ ဖြစ်သည်။ ဝေဒနာကို ရဲရဲရင့်ရင့် ခံယူနိုင်ကြသည့် အပြုံးမျိုးတွေဟု ခံစားမိ၏။ ဝေဒနာသည် အကြင်နာ နှင့် ကျောချင်းကပ် ရှိသည်ကို သိနေသည့် အပြုံးမျိုးတွေ။

※※※

(၂)

ဒီဇင်ဘာလ ပထမပတ်တွင် ဆီလ်ဗီယာ ဝက်သစ်ချမြို့သို့ အလည်အပတ် ရောက်လာ သည်။ ရာသီဥတု ဆိုးသွမ်းပြီး နှင်းမှောင် ကျနေသည့် နေ့တွင် ရောက်လာ၍ အယ်လီနာ အံ့သြနေ၏။

"ဝမ်းသာလိုက်တာ အစ်မဆီလ်ဗီယာရယ်၊ ချမ်းချမ်းစီးစီးနဲ့ တကူးတက လာလည် တာ ကျေးဇူးလည်း တင်ပါတယ်"

"လာချင်နေတာ ကြာလှပါပြီ ညီမရယ်"

ဆီလ်ဗီယာက အယ်လီနာ့ လက်ကို တင်းတင်းဆုပ်ရင်း ပြောလိုက်သည်။

ဆီလ်ဗီယာတို့ အရွယ်ရောက်လျှင် ပါးပေါ်က အရေးအကြောင်းများကို မိတ်ကပ်ဖြင့် အလွန်အကြူး ဖုံးတတ်ကြကြောင်းများကို သတိထားမိရင်း-

"အစ်မဆီလ်ဗီယာ့ လက်တွေလည်း အေးစက်လို့ပါလား၊ ကော်ဖီပူပူကလေး သောက် လိုက်နော်"

"ကျေးဇူးပါပဲကွယ်"

အယ်လီနာက ဂရုတစိုက် ဆက်ဆံသည်။ ဆီလ်ဗီယာ၏ အနွေးထည်ကို ကူချွတ်ပေး သည်။ ဦးထုပ်ကလေး လှကြောင်းကို ချီးကျူးပြောဆိုသည်။ စင်စစ် အနွေးထည်ရော ဦးထုပ်ပါ ဆီလ်ဗီယာ့ အရွယ်နှင့် လုံးဝ မလိုက်တော့။ ဆယ်ကျော်သက် ကလေးများ ဝတ်သည့် ပုံစံတွေ ဖြစ်၏။

လက်တင် သားရေကုလားထိုင်တွင် သက်သောင့်သက်သာ ထိုင်စေသည်။ ကာမီယိုက ကော်ဖီ ယူလာပေး၏။

အယ်လီနာက ကော်ဖီငှဲ့ပေးရင်း -

"ကဲ... ရောက်တုန်း အေးအေးဆေးဆေးပေါ့နော် အစ်မ ဆီလ်ဗီယာ၊ စကားတွေ ပြောကြတာပေါ့"

ဆီလ်ဗီယာက ညင်ညင်သာသာကလေး ပြုံးသည်။

"ဒါပေါ့ကွယ်၊ ခုလို ရာသီဥတုမှာ မီးဖိုနံဘေးထိုင်ပြီး လေကန်ရတဲ့ အရသာက ဘာနဲ့ မှ မတူဘူးကွဲ့"

"ဟုတ်တယ်နော် အစ်မ ဆီလ်ဗီယာ"

"ရွက်လှပန်းတွေက ဒီနှစ် ပိုလှတယ်နော်၊ ဝင်လာကတည်းက သတိထားမိခဲ့တယ်"

"ကျေးဇူးတင်ပါတယ်ရှင်"

ကော်ဖီကို တစိမ့်စိမ့်သောက်ရင်း ရွက်လှပန်းတွေ အကြောင်း ဆက်ပြောကြသည်။

"ဒါထက် ပန်းခြံကို မင်းကိုယ်တိုင် လုပ်တာလား အယ်လီနာ"

"မဟုတ်ပါဘူး အစ်မ ဆီလ်ဗီယာ၊ ဥယျာဉ်မှူးတယောက် ငှားထားပါတယ်"

"ပန်းစိုက်တဲ့ အလုပ်ဟာ သိပ်ကျန်းမာရေးနဲ့ ညီညွတ်တာကွဲ့၊ ညီမကိုယ်တိုင် လုပ်ဖို့ ကောင်းတယ်၊ လေကောင်း လေသန့်ရော နေရောင်ခြည်ပါ ရတာပေါ့ကွယ်၊ ပြီးတော့လည်း စိတ်ငြိမ်တာပေါ့၊ အာရုံ အပြောင်းအလဲလည်း ရတာပေါ့"

ဆီလ်ဗီယာက စိတ်ပါလက်ပါ ပြောနေ၏။

အယ်လီနာက ဘာမျှ မတုံ့ပြန်သောအခါ ကုလားထိုင်ကို ရှေ့သို့ တလက်မခန့် ဆွဲပြီး-

"ခုတော့ ပျော်ပျော်ပဲ နေတယ် မဟုတ်လား ဟင်"

"ရှင် . . . အယ်လီနာမှာ ပျင်းချိန်လည်း မရှိပါဘူး အစ်မဆီလ်ဗီယာရယ်၊ ခရစ္စမတ် အတွက် ပြင်ရဆင်ရ၊ ကလေးနှစ်ယောက်အတွက် ဝေယျာဝစ္စလုပ်ရနဲ့။ စာရေးစရာတွေ ရှိတာ တောင် ခုလို ရာသီဥတုဆိုးတဲ့ နေ့မျိုးမှာပဲ ရေးနိုင်တယ်"

"စာတွေက အများကြီး ရေးရလို့လားကွယ်"

"အယ်လီနာမှာ ညီအစ်ကို မောင်နှမ ငါးယောက်တောင် ရှိတယ်လေ၊ မိဘနှစ်ပါးလုံး လည်း ရှိသေးတယ်၊ ပြီးတော့ မိတ်ဟောင်း ဆွေဟောင်းတွေလည်း ရှိသေးတယ် မဟုတ်လား"

အယ်လီနာက ခပ်လုံးလုံး ဖြေလိုက်၏။

“ဒေါ်ဆီလ်ဗီယာရေ၊ ကက်စတာ့ဆီ စာ ရေး၊ မရေး သိချင်ရင်တော့ သည့်နည်းနဲ့ မရဘူး ရှင်ရေ့” ဟု စိတ်ထဲမှ ပြောလိုက်၏။

သို့သော် ဆီလ်ဗီယာက လက်မလျှော့သေး။

“ဒီလောက် လူဝေးသူဝေး နေရာမှာ ခုလို နေရတာ အယ်လီနာ မငြီးငွေ့ဘူးလား ဟင်"

“ရှင်... မငြီးငွေ့ပါဘူး၊ ကျွန်မမှာ ဒီလောက် ကြီးမားတဲ့ တာဝန်တွေနဲ့ ဘယ်မှာ ငြီးငွေ့ချိန်ရှိပါ့မလဲ အစ်မ ဆီလ်ဗီယာရယ်။ အားတဲ့ အခါလည်း ကလေးတွေ အဖော်ရှိနေသားပဲ”

“မဟုတ်သေးဘူးလေကွယ်၊ ကလေးတွေဟာ တကယ်တော့ အဖော်လို့ ပြောလို့ မရ ဘူး ထင်တယ်”

“ဘာဖြစ်လို့လဲ၊ ကျွန်မအတွက် ဒီကမ္ဘာမှာ အကောင်းဆုံး အဖော်ဟာ သမီးနဲ့ သားပဲ အစ်မ ဆီလ်ဗီယာရဲ့”

အယ်လီနာ့ ဆင်ခြေက အားကောင်းလွန်းနေ၍ ဆီလ်ဗီယာက အသာငြိမ်နေလိုက်၏။ အယ်လီနာက ကော်ဖီအိုးကို ကျော်ပြီး ဆီလ်ဗီယာကို ကြည့်နေသည်။ သူ လိုချင်နေသည့် မေးခွန်းကို ဘယ်တော့မှ တိုက်ရိုက်မေးမည် မသိ။

“မင်းအကြောင်းကို အစ်မ အများကြီး စဉ်းစားနေတယ် အယ်လီနာ”

“ကျေးဇူးတင်ပါတယ်ရှင်”

ဆီလ်ဗီယာက ကော်ဖီ လက်ကျန်ကို သောက်လိုက်ပြီး-

“တကယ်ပြောတာကွဲ့၊ မင်း ကြည့်ရတာ သိပ်နေလို့ ကောင်းပုံလည်း မပေါ်ဘူး၊ အရင်နဲ့ လည်း မတူသလိုပဲ”

“အယ်လီနာ့ ကျန်းမာရေးက ဒေါင်ဒေါင်မြည်ပါ အစ်မ ဆီလ်ဗီယာရယ်”

“ကိုယ် ကျန်းမာနေရုံနဲ့ မပြီးဘူးလေ၊ စိတ်ချမ်းသာဖို့လည်း လိုသေးတာကိုးကွဲ့”

“ကဲ... ကော်ဖီလည်း နည်းနည်းထပ်ယူပါဦး”

အယ်လီနာက ကော်ဖီငှဲ့ပေးသည်။

ဆီလ်ဗီယာက အခန်းကို တချက် ဝေ့ကြည့်သည်။ ပြီးတော့ အယ်လီနာ့ကို ပြန်ကြည့် သည်။

"အစ်မ မင်းနဲ့ လာတွေ့ချင်နေတာ ကြာပြီကွဲ့၊ ဒါပေမဲ့ မလာဖြစ်ခဲ့ဘူး၊ အင်း... တခါ တခါ ကျတော့ လူတယောက်ရဲ့ တာဝန်ဟာ သိပ်မရှင်းဘူး အယ်လီနာ၊ တာဝန်အရ စေတနာ အသန့်ရှင်းဆုံးနဲ့ လုပ်လိုက်တဲ့ ကိစ္စမျိုးတွေတောင် ဝေဒနာဖြစ်သွားတာတွေ ရှိတယ်။ ဒါပေမဲ့ အစ်မဆီလ်ဗီယာအနေနဲ့ မင်း အကျိုးအတွက် ပြောဖို့ တာဝန်ရှိနေတယ်လို့ ခံစားမိလို့ ခုလို လာခဲ့တာပဲ"

အယ်လီနာက ငြိမ်ငြိမ်ကလေး နားထောင်နေရင်း "နည်းနည်းလေး နာမယ်နော်"ဟု သွားနုတ်ခါနီး ပြောလေ့ရှိသည့် သွားစိုက်ဆရာဝန်ကို သတိရလိုက်၏။

ဆီလ်ဗီယာက အလွန်ကြင်နာတတ်သည့် လေသံမျိုးဖြင့် ဆက်ပြောသည်။ အကြောင်း အရာကို သွယ်ကာ ဝိုက်ကာ၊ ပတ်ကာ ဝိုင်းကာနှင့်။ အယ်လီနာ စိတ်ဝင်စားချင်ဟန်ဆောင်ပြီး နားထောင်နေ၏။ ရင်ထဲကတော့ ကျွဲမြီးတိုလှပြီ။

"မင်းတို့ လက်ထပ်တုန်းကဆိုရင် တို့ သိပ်ဝမ်းသာကြတာပေါ့ကွယ်" ဟု အစချီပြီး ဇာတ်ကြောင်း ပြန်လှန်သည်။

"ဒါပေမဲ့ ခြေမကိုင်မိ လက်မကိုင်မိ ဖြစ်ကုန်ကြတယ် ဆိုတာတော့ မင်းလည်း အကဲခတ်မိမှာပေါ့၊ ဒီအကြောင်းကို လိုအပ်တဲ့ အခါကျမှ ပွင့်ပွင့်လင်းလင်း ပြောဖို့ စိတ်ကူး ထားခဲ့တယ်"

"ဟုတ်လား"

"ဒီလိုကွဲ့၊ ညီမ အယ်လီနာဟာ ချစ်စရာ ကောင်းတယ်၊ ခေတ်ပညာတတ် မိန်းကလေး တယောက် ဖြစ်တယ်၊ မိဘတွေက အထက်တန်းကျကျတွေ၊ မင်းရဲ့အဖေဆိုရင် ဒီနယ်တဝိုက် မှာ ထင်ရှားတဲ့ လူရိုသေ ရှင်ရိုသေပုဂ္ဂိုလ်တယောက်။ သူ့လုပ်ရပ်တွေဟာ ဒီနယ်တဝိုက်ရဲ့ အကျိုးပြုလုပ်ငန်းတွေမို့ တို့အားလုံး မင်းအဖေအတွက် ဂုဏ်ယူ မဆုံးကြဘူး။ မင်းအဖေ ဟာ အမေရိကန်လူမျိုးရဲ့ ပြယုဂ်တခုပဲ မဟုတ်လား"

"ဩော် .. အဲလို ထင်ကြတယ်လား"

အယ်လီနာက အငေါ်တူးတူး လေသံဖြင့် ပြန်မေး၏။

“ဟုတ်တယ်ကွဲ့၊ တို့တိုင်းပြည်မှာ လူတန်းစား ခွဲခြားမှု မရှိဘူး ဆိုတဲ့ ပျော်စရာ အစဉ်အလာဟာ အင်မတန် ဂုဏ်ယူစရာ ကောင်းတာ။ အဲ . . . ဒါပေမဲ့ တအံ့တသြ ဖြစ်ကုန်ကြ တယ် ဆိုတာက . . . ဒီလိုလေ၊ ကက်စတာက သူ့ အသိုက်အဝန်းကို ပုန်ကန်ပြီး ဇွတ်ထွက်သွား တော့၊ အင်း . . . သူ့မှာ အဲဒီလိုလုပ်ဖို့ အခွင့်အရေး မရှိဘူးလို့ အစ်မ မဆိုလိုဘူးနော်။ ဆိုလိုတာက အယ်လီနာနဲ့ ကက်စတာနဲ့ဟာ အဲ... တတန်းတစားတည်းတော့ မဟုတ်ကြဘူး မဟုတ် လား၊ ဒါတော့ မင်း ဝန်ခံရမယ်လေ”

“ကျွန်မတော့ အဲဒီအကြောင်း တခါမှတောင် စဉ်းစားမကြည့်မိပါဘူး ရှင်”

“မင်း အစ်မ ဆီလ်ဗီယာကိုတော့ ပွင့်ပွင့်လင်းလင်း ပြောလို့ တမျိုးမမြင်ကောင်းဘူး ထင်ပါရဲ့၊ အစကတည်းက အစ်မ ဆီလ်ဗီယာဟာ မင်းဘက်က ရပ်တည်ခဲ့ရတာကွဲ့”

“ဟုတ်လား”

“တကယ်ပေါ့ ကလေးရယ်၊ ညီမရဲ့ မျိုးရိုးက ဘယ်လိုလဲ ဆိုတဲ့ ပြဿနာဟာ အသိုက် အဝန်းတခုလုံးမှာ အတော်ကြီး ဂယက်ရိုက်ခဲ့တာကွဲ့။ အို... ကက်စတာ ရွေးကတည်းက တန်းတူရည်တူမို့ ရွေးတာပဲလို့ အစ်မကတော့ နားလည်တာပေါ့။ ဒါပေမဲ့ မစ္စတာအပွဂျွန်းရဲ့ မိဘတွေက အဲ... သမိုင်းကြောင်း မလှခဲ့တဲ့ အကြောင်း ကန့်ကွက်တဲ့လူတွေကို အစ်မက ဒါ ခရစ်ယာန်တိုင်းပြည် ဆိုပြီး ခပ်ကြမ်းကြမ်း ဆန့်ကျင်ပြောမှ အားလုံး ငြိမ်သွားတာကွဲ့”

“အို.... ကျေးဇူးတင်ဖို့ ကောင်းလိုက်တာနော် ”

“အစ်မမှာလေ၊ တခြားအပြစ်တွေ ရှိချင်ရှိမယ်၊ လူမှုရေးနဲ့ တာဝန်ပိုင်းမှာတော့ ဘာမှ ပြောစရာ မရှိဘူး။ မင်းတို့ရဲ့ ဘိုးဘွားတွေဟာလည်း ဂုဏ်ယူ လေးစားထိုက်တဲ့ ပုဂ္ဂိုလ်တွေပဲ မဟုတ်လား... ဟင်”

အယ်လီနာ ယဉ်ယဉ်ကလေး ပြုံးသည်။

“အယ်လီနာတို့ အမျိုးကတော့ ကွယ်လွန်ခဲ့တဲ့ လူတွေကို သိပ်အရေးမထားကြပါဘူး၊ ကောင်းကောင်းမွန်မွန် မြှုပ်နှံသင်္ဂြိုဟ်ပြီးရင် ပြီးတာပါပဲ၊ ဒါလောက်ပါပဲ”

ဆီလ်ဗီယာ ကြောင်သွားသည်။ သို့သော် မူလရည်ရွယ်ချက်ကို မျက်ခြည်ပြတ် မခံဘဲ ဆက်ပြောသည်။

"ဒါတွေကို အစ်မ ပြောတာ မင်းကို ထိခိုက်စေချင်တဲ့ ဆန္ဒ လုံးလုံးမပါဘူးနော်၊ အစ်မကို တလွဲထင်ရင်တော့ တသက်လုံး စိတ်ကောင်းမှာ မဟုတ်တော့ဘူး။ မပြောမပြီးတဲ့ အခြေအနေ ရောက်လာလို့ပါ အယ်လီနာ၊ အပြင်မှာ အတင်းအဖျင်းတွေက လွှန်လွှန်းလာ ပြီကွယ်"

ဆီလ်ဗီယာက တုံ့ပြန်မှုကို ခဏ စောင့်ကြည့်နေသည်။ အယ်လီနာ မတုန်မလှုပ်နေ တော့မှ ဆက်ပြီး-

"ပြောရမှာ ရင်ထဲ မကောင်းလိုက်တာကွယ်၊ ကက်စတာ ခုလို အသိုက်အဝန်းတခုလုံး ကို စွန့်သွားတာ အပြစ်ဆိုလို့ မရဘူးလို့ ပြောနေကြတယ်။ လူတွေဟာ မကောင်းပါဘူးကွယ်၊ ဘာပြုလို့များ သူများကိစ္စကို သားပုပ်လေလွင့် ပြောချင်ကြပါလိမ့်၊ တဖက်သားကို နစ်နာ အောင်၊ ထိခိုက်အောင် ..."

ဆီလ်ဗီယာက ဟန်ပါပါ စကားကို ရပ်လိုက်သည်။

"အယ်လီနာ အဲဒါမျိုးတွေ နားမလည်ပါဘူးရှင်၊ အစ်မဆီလ်ဗီယာပဲ ရှင်းပြပါဦး။ လူ တွေ ဘာကြောင့် အဲဒီ အကျင့်မျိုးတွေ ရှိတတ်ကြတယ် ဆိုတာလေ"

"အိုး . . . အစ်မလည်း မသိပါဘူးကွယ်၊ အစ်မ ရင်ထဲမှာ မင်းအတွက် သိပ်နာကျင်နေ တာပဲ သိတယ်။ အစ်မ ဘာဆိုလိုတယ် ဆိုတာ မင်း သိပါတယ်နော်"

"ဘယ်သိမလဲ အစ်မ ဆီလ်ဗီယာရဲ့"

"ဟုတ်ပါတယ်လေ၊ မင်း မသိတာပဲ ကောင်းပါတယ်၊ မသိပါစေနဲ့လို့ ဆုတောင်းရတာ လည်း အမောပါ ကွယ်။ နောက်ဆုံး ငါ့မှာ တာဝန်ရှိတယ်၊ ဖွင့်ပြောမှ ဖြစ်တော့မယ်လို့ ဆုံးဖြတ် တဲ့ နေ့အထိ အစ်မ ဆုတောင်းတုန်းပဲကွဲ့။ ညီမကို အစ်မက လွဲပြီးတော့လည်း ဘယ်သူမှ ပြောကြမှာ မဟုတ်လို့ ဒီတာဝန်ကို အစ်မ အသိနဲ့ အစ်မ ယူရတာပါကွယ်။ ပထမတော့ မရွံ့မရဲ ဖြစ်နေမိတယ်၊ ဒါပေမဲ့ ကက်စတာ့ အစ်မလည်း ဖြစ်နေပြန်၊ အသားထဲက လောက်ထွက်တဲ့ ကိစ္စမျိုး ကို ပြောရမှာလည်း ဖြစ်နေပြန်တော့. . . စဉ်းစားကြည့်လေ၊ ကက်စတာဟာ သိပ်ဆိုးတဲ့ မောင်တယောက်ပါ ၊ သူ့အတွက် စိတ်ညစ်ခဲ့ရပေါင်းလည်း များပါပြီ။ အဲ.. သူ လက်ထပ်သွား ရင်ဖြင့် ခြေငြိမ်သွားပြီ အောက်မေ့နေတာ"

သူ့မျက်နှာပေါ်မှ အပြုံးက သက်မဲ့အပြုံး။ သူ လိုချင်တာ ငါ့ဆီက မရစေရဘူးဟု အယ်လီနာ တင်းထားသည်။ မထုံတက်သေး အမူအရာနှင့် နားထောင်နေ၏။

"အစ်မ ဆီလ်ဗီယာ ဘာပြောချင်တယ် ဆိုတာ မင်း နားလည်ပါပြီနော်"

သူ့အသံက တောင်းပန်တိုးလျှိုးသံ ပါနေသည်။ အယ်လီနာ ဆက်ပြုံးနေသည်။ ခေါင်းခါလိုက်၏။

"ဟင့်အင်း... ဘာမှန်းကို မသိသေးဘူး၊ ကဲ... ကော်ဖီ ထပ်ယူပါဦး"

ဆီလ်ဗီယာ စိတ်ခံတ်ကျစ ပြုလာ၏။ သွယ်ကာ ဝိုက်ကာ ဆက်ပြောပြန်သည်။ ဥပမာတွေ၊ နိမိတ်ပုံတွေနှင့်။ သို့သော် အယ်လီနာက မသိကျိုးကျွန် ပြုနေဆဲ။

"ထုံးစံအတိုင်းပေါ့ကွယ်၊ ကိုယ့်ယောကျ်ား အကြောင်းကို မိန်းမလုပ်တဲ့ လူက နောက်ဆုံး မှ ကြားရစမြဲပေါ့၊ ကာယကံရှင်ကို သနားလို့ ဆိုပြီး မပြောဘဲ နေတတ်ကြတဲ့ သဘောလေ။ တကယ်တော့ ဆိုရေးရှိရင် ဆိုရမှာပဲ၊ ပြောတဲ့ လူဟာ ကိုယ့်မိသားစု အသိုက်အဝန်းကဆိုရင် ပြောလို့ ပိုကောင်းတာပေါ့လေ။ ဒီတော့ ကက်စတာ့ အမျိုးထဲက တယောက်ယောက်က ပြောသင့်တာပေါ့၊ မဟုတ်ဘူးလား"

"အယ်လီနာ့ အထင်တော့ ကက်စတာ့အမျိုးက ဒီတမြို့လုံးပဲ"

"ဟုတ်တယ်. . . ဟုတ်တယ်၊ ဆွေကြီးမျိုးကြီးတွေကိုး၊ ဒါပေမဲ့ ရင်းနှီးတဲ့ တယောက် ယောက်က ပြောမှ ပိုသဘာဝကျမယ်လေ"

"ဟုတ်ကဲ့၊ ပြောမယ့် အကြောင်းအရာက ဘာပါလိမ့်"

အယ်လီနာ ယဉ်ကျေးစွာ မေးလိုက်သည်။

"ဩော်. . . အပြစ်မဲ့ရှာတဲ့ ညီမ အယ်လီနာရယ်၊ မင်း ဘာမှ မသိရှာဘူးနော် တကယ် မသိတာလားကွယ်"

"ဘာကို သိရမှာလဲ ဟင်"

"ကက်စတာ အစိုးရဝါခင်းတခုမှာ အလုပ်ဝင်လုပ်နေတာ နှစ်လ ရှိပြီလေ၊ ဒါကို ဒီက လူတွေ မသိဘဲ နေကြပါ့မလား"

"သိကြမှာပေါ့၊ လျှို့ဝှက်ကိစ္စမှ မဟုတ်တာပဲ အစ်မ ဆီလ်ဗီယာရဲ့"

"အဲဒါနဲ့ တဆက်တည်း တီးတိုးသတင်းတွေ မင်း ဘာမှ မကြားဘူးလား ဟင်"

"တီးတိုးသတင်း ဟုတ်လား၊ ဘယ်လို တီးတိုးသတင်းလဲ ဟင်"

"သိပ် သနားစရာကောင်းတဲ့ အစ်ဇဘယ့် အကြောင်းပေါ့ကွယ်"

"အင်း. . . ခုမှပဲ လိုရင်း ရောက်တော့တယ်" ဟု တွေးပြီး အယ်လီနာ ပြုံးသည်။ ဆီလ် ဗီယာက အယ်လီနာ့မျက်နှာကို ခိုးကြောင်ခိုးဝှက် လှမ်းကြည့်ပြီး ဆက်ပြော၏။

"တကယ့်ကို ကံဆိုးရှာတဲ့ အမျိုးသမီးပဲကွယ်။ ဒါလောက်ချော၊ ဒါလောက်လှ၊ ဒါလောက် မျိုးရိုးကောင်းတဲ့ ဒီကလေးမကိုမှ ရွေးပြီး ကံကြမ္မာက နှိပ်စက်တယ်လေ။ သိပ် သနားစရာ ကောင်းတာပဲ၊ ခမ်းခမ်းနားနား လက်ထပ်ပြီးမှ ငယ်ငယ်ရွယ်ရွယ်နဲ့ မုဆိုးမ ဖြစ်ရ ရှာတယ်။ သူ ဒီကို ပြန်ရောက်နေပေမယ့် ဘယ်သူ့ကိုမှ စိတ်မဝင်စားဘူး၊ သူ့စိတ်က ကမ္ဘာရဲ့ ဟိုဘက်ခြမ်းမှာ ကျန်ခဲ့တယ် ထင်ပါရဲ့ကွယ်"

ဆီလ်ဗီယာက ခေါင်းကို ဖြည်းဖြည်းကလေး ယမ်းပြီး ပြောသည်။ သူ့အမူအရာမှာ ကမ္ဘာတွင် အခြမ်းပေါင်း ဒါဇင်များစွာရှိပြီး အစ်ဇဘယ်၏ အသည်းနှလုံး ကျန်ခဲ့သည့်အခြမ်းကို ဘယ်အခြမ်းမှန်း မပြောတတ်သည့်အလား။

"စစ်ဖြစ်လို့ ကိုယ့်တိုင်းပြည် ကိုယ် ပြန်လာရပြန်တော့လည်း မိဘ မရှိ၊ သားသမီး မရှိ ဆိုတော့ ဘယ်ပျော်နိုင်ပါတော့ မလဲကွယ်၊ ဒါကို ဘယ်သူမှ ကိုယ်ချင်းမစာကြဘူးကွယ်"

"ကိုယ်ချင်းမစာတဲ့ အထဲမှာ အယ်လီနာတော့ မပါဘူးနော်"

အယ်လီနာ့ လေသံတွင် ဒေါသသံ မပါ။ ပျော်သလိုလိုပင် ဖြစ်နေမိသေး၏။

"ဩော် . . အယ်လီနာရယ်၊ မင်း ကက်စတာ့အပေါ် ချစ်တဲ့ အချစ်မျိုးကတော့ ရှားပါတယ်၊ မင်း ဘာမှ မမြင်နိုင်အောင် ဖြစ်နေတာကိုး။ ကက်စတာနဲ့ အစ်ဇဘယ်တို့ ဖြစ်နေကြတာ မင်း တကယ် မသိဘူးပေါ့ ဟုတ်လား"

အယ်လီနာ့ တုံ့ပြန်မှုကို စောင့်နေ၏။ အယ်လီနာက သည်မေးခွန်းကို ပြန်မဖြေဘဲ အေးစက် တင်းမာသည့် မျက်လုံးများနှင့် ဆီလ်ဗီယာ့ကို စိုက်ကြည့်နေလိုက်၏။ ပြီးတော့မှ အော်ရယ်လိုက်သည်။

"တကယ်ပဲလား အစ်မ ဆီလ်ဗီယာ"

ဆီလ်ဗီယာ ဘာမျှ နားမလည်သလို မျက်လုံး အပြူးသားနှင့် အယ်လီနာ့ကို စိုက်ကြည့် နေ၏။

အယ်လီနာက ဆက်ပြီး ရယ်နေသည်။

"ဩော်... လက်စသတ်တော့ နှင်းတွေ တဖွဲဖွဲထဲမှာ ကက်စတာနဲ့ အစ်ဇဘယ်

ဖြစ်နေတဲ့ အကြောင်း ပြောဖို့ လာခဲ့တာကိုး၊ အဲဒီ ကိစ္စကို အယ်လီနာ မသိဘူးလို့ အစ်မ ဆီလ်ဗီယာ ထင်နေတယ်ပေါ့ ဟုတ်လား”

ဆီလ်ဗီယာ ပါးစပ်အဟောင်းသား ဖြစ်သွားသည်။ အောင်မြင်မှု မရသည့် မိမိခရီးစဉ် အတွက် စိတ်ပျက်သွား၏။

“ဒါဖြင့် မင်းကို တယောက်ယောက်က ပြောထားပြီးပြီပေါ့ ဟုတ်လား”

အယ်လီနာက တတိယကော်ဖီခွက်ကို ငှဲ့ပေးရင်း ဆီလ်ဗီယာ၏ ဆေးဆိုးပန်းရိုက် မျက်နှာ၊ အရွယ်နှင့် မလိုက်သည့် အဝတ်အစားတွေကို ငဲ့ကြည့်လိုက်သည်။ သနားကြင်နာခြင်း မဖြစ်မိတော့။

“အစ်မ ဆီလ်ဗီယာ သိပ်ခေတ်နောက်ကျသွားပြီ၊ ဒီကိစ္စမှာ ကျွန်မနဲ့ ကက်စတာ ပွင့်ပွင့်လင်းလင်း ဆွေးနွေးပြီးသားရှင့်”

“ဟင်”

အစ်မ ဆီလ်ဗီယာ ကြောင်သွားပြီ။

အယ်လီနာက တုံ့ပြန်တိုက်ခိုက်ရန် သူ့ကိုယ်သူ လက်နက် တပ်ဆင်ပြီးသား။

“အမှန်ကတော့ အစ်မ ဆီလ်ဗီယာတို့ အရွယ်တွေဟာ ဒီဘက် လူငယ်တွေကို မလိုက် နိုင်ကြတော့ဘူး၊ နားမလည်နိုင်ကြတော့ဘူး။ တယောက်နဲ့ တယောက် လက်ထပ်ပြီးတာနဲ့ တပြိုင်နက် ယောကျ်ားက တခြားမိန်းမတွေကို၊ မိန်းမကလည်း တခြားယောကျ်ားတွေကို အနူအရွဲ့လို သဘောထားရမယ် ဆိုတဲ့ အစွဲမရှိသင့်တော့ဘူး အစ်မ ဆီလ်ဗီယာရဲ့။ အဲဒီလိုသာ နေရရင် . . . အောင်မယ်လေး ပျင်းတာနဲ့ သေရချေရဲ့”

“ဒါဖြင့် မင်း ဒီကိစ္စကို သိနေတယ်ပေါ့၊ အဲဒါကို သိရက်နဲ့ မင်း သည်းခံနေတယ် လား”

“ခေတ်ကြီးက ပြောင်းနေပြီ အစ်မဆီလ်ဗီယာရဲ့၊ ဒါကို အစ်မတို့ အရွယ်တွေ သဘော ပေါက်ထားကြဖို့ ကောင်းတယ်၊ ကျွန်မတို့ မိန်းမသားတွေ ဟိုတုန်းကလို အူတိုနေလို့ မဖြစ် တော့ဘူး၊ သဘောထား ကြီးကြရမယ်။ ခေတ်ဟောင်း လူနေမှုစနစ်ရဲ့ အနှောင်အဖွဲ့တွေနဲ့ တယောက်ကိုတယောက် ချည်နှောင်ထားကြဖို့ ကျွန်မတို့ လင်မယားနှစ်ယောက်လုံး အိပ်မက်တောင် မမက်ခဲ့ကြဘူး ရှင့်”

“ဘာ… နှစ်ယောက်လုံး ဟုတ်လား”

အယ်လီနာ ဆီလ်ဗီယာ့ လက်ကို ကြင်နာစွာ လှမ်းဆုပ်လိုက်သည်။

“ကဲ... ကဲ စိတ်မကောင်း ဖြစ်မနေပါနဲ့ အစ်မ ဆီလ်ဗီယာရယ်၊ အယ်လီနာကို စေတနာထားပြီး လာပြောတာ သိပါတယ်၊ အယ်လီနာ ကျေးဇူးတင်ပါတယ်၊ အစ်မ ဆီလ် ဗီယာရဲ့ စေတနာကို လေးလည်း လေးစားပါတယ်။ ဒါပေမဲ့ စောစောက အယ်လီနာ ပြောတာ ကလေးသာ မှတ်ထားစေချင်ပါတယ်၊ ခေတ်လူငယ်တွေဟာ အမြင်တွေ ပြောင်းနေပြီ ဆိုတာ လေ”

ဆီလ်ဗီယာ မျက်တောင် ပုတ်ခတ် ပုတ်ခတ်နှင့် ဖြစ်နေ၏။ အယ်လီနာကတော့ သူ့ကို သနားစရာ သတ္တဝါအား ကြည့်သည့် မျက်လုံးမျိုးဖြင့် ကြည့်ပြီး ပြုံးနေ၏။ ခဏကြာတော့ ဆီလ်ဗီယာ ထရပ်လိုက်သည်။

“ဒီလို ကိစ္စမျိုးကို ရယ်စရာ လုပ်ပစ်တယ် ဆိုတော့ စောင့်ထိန်းအပ်တဲ့ လောကဝတ် တွေ မင်းတို့မှာ မရှိကြတော့ဘူး ပေါ့။ ငါတော့ မင်းကို သနားမိတာ မှားပြီ ထင်တယ်”

အယ်လီနာပါ လိုက်ထသည်။ လက်ပွေ့အိတ်နှင့် ကုတ်အင်္ကျီကို လှမ်းပေးရင်း-“ဟုတ်ချင် ဟုတ်မှာပေါ့လေ၊ အစ်မဆီလ်ဗီယာ လုပ်ပုံက ရယ်စရာကြီး ဖြစ်နေတယ် သိလား၊ ကိုယ်ကိုယ်တိုင် နားမလည်တဲ့ သူများကိစ္စကို ဝင်ပြီး အလုပ်ရှုပ်ခံတာကိုး”

“ကိုယ်တို့ကတော့ ကိုယ်ကျင့်တရားနဲ့ လောကနီတိကို သိပ်တန်ဖိုးထားတယ်လေ” ပြောပြောဆိုဆို ကုတ်အင်္ကျီကို ဆတ်ခနဲ လှမ်းဆွဲယူပြီး ဆောင့်ကြီးအောင့်ကြီး ဝတ် လိုက်သည်။

ပြီးတော့ မကျေနပ်သေးသလို ဆက်ပြောသည်။

“တို့များတော့ သိက္ခာကို ထိန်းနိုင်စွမ်း မရှိတဲ့ လူတွေကို သိပ်စိတ်ပျက်တာပဲ၊ မင်း အဲဒီလိုပြောလာတော့ မင်းလည်း အိမ်ထောင်ရေးစည်းကမ်းတွေကို ဖောက်ဖျက်တာပဲကိုး၊ ဒီတော့ မင်းတို့ ခုလိုဖြစ်ရတာ ဘာမှ အံ့သြစရာ မရှိတော့ဘူးပေါ့ ၊ လုံးဝ အံ့သြစရာကို မရှိဘူး၊ ညည်း ကျုပ်ကို ကြည့်ပြီး ရယ်မနေပါနဲ့”

အယ်လီနာ အရယ် မရပ်။

“ကက်စတာက အစ်မ ဆီလ်ဗီယာဟာ သိပ်ရယ်ရတာပဲလို့ ခဏခဏ ပြောဖူးတယ်၊ ခုမှ လက်တွေ့ သိရတော့တယ်”

အယ်လီနာက တံခါးဖွင့်ပေးရင်း ဆက်ပြောသည်။

"အင်း... အစောကြီး တို့ သိဖို့ ကောင်းတယ်၊ မိကောင်းဖခင် သားသမီးများဟာ အောက်တန်းစားတွေနဲ့ သွားညားရင် . . .၊ စကတည်းက သိခဲ့ဖို့ ကောင်းတာ"

အယ်လီနာက အပြင်ကို လိုက်ပို့ပေးရင်း ယဉ်ကျေး ညင်သာစွာ ပြောလိုက်သည်။

"ဟုတ်တာပေါ့၊ သိဖို့ ကောင်းတာပေါ့၊ ခုလို လာလည်တာ ကျေးဇူးတင်ပါတယ် အစ်မ ဆီလ်ဗီယာရယ်"

"ညည်းနဲ့ ကျုပ်နဲ့ ဘာမှ မတော်ပါဘူး"

ဤသို့ နှုတ်ဆက်စကား ဆို၍ ဆီလ်ဗီယာ ထွက်သွားသည်။ အယ်လီနာ အပေါ်ထပ်သို့ တက်ခဲ့သည်။ နှုတ်ခမ်းကို ကိုက်ထားသည်။ အခန်းထဲ ရောက်တော့ အိပ်ရာပေါ်တွင် မျက်နှာ မှောက်ပြီး ငိုချလိုက်သည်။ အကြာကြီး ငိုနေမိ၏။ သားနှင့် သမီးကို ထမင်းကျွေးချိန်ရောက်မှ ရဲနီနေသည့် မျက်လုံးတွေကို ရေနွေးနှင့်ရော ရေအေးနှင့်ပါ အကြာကြီး မျက်နှာသစ်ရသည်။

※※※

# (၃)

ကော်နယ်လီယာက ကျောင်းဆင်းလာပြီး ဖီးလစ်ကလေးနှင့် ဆော့နေသည်။ နောက် တနေ့ စနေနေ့ ဖြစ်၍ ရာသီဥတု သာယာလျှင် သူတို့နှစ်ယောက်ကို မြို့ခေါ်သွားပြီး ခရစ္စမတ် အတွက် အဝတ်အစားဝယ်မည် ပြောတော့ ဝမ်းသာနေကြသည်။ ပြီးတော့ ခရစ္စမတ်လက်ဆောင် အဖြစ် မောင်နှမနှစ်ယောက် ကစားဖို့ "ကတ်ကြေးညှပ်" အရုပ်ကားချပ်ဖာတခု ပေးလိုက်၍ အပျော်ကြီး ပျော်နေကြသည်။ အရုပ်တွေက တိရစ္ဆာန်ရုပ်မျိုးစုံ။ ခြေထောက်၊ ခေါင်းနှင့် ကိုယ် ကို ကတ်ကြေးနှင့် ညှပ်ပြီး အရုပ်ပြန်ဆက်ရသည့် ကစားနည်းတမျိုး ဖြစ်သည်။ ကတ်ကြေး နှင့် ကော်ဘူးပါ ချပေးလိုက်သည့်အခါ သူတို့မောင်နှမ နှစ်ယောက်လုံး စိတ်ပါလက်ပါ လုပ်ကြ တော့သည်။

ကြမ်းပြင်ပေါ်တွင် ထိုင်၍ ကစားနေကြသည့် သားနှင့် သမီးကို ကြည့်ပြီး မောင့်ကို တမ်းတ လွမ်းရပြန်သည်။ ရင်ထဲတွင် စူးစူးရှရှ နာကျင်သွား၏။

ကလေးတွေကို ကြည့်ထိန်းဖို့ ဒစ်စီကို မှာခဲ့သည်။ အခန်းထဲ ပြန်ဝင်လာပြီး မီးဖိုနံဘေး တွင် ငိုင်နေမိ၏။ သည်အချိန်ဆိုလျှင် မောင် ဘာလုပ်လို့ ဘာတွေများ တွေးနေမလဲ မသိဘူးနော်၊ သားနဲ့ သမီးကို မောင် အောက်မေ့မှာပါကွယ်၊ အယ်လီနာကို မောင် ထင်ချင်သလို ထင်လေ၊ သမီးနဲ့ သားကိုတော့ မောင် ဥပေက္ခာ မပြုနိုင်ပါဘူး၊ သားသမီးကို မောင့်လောက် ချစ်တတ် တဲ့ အဖေမျိုး တခါမှ မတွေ့ဖူးခဲ့တာပဲ၊ အယ်လီနာအတွက် မဟုတ်ချင်နေပါ . . . မောင်ရယ်၊ ကလေးတွေအတွက် ဖြစ်ဖြစ် ပြန်လာခဲ့ပါတော့ကွယ်။ သည်လို ဆုတောင်းခဲ့ရသည်မှာ အကြိမ် တရာမကတော့။ မောင့်ကို ပြန်လာစေချင်သည်မှာ အခြားကြောင့် မဟုတ်။ မောင့်ကို ချစ်လွန်း၍သာ ဖြစ်၏။ မိမိ၏ သိက္ခာကို မောင် ဘယ်လောက် စော်ကားခဲ့သည်ဖြစ်စေ၊ မိမိ၏ စေတနာကို မောင် ဘယ်မျှပင် ပြစ်မှားခဲ့သည်ဖြစ်စေ မောင် အယ်လီနာကို နှစ်နှစ်ကာကာ ချစ်မှန်း သိပြီးသားမို့လည်း မောင် ပြန်လာမည့် နေ့ကို အစဉ်စောင့်ကြိုနေခြင်း ဖြစ်၏။ အစ်ဇာဘယ်နှင့် ဖြစ်ခဲ့သည် မှန်ဦး၊ မောင် အယ်လီနာ့အပေါ် ချစ်သည့် အချစ်ကို သံသယ ဖြစ်စရာ မလို။ အယ်လီနာ ဘာလုပ်ရမှာလဲကွယ်၊ လေအေးအေးကလေး ရှူလိုက်ဦးမှ ထင်ပါရဲ့။ အပြင်တွင် မိုးတွေ အုံ့နေသည်။ ရွာတော့ မရွာ။ နေရောင်ခြည်သည် မိုးသားထုကို ထိုးဖောက် ပြီး တချက် တချက် ထိုးဆင်းလာသည်။ စိတ်ကြည်သွားအောင် လမ်းထွက် လျှောက်လိုက် ဦးမည်။ ကုတ်အင်္ကျီ ဝတ်သည်။ လမ်းလျှောက်ဖိနပ်လည်း စီးသည်။ ပြီးတော့ မြစ်ဘက်သို့

ထွက်ခဲ့သည်။

လေက စိတ်ကြည်လင်ဖွယ် တဖြူးဖြူး တိုက်နေသည်။ ဆံပင်တွေ လွင့်ဝဲနေ၏။ ဦးထုပ် မဆောင်းဘဲ ထွက်လာခဲ့ခြင်း ဖြစ်သည်။ ကျေးလက်ရှုခင်းများသည် စိတ်ချမ်းမြေ့ဖွယ်ကောင်း ၏။ လမ်းတဖက်တချက်မှ ဝက်သစ်ချပင်တွေ စိမ်းညို့နေသည်။ ရေညှိပင်များက သူတို့ကို အလှဆင်ပေးနေသည်။ လေအဟုန့်တွင် ယိမ်းနွဲ့လှုပ်ရှားလျက်။

လမ်းတဖက်တချက်မှ ကွင်းပြင်ကြီးများမှာ နွေစိုက်ပျိုးချိန်ကို ငြိမ်သက်စွာ စောင့်စား နေကြ၏။ ကုတ်အင်္ကျီ အိတ်ထဲကို လက်နှိုက်ပြီး ခပ်သွက်သွက် လျှောက်နေသည်။ ရုံဖန်ရံခါ ဖြတ်သွား ဖြတ်လာနေကြသည့် ကားကြီး၊ ကားငယ်တွေကို လုံးဝ ဂရုမစိုက်မိ။ ရင်ထဲတွင် နာကျင်စွာ ခံစားရတိုင်း ပြင်ပလေနှင့် ရှုခင်းများသည် အေးမြစေ၏။ စိတ်ကြည်လင်စေ၏။

လေက ပြင်းသည်ထက် ပြင်းလာသည်။ ခေါင်းမှ ဆံညှပ်တွေကို ပြင်ညှပ်စဉ် ခဏရပ် လိုက်၏။ ပြီးတော့ ဆက်လျှောက်သည်။ မြစ်ဘက်တွင် မိုးမှောင်စပြုလာပြီ။

ဘယ်လောက် ကြာအောင် လျှောက်နေမိသည် မသိ။ ခြေထောက်တွေ ညောင်းလာ သည်ကို သတိပြုမိလိုက်သည်။ လျှောက်လာခဲ့သည်မှာ လေးမိုင်ကျော် ငါးမိုင်နီးပါးမျှ ရှိနေပြီ။ ဟော... မှောင်စ ပြုနေပါပြီကော။ သည်တော့မှ လူသူကင်းမဲ့သည့် လမ်းကို သည်မျှ ဝေးဝေးကြီး လျှောက်လာခဲ့မိသည့်အတွက် ကိုယ့်ကိုယ်ကိုယ် အပြစ်တင်လိုက်သည်။ လေ တချက်အဝေ့တွင် ဆံပင်တွေ မျက်နှာပေါ်သို့ ဝဲသွားသည်။ နောက်ကြောင်း ပြန်လှည့်ပြီးလျှောက်ခဲ့၏။

လေက အေးသည်ထက် အေးလာ၏။ ကုတ်အင်္ကျီ ကော်လာကို ဆွဲထောင်လိုက်သည်။ ဟင်... မိုးရွာလာပြီ။

မိုးသီးမိုးပေါက်တွေ မျက်နှာပေါ်သို့ ပြင်းထန်စွာ ကြဲပေါက်ချသည်။ မိနစ်ပိုင်းအတွင်း စက်စက်နစ်သွားတော့၏။ ချက်ချင်း လမ်းတွေ ဗွက်ပေါက်ကုန်တော့သည်။ လေက လူပါ ပါသွားမတတ် ပြင်းထန်လာသည်။ ရှေ့ကို ဝေးဝေး မမြင်ရတော့။ သစ်ပင်တွေနှင့် ဝင်တိုးမိ၏။ ဗွက်က ပိုထူလာသဖြင့် ခြေတလှမ်းနှင့် တလှမ်း မနည်းအားယူ လှမ်းရ၏။

ကြောက်ရွံ့အားငယ်ခြင်း မဖြစ်ဘဲ မဆင်မခြင် ထွက်လာခဲ့မိသည့်အဖြစ်ကိုပဲ ဒေါပွနေ၏။ လူဝီစီးယားနားပြည်နယ်ပေါက် မုန်လျှင် ငတုံး၊ ငအများပင် မိုးရွာမည့် အချိန်ကို မှန်းတတ် ကြသည် မဟုတ်လား။ မိုးက မပြေနိုင်အောင် ရွာမည့် မိုး။ ခေါင်းပေါ်မှ ဝက်သစ်ချကိုင်းများ သည် လေထုကို အန်တုတိုက်ခိုက်လျက်

ရှိကြသည်။ မိုးရေကြောင့် တကိုယ်လုံး လေးလံ လာသည်။ ရွှံ့တွေ ကပ်လာသဖြင့် ဖိနပ်ကလည်း မသယ်ချင်လောက်အောင် လေးလာ၏။ ရေစက်လက်နှင့် စကတ်သည် ခြေထောက်တွေကို တဖျပ်ဖျပ် ရိုက်ခတ်လျက်။

မိုးထဲ လေထဲ မှန်တိုင်းထဲတွင် ရှေ့သို့ အားနှင့် မာန်နှင့် တိုးသွားနေ၏။ ခြေထောက်တွေ ထုံကျဉ် ကိုက်ခဲလာသည်။ မနှစ်က အဆုတ်အအေးမိသည့် ရောဂါကို သွားသတိရလိုက်သည်။ နောက်ဘက်မှ ကားတစီး လာနေသည်။ ကားမီးများက ဝေးဝေးသို့ မထိုးဖောက်နိုင် ကြတော့။ ကားက အရှိန်လျှော့ပြီး ရပ်ပေးမည် ပြုသောအခါ ဝမ်းသာလွန်းလို့ အော်ဟစ် ကျေးဇူး တင်ဖို့ စိတ်ကူးလိုက်သည်။ ကားကို လမ်းနံဘေးသို့ ချပြီး ရပ်ပေးသည်။ ကားမောင်းသမား ကပွလီက ခေါင်းပြူထွက်လာပြီး-

"မလေး... လိုက်မလား၊ တက်လေ"

"ကျေးဇူးပါပဲကွယ်"

တံခါး ပွင့်လာသည်။ အမျိုးသမီးတဦး၏ အသံ ကြားလိုက်၏။

"တက်လေ"

ကားပေါ်သို့ ဝရုန်းသုန်းကား တက်လိုက်သည်။

"ကျေးဇူးတင်ပါတယ်ရှင်"

တံခါးပိတ်လိုက်ပြီး ထိုင်ခုံနောက်သို့ မှီလိုက်သည်။ မေး ခိုက်ခိုက်တုန်နေပြီ။

ကားမောင်းသမားက နောက်ဘက်သို့ လှည့်ပြီး မေးသည်။

"အိမ်ကို မောင်းရမလား မစ္စအစ်ဇဘယ်"

အယ်လီနာ ဆတ်ခနဲ စောင်းကြည့်လိုက်သည်။ အစ်ဇဘယ်၏ ဘေးစောင်းအနေအထား ပုံကို အရိပ်တခုလို မြင်လိုက်၏။

"ဒါပေါ့ ... အိမ်ကို မောင်းလေ၊ အိမ်နားကို ရောက်နေပြီးသားမို့ပါ၊ ကိုယ့်ကို စိတ် မရှိနဲ့နော်"

ကားမောင်းသမားကို ပြောရင်း တဆက်တည်း အယ်လီနာ့ကို ပြောလိုက်သည်။ သူ့အသံ က အေးစက်စက်။ အယ်လီနာ လန့်သွားသည်။ ခြေဦးတည့်ရာကို လျှောက်သွားရင်း လမ်းမှား ပြီး သည်အိမ်ကြီးဆီသို့

ဦးတည်မိခြင်းလား၊ မသိစိတ်ကပဲ သည်အိမ်ကြီးဆီသို့ သွားဖို့ တိုက်တွန်းနေလို့လား။

"ရပါတယ်၊ ကိစ္စ မရှိပါဘူး"

ဘာမျှ မဖြစ်သည့် လေသံမျိုးဖြင့် ကြိုးစား၍ ပြန်ပြောလိုက်သည်။

"အိမ်အရောက် ပို့မပေးနိုင်တာတော့ စိတ်မကောင်းပါဘူး၊ ဒရိုင်ဘာလည်း သိပ်အေးနေပြီ"

"ရပါတယ်၊ အိမ်ကို ဖုန်းဆက်ပြီး ကားခေါ်လိုက်မယ်၊ ထိုင်ခုံတွေ စိုကုန်တဲ့အတွက် စိတ်မကောင်းပါဘူး၊ အဝတ်တွေက ရွှဲနစ်နေတယ်"

"ကိစ္စ မရှိပါဘူး၊ သားရေခုံတွေပဲဟာ"

အစ်ဇဘယ်က ယဉ်ကျေးစွာ ပြန်ပြော၏။

"ဒါထက် ဘယ်လိုလုပ်ပြီး ဒါလောက်သည်းတဲ့ မိုးထဲမှာ မိတာလဲဟင်"

"လမ်းလျှောက်သွားရင်း မိတာ"

အယ်လီနာ မေးချင်းရိုက်ပြီး ဖြေလိုက်၏။

"ဟင်. . . ဒါလောက် အဝေးကြီး လမ်းလျှောက်တယ် ဟုတ်လား၊ ဒါကြောင့် ကိုယ်လုံးကိုယ်ပေါက် လှတာကိုး"

အင်း... သူက ငါ့ထက် ပိုပြီး ဣန္ဒြေရနေပါလားဟု အယ်လီနာ တွေးမိ၏။ သို့သော် အယ်လီနာ သိပ်အေးပြီး ခိုက်ခိုက်တုန်နေပြီ။ သူနှင့် ယှဉ်ပြီး ဣန္ဒြေအရပြိုင် မနေနိုင်တော့။ အေးစက်နေသော နှာခေါင်းဖျားမှ ထွေးနွေးသော ရေမွှေးနံ့ကို ခံစားမိ၏။ လက်တဖက်အရှေ့ တွင် အစ်ဇဘယ်၏ သားမွေးရှည်အင်္ကျီနှင့် သွားထိမိ၏။ တချက် ချေလိုက်သည်။

"ကြည့်စမ်း... မင်း အအေးပတ်ပြီ"

အစ်ဇဘယ်က ပျာပျာသလဲ ပြော၏။ အိမ်ကြီးတအိမ်ရှေ့တွင် ကားထိုးရပ်လိုက်သည်။

"ကဲ... ခဏ အထဲ ဝင်ဦးနော်"

အယ်လီနာ ဘာမျှ မတတ်နိုင်တော့။ ဖိတ်ကြားချက်ကို လက်ခံလိုက်ရသည်။ အိမ်ရှေ့ လှေကားထစ်များဆီသို့ ခပ်သုတ်သုတ် ပြေးသွားကြသည်။ ကားသမားက အရိုအသေပေးပြီး ကားရုံဆီသို့ မောင်းထွက်သွားသည်။

အစ်ဇဘယ်က တံခါးဖွင့် ဝင်သည်။ အစေခံတယောက်ကို စကားပြောနေစဉ် အယ်လီနာ တံခါးနားတွင် ဘာလုပ်ရမှန်း မသိဘဲ ရပ်နေသည်။ ဆံပင်မှ ရေတွေ မျက်လုံးထဲသို့ စီးကျနေ၏။ စကတ်မှ ရေတွေကလည်း ကြမ်းပြင်ပေါ်သို့ တပေါက်ပေါက် ကျလျက်။ ဆက်ကာ ဆက်ကာ ချေလိုက်ပြန်သည်။ အင်္ကျီအိတ်ထဲ လက်နှိုက်ပြီး လက်ကိုင်ပဝါကို စမ်းသည်။ မတွေ့။ အဝတ်စ ကလေးတခုသာ ရေတွေနှင့် လုံးထွေးနေသည်ကို တွေ့ရ၏။ အစ်ဇဘယ် လှည့်လာပြီး-

“လာ... ကိုယ်တို့ အပေါ်ထပ် သွားရအောင်၊ ကိုယ့်အခန်းမှာ မီးဖိုရှိတယ်”

အစိမ်းရောင် ဝတ်စုံပေါ်တွင် ရွှံ့မွှေးအနားကွပ် အနွေးထည် လွှမ်းထားသည်။ အလွန် မတန် ကျက်သရေ ရှိလှပါ၏။ အယ်လီနာက ဟန်ကိုယ့်ဖို့ ဆိုသလို အပူသည်ရုပ် ဆောင်မနေ စေရန် သတိထားရမည်ဟု သဘောပေါက်ထား၏။ ရယ်စရာ ဖြစ်မနေစေရန်လည်း လို၏။

ဆံပင်တွေက မျက်နှာပေါ်တွင် ရေစိုပြီး ကပ်နေ၏။ စကတ်တခုလုံးတွင် ရွှံ့စက်တွေ နှင့်။

“မတက်တော့ဘူးလေ၊ တကိုယ်လုံး ပေကျံနေတာပဲ၊ ညစ်ပတ်ကုန်မှာပေါ့”

“လာပါ၊ ဒီအတိုင်း ဆိုရင် ဖျားမှာ သေချာတယ်၊ မီး ခဏ လှုံလိုက်ပါ၊ အိမ်ဖော်တွေ သောက်စရာတခုခု ယူလာပါလိမ့်မယ်”

သူ့အိမ်ကို တမင် ခေါ်ချင်လို့ ကားသမားကို အနားပေးလိုက်ခြင်း ဖြစ်ကြောင်း နားလည် လိုက်၏။ မတတ်နိုင်သည့် အဆုံး သူ့ဖိတ်ခေါ်ချက်ကို လက်ခံလိုက်ရပြန်သည်။ မလုပ်ချင်ဆုံး အလုပ်ကို လုပ်လိုက်ရခြင်း ဖြစ်၏။ အစ်ဇဘယ် ပြောသလို မီးမကင်ရင် ဖျားတော့မည်မှာ သေချာနေပြီ။ အပေါ်ထပ်သို့ တက်လိုက်ခဲ့ရ၏။

အစ်ဇဘယ် သူ့အခန်းတံခါးကို ဖွင့်လိုက်၏။ အသင့်ဖိုထားသော မီးဖိုထဲမှ မီးလျှံများ ၏ အနွေးဓာတ်သည် အခါတိုင်းထက်ပိုပြီး အရသာရှိကာ ထွေးနွေးနေသည်ဟု အယ်လီနာ ထင်လိုက်၏။ အစ်ဇဘယ်က ဦးထုပ်နှင့် လက်အိတ်ကို ချွတ်နေရင်း ဆိုးရွားလှသည့် ရာသီဥတု ကို အပြစ်တင်နေသည်။

အောက်ထပ်တုန်းက မေးချင်း ရိုက်နေရသည်နှင့် ဧည့်ခန်းကို အကဲမခတ်မိခဲ့။

အစ်ဇဘယ့် ကိုယ်ပိုင်အခန်းကိုတော့ ထုံကျဉ်နေသည့် လက်ကို မီးကင်ရင်း ဂရုစိုက်ကြည့်မိသည်။ နှစ်ပေါင်း ၇၀ ကျော်က အသုံးအဆောင် ပရိဘောဂတွေ ဖြစ်၏။ ရောမ ရှေးဟောင်း ခုတင်ကြီးနှင့် မှန်တင်ခုံတွေ၊ အဝတ်ဗီရိုတွေ အားလုံး ရှေးဟောင်းပစ္စည်းတွေချည်း။ သို့သော် အလှပြင်ပစ္စည်းတွေကတော့ နောက်ဆုံးပေါ်တွေ။ အိပ်ချိန်မှ လွဲပြီး တနေကုန် အလှပြင် နေသည့် မိန်းမမျိုးမှန်း သိသာလှ၏။ အယ်လီနာ ချေလိုက်ပြန်၏။

“မဖြစ်ဘူး ထင်တယ်၊ အဝတ် ခဏ လဲလိုက်နော်”

အစ်ဇဘယ်က စိုးရိမ်တကြီးနှင့် တိုက်တွန်းသည်။ ရေချိုးခန်းတံခါးကို ဆွဲဖွင့်သည်။ ပြီးတော့ ရေချိုးကန်ထဲသို့ ရေဖွင့် ချသည်။

“ရှေးဟောင်းပစ္စည်းတွေ ဖြစ်ပေမယ့် ရေနွေးတော့ လုံလုံလောက်လောက် ရှိပါတယ်၊ လာ. . . ချိုးလိုက်နော်”

အယ်လီနာ စိတ်ညစ်သွားသည်။ အလွန်ငြင်းပယ်ရခက်သည့် ကိစ္စ ဖြစ်၏။ လိုက်နာရ ပြန်သည်။ ရေချိုးခန်းဆီသို့ ထသွားရင်း -

“ကျေးဇူးပါပဲ၊ ချိုးပါ့မယ်၊ ဒါပေမဲ့ ဖုန်း အရင် ဆက်လိုက်ချင်တယ်”

“ရပါတယ်၊ အိုဖီလီယာကို ဆက်ခိုင်းလိုက်ပါ့မယ်”

အစ်ဇဘယ်က ဝတ်ရုံပြာတစုံနှင့် ခြေသုပ်ဖိနပ်ကို ဗီရိုထဲမှ ထုတ်ယူပြီး-

“ဒါတွေ လဲနော်၊ အဝတ်စိုတွေကို ချက်ချင်းခြောက်အောင် လုပ်ခိုင်းပြီး မီးပူတိုက်ခိုင်း လိုက်မယ်၊ ဟော.. အိုဖီလီယာ လာပြီ”

ကပ္ပလီမကလေးတယောက် ဝင်လာသည်။ လက်ထဲတွင် ခွက်ဘူးတလုံးနှင့် ဖန်ခွက် နှစ်ခွက်ပါ သည့် လင်ပန်းကို ကိုင်လျက်။ အယ်လီနာ ရေချိုးခန်းထဲမှ နေ၍ ရေစိုအဝတ်တွေကို အိုဖီလီယာဟုခေါ်သည့် ကပ္ပလီမကလေးအား လှမ်းပေးလိုက်၏။ ပြီးတော့ တံခါးပိတ်၍ ရေနွေး ကန်ထဲသို့ ဆင်းလိုက်၏။ တကိုယ်လုံးနှစ်ပြီး စိမ်လိုက်သည်နှင့် ထွေးနွေးသည့် အရသာကို ခံစားလိုက်ရ၏။ ရေချိုးနေရင်း အစ်ဇဘယ်နှင့် ပြန်ဆုံရင် ဘာတွေ ပြောရပါ့မလဲဟု စဉ်းစားနေ သည်။ မရောက်ဖူးသည့် ဒေသတခုသို့ ရောက်သွားသည့် ကမ္ဘာလှည့်ခရီးသည်နှင့် တူနေ၏။ အစ်ဇဘယ် ပြောသည့် အတိုင်းပင် ရေချိုးခန်းက ခေတ်နောက်ကျလှသည်။ ခြေလေးချောင်းနှင့် ရေချိုးကန်က မြင့်လွန်းလှသည်။ လုံးဝ အဆင်မပြေ။ ရေပိုက်တွေကလည်း ပြင်ဖို့ လိုနေပြီ။ သည်အမျိုးသမီးဟာ သူ့တကိုယ်ရေ လှဖို့ကလွဲပြီး ဘာမှ စိတ်မဝင်စားဘူး ထင်ပါရဲ့။

အစ်ဇဘယ်၏ မျက်နှာသုတ်ပဝါများနှင့်ပင် ကိုယ်ကို ခြောက်အောင် သုတ်သည်။ ပေါင်ဒါ ဖြူးသည်။ ခေါင်းကို ငွေကွပ်ထားသည့် ဘီးနှင့် ဖြီးသင်သည်။ ဘီးပေါ်တွင် အစ်ဇဘယ်၏ နာမည် အတိုကောက် စာလုံးကလေးများ ရေးထိုးထား၏။ ဆံပင်တွေကို မျက်နှာသုတ်ပဝါ အခြောက်တခုနှင့် သုတ်ရင်း ထွက်လာတော့ အစ်ဇဘယ်က သံပရာရည်အပူကို ဖန်ခွက်ထဲသို့ ငှဲ့နေသည်။

ဖန်ခွက်တခွက်ကို လှမ်းပေးရင်း-

"ရော့... ဒါလေး သောက်လိုက်၊ ကောင်းသွားမှာပါ"

"ကျေးဇူးပဲ၊ မဖျားနိုင်တော့ပါဘူး"

သံပရာရည်အပူကို သောက်ပြီး မီးလှုံနေရင်း ပုံမှန်အနေအထားသို့ ပြန်ရောက်လာ သည်။ သို့သော် တိုက်တိုက်ဆိုင်ဆိုင် အစ်ဇဘယ် ဆိုသည့် အမျိုးသမီး၏ အခန်းသို့ အယ်လီနာ ခေါ် မစ္စလန်း ရောက်နေခြင်းမှာ နှစ်ယောက်လုံးအတွက် မယုံနိုင်စရာ ဖြစ်နေ၏။ စင်စစ် သူတို့နှစ်ယောက်မှာ "ဘေထုပ်တထုပ် ဝယ်ပါ" လှုပ်ရှားမှု ကပွဲတွင်သာ စကားပြောဖူးခဲ့သည်။ နောက် မဆုံတော့။ ဆုံလျှင်လည်း စကား မပြောဖြစ်ကြတော့။ ငါးနှစ်တင်းတင်းပင် ပြည့်ခဲ့ပေပြီ။

စကားအစ ခက်နေကြ၏။ မီးဖိုနံဘေးတွင် ယမကာကို တစိမ့်စိမ့်သောက်ရင်း အယ်လီနာ စကားစလိုက်၏။

"ခုလို ကားနဲ့ ခေါ်လာဖော်ရတာ ကျေးဇူးတင်ပါတယ်"

အစ်ဇဘယ်က ပြုံးသည် ဆိုရုံကလေး ပြုံးလိုက်ပြီး-

"အို.... မိုးထဲလေထဲမှာ ခေါ်မလာလို့ ရမလား"

"ကား ရပ်မပေးခင်ကတည်းက မှတ်မိတယ်ပေါ့နော်"

"အို့ .. ဘာလို့ မမှတ်မိရမှာလဲ"

စကား ပြတ်သွားကြပြန်သည်။ ဟန်ဆောင်ယဉ်ကျေးခြင်း မျက်နှာဖုံးများ အသီးသီး ကွာကျသွားပြီး တယောက်ကို တယောက် စိန်းစိန်းကြည့်ကာ သေသေချာချာ အကဲခတ်ကြ သည်။ အတော့်ကို လှတဲ့ အမျိုးသမီးပဲဟု အယ်လီနာ စိတ်ထဲမှ ပြောလိုက်သည်။ ပြစ်မျိုးမှဲ့မထင် ဟူသည့် မျက်နှာမျိုး၊ လူတကာ သူ့ကို ကိုးကွယ်နေသည်မှာ သည်အလှ အတွက်ပင် ဖြစ်မည်။ အယ်လီနာက အလှဟူသည်

ဘုရားသခင်၏ လက်ဆောင်ပစ္စည်း ဖြစ်သည်ဟု နားလည် ထားသည်။ သို့သော် အသက်နှစ်ဆယ် အရွယ်တွေအတွက် ပေးသည့် လက်ဆောင်မျိုးသာ ဖြစ်သည်ထင်၏။ သုံးဆယ်ပိုင်းကို ရောက်သည်နှင့် ပင်ကိုအလှပစ္စည်းသည် အပံ့အပိုး အကူ အညီတွေ လိုလာပြီ။ အစ်ဇဘယ်ကို ကြည့်လေ၊ သည်လိုအလှမျိုးကို ကက်စတာ အပါအဝင် ယောက်ျားတွေ ဘာလို့ ကိုးကွယ်ချင်ကြပါလိမ့်။ ပန်းတပွင့်၏ အလှမျိုး၊ ဘာမျှ အသုံးဝင်သည် မဟုတ်။ တို့ကတော့ ပန်းလို မလှဘဲ စိန်လွှန်သွားလို လှတာမျိုး ဆိုတော့ ယောက်ျားတွေ မတပ်မက်ကြဘူး ထင်ပါရဲ့။

စိတ်ဆုံးဖြတ်ချက်တခုကို ခပ်ပြတ်ပြတ် ချလိုက်သည်။ သည်အမျိုးသမီးကိုတော့ မှတ်လောက် သားလောက်အောင် တွယ်လိုက်မည်။ ရှင်းလင်းပြတ်သားစွာ စမေးလိုက်၏။

"အစ်ဇဘယ်၊ ရှင် ကျွန်မကို ပြောစရာရှိလို့ ခေါ်လာတာ မဟုတ်လား၊ ပြောလေ"

"ပြောစရာရှိလို့ ခေါ်လာတယ်လို့ ဘယ်လိုလုပ် ပြောနိုင်သလဲ အယ်လီနာ"

အစ်ဇဘယ့် အသံက တည်ငြိမ်လျက်။

"အိမ်ပို့ခိုင်းရင် လွယ်လွယ်ကလေး ရတဲ့ ကိစ္စပဲ၊ ဒရိုင်ဘာ အကြောင်းပြပြီး ဘာလို့ ကျွန်မကို ဒီခေါ်လာတာလဲ"

အစ်ဇဘယ် ခဏ တွေသွားသည်။ ပြီးတော့မှ ခပ်ဖြည်းဖြည်း တလုံးချင်း ပြောသည်။

"မင်း ပြောတာ မှန်တယ် အယ်လီနာ၊ မင်းနဲ့ ကိုယ် စကားပြောချင်လို့"

သံပရာရည်ကို ငုံသောက်ရင်း ဖန်ခွက်ပေါ်မှကျော်ပြီ အယ်လီနာကို ကြည့်သည်။

"ဘာအကြောင်းများ ပြောစရာရှိလို့လဲ"

အစ်ဇဘယ်က အပြုံးငယ်တခု ပြုံးလိုက်ပြန်သည်။

"ထူးထူးထွေထွေတော့ မဟုတ်ပါဘူး၊ မင်း အကြောင်းကို ကိုယ်လေ့လာချိန် အများ ကြီးရခဲ့တယ် မဟုတ်လား"

"ဩော်. . . ရှင့်အချိန်တွေကို ကျွန်မအကြောင်း စုံစမ်းရင်း ဖြုန်းနေတယ်ပေါ့

ဟုတ်လား အစ်ဇဘယ်”

အစ်ဇဘယ်က လှောင်ရယ်ကလေး ရယ်၏။

“မင်း ကိုယ့်ကို အဲဒီအတိုင်း ထင်နေတယ်ပေါ့… ဟုတ်လား အယ်လီနာ၊ အိမ်အို အိမ်ဟောင်းကြီးတလုံးထဲမှာ အဖော်မဲ့နေတဲ့ ခိုကိုးရာမဲ့ မိန်းမတယောက်လို့ မင်း ထင်နေတယ်ပေါ့။ ကြောင်ကလေးတွေ၊ ငှက်ကလေးတွေလောက်သာ စိတ်ဝင်စားပြီး အိမ်နီးနားချင်း တွေရဲ့ အတင်းအဖျင်းတွေနဲ့ ပျော်မွေ့နေတယ်လို့ မင်း ထင်နေသလား”

“ရှင့်ကို ဘယ်လိုထင်လို့ ဘယ်လိုမြင်ဖို့ ကျွန်မမှာ အချိန်ပို မရှိပါဘူး အစ်ဇဘယ်၊ ကျွန်မဟာ ယားလို့တောင် ကုတ်ဖို့ အချိန်ရတဲ့ မိန်းမ မဟုတ်ဘူး”

အယ်လီနာ ပြန်ပက်လိုက်သည်။

“ကိုယ်လည်း ဒီလိုပါပဲကွယ်၊ အမျိုးတွေနဲ့ အပေါင်းအသင်းတွေက နယူးအော်လင်း မှာ မဟုတ်လား၊ အဲဒီကို မကြာ မကြာ သွားနေရတာနဲ့ အချိန်ကုန်နေတာပါ။ ဒီကိုတော့ အားလုံး သိကြတဲ့ စိတ်မချမ်းသာစရာ ကိစ္စတွေကြောင့်သာ ပြန်ပြန် လာရတာ”

“အားလုံး သိတဲ့ ကိစ္စ… ဟုတ်လား”

“စီးပွားရေး အကျပ်အတည်းကို ပြောတာပါ”

အစ်ဇဘယ်က အေးစက် ပွင့်လင်းစွာ ပြောလိုက်သည်။

“အင်း . . . အဲဒါတွေ မင်း မသိပါဘူး အယ်လီနာ၊ မင်းသာ ကိုယ့်နေရာမှာ ဆိုရင် ငွေတွေ ကို တိုးပွားအောင် လုပ်နိုင်မှာပဲ။ ဒါပေမဲ့ ကိုယ်က စီးပွားရေးအကြောင်း နကန်းတလုံးတောင် မသိဘူးလေ၊ ကိုယ့်ဝင်ငွေတွေကို ဘယ်လို တိုးပွားအောင် လုပ်ရမလဲ ဆိုတာ မသိဘူး၊ ကိုယ် လုပ်တတ်တာ တခုပဲ ရှိတယ်”

အစ်ဇဘယ် ခပ်ရွှင်ရွှင်ကလေး ဆက်ပြောသည်။

“ထိုင်စားနေဖို့လေ”

အယ်လီနာက ဖန်ခွက်ထဲမှ သံပရာခြမ်းကလေးကို ကြည့်ပြီး သူတို့နှစ်ယောက်၏ ခြားနားပုံကို တွေးနေမိသည်။ သူသာ ဆိုလျှင်

ကိုယ့်အားနည်းချက်တွေကို တစုံတယောက် ရှေ့တွင် ဘယ်တော့မျှ ဖွင့်ဟဝန်ခံမိမည် မဟုတ်။

"ရှင့်ပစ္စည်းတွေနဲ့ ငွေရေးကြေးရေးကိစ္စကို ဘယ်လိုစခန်းသွားနေတယ် ဆိုတာ ကျွန်မ တခါမှ စဉ်းစားမကြည့်မိဘူး အစ်ဇဘယ်။ တခုတော့ ရှိပါတယ်၊ ရှင် ထင်သလောက် ရှင့်မှာ အားငယ်စရာ တွယ်ရာမဲ့ဘဝတော့ မဟုတ်သေးပါဘူး ထင်တယ်"

အစ်ဇဘယ်က အယ်လီနာကို စိန်းစိန်းကြည့်သည်။

"အင်း. . . မင်းက တော်တော်ပွင့်လင်းတာပဲ အယ်လီနာ။ အပြောအဆိုရော၊ အမူအရာ ရောပဲ။ မင်းက ကိစ္စတခုကို သိမ်သိမ်မွေ့မွေ့ ဆွေးနွေးတာ မကြိုက်ဘူး မှတ်တယ်"

"ဟုတ်တယ်၊ ကျွန်မက ပွင့်ပွင့်လင်းလင်းမှ ကြိုက်တယ်"

"ကောင်းပြီလေ၊ ဒါဖြင့် .."

အစ်ဇဘယ် ဖန်ခွက်ကို စားပွဲနိမ့်ကလေးပေါ်သို့ တင်သည်။ လက်နှစ်ဖက်ကို ဒူးပေါ် တွင် ပတ္တာဆက်လိုက်၏။ ပြီးတော့ အယ်လီနာကို တည့်တည့်ကြည့်၍-

"မင်း ကက်စတာကို ကွာပေးနိုင်ပါ့မလား"

အယ်လီနာ့ တကိုယ်လုံး တောင့်တင်းသွားသည်။ ဒေါသအလျောက် စိတ်လိုက်မာန်ပါ ပြောခဲ့ လုပ်ခဲ့မိ၍ ကြုံခဲ့ရသည့် အဖြစ်များကို ပြန်သတိရပြီး စိတ်ကို တအား ထိန်းထားလိုက် သည်။ အသံ အနိမ့်၊ အမြင့်ကို အစ်ဇဘယ့် အသံနှင့် တန်းတူထားပြီး ပြန်ပြောလိုက်သည်။

"သူကမှ မတောင်းဆိုဘဲ"

"အဲဒါ ကိုယ့်မေးခွန်းရဲ့ အဖြေ မဟုတ်ဘူးလေ"

"ကျွန်မ နားလည်သလောက်တော့ ဒါ အဖြေပဲ၊ ဒါပဲ ကျွန်မ ပြောနိုင်မှာပေါ့"

"ကက်စတာက ကွာရှင်းခွင့် တောင်းချင်နေတယ် ဆိုတာ မင်း သိလားဟင်"

"သူ တကယ် ကွာချင်ရင် ကျွန်မ သိရမှာပေါ့၊ ရှင့်ကို ပြောပေးဖို့ သူ ခိုင်းစရာ မလိုပါဘူး"

အစ်ဇဘယ်က ပခုံးတွန့်လိုက်၏။

"သူကတော့ တော်တော်နဲ့ ထုတ်ပြောမှာ မဟုတ်ဘူး၊ သူဟာ မိရိုးဖလာ အစဉ်အလာကို သိပ်ထိန်းတယ် မဟုတ်လား။ နေပါဦး၊ သူက မကွာချင်ဘူးလို့ မင်း ဘာဖြစ်လို့ ထင်နေတာလဲ"

"သူကိုယ်တိုင်မှ ကျွန်မကို မပြောသေးဘဲ၊ ပြောတော့မှ ဆွေးနွေးကြတာပေါ့"

အစ်ဇဘယ်က အယ်လီနာ့ကို သေသေချာချာ လေ့လာနေသည်။

"မင်း မယုံဘူးပေါ့ ဟုတ်လား၊ ဘာအတွက် မင်းကို ခေါ်လာသလဲလို့ မင်း မေးတယ်၊ ခေါ်လာရင်း အကြောင်း ပြောတော့လည်း မင်း အဆွေးနွေးမခံဘူး။ ထားတော့၊ မင်းအကြောင်း ကို ကိုယ် အားလုံးသိထားတယ်လို့ ပြောပြီးပြီနော်၊ အဲဒီ အကြောင်းနဲ့ မင်းအပေါ် ကိုယ့်အမြင်ကို ပြောရမလား"

အယ်လီနာ ဖန်ခွက်ကို မီးလင်းဖိုနံဘေး ဘောင်ပေါ်သို့ လှမ်းတင်လိုက်သည်။ ဒေါသသံ မပါအောင် တတ်နိုင်သမျှ ထိန်းပြီး ဖြေသည်။

"နေပါ့စေ၊ ကျွန်မအပေါ် ရှင် ဘယ်လို မြင်တယ် ဆိုတာ ကျွန်မ လုံးဝ စိတ်မဝင်စား ဘူး"

"ဒါဖြင့် မင်း စိတ်ဝင်စားမယ့် အကြောင်းအရာတခုတော့ ပြောရဦးမယ်။ ကက်စတာကို ကိုယ် ချစ်တယ်၊ ကိုယ့်ဘဝမှာ ကက်စတာဟာ အချစ်ဆုံးချစ်သူ"

"မယုံပါဘူး၊ ရှင်ဟာ ဘယ်သူ့ကိုမှ ချစ်တတ်တဲ့ မိန်းမမျိုး မဟုတ်ပါဘူး"

အယ်လီနာ ခပ်ပြတ်ပြတ် ဝင်ထောက်သည်။ အစ်ဇဘယ့် နှုတ်ခမ်းပေါ်တွင် သရော်ပြုံး ကလေးတချက် အရောင်လက်သွား၏။

"ဒါဖြင့်ရင် ဘာဖြစ်လို့ သူ့ကို ကိုယ် လိုချင်နေရတာလဲကွယ်၊ သိပ်ကို လိုချင်နေတာ အယ်လီနာရဲ့"

"ရှင် သူ့ကို ဘာဖြစ်လို့ လိုချင်နေရတာလဲ ဆိုတာ ကျွန်မ ပြောပြမယ်"

အယ်လီနာ့အသံက တိကျပြတ်သားလာသည်။ အားရှိလာသည်။

"ရှင်ဟာ အထီးကျန်ဘဝကို သိပ်ငြီးငွေ့နေတယ်၊ စစ်ဖြစ်လာတော့ အားလုံးရဲ့ အမြင်မှာ သနားစရာမုဆိုးမကလေး ဖြစ်နေတယ်၊ တကယ်က ရယ်စရာ သက်သက်ပါ။ ကက်စတာ ချစ်တဲ့ ဝက်သစ်ချမြိုင်နဲ့ ကျွန်မတို့ မိသားစုရဲ့

ရင်ခွင်ကနေ ကက်စတာ့ကို ရှင် အပိုင်စီးပြီး ရှင့်ရဲ့ လပ်နေ ဟာနေတဲ့ ကွက်လပ်တွေမှာ ဖြည့်မယ်"

အစ်ဇဘယ် ကုလားထိုင်လက်တန်းကို ဆုပ်ပြီး ရှေ့သို့ ကိုင်းလာသည်။

"ကိုယ့်လို အမျိုးသမီးက ဒီလိုသိက္ခာမဲ့တဲ့ အလုပ်မျိုးလုပ်မယ်လို့ မင်း ထင်တယ်ပေါ့ ၊ ကိုယ်က လက်ထပ်ဖို့ တစုံတယောက်ကို သွေးဆောင်ဖြားယောင်းနေတယ်လို့ ဆိုလိုတာပေါ့ ဟုတ်လား။ ကလေးမဆန်ပါနဲ့ အယ်လီနာရယ်၊ ကိုယ် လက်ထပ်ချင်ရင် တပတ်အတွင်း ကိစ္စပြီးနိုင်တယ် သိလား"

အစ်ဇဘယ်က အယ်လီနာကို စိုက်ကြည့်နေပြီး ရှင်းလင်းပြတ်သားစွာ ဖြည့်ပြောသည်။

"ကက်စတာဟာ ဒေါ်လာခြောက်သိန်းတော့ တန်ပါတယ်နော်၊ ဒါလောက်ဆို ရှင်းပါ တယ် မဟုတ်လား အယ်လီနာ"

"အဲဒီအတိုင်း မှန်ရင်တော့ ကျွန်မ အံ့သြရမှာပေါ့"

"ဘာများ အံ့သြစရာရှိလို့လဲ"

"သန်းကြွယ်သူဌေးတယောက်ကို ရှင် အရယူနိုင်တာလည်း အံ့သြစရာ မဟုတ်ပါ ဘူး၊ ကက်စတာ့ကို ငြင်းပယ်ခဲ့တာလည်း အံ့သြစရာ မဟုတ်ဘူး"

"မင်းက ကိုယ့်ကို ငွေမက်တဲ့ မိန်းမလို့ ထင်နေတယ်ပေါ့ ဟုတ်လား၊ ငွေမက်ရင် ကက်စတာကို ယူဖို့ ဘယ်ကြိုးစားပါ့ မလဲကွယ်၊ ကဲ.. မင်း ခု ယုံပြီလား"

"ဟင့်အင်း မယုံဘူး"

"ဘာဖြစ်လို့. . ."

"ကျွန်မ ပြောပြီးပြီကော၊ ရှင့်လို မိန်းမမျိုး ချစ်တယ် ဆိုတာဟာ စည်းစိမ်ချမ်းသာပဲ၊ အဲဒါ ပြီးရင် ကိုယ့်ကိုယ်ကိုယ်ပဲ ချစ်တာ မဟုတ်လား။ ကက်စတာက ရှင့်ရဲ့ ကိုယ်ရေးကိုယ်တာ ဝေဒနာတွေကို သူများတွေထက် ပိုစာနာတတ်တော့ ရှင် ကက်စတာ့ကို သဘောကျနေတာ ရှင်းနေတာပဲ"

"မင်းဟာ အတော်ခေါင်းမာတဲ့ ကလေးမပဲ"

အစ်ဇဘယ်က လက်ကိုင်ပဝါကို ဆွဲထုတ်ပြီး လက်တဖက်နှင့် လိပ်နေသည်။

"မင်း ဒါလောက်ဆို နားလည်ဖို့ ကောင်းပြီ အယ်လီနာ၊ မင်းဟာ ကက်စတာကို တသက်လုံးပိုင်ဖို့ အခွင့်အရေးတွေ အများကြီး ရခဲ့တာပဲ၊ အဲဒီ အခွင့်အရေးကို မင်း ဘာလုပ်ပစ် ခဲ့သလဲ၊ မင်းဟာမင်း သိတယ်။ ခုမှ မင်း သူ့ကို ပြန်လိုချင်နေရင် အခွင့်အရေးမရှိဘူး အယ်လီနာ"

"ရှင် ပြောတာတွေ ကျွန်မ နားမလည်ဘူး"

"မင်းတို့ ဖြစ်ကြတာ ကိုယ် မသိဘူး မှတ်နေလား၊ မင်းဟာ တော်တော်ရူးတဲ့ မိန်း ကလေးပဲ"

"ဟုတ်လား၊ ကျွန်မကလည်း ရှင့်ကို အဲဒီလိုပဲ ထင်နေတယ်ရှင့်" အစ်ဇဘယ်က တိုက်ပွဲကို အပြင်းအထန် စလာသည်။

"ကဲ ... တော်ပါတော့၊ မင်း သူ့ကို ဆုံးပြီ ဆိုတာကို ဘာဖြစ်လို့ ဝန်မခံရတာလဲ။ လောက မှာ မင်း မလုပ်နိုင်တာတွေ ရှိသေးတယ် ဆိုတာ မင်း ဝန်ခံပါတော့လား။ မိုးထိတိုက်ကြီးတွေရဲ့ အပေါ်ဆုံးထပ်မှာ ရုံးခန်းကြီးတွေ ဖွင့်ပြီး စက်ရုံတွေ တရုံပြီးတရုံ တိုးပွားအောင် လုပ်နေပါ တော့လား။ ကက်စတာဟာ အသည်းနှလုံးနဲ့ လူသားကွဲ့၊ သူ့ကို လျှော့ဖြေပေးလိုက်ပါတော့ လား"

"ဟုတ်လား၊ ကက်စတာက လူသား ဟုတ်လား၊ ရှင် ပြောနေပုံက သူ့ကို စာကြည့်တိုက် က စာအုပ်တအုပ် ကျနေတာပဲ။ သူဟာ စာအုပ်တအုပ် မဟုတ်တဲ့အတွက် လက်ပြောင်း လက်လွှဲ လုပ်လို့ မရဘူးရှင့်"

"မင်း သူ့ကို လုပ်ပုံက စာအုပ်တအုပ်လောက် တန်ဖိုးထားသလို ဖြစ်မနေဘူးလား။ မင်းကြောင့် ဒဏ်ရာရနေတဲ့ သူ့ဘဝကို ကိုယ် ကုစားချင်တယ် အယ်လီနာ၊ အဲဒါကို မင်း ဘာဖြစ်လို့ ခွင့်မပြုနိုင်ရတာလဲ"

"ကျွန်မကြောင့် ဒဏ်ရာ ရတယ် ... ဟုတ်လား၊ ရှင်က ကုစားမယ်... ဟုတ်လား" အယ်လီနာက ကျောတွေ နာလာသည်အထိ ကုလားထိုင်နောက်မှီကို တအားတွန်းပြီး ကပ်ထားလိုက်၏။

"ရှင့်လို ပွင့်ဖို့ မှီတွယ်ရာ ရှာနေတဲ့ ဖယောင်းပန်းလို မိန်းမကများ ▯

"ဒါက မင်း ထင်တာကိုး"

အစ်ဇဘယ်က ဖြတ်ပြောလိုက်၏။

"မင်းဟာ ခုထိ အရှုံးမပေးချင်သေးဘဲကိုး၊ ကက်စတာဟာ မင်းဆီက ဘာမှ

မရဘူး သိလား။ မင်း ပေးတာတွေဟာ ကက်စတာ လိုချင်တာတွေ မဟုတ်ဘူး၊ မင်းဘက်ကတော့ ကက်စတာအတွက် ပေးဆပ်ခဲ့ရတာတွေ အများကြီးပေါ့ ဟုတ်လား။ ကိုယ်က မင်းကို စောင့်ကြည့် ပြီး ရယ်နေတာ အယ်လီနာ၊ သူ လိုချင်တာကို မင်း ဘာမှမပေးနိုင်ဘူး။ ဒီမယ် အယ်လီနာ၊ ကိုယ်က ပေးနိုင်တယ်၊ ဒါကြောင့် သူ ကိုယ့်ဆီ လာမှာ သိလား။ သူ့ကို ဖက်တွယ်ထားဖို့ မကြိုးစား နဲ့တော့၊ အလကားပဲ။ မင်း ဖျက်ဆီးခဲ့လို့ ဘဝပျက်ခဲ့တဲ့ ကက်စတာကို ကိုယ် အရင်အတိုင်း ပြန်ဖြစ်အောင် လုပ်ယူမယ် အယ်လီနာ”

ဆက်၍ နားမထောင်နိုင်တော့။ အယ်လီနာ မတ်တတ် ထရပ်လိုက်သည်။ တောင်စဉ်ရေမရ လျှာအရိုးမရှိ ပြောသည့် မိန်းမတယောက်၏ ပြောစကားများကို ဆက်ပြီး နားမထောင် လိုတော့။ အစ်ဇဘယ်လည်း ထရပ်လိုက်ရင်း ကရားရေလွှတ် ဆက်ပြောနေဆဲ။

“ကက်စတာဟာ သူရဲကောင်းမျိုးနွယ်က ဆင်းသက်လာတာ။ လန်းမျိုးဆက်ရဲ့ ယောက်ျား တွေဟာ ဘယ်လိုပဲဖြစ်နေ ဖြစ်နေ သူတို့ကို ချစ်မြတ်နိုးတဲ့ မိန်းမတွေက သူရဲကောင်းတွေအဖြစ် ကိုးကွယ်ခဲ့ကြတာချည်းပဲ။ လန်းမိသားစုနဲ့ ဆက်နွှယ်ခဲ့တဲ့ အမျိုးသမီးတွေကလည်း အမေရိကန် တောင်ပိုင်းရဲ့ ငါတို့လို အစဉ်အလာရှိတဲ့ မျိုးရိုးက လာတာချည်းပဲ။ အဲဒီအမျိုးသမီးတွေဟာ ကိုယ့်ယောက်ျားကို မြတ်မြတ်နိုးနိုး ကိုးကွယ်ကြတယ်၊ မင်းကျတော့ အားလုံး ပြောင်းပြန်ဖြစ်ကုန် တယ် ဟုတ်လား”

အစ်ဇဘယ်က ရယ်လိုက်သည်။

“မင်း ဒီတပွဲမှာတော့ အရှုံးကြီး ရှုံးပြီ အယ်လီနာ၊ ကက်စတာဟာ မင်းကို စိတ်ကုန် သွားပြီ။ မင်း အသက်ရှင်နေသေးတာကို သတိရနေတဲ့အတွက် သူ စိတ်ဆင်းရဲနေတာ။ ကဲ.. မင်းမှာ ရှိသမျှ အလှအပတွေ၊ အတတ်ပညာတွေ သုံးပေတော့”

အယ်လီနာက ဝတ်ရုံအင်္ကျီအိတ်ထဲတွင် လက်သီးကို ကျစ်ကျစ်ပါအောင် ဆုပ်ထားသည်။ ရင်ထဲတွင် မုန်တိုင်းတိုက်နေပြီ၊ ငါ့ပါးစပ်က ထွက်လိုက်ရင်တော့ မကြားဝံ့မနာသာတွေ ဖြစ်ကုန် တော့မယ်။ ဘုရား... ဘုရား၊ ကျွန်တော်မျိုးမ၏ စိတ်ကို ထိန်းသိမ်းနိုင်အောင် ကူညီ စောင်မ တော်မူပါ။

အစ်ဇဘယ် အခန်းပြင်သို့ ထွက်လိုက်သည်။

“ကိုယ် ပြောချင်တာ အဲဒါပါပဲ၊ မင်း အဝတ်တွေကို ပို့ခိုင်းလိုက်မယ်၊ မင်းကားကိုလည်း ကိုယ် ဖုန်းဆက်ပေးပါ့မယ်”

အစ်ဇဘယ် ထွက်သွားသည်။ အယ်လီနာ ငြိမ်ပြီး ရပ်ကျန်ရစ်၏။ ရင်တွေ တုန်နေ၏။ လက်တွေကို အိတ်ထဲမှ ထုတ်ပြီး ဖြေလိုက်သည့်အခါ လက်ချောင်းကလေးတွေ နာကျင်နေသည်။ နောက်ဆုံး ဘာမျှမပြောဘဲ ချုပ်တည်းထားလိုက်နိုင်သည့်အတွက် ဝမ်းသာနေ၏။ တံခါး ခေါက်သံကြားလို့ ဖျတ်ခနဲ လှည့်ကြည့်လိုက်သည်။ ကပ္ပလီအမျိုးသမီးကလေး အဝတ်တွေ လာပို့ပေးခြင်း ဖြစ်၏။

ကလေးမက အတွင်းခံတွေနှင့် အင်္ကျီတွေ၊ စကတ်တွေ မီးပူထိုးပြီး ဖြစ်ကြောင်း၊ ကုတ် အင်္ကျီနှင့် ဖိနပ်ကတော့ မခြောက်သေးကြောင်း ရှင်းပြနေ၏။

မစ္စအစ်ဇဘယ်၏ ဖိနပ်အခြောက်တရန်ပါ ယူလာကြောင်းလည်း ပြော၏။ အယ်လီနာ က ကျေးဇူးတင်ကြောင်း ဝတ်ကျေတမ်းကျေ ပြောလိုက်ပြီး ခပ်သွက်သွက် အဝတ်လဲသည်။ အစ်ဇဘယ့် ဖိနပ်ကို မစီးဘဲ ကိုယ့်ဖိနပ်စိုကိုပဲ ကောက်စီးလိုက်သည်။ အအေးမိချင်လည်း မိပစေတော့။

ဆံညှပ်တွေကို ကောက်ယူပြီး မှန်တင်ခုံဆီသို့ လျှောက်သွားသည်။ ဆံပင်တွေ ခြောက်နေပြီ။ ဆံပင်ကို ပြုပြင်နေစဉ် မှန်တင်ခုံပေါ်မှ အရောင်လက်နေသည့် အရာတခုကို လှမ်းမြင် လိုက်သည်။ ရင်တွေ ပြန်ခုန်လာ၏။ ဆတ်ခနဲ ကောက်ယူလိုက်၏။ ကက်စတာ၏ ငွေဓား ကလေး။

သေသေချာချာကြည့်ပြီး သူ့နာမည် စာလုံးကလေးတွေကို ငေးနေသည်။ ရင်ထဲတွင် ပူသွားလိုက်၊ အေးခနဲ ဖြစ်သွားလိုက်နှင့်။ ကက်စတာ မေ့ကျန်ရစ်ခဲ့ဟန် တူ၏။ ဓားကို ကျစ်ကျစ် ပါအောင် ဆုပ်ထားလိုက်သည်။ ပြီးတော့ လက်ဝါးပေါ်တွင် ဖြန့်တင်ပြီး ကြည့်မိပြန်၏။ အတွေး တခု ခေါင်းထဲ ဝင်လာသည်။

ဓားကလေးက ထက်လိုက်တာ. . . မြည့်နေတာပဲ၊ သည်ဓားနှင့် သူ့မျက်နှာလှလှကလေးကို...။

တံခါးခေါက်သံ ပေါ်လာပြန်သည်။ ဓားကို ကျစ်ကျစ်ပါအောင် ဆုပ်ပြီး ချာခနဲ လှည့် လိုက်သည်။

“ဘယ်သူလဲ” ဟု လှမ်းမေးလိုက်သည့် အသံမှာ လိုတာထက် ပိုပြီး ကျယ်သွား၏။ စောစောက ကပ္ပလီမကလေး ဝင်လာပြီး ကားရောက်နေပြီ ဖြစ်ကြောင်း သတင်းလာပို့ခြင်း ဖြစ်၏။

ကုတ်အင်္ကျီအစိုကို ကိုင်သည့် လက်တွင် ဓားကိုဆုပ်ပြီး ဆင်းလာခဲ့၏။ အစ်ဇဘယ်က တံခါးဝတွင် နှုတ်ဆက်သည်။

"ဂွတ်နိုက်"

"ဂွတ်နိုက်"

အပိုတခွန်းမျှ မပြောကြ။ အယ်လီနာ ကားဆီသို့ လျှောက်သွားသည်။

မိုးက မစဲသေး။ ကာမီယိုက သတိနှင့် ဖြည်းဖြည်းမှန်မှန်ပင် မောင်းလာသည်။ နောက်ခုံတွင် အယ်လီနာတယောက် မေးချင်းရိုက်ပြီး လိုက်လာ၏။ ရာသီဥတုကြောင့်ရော စိတ်လှုပ်ရှားမှုကြောင့်ပါ ဒွေးရော ဥပဒ်ရော ပေါင်းပြီး ခိုက်ခိုက်တုန်နေသည်။

စိတ်ကို ထိန်းရဖန်များတော့ နွမ်းခွေနေ၏။ ပြင်းပြင်းထန်ထန် ဒေါသဖြစ်ပြီး ဖြေစရာ မရှိဘဲ ဒေါသအရှိန်ကို လျှော့ချ၍ မရသည်မှာ သည်တကြိမ်သည် ပထမဆုံးအကြိမ် ဖြစ်၏။ သည်အဖြစ်မျိုးသည် မည်မျှ ပင်ပန်းကြောင်းကို ယခင်က အယ်လီနာ လုံးဝ မသိခဲ့။

ဒစ်စီနှင့် ဘက်စီတို့က စိုးရိမ်တကြီးနှင့် သူတို့ သခင်မကို အကျိုးအကြောင်း မေးမြန်းနေ ကြသည်။ ဒစ်စီက ကုတ်အင်္ကျီအစိုကို လှမ်းယူပြီး အသင့် မီးကင်ထားသော ဖိနပ်တရန်ကို လဲဝတ်စေသည်။ ညစာစားဖို့ ပြင်သည်။ မစားချင်ကြောင်း ပြန်ပြောတော့ ဒစ်စီက-

"ဒါဖြင့် နို့ပူပူတခွက် သောက်ပါ မမလေး၊ ဒစ်စီ ယူခဲ့မယ်နော်"

နားအေးလျှင် ပြီးရော ဆိုသည့် သဘောဖြင့် ခေါင်းညိတ်လိုက်သည်။

ဧည့်ခန်း မီးလင်းဖိုနံဘေးတွင် ထိုင်သည်။ လက်ထဲမှ ငွေခားကလေးကို စိုက်ကြည့်နေ ၏။ ကိုယ်ထိလက်ရောက် ကျူးလွန်ဖို့ စိတ်ကူးမိသည့်အတွက် အထိတ်တလန့် ဖြစ်သွားသည်။ သည်လို ရာဇဝတ်မှုမျိုးတွေ ဖေဖွေ ရေကာတာလုပ်သား တန်းလျားများတွင် ဖြစ်ပွားလေ့ရှိ၏။ လူတို့၏ အရိုင်းခေတ် ဓလေ့စရိုက်များသည် အပေါ်ရေ တင်းနေသည့် ယဉ်ကျေးမှု မျက်နှာပြင် တွင် ငုပ်လျှိုးနေကြောင်း သဘောပေါက်လိုက်၏။ ဒစ်စီခြေသံကြားတော့ စားပွဲပေါ်မှ ဓားကို မဂ္ဂဇင်းစာအုပ် တအုပ်အောက်တွင် ဖိထားလိုက်သည်။

ဒစ်စီက ဘီစကွတ် တပန်းကန်နှင့် နွားနို့ပူပူတခွက် ယူလာသည်။ သူ့မျက်နှာတွင် ရင်းနှီးခင်မင်သည့် ရောမ အပြုံးကြီးကို တွေ့ရသည်။ စိတ်ထဲတွင် လုံလုံခြုံခြုံ ဖြစ်သွားသလို ခံစားလိုက်ရ၏။ တယ်လီဖုန်းဖြင့် ကားလှမ်းမှာသည့်အတွက် အဖြစ်အပျက်ကို ဒစ်စီ သိပြီးဖြစ် မည်။ သို့သော် မိမိ ဘာကို စိတ်ကူးနေမှန်းတော့ သိနိုင်မည် မဟုတ်။ ပြန်ပြုံးပြလိုက်သည်။

ပင်ပန်းလှပြီ။ သည်ညတော့ တဝကြီး အိပ်ပစ်လိုက်မည်။

"ပူပူလေး သောက်လိုက်ပါ မမလေးရယ်၊ မုန့်လည်း စားပါဦး၊ ရာသီဥတုက သိပ် ဆိုးတာပဲနော်... မမလေး"

"အေး ... ကလေးတွေကော"

"ညစာကျွေးပြီးလို့ သိပ်ပြီးပါပြီ မမလေး၊ ကလေးတွေအတွက် မပူပါနဲ့ မမလေးရယ်"

"အေးပါဟယ်၊ ငါ မပူပါဘူး။ နင် ဘယ်လောက် ဂရုစိုက်တယ် ဆိုတာ ငါ သိပါတယ်၊ နင် မရှိရင် ငါတော့ ဒုက္ခပဲ"

"ဟုတ်ကဲ့၊ ကျွန်မ တတ်နိုင်သလောက် ဂရုစိုက်ပါတယ်၊ ကဲ . . . သောက်လိုက်ပါဦး မမလေး၊ အေးကုန်တော့မယ်"

သူ့အလိုကို လိုက်ခြင်းက ဆန့်ကျင်နေခြင်းထက် ပို၍ လွယ်ကူမည် ဖြစ်၍ ဘီစကွတ် မုန့်စားပြီး နို့သောက်လိုက်သည်။ အခန်းထဲ အရောက် လိုက်လာပြီး ဒစ်စီ အဝတ်ကူလဲပေးသည်။ ပင်ပန်းလှပြီ။ ဒစ်စီက ရေနွေးအိတ်ကိုလည်း ခြေရင်းတွင် အသင့်ထားပေးသည်။ နောက်နေ့ မနက်တွင် မနိုးမချင်း မနှိုးရန် ပြောတော့-

"မနက်ဖြန် တနေ့လုံး အိမ်ထဲမှာ နားနေဖို့ ကောင်းပါတယ် မမလေး"

"ရပါတယ်ဟယ်၊ ငါ ဘာမှ မဖြစ်ပါဘူး၊ ကျေးဇူးပဲ ဒစ်စီ"

ခင်းပုံလွှားအောက်တွင် တကိုယ်လုံးရှိ အကြောအခြင်တွေကို လျှော့ချလိုက်၏။ တခဏအတွင်း အိပ်ပျော်သွားတော့သည်။

※※※

# အခန်း (၁၃)

## (၁)

နောက်နေ့ မနက်တွင် မိုးစဲသွားသည်။ သို့သော် မြေကြီးက မခြောက်သေး။ ဒစ်စီက ကော်နယ်လီယာနှင့် ဖီးလစ်ကို အပြင်သို့ လမ်းလျှောက် မခေါ်တော့။ အယ်လီနာ့ကို မနိုးစေချင် ၍ သူတို့မောင်နှမနှစ်ယောက်ကို အောက်ထပ်တွင် ကစားခိုင်းသည်။ နှစ်ယောက်လုံး အပြင် မထွက်ရ၍ စိတ်ကောက်နေကြ၏။

ရာသီဥတုက မှိုင်းအုံ့နေပြန်သည်။ အရုပ်ညှပ်ဆက် ကစားနည်းအတွက် သူတို့နှစ်ယောက် အခက်အခဲ တွေ့နေသည်။ ဒစ်စီက သူတို့အခန်းကို ရှင်းနေသဖြင့် မကူညီနိုင်သေး။ ကော်နယ် လီယာ အပြင်ကို စိတ်ပျက်လက်ပျက် လှမ်းကြည့်သည်။ သည်နေ့ မြို့ထဲ ထွက်ပြီး အဝတ်အစား ဝယ်မယ်လို့ မေမေက ပြောထားသည်။ နေမသာ၍ သွားဖြစ်မည် မဟုတ်တော့။

“ဆင်ရုပ် ဖြတ်ရအောင်ဟေ့”

ဖီးလစ်က အနားလာပြီး ကပ်ပြောသည်။ ကော်နယ်လီယာ စိတ်ပျက်သွားပြန်သည်။ ရွှယ်တူတန်းတူ ကစားဖော်နှင့်သာ ကစားချင်သည်လေ။ ကော်နယ်လီယာ ၆ နှစ် ပြည့်နေပြီ။ ဖီးလစ်က ၄ နှစ်။ ဖီးလစ်ကို အမြဲတမ်း ကူနေရ၏။ သူကိုယ်တိုင် ဘာမျှ မလုပ်တတ်သေး။

ကော်နယ်လီယာက ဖီးလစ် လက်ထဲမှ ကတ်ပြားကို ယူပြီး ကတ်ကြေးနှင့် ညှပ်သည်။ ဖီးလစ်က ရင်တမမနှင့် စောင့်ကြည့်နေ၏။ ဆင်နှာမောင်းကို ညှပ်ရသည်မှာ မလွယ်။ ကတ်ကြေး က ခပ်တုံးတုံးရယ်။ သေသေသပ်သပ် ညှပ်ဖို့ မလွယ်မှန်း ကော်နယ်လီယာ သိသည်။ သို့သော် လွယ်လွယ်နှင့် အလျှော့မပေးချင်။ စားပွဲဆီသို့သွားပြီး စားပွဲတင်မီးရောင် အောက်တွင် ဆက်ညှပ် သည်။ ဖီးလစ်က နံဘေးမှ ရပ်လျက်။ ကတ်ကြေးဦးချွန်နှင့်မှ ဖြစ်မည်။ ကော်နယ်လီယာ စိတ် လှုပ်ရှားသွား၏။ တံတောင်ဆစ်နှင့် တိုက်မိပြီး စားပွဲပေါ်မှ မဂ္ဂဇင်းစာအုပ်တအုပ် အောက်သို့ ကျသွားသည်။

ဟယ်... ငွေဓားကလေးတချောင်း။ ကော်နယ်လီယာ ကတ်ကြေးကို ချပြီး ငွေဓား ကလေးကို ကောက်ကိုင်လိုက်သည်။

“ဒါနဲ့ဆိုရင် ရမယ်ကွ”

“အဲဒါ ဘာလဲဟင်”

ဖီးလစ်က နံဘေးမှ မေးလိုက်သည်။

“ဒါ ဖေဖေ့ ခါးလေ၊ မေ့ကျန်ခဲ့တာ ထင်တယ်၊ ဖေဖေတော့ သူ့ခါးကလေးကို အောက်မေ့ နေမှာပဲနော်။ မေမေကလည်းကွာ ပို့ပေးလိုက်ရောပေါ့နော်... ဖီးလစ်”

ဖီးလစ်က သူ့အစ်မ ထောင်ပြသည့် ခါးကလေးကို ကြည့်နေသည်။ ကော်နယ်လီယာ က ဝင့်ကြွားစွာ ပြုံးလိုက်သည်။

“မောင်လေး . . . ဒီလက်ကိုင်ပေါ်က စာလုံးကလေးတွေကို နင် ဖတ်တတ်လား ဟင်”

ဖီးလစ် ခေါင်းယမ်းပြသည်။

“ငါ ဖတ်တတ်တယ်”

ကော်နယ်လီယာ စာလုံးပေါင်းပြီး ဖတ်ပြသည်။

“ဖေဖေ ပြန်လာရင်တော့ သိပ်အံ့သြမှာပဲနော်၊ ငါက စာလည်း တတ်နေပြီ၊ သူ့ခါးနဲ့ လည်း ဆင်ရုပ်ကို ဖြတ်တတ်နေပြီ”

“ပေး... ငါလုပ်မယ်”

ဖီးလစ်က အားကျမခံ ခါးကို လှမ်းတောင်းသည်။

“နင် မလုပ်တတ်ပါဘူး၊ နင်က ငယ်သေးတယ် ဖီးလစ်ရဲ့၊ နှာမောင်းတွေ ပြတ်ကုန် မှာပေါ့”

ကော်နယ်လီယာ ခါးကို ဂရုတစိုက် ဆွဲဖွင့်သည်။

“အဲဒီခါးက ဦးချွန်တယ်၊ ငါလုပ်တတ်တယ် ပေး”

“နေစမ်းပါ ဖီးလစ်ရယ်၊ မမ လုပ်ပေးမယ်... နော်”

“ဟင့်အင်း . . . ဟင့်အင်း၊ ငါ လုပ်မယ်... ပေး”

ဖီးလစ်က အော်ငိုပြီး ခါးကို တောင်းသည်။ မရတော့ အတင်းလုသည်။

ကော်နယ် လီယာက လက်ကို နောက်သို့ ပစ်ထားပြီး မပေးဘဲ ရုန်းနေ၏။ သို့သော် ခေါးကိုင်ထားသည့် လက်ကို ဖီးလစ် အတင်းလိုက်ဖမ်းသည်။ ကော်နယ်လီယာက သူ့လက်ကို ဖယ်ဖို့ ကြိုးစား၏။ သူက အကြီးဖြစ်၍ သူ့စကားကို နားထောင်ရမည်ဟု အော်ပြောနေ၏။ နှစ်ယောက်သား ဆွဲရင်းလွဲရင်း ကော်နယ်လီယာ၏ ခြေထောက်တဖက် ကော်ဇောနှင့် ငြိပြီး လဲကျသွားသည်။ ကော်နယ်လီယာ ငယ်သံပါအောင် အော်လိုက်သည်။ မီးဖိုဆောင်ထဲမှ အစေခံတွေ ပြေးထွက်လာကြသည်။ စူးစူးရှါးရှါး အော်သံကို အပေါ်ထပ်မှ အိပ်ရာသိမ်းနေသည့် ဒစ်စီရော၊ ကလေးတို့ အမေ အယ်လီနာပါ ကြားလိုက်သည်။

※※※

# (၂)

အယ်လီနာ မလှုပ်ချင် လှုပ်ချင်နှင့် တချက် လွန့်လိုက်သည်။ တနေ့တလေ ဝဝအိပ်မယ် စိတ်ကူးပါတယ်၊ ဘာတွေ ဖြစ်နေကြလဲမသိဘူး၊ ဆူညံနေတာပဲ၊ ပြေးလွှားနေကြသံတွေ ပါလား၊ ဟော. . . အော်ငိုသံ ထပ်ကြားရပြန်ပြီ၊ ကော်နယ်လီယာ့ အသံ ထင်တယ်။ ခါတိုင်း လိုဆိုရင် စင်္ကြန့်ပိုင်းအတွင်း အောက်ထပ်သို့ ရောက်သွားမည် ဖြစ်၏။ တကိုယ်လုံး ကိုင်ရိုက် ထားသလို ဖြစ်နေ၍ ခုတင်ပေါ်တွင် ထထိုင်လိုက်သည်။ ခုမှ လုံးလုံးလျားလျား နိုးလာခြင်း ဖြစ်၏။ ဟုတ်တယ်၊ ကော်နယ်လီယာ ဆက်တိုက် အော်ငိုနေတယ်၊ တခုခုတော့ ဖြစ်ပြီ ထင်တယ်။

ခုတင်ပေါ်မှ ဝုန်းခနဲ ခုန်ဆင်းသည်။ ခြေညှပ်ဖိနပ်ကို ကမန်းကတန်း စွပ်သည်။ ရေချိုး ဝတ်ရုံတခုကို လှမ်းဆွဲပြီး အောက်ထပ်သို့ တအား ပြေးဆင်းခဲ့သည်။

ဒစ်စီက သူ့ရှေ့မှ ပြေးဆင်းနေသည်။ အိမ်ဖော်တယောက် အပေါ်ထပ်သို့ ပြေးတက် လာသည်နှင့် လှေကားတွင် ဆုံသည်။

“ကော်နယ်လီယာရယ်... ကော်နယ်လီယာရယ် မမလေး၊ လဲကျသွားတာ” အယ်လီနာ ဘာမျှ မမေးဘဲ သူ့ကို ဖြတ်ကျော်ပြီး ပြေးဆင်းခဲ့သည်။ ဧည့်ခန်းထဲတွင် အစေခံတွေ ဝိုင်းအုံနေကြ၏။ ဖီးလစ်က တရှုပ်ရှုပ် ငိုနေသည်။ ဖီးလစ်ကို တချက်ငဲ့ကြည့် လိုက်သည်။ ဘာမျှ ထိခိုက်မိပုံမရ။ ကော်နယ်လီယာကို ပွေ့ထားသည့် ဒစ်စီ အနားတွင် အယ်လီ နာ ဒူးထောက်ထိုင်ချလိုက်သည်။

ကော်နယ်လီယာ မျက်နှာကို လက်နှစ်ဖက်ဖြင့် အုပ်ပြီး ဒစ်စီ ရင်ခွင်နှင့် အပ်ထား သည်။ ဒစ်စီက “သမီးလေးရယ် . . . မလေး ကော်နယ်လီယာရယ်” ဟု တတွတ်တွတ် အော်နေ သည်။

ကော်နယ်လီယာ့ လက်တွေကို မျက်နှာမှ အယ်လီနာ အသာဆွဲဖယ်လိုက်သည်။ ဘုရား ဘုရား၊ အယ်လီနာ့ လက်နှစ်ဖက်က ကလေးကို အတင်းဆွဲယူပြီးသား ဖြစ်သွားသည်။ လည်ချောင်းထဲမှ ထွက်လာသည့် အယ်လီနာ၏ အော်သံသည် တအိမ်လုံးကို ပဲ့တင်ရိုက် သွားသည်။

“မျက်လုံး... မျက်လုံးကို ထိသွားတာ၊ ဘုရား . . . ဘုရား၊ လုပ်ကြပါဦး၊ ငါ့သမီး

ကလေးရဲ့ မျက်လုံးလှလှလေးကို ထိသွားတာ”

ကော်နယ်လီယာ၏ ငိုညည်းသံနှင့် ဖီးလစ်ကလေး၏ ရှိုက်သံမှလွဲ၍ ခဏငယ်မျှ အားလုံး ငြိမ်သွားသည်။ အိမ်စေတွေ အားလုံး ကြက်သေသေနေကြသည်။ ကော်နယ်လီယာ၏ ဘယ်ဘက် မျက်ခွံအောက်မှ သွေးတွေစီးကျနေသည်ကို ကြည့်ပြီး အယ်လီနာ ကိုယ်တိုင်လည်း ကြောင်နေ သည်။ ဘာဖြစ်တာလဲ၊ ဘယ်လိုဖြစ်တာလဲဟု တခွန်းမျှမမေး။ ပါးစပ်အဟောင်းသားနှင့် သမီးကလေးကိုသာ တင်းတင်းဖက်ပြီး စိတ်ထဲမှ မျက်လုံး... မျက်လုံးဟု ထပ်ကာထပ်ကာ ရေရွတ်နေ၏။

အတန်ကြာမှ အိမ်စေတွေ လှုပ်လှုပ်ရှားရှား ဖြစ်လာကြသည်။ ဖီးလစ်ကို ချော့သူချော့၊ ကော်နယ်လီယာကို ငုံ့ကြည့် သူကြည့်၊ ဘယ်လိုဖြစ်တာလဲ၊ ဘာဖြစ်တာလဲဟု တဦးနှင့် တဦး မေးသူမေးနှင့်။ ကာမီယိုက ကြမ်းပြင်ပေါ်မှ တစုံတခုကို ကောက်ယူလိုက်ပြီး-“ဟင်... မာစတာ ကက်စတာရဲ့ ဓားလေးပါလား၊ ဟုတ်တာပေါ့” အယ်လီနာ ဆတ်ခနဲ ခေါင်းထောင်ကြည့်လိုက်သည်။ ကက်စတာ့ ဓား . . . တဲ့၊ ကာမီယို ၏ စကားလုံးတွေက သူ့ကို စွဲချက်တင်နေသည်ဟု အယ်လီနာ ခံစားလိုက်ရ၏။ ညက စားပွဲပေါ်တွင် ကျန်ခဲ့ကြောင်း အမှတ်ရလိုက်သည်။ ကလေးများ လက်လှမ်းမီရာ တွင် ချွန်ထက်သည့် အရာဝတ္ထုများ မထားရဟု မကြာမကြာ အမိန့်ထုတ်လေ့ရှိသည့် အယ်လီ နာ။ အယ်လီနာ့ မျက်နှာတခုလုံး ဖြူဖပ်ဖြူရော် ဖြစ်သွားသည်။ ထိတ်လန့် ကြောက်ရွံ့ခြင်းကို ဖုံးကွယ် မရတော့။ ကာမီယိုက ငုံ့ပြီး-

“ကျွန်တော် အပေါ်ထပ် ယူသွားပေးမယ်လေ... မမလေး”

အယ်လီနာ့ အဖြေကို မစောင့်တော့ဘဲ ကာမီယိုက ကော်နယ်လီယာကို ပွေ့ယူသည်။ တင်းမာလှသော မျက်နှာထားနှင့် ကာမီယို ဆက်ပြီး အမိန့်ပေးသည်။

“ဘက်စီ၊ ဒေါက်တာပါစယ်ကို ချက်ချင်း ဖုန်းဆက်စမ်း၊ မလေး မှင်တက်မိနေတာ နင်တို့ မမြင်ဘူးလား”

သည်တော့မှ အယ်လီနာ ထရပ်သည်။

“ကျေးဇူးပဲ ကာမီယို”

အယ်လီနာ့ အသံမှာ တိုးတိုးကလေးသာ ကျန်တော့၏။ မနည်းအားယူပြီး လိုအပ်သည် များကို ဆက်လက် ညွှန်ကြားသည်။

“ဘက်စီ မြန်မြန်လုပ်၊ ဒေါက်တာပါစယ်ကို ပြော။ မစ္စကော်နယ်လီယာ

လဲကျသွားလို့ ခေါင်းနဲ့ မျက်လုံးကို ခိုက်မိသွားတယ်လို့၊ အမြန်ဆုံး လာပါလို့ပြော။ သူ မရောက်လာခင် ဘာလုပ် ထားရမလဲ ဆိုတာလည်း မေး. ကြားလား။ ဟော့ ကျန်တဲ့ လူတွေ ငြိမ်ငြိမ်နေကြစမ်း။ လာ... ကာမီယို၊ သမီးကို ငါ့အခန်းထဲ ယူခဲ့”

အခန်းထဲ ရောက်တော့ ကာမီယိုက ကော်နယ်လီယာကို ခုတင်ပေါ်တွင် ပက်လက် တင်လိုက်သည်။ ကော်နယ်လီယာက လက်နှစ်ဖက်နှင့် မျက်လုံးနှစ်ဖက်ကို တအားပိတ်ထား ပြီး ညည်းနေရှာသည်။ အယ်လီနာ သူ့လက်ကလေးတွေကို အသာဖယ်သည်၊ မရ။ တအား ဖိကပ်ထား၏။ ဘက်စီ ဝင်လာသည်။

“ဆရာ ချက်ချင်း လာခဲ့ပါ့မယ်တဲ့ မမလေး၊ ခုပဲ ထွက်လာနေပါပြီ”

အယ်လီနာ ခုတင်ပေါ်မှ ခုန်ဆင်းလိုက်ပြီး-

“တို့ ဘာလုပ်ထားရမလဲတဲ့ ဟင်”

“သူ မလာခင် ဘာမှ မလုပ်ပါနဲ့တဲ့ မမလေး”

“ဘုရား... ဘုရား”

အယ်လီနာ ခုတင်ပေါ်တွင် ပြန်ထိုင်ချလိုက်သည်။ ကော်နယ်လီယာကို သိုင်းဖက်ပြီး ချော့မော့သည်။ သို့သော် အသံတွေက မမှန်။ ထိတ်လန့် တုန်လှုပ်နေသည့် အသံ။ ကော်နယ်လီ ယာက တအင်းအင်းနှင့် ညည်းညူနေရာမှ တစုံတရာကို တိုးတိုးကလေး ပြောနေ၏။ အယ်လီနာ နားကပ်ထောင်လိုက်သည်။

“ဘာလဲဟင် သမီး၊ ပြောလေ. . . မေမေ အနားမှာရှိတယ် သမီးရယ်၊ ပြောလေ”

“ဖေဖေ့ကို ပြန်လာဖို့ ပြောပေးပါ မေမေ၊ သမီး ဖေဖေ့ကို တွေ့ချင်တယ်”

အယ်လီနာက ကော်နယ်လီယာ၏ လက်နှစ်ဖက်ကို မျက်လုံးပေါ်မှ ဖြည်းဖြည်းဖယ်ရင်း-

“ခေါ်ပေးမှာပေါ့ သမီးရယ်၊ အမြန်ဆုံး ခေါ်ပေးမယ်နော်”

“ခု ခေါ်ပေးပါ မေမေရယ်၊ ဖေဖေ့ဆီ ဖုန်းဆက်လို့ မရဘူးလား ဟင်”

“ရတယ်လေ၊ မေမေ ဆက်မှာပေါ့၊ မေမေ ဆက်နေတုန်း သမီး မျက်လုံးကို ဘာမှ မလုပ်ရဘူးနော်၊ ကြားလား”

ကော်နယ်လီယာ ခေါင်းညိတ်သည်။

သမီးကို သိုင်းဖက်ထားသည့် လက်ကို ဖြုတ်ပြီး ခုတင်နံဘေးမှ တယ်လီဖုန်းကို ကောက် ကိုင်လိုက်သည်။

ကက်စတာ အလုပ်လုပ်နေသည့် ဌာနသို့ ဆက်သွယ်ရန် အဝေးပြောဌာနကို တောင်း လိုက်သည်။ ကက်စတာ့ အလုပ်စခန်းသို့ ရသည့်အခါ သူ ရုံးခန်းတွင် မရှိကြောင်း၊ စိုက်ခင်း ထဲသို့ ထွက်သွားကြောင်း၊ ပြန်လာလျှင် အကျိုးအကြောင်း ပြောပေးမည် ဖြစ်ကြောင်း အော်ပရေ တာ ပြန်ပြောသည်။

"ဖေဖေ့ကို ရပြီလားဟင်၊ သမီး ပြောမယ်... မေမေ"

ကော်နယ်လီယာက အယ်လီနာ နောက်မှ လှမ်းပြောသည်။

"ခဏလေးပါ သမီးရယ်၊ ဖေဖေ အပြင်ထွက်နေလို့တဲ့၊ ဒီမယ် ရှင် သိပ်အရေးကြီးနေ လို့ ပါနော်၊ တဆိတ် ရှာပေးပါရှင်"

"ခဏ ကိုင်ထားနော်၊ ကျွန်မ ရှာကြည့်ဦးမယ်"

စိတ်ထဲတွင် ကြာလွန်းသည်ဟု ထင်နေ၏။ နောက်ဆုံးမှ ကက်စတာ့ အသံ ပေါ်လာ သည်။

"ဟဲလို... အယ်လီနာ"

နှစ်လအတွင်း မောင့်အသံကို ပထမဆုံး ကြားရခြင်း။ ဘယ်လောက် သာယာသည့် မောင့်အသံပါလဲ၊ နှစ်လ မဟုတ်ဘဲ အနှစ်နှစ်ဆယ် ကွဲကွာနေရင်လည်း မောင့်အသံကို ကြားကြား ချင်း မှတ်မိမှာပဲ။ ကက်စတာ့ အသံက အံ့သြနေသည့်အသံ၊ တိုတိုတုတ်တုတ်ပဲ ရှင်းပြလိုက် သည်။

"မောင် ကော်နယ်လီယာကလေး ခိုက်မိသွားလို့"

"ကော်နယ်လီယာ ဟုတ်လား၊ ဘယ်လို ဖြစ်တာလဲ၊ သိပ်စိုးရိမ်ရလား"

"မသိသေးဘူး မောင်၊ မျက်လုံးမှာ"

"ဘုရား... ဘုရား"

"သမီးက မောင်နဲ့ စကားပြောချင်နေရှာတယ်"

“ဘယ်တုန်းက ဖြစ်တာလဲ”

“ခု မိနစ်ပိုင်းမှာပဲ ဖြစ်တာ”

“ဆရာဝန်ကို ခေါ်ပြီးပြီလား”

“ဘော့ပါစယ်ကို ခေါ်ထားတယ်၊ သူ ခုပဲ ရောက်လာလိမ့်မယ်”

“ဟာ... ဘော့ ဘာနားလည်မှာလဲ၊ သူက မျက်စိဆရာဝန်မှ မဟုတ်တာ။ နယူးအော်လင်းကို အမြန်ဆုံး ခေါ်သွား၊ အဲဒီမှာ အထူးကုဆရာဝန် ရှိတယ်။ ကိုယ်လည်း ချက်ချင်း လာခဲ့မယ်၊ မင်း ဘယ်အချိန် ထွက်နိုင်မလဲ အယ်လီနာ”

“ဘော့ကို ပထမ ပြကြည့်ဦးမယ်လေ”

“ဘော့ကို စောင့်ဖို့ လိုလားကွာ”

“သမီးကလေး သိပ်နာနေရှာတယ် မောင်ရဲ့၊ သူလည်း ခုပဲ ရောက်မှာပါ”

ကက်စတာ သက်ပြင်းချသံ ကြားလိုက်ရသည်။ အယ်လီနာ နှုတ်ခမ်းကို ကိုက်ထား၏။

“သမီးလေးနဲ့ စကားပြောပါဦး မောင်ရယ်၊ သမီး... ရော့ ဖေဖေလေ”

ကော်နယ်လီယာ အသင့်ပြောနိုင်အောင် ဖုန်းကို နေရာချပေးလိုက်သည်။

ကက်စတာ ပြောသံကို မကြားရ၊ ကော်နယ်လီယာက-

“ဖေဖေ ဘာလို့ ချက်ချင်း မလာတာလဲ၊ နယူးအော်လင်းကို သွားရမယ် မဟုတ်လား”

သူတို့သားအဖနှစ်ယောက် စကားပြောနေသည်ကို အယ်လီနာ နံဘေးမှ နားထောင် နေစဉ် ဘော့ပါစယ် ပြေးဝင်လာသည်။ အယ်လီနာ တယ်လီဖုန်းကို ကောက်ကိုင်ပြီး ပြောလိုက် သည်။

“မောင် ဘော့ ရောက်လာပြီ၊ သမီးကို ကြည့်တော့မယ် ၊ တော်တော့နော်”

“ကိုယ် နယူးအော်လင်းကို ခုချက်ချင်း ကားမောင်းလာခဲ့မယ်၊ ဆယ်နာရီမှာ ရထား ရှိတယ် မဟုတ်လား၊ အဲဒီရထားနဲ့ မင်းတို့ မီအောင် လိုက်ခဲ့၊ ဘူတာမှာ ကိုယ် စောင့်နေမယ်၊ ဟုတ်ပြီလား”

“ကောင်းပြီလေ”

အယ်လီနာ တယ်လီဖုန်းကို ပြန်ချထားလိုက်၏။

ဘော့က ကော်နယ်လီယာကို ငုံ့ပြီး ကြည့်နေသည်။ ကော်နယ်လီယာ ရှိုက်ကြီးတငင် ငိုပြန်၏။ ကြောက်လို့ ငိုသည်လား၊ နာလို့ ငိုသည်လား မသိ။

“ကက်စတာနဲ့ ခုပဲ စကားပြောရတယ် ဘော့။ သူ ဟိုက ထွက်လာနေပြီ၊ အယ်လီနာ တို့ကို ရထားနဲ့ လိုက်ခဲ့တဲ့၊ မျက်စိအထူးကုနဲ့ နယူးအော်လင်းမှာ ပြမယ်တဲ့။ ဘော့ လိုက်ခဲ့နိုင် မလားဟင်”

“အင်း.. လိုက်မှာပေါ့၊ ဒါပေမဲ့ ကိုယ် ကြည့်ချင်သေးတယ်” ကော်နယ်လီယာ တဖက်သို့ ရွေ့သွားသည်။ ဘော့က မော့ကြည့်သည်။

“သိပ်အချိန်မရှိဘူး အယ်လီနာ၊ မကြည့်လို့ မဖြစ်ဘူး၊ မင်းပါ ဝိုင်းကိုင်ပေးရမယ်၊ သိပ်ညှာနေလို့ မဖြစ်ဘူး သိလား”

“သမီးလေး သိပ်နာနေမလား ဘော့ရယ်”

ဘော့၏ အဖြေကို မစောင့်တော့ဘဲ -

“ဟုတ်ပြီလေ၊ အယ်လီနာ ကိုင်ပေးပါ့မယ်”

အယ်လီနာ ခုတင်ပေါ် တက်ထိုင်လိုက်သည်။ ကော်နယ်လီယာ၏ လက်နှစ်ဖက်ကို ချုပ်ကိုင်ပေးလိုက်၏။ မျက်စိ ပိတ်ပြီး မျက်နှာလွှဲထားလိုက်သည်။

ဘော့က ဆေးထိုးပေးသည်။ မျက်လုံးကို ပတ်တီးစည်းပေးသည်။ နေရောင်ကာ ကော်ပြားပါ ထပ်စည်းပေးသည်။

“ကဲ.. မင်း လွှတ်လို့ ရပါပြီ၊ သူ ခဏနေ သက်သာသွားလိမ့်မယ်၊ နားနေပါစေ” ဘော့ ကော်နယ်လီယာကို စောင်ခြုံပေးသည်။ အယ်လီနာက သမီးကလေးကို ငုံ့ကြည့် သည်။ ဆံပင်တွေ မျက်နှာပေါ် ဝဲကျလာသည်။ ကော်နယ်လီယာ အငိုတိတ်ပြီး ငြိမ်သွား မှပင် မျက်နှာမသစ်၊ သွားမတိုက်ရသေးကြောင်း သတိရ၏။

“မင်း အတော် သတ္တိကောင်းတာပဲ အယ်လီနာ၊ အမေတွေဟာ သူတို့ သားသမီးတွေ ဖြစ်လာရင် ခုလို အကူအညီရဖို့ မလွယ်ဘူး”

အယ်လီနာ ဘာမျှ ပြန်မပြောမိ။ ကိုယ့်ကိုယ်ကိုယ်တော့ သတ္တိရှိသည် မထင်။ ခံစားမှု တွေ ထုံထိုင်းသွားသည့် တဒင်္ဂသာလျှင် ဖြစ်မည် ထင်၏။

“တို့ စကားနည်းနည်း ပြောကြရအောင် ဘော့ရယ်”

အယ်လီနာ တောင်းပန်လိုက်သည်။

“လာလေ၊ ဟိုဘက်ခန်း သွားကြရအောင်”

နောက်တခန်းသို့ ကူးပြီး သူတို့နှစ်ယောက် စကားပြောကြသည်။

“ဘယ်လိုလဲဟင် ဘော့”

“ဘယ်ဘက်မျက်လုံးမှာ ထိသွားတာ၊ “စကယ်လီရာ” ပေါက်သွားတယ်၊ “ကော်နီယာ” နံဘေးမှာ ကပ်ပြီး ထိတာကွ။ ဩော်… မင်း နားလည်ရဲ့လား အယ်လီနာ”

အယ်လီနာ ခေါင်းယမ်းပြသည်။

“စကယ်လီရာ ဆိုတာ မျက်လုံးရဲ့ အဖြူသားလေ၊ ကော်နီယာက သူငယ်အိမ်ရဲ့ အစပ်ပေါ့”

“ဘယ်လို ဖြစ်သွားနိုင်သလဲ ဟင်” ဘော့ပါစယ် တုံ့ဆိုင်းဆိုင်း ဖြစ်နေသည်။

“ကိုယ် အတိအကျ မပြောနိုင်ဘူး အယ်လီနာ၊ မျက်စိဟာ သိပ်အံ့ဩစရာ ကောင်း တယ်၊ တခါတရံ မယုံနိုင်စရာ ကောင်းလောက်အောင် အနာကျက်လွယ်တဲ့ သတ္တိရှိတယ်။ ကဲ . . . မင်း အဝတ်လဲတော့၊ တယောက်ယောက်ကို ယူသွားမယ့် ပစ္စည်းတွေ ထည့်ခိုင်းလိုက်။ ကော်နယ်လီယာ အနားမှာ ကိုယ် စောင့်နေမယ်”

ဘော့က ဆရာဝန်တိုင်း၏ နှုတ်ခမ်းတွင် တွေ့ရတတ်သော အပြုံးဖြင့် ပြုံးပြသည်။ နှစ်သိမ့်အားပေးသည့် အပြုံးမျိုး။ ပြီးတော့ မနက်စာပါ အပေါ်ထပ်တွင် စားရန် လှမ်းမှာပေး သည်။ ဤသို့ ဘော့ ဂရုတစိုက်ရှိလွန်းလေ ကော်နယ်လီယာအတွက် အယ်လီနာ စိုးရိမ်လေ ဖြစ်ရသည်။

※※※

# (၃)

ရထားကို သီးသန့်ခန်းရအောင် ဘော့က စီစဉ်ပေးသည်။ အိပ်ဆေး ပေးထားသဖြင့် ကော်နယ်လီယာ ငြိမ်သက်စွာ အိပ်ပျော်လိုက်လာသည်။ အယ်လီနာ ပြတင်းပေါက်မှ အပြင်သို့ ငေးလိုက်လာ၏။ လမ်းနံဘေးမှ ဆိုက်ပရပ် ထင်းရှူးတောသည် ဝဲချာလည်၍ ကျန်ရစ်သည်။ မိုးများသည့် ဒေသမို့ ထင်းရှူးပင်တွေမှာ ရေညှိနိုင်းချင်းနှင့်။ သည်လို ထင်းရှူးတောမျိုးထဲသို့ မောင်နှင့် ပထမဆုံးတွေ့သည့် နေ့က ကားလျှောက်စီးခဲ့သည်ကို သတိရနေမိသည်။ စတွေ့သည့် နှစ်မှာပင် မောင့်ကို ချစ်ခဲ့သည်။ သည်တုန်းကတော့ သူတို့နှစ်ယောက်၏ အချစ်ပုံပြင်သည် ဆွတ်ပျံ့ဖွယ်၊ လွမ်းမောဖွယ်အတိ။ သူတို့အနာဂတ်တွင် သောက ဟူသရွေ့ မြူငွေ့မျှမရှိဟု ထင်ခဲ့ကြ၏။ နှစ်ယောက်သား အခိုင်အမာ တည်ထားခဲ့ကြသည့် အိမ်ထောင်ရေး ခံတပ်ကြီး တွင် ယုံကြည်ချက် အနာအဆာတွေ၊ လူတန်းစားအသိ ကွဲအက်မှုတွေ ဒုန့်ဒေး ပါဝင်ခဲ့လိမ့်မည် ဟု နှစ်ယောက်စလုံး ကြိုတင် မသိခဲ့ကြ။ သူတို့နှစ်ယောက်၏ ဒဏ်ကို စုပြီး ခံရသည့် သမီးငယ် ကလေး၏ ခန္ဓာကိုယ်ကို အလယ်မှာ ထားပြီး ကွဲကွာနေရာ ဆန့်ကျင်ဘက် အရပ် တမျက်နှာ ဆီမှ လာ၍ ဆုံကြရမည်ဟုလည်း ဘယ်တုန်းကမျှ မမျှော်လင့်ခဲ့ကြ။

အယ်လီနာ၏ တကိုယ်လုံး မြင်သာလောက်အောင် တုန်နေသည်။ ဘော့၏ နှစ်သိမ့် စကားသံများကို မကြားတချက် ကြားတချက်။

“ဒါလောက်လည်း စိတ်ဆင်းရဲမနေပါနဲ့ အယ်လီနာရယ်”

“ကက်စတာ့ အကြောင်း စဉ်းစားလာတာပါ ဘော့ရယ်၊ သူ့သမီးကို သူ သိပ်ချစ်တာ”

ဘော့ ဘာမျှ မပြောတတ်တော့။ ဘာမျှမပြောဘဲ အယ်လီနာ့ လက်ကို အသာလှမ်း ဆုပ်ပြီး အားပေးလိုက်သည်။ ရထားအရှိန်ကြောင့် ခေါင်းအုံးပေါ်တွင် တငြိမ့်ငြိမ့် လှုပ်နေသော ကော်နယ် လီယာ့ ဆံပင်နုနုကလေးတွေကိုသာ စိုက်ကြည့်နေသည်။

အယ်လီနာကမူ သူနှင့် ကက်စတာတို့၏ မပြေလည်မှုများသည် ကော်နယ်လီယာ ကလေးအပေါ်တွင် မည်ရွေ့မည်မျှ အရိပ်ထိုးနေသည်ကို သိချင်နေ၏။ သည်အကြောင်းကိုပဲ စဉ်းစားလိုက်လာ၏။ သူတို့နှစ်ယောက်လုံးကို

ဘယ်သူမှ မတားဆီးနိုင်ခဲ့ကြ။ ထင်းရှူးတော ကြီးကို ငေးကြည့် လိုက်ပါလာရင်း အယ်လီနာ့ အမြင်တွေ ကြည်လင်စ ပြုလာသည်။ အဖြစ် အပျက် အစအနတွေကို စုစည်း တွေးခေါ်နိုင်လာသည်။ ပြီးတော့ ကောက်ချက်တခုကို နင့်နင့် နဲနဲ ဆွဲချလိုက်သည်။ မိမိအနေဖြင့် စိတ်ကို ထိန်းနိုင်လျှင်၊ စိတ်လိုက်မာန်ပါ မပြုမူမိလျှင် ကက်စတာ ဝက်သစ်ချမြိုင်မှ ထွက်သွားစရာ အကြောင်း မရှိ။ အလားတူပင် ကက်စတာက လည်း သူ့ဘက်မှ စိတ်ထိန်းနိုင်လျှင် အစ်ဇဘယ့် အခန်းတွင် သူ့ဓားကျန်ရစ်စရာ အကြောင်း မရှိ။ တယောက်နှင့်တယောက် အပြန်အလှန် လေးစားမှုနှင့် တာဝန်မမဲ့ကြလျှင်၊ ပြီးတော့ ကလေး များအပေါ်တွင်လည်း တာဝန်ကျေမိဘများ ဖြစ်ခဲ့ကြပြီး သူတို့နှစ်ယောက်လုံး ကလေးမဆန် ခဲ့ကြလျှင် သည်အဖြစ်ဆိုးတွေနှင့် ကြုံစရာ အကြောင်း မရှိ။

တရိပ်ရိပ် ကျန်ခဲ့သည့် သစ်တောကြီးကို ငေးရင်း အယ်လီနာ ဆက်ပြီး အတွေးနယ်ချဲ့ နေ၏။ လောကတွင် စိတ်လိုက်မာန်ပါ လုပ်မိလို့ ကျဆုံးပျက်စီးခဲ့ရသည့် သမိုင်းကြောင်းတွေ၊ ပုံပြင်တွေကို ငယ်စဉ်တောင်ကျေး ကလေးအရွယ်ကစပြီး သင်ကြား ဖတ်မှတ်ခဲ့ရ၏။ သို့သော် သည်လို နီတိသည် ကိုယ်နှင့် တိုက်ရိုက်ပတ်သက်လာလိမ့်မည်ဟု ဘယ်တုန်းကမျှ မထင်ခဲ့။ လောကကို ခါးစောင်းတင်ချင်ခဲ့တာကိုး။

ကော်နယ်လီယာ၏ မျက်လုံးမှ ပတ်တီးကို ငဲ့ကြည့်လိုက်သည်။ ထိုင်ထားသည့် ဆိုဖာခုံ ထဲကို လက်ချောင်းတွေ နစ်ဝင်သွားသည်အထိ ဆုပ်ထားလိုက်သည်။ ကျမ်းစာလာ ဇာတ်ကြောင်း တခုကို နားထဲတွင် ကြားယောင်လာ၏။

“ဒေါသ မာန်မာနကို သတိသမ္ပဇဉ်ဖြင့် နှိုင်းဆနိုင်သူသည် ခွန်အားကြီးမားသူထက် ခွန်အားကြီး၏။ ထို့ကြောင့် မိမိစိတ်ကို မိမိ အောင်နိုင်သူသာလျှင် မြို့ကို သိမ်းပိုက်နိုင်ရာ၏”

ဘူတာရုံသို့ ရထားဝင်သည်နှင့် ကက်စတာကို အဝေးကြီးက လှမ်းမြင်သည်။ သူ့မျက်နှာ မှာ တင်းမာနေ၏။ နှုတ်ခမ်းကို တင်းတင်းစေ့လျက်။ စိုးရိမ်လွန်းနေသည့် အမူအရာ။ သူ့သမီးသူ ဘယ်လောက် ချစ်သည်ကို သူ့အမူအရာက သက်သေပြနေသည်။ ဘော့က ကလေးကို ကောက်ပွေ့သည်။ အယ်လီနာကို ရှေ့က ဆင်းခိုင်းသည်။ အယ်လီနာကို ကက်စတာ မြင်သွား ပြီး ပြေးလာသည်။

“ဘယ်မှာလဲ အယ်လီနာ၊ ကော်နယ်လီယာ ဘယ်မှာလဲ”

သူတို့နှစ်ယောက်ကြားတွင် အခြားပြောစရာ အကြောင်းအရာ မရှိတော့သကဲ့သို့ပါလား။ အို… ကျန်တာတွေ နောက်မှ ပြောလို့ ရတာပဲ။ အယ်လီနာ

ဝမ်းသာသွားသည်။

“ဘော့ ပွေ့လာတယ် မောင်၊ ဆင်းလာလိမ့်မယ်”

"ပေး... ပေး... ဘော့၊ ကိုယ့်ကို ပေး”

ကက်စတာက ကော်နယ်လီယာကို လက်ပြောင်းယူပြီး ပွေ့ယူလိုက်သည်။ မျက်လုံးမှ ပတ်တီးကို တချက်ငုံ့ကြည့်ပြီး-

“လာ.... ကိုယ် ဆေးရုံကား စီစဉ်ထားတယ်”

ကက်စတာ ဦးဆောင်ပြီး လူအုပ်ထဲမှ တိုးထွက်သွားသည်။ လမ်းသွားရင်း ကက်စတာ က စိတ်လှုပ်ရှားစွာ စကားပြောလာ၏။

“ဒေါက်တာရန်ရှောနဲ့ သူ့လက်ထောက်ကို အပ်ဖို့ ကိုယ် စီစဉ်ထားတယ်၊ သူက အတော် ဆိုး မျက်စိကုဆရာဝန်ပဲတဲ့၊ သူငယ်ချင်း... ဟိုကျရင် သူ ပြောတာတွေ ကိုယ့်ကို ပြန်ပြောပြ ဦးနော်”

ဘော့ ခေါင်းညိတ်သည်။ သူတို့နှစ်ယောက် ဆေးရုံကားပေါ်သို့ တက်ကြသည်။ ကလေးကို သက်သောင့်သက်သာ လိုက်ပါနိုင်အောင် ခုတင်ငယ်ကလေးတလုံးနှင့် သူနာပြု ဆရာမတွေက အသင့်။ သူနာပြုသုံးယောက်က တဖက်ထိုင်ပြီး လိုက်လာကြသည်။ အယ်လီနာ က ကက်စတာနှင့် ဘော့ကြားတွင် ထိုင်သည်။ ကက်စတာ့ မျက်လုံးတွေ ကော်နယ်လီယာ ထံမှ မခွာ။ သူ စိုက်ကြည့်နေလျှင် သမီးကလေး နေကောင်း ကျန်းမာလာမည်ဟုများ ထင်နေ သလား မသိ။

ကက်စတာ သည်လို မျက်နှာပျက်နည်းမျိုး အယ်လီနာ တခါမျှ မမြင်ဖူးခဲ့။ အထိတ် တလန့် ဖြစ်နေသည့်မျက်နှာ။ ဆေးရုံရောက်တော့ အယ်လီနာ အံ့သြနေ၏။ ကက်စတာ ပြင်ဆင် ထားပုံမှာ အသေးစိတ်နိုင်လွန်း၍ ဖြစ်သည်။ ဘာမျှ လိုလေသေးမရှိ။ ဆရာဝန်တွေ အသင့်၊ ခွဲစိတ်ခန်း အသင့်။ ဘော့ ခွဲစိတ်ခန်းထဲသို့ လိုက်ဝင်သွားသည်။ ဧည့်ခန်းတခန်းတွင် နှစ်ယောက် တည်း ကျန်ရစ်၏။

ဆေးရုံဧည့်ခန်းပီပီ သန့်ရှင်း ဖြူဖွေးနေ၏။ အလင်းရောင် အများကြီး ရ၏။ ခန်းဆီးတွေ က အရောင်ရင့်ရင့်တွေ၊ အယ်လီနာ ဆိုဖာတလုံးတွင် ထိုင်ပြီး လက်အိတ်တွေ ချွတ်နေစဉ် ကက်စတာက အယ်လီနာ့ သားရေသေတ္တာကို အခန်းထောင့် တနေရာတွင် နေရာချထား လိုက်သည်။ ပြီးတော့ မထိုင်ဘဲ ခေါက်တုံ့ခေါက်ပြန် လျှောက်နေ၏။

“မင်းအိမ်ကိုရော၊ ကိုယ့်အိမ်ကိုရော အကြောင်း မကြားသေးဘူး၊ နောက်မှ အခြေ အနေ ကြည့်ပြီး ပြောမယ်”

“ကောင်းပါတယ်”

အယ်လီနာဆီသို့ ကက်စတာ လျှောက်လာသည်။

“ကဲ… ပြောပါဦး အယ်လီနာ၊ ဘယ်လို ဖြစ်တာလဲ”

“မနက်အစောကြီး ဖြစ်တာ၊ အယ်လီနာ မနိုးသေးဘူး”

အယ်လီနာက လက်နှစ်ဖက်ကို ပေါင်ပေါ်တွင် တင်းတင်းဆုပ်လိုက်သည်။

“သူတို့မောင်နှမ ခားလုရင်း ကော်နယ်လီယာက ခားပေါ် လဲကျသွားတာ တဲ့”

“ဘော့ ဘာပြောလဲ”

“ချက်ချင်းတော့ သူလည်း အတိအကျ ဘယ်ပြောနိုင်မလဲ”

“မျက်လုံးတွေကိုမှ ထိရတယ် လို့ကွာ…”

“တဖက်တည်းပါ မောင်ရယ်”

“ဒါလောက်လှတဲ့ မျက်လုံးကလေးမှာ အမာရွတ်ကြီးများ ထင်နေမလား မသိဘူး”

ကက်စတာ ကုလားထိုင်တလုံးတွင် ဝင်ထိုင်သည်။

“ကလေးတွေ မီလောက်တဲ့ နေရာမှာ အဲဒီခားကို ဘယ်သူ ထားတာလဲ”

“အယ်လီနာ ထားတာပါ၊ အယ်လီနာ့ အပြစ်ပါ”

“ဟင်… မင်းကိုယ်တိုင် ထားတာ. . . ဟုတ်လား”

အယ်လီနာ ခေါင်းညိတ်လိုက်သည်။

“ပထမညက အဲဒီခားကို သုံးတယ်၊ ပင်ပန်းလွန်းတာနဲ့ အိပ်ချင်ပြီး သိမ်းဖို့ မေ့သွား တော့ ညှော်ခန်းစားပွဲပေါ်မှာ ဒီအတိုင်း ကျန်နေခဲ့တာပေါ့”

ကက်စတာ သက်ပြင်းတချက်ချသည်။

“သိပ် နမော်နမဲ့ နိုင်တာပဲ”

“ဟုတ်ပါတယ်လို့ အယ်လီနာ ဝန်ခံပါတယ်”

တံခါးပွင့်လာပြီး အမျိုးသမီးတယောက် ဝင်လာသည်။

“ကျွန်မ ဒေါက်တာ ရန်ရှောရဲ့ လက်ထောက်ဆရာဝန် ဇေလီပါ၊ မစ္စက်လန်း ထင်ပါ တယ်”

အမျိုးသမီးက အယ်လီနာ့ကို ကြည့်ပြီး ပြောလိုက်သည်။

“ဟုတ်ကဲ့ရှင့်”

အမျိုးသမီး လက်ထဲတွင် မှတ်စုစာအုပ် ရှည်ရှည်ကလေးတအုပ် ကိုင်ထားသည်။

“ကျွန်မကို ဖြစ်ပုံပြောပြပါ မစ္စက်လန်း”

“ကလေး ဘယ့်နှယ် နေလဲဟင်... ဒေါက်တာ”

ကက်စတာက ဝင်မေးသည်။

“ဒေါက်တာ ရန်ရှော ကြည့်နေပါတယ် မစ္စတာလန်း၊ သိပ်တော့ မပူကြပါနဲ့၊ မနာပါ ဘူး။ ဒီမနက် မစ္စတာလန်းက အိမ်မှာ မရှိဘူးလို့ ကျွန်မ နားလည်ထားပါတယ်”

“ဟုတ်ပါတယ်၊ ကျွန်တော် အိမ်မှာ မရှိပါဘူး”

ကက်စတာက ဆရာဝန်အမျိုးသမီးကို ကုလားထိုင်တလုံး ထိုးပေးလိုက်သည်။ မှတ်စု စာအုပ်ကို ပေါင်ပေါ် တင်၍ ဒေါက်တာ ဇေလီက အယ်လီနာဘက်သို့ လှည့်ပြီး စကားဆက် သည်။ အယ်လီနာက အဖြစ်အပျက်ကို ပြောပြနေစဉ် ဒေါက်တာဇေလီ လိုက်ရေးနေ၏။ ရေးမှတ်ပြီးတော့ သူ့ ဝတ်ရုံ ဖြူအိတ်ထဲမှ ပတ်တီးစနှင့် ပတ်ထားသည့် အရာတခုကို ထုတ် သည်။ ပြီး-

“ဒီခဲးက”

“ကက်စတာ၊ ရေခဲရည်တခွက်လောက် ပေးစမ်းပါကွယ်၊ အယ်လီနာ ရင်ပူလွန်း လို့”

“ရမယ်…ရမယ်”

ကက်စတာ ထွက်သွားသည်။ ဒေါက်တာ မေီလီက စကားဆက်သည်။

“ဒီဓားနဲ့ ခိုက်မိတယ် ဆိုတာ ဟုတ်ပါသလား မစ္စက်လန်း၊ အစေခံတယောက်က ဒေါက်တာပါစယ်ကို ပေးလိုက်တာတဲ့”

ဆရာဝန်က ပတ်တီးစတွေကိုဖြေပြီး ကက်စတာ၏ ဓားကလေးကို ပြသည်။

“ဟုတ်ပါတယ်ရှင်”

အယ်လီနာ အမှန်အတိုင်း ဖြေသည်။

“ဓားကလေးက ကြည့်ရတာတော့ သန့်သန့်ရှင်းရှင်းပါပဲ”

ဒေါက်တာ မေီလီက မှတ်ချက်ချသည်။

“ဟုတ်ကဲ့ရှင့်၊ ပိုးသတ်ဆေးနဲ့တော့ ကာကွယ် မထားပါဘူး”

“ကျေးဇူးတင်ပါတယ် မစ္စက်လန်း”

ဒေါက်တာ မေီလီက ထလိုက်၏။

“ဒေါက်တာ ခဏလေးနော်၊ ကျွန်မကို တခုကူညီပါရှင်၊ ဒီဓားကို ကက်စတာ မမြင် ပါစေနဲ့နော်၊ သူ ပိုပြီး စိတ်မကောင်း ဖြစ်မှာ စိုးလို့ပါ ဒေါက်တာ။ ဓားက သူ့ဓားလေ၊ အရိုး ပေါ်မှာ သူ့နာမည် ပါပါတယ်”

ဒေါက်တာ မေီလီက အခန်းဝသို့ ငဲ့ကြည့်သည်။

“ကောင်းပါပြီ မစ္စက်လန်း၊ ကျွန်မ အတတ်နိုင်ဆုံး ကြိုးစားပါ့မယ်”

ကက်စတာ ရေခဲရည်ခွက်နှင့် ဝင်လာသည်အထိ ဒေါက်တာ မေီလီက စောင့်နေသည်။ သို့သော် သူ့ စိုးရိမ်တကြီး မေးခွန်းတွေကိုတော့ အမျိုးသမီးက မယုတ်မလွန်ဘဲ ဖြေသည်။

ဒေါက်တာ မေီလီ ထွက်သွားတော့မှ အယ်လီနာ ရေခဲရည်သောက်သည်။ ဖန်ခွက်လွတ် ကို စားပွဲပေါ်သို့ ချထားလိုက်၏။ ကက်စတာက ပြတင်းပေါက်တွင် သွားရပ်ပြီး လမ်းပေါ်သို့ ငုံ့ကြည့်နေသည်။ အကြာကြီး ငေးနေပြီးမှ လှည့်လာသည်။

“မင်း ကိုယ့်ကိုတောင် စုံစုံလင်လင် မပြောနိုင်ဘူးလား၊ ကိုယ့်သမီးကို ကိုယ်

ဘယ်လောက် ချစ်တယ် ဆိုတာ မင်း သိပါတယ် အယ်လီနာ”

“သိပါတယ် မောင်ရယ်၊ အယ်လီနာ့ကို ခွင့်လွှတ်ပါ”

ဖြစ်ကြောင်းကုန်စင်ကို အယ်လီနာ ပြောပြ၏။ ပြောနေရင်း ဆို့တက်လာပြီး ဆက် မပြောနိုင်တော့ဘဲ မျက်နှာကို လက်ဝါးနှင့်အုပ်ကာ ငိုချလိုက်တော့သည်။ ကက်စတာက အယ်လီနာ့ ပခုံးကို သိုင်းဖက်ပြီး သူ့ရင်ခွင်တွင် မှီနေလိုက်စေသည်။ ကျောက်စာတိုင်ကြီး တတိုင်ကို အားပြုလိုက်ရသလို အားရှိသွားသည်။ တချိန်က တယောက်နှင့်တယောက် အပြန်အလှန် ယုယကြင်နာခဲ့ကြသည့် ပျော်ရွှင်မှုတွေကို သတိရနေ၏။ အရင်အတိုင်း ပြန်ဖြစ် နိုင်ကြပါဦးမလားကွယ်။ ကက်စတာ့ကို ပြောပြစရာတွေ ရင်ထဲမှာ ပြည့်ကျပ်နေ၏။ သို့သော် ပြောနိုင်လောက်သည့် အင်အား မရှိသေး။ သမီးအတွက် စိုးရိမ်စိတ်ကလည်း နှစ်ယောက်လုံး တွင် ထိပ်ရောက်နေကြသည်မို့ အခြားကိစ္စတွေကို မပြောဖြစ်ကြ။ ဒေါက်တာ ဇေလီ နောက် တခေါက် ရောက်လာပြီး ဒေါက်တာ ရန်ရှောနှင့် စကားပြောနိုင်ပြီ ဖြစ်ကြောင်း ပြောသည်။

※※※

အထူးကုဆရာဝန်ကြီး ဒေါက်တာ ရန်ရှောနှင့် တွေ့ပြီး စကားပြောဖြစ်သော်လည်း ကက်စတာနှင့် အယ်လီနာတို့ နှစ်ယောက်လုံး ထူးထူးထွေထွေ စိတ်သက်သာမှု မရကြ။ ဆရာဝန် ကြီးက ကလေးတယောက်၏ မျက်လုံးဒဏ်ရာကို ကြည့်ပြီး ယင်းမျက်လုံး၏ အနာဂတ်ကို ဘယ်ဆရာဝန်မျှ ကြိုတင်ဟောကိန်း မထုတ်နိုင်ကြောင်း ရှင်းပြသည်။ တနေ့လယ်လုံး ကော်နယ် လီယာ အနားတွင် သူတို့လင်မယား အလှည့်နှင့် စောင့်ကြသည်။ အလှည့်ပြီးသူက ဧည့်ခန်း သို့ ပြန်လာပြီး ထိုင်လိုက် ထလိုက် လမ်းလျှောက်လိုက်နှင့် သမီးကလေးအတွက် ရတက်မအေး ဖြစ်နေကြ၏။

အယ်လီနာက ပိုပြီး စိတ်အားငယ်နေ၏။ ကက်စတာနှင့် နောက်ဆုံး စကားများပြီး ကတည်းက စိတ်ဓာတ်အင်အားတွေ ကျနေခြင်း ဖြစ်၏။ ကော်နယ်လီယာကို စောင့်နေချိန်မှ လွဲ၍ သူ့အမှုအရာတွေမှာ တနေ့ခင်းလုံး ဆောက်တည်ရာမရ ဖြစ်နေ၏။ လက်ကိုင်ပဝါကို ထုံးလိုက် ဖြေလိုက်၊ ဧည့်ခန်းထဲတွင် ထိုင်ချလိုက် ထလျှောက်လိုက်နှင့်။

အယ်လီနာ့အဖြစ်ကို ကက်စတာက မသိကျိုးကျွန်ပြုပြီး သမီးငယ်နှင့် ပတ်သက်သည့် ကိစ္စအားလုံးကို ဂရုတစိုက် စောင့်ကြပ်တာဝန်ယူသည်။ နှစ်ဖက်မိဘတွေကို အသိပေးလိုက် သည်။ လူကြီးတွေ ရောက်လာတော့ ကက်စတာ ကြိုဆိုပြီး အကျိုးအကြောင်း ရှင်းပြသည်။ သူ့မိဘတွေနှင့် အယ်လီနာ လွတ်လွတ်လပ်လပ် စကားပြောနိုင်အောင် စီစဉ်ပေးသည်။

မော်လီအပ္ပဂျွန်းက ဖီးလစ်ကို အစေခံတွေနှင့် ထားမည့်အစား နယူးအော်လင်းသို့ ခေါ်ပြီး သူတို့အိမ်တွင် ထားဖို့ တိုက်တွန်း၏။ သည်အကြောင်းကို ကက်စတာ့အား အယ်လီနာ ပြောပြသည်။ ကက်စတာက ဒစ်စီထံသို့ ကလေးကို ခေါ်ပြီး လိုက်လာရန် ချက်ချင်း သံကြိုး ရိုက်ပေးသည်။ လာသမျှ တယ်လီဖုန်းတွေကို ကက်စတာကပင် ဒိုင်ခံဖြေသည်။ ကော်နယ် လီယာအတွက် ရောက်လာသည့် ပန်းတွေနှင့် ရုပ်စုံစာအုပ်တွေကို လက်ခံသည်။ ကျန်သည့် အချိန်တွင် နေခွင့်ရသမျှ ကော်နယ်လီယာ့ အနားတွင်နေသည်။ ရယ်စရာပုံပြင်တွေကို ပြောပြ ရင်း ကလေးကို အာရုံပြောင်းအောင် လုပ်ပေးသည်။ အယ်လီနာ ကက်စတာ့ လှုပ်ရှားမှုတွေကို မြတ်နိုးစွာ စောင့်ကြည့်နေ၏။ ကက်စတာ့အတွက် ပင်ကိုအရည်အချင်းတွေကို အားလုံး ထုတ်သုံးရန် ဖန်လာသည့် အခြေအနေသည် သည်အကြိမ် ပထမဆုံး ဖြစ်မည်ဟု အယ်လီနာ ထင်လိုက်၏။

ည မမောင်မီကလေးတွင် ဧည့်ခန်းထဲသို့ ကက်စတာ ပြန်လာသည်။ အယ်လီနာက ဝမ်းနည်းကြောင်း ရိုက်လာသည့် သံကြိုးစာတစောင်ကို ခေါက်လိုက် ဖြေလိုက် လုပ်နေ၏။

ဆရာမတယောက် ဝင်လာပြီး ကော်နယ်လီယာ မအိပ်မီ စကားပြောဖို့ တချိန် ကျန်သေးကြောင်း၊ အချိန်တန်လျှင် လာပြီး သတင်းပို့မည့် အကြောင်း သတင်းပေးသည်။ ဆရာမ လာအခေါ်ကို စောင့်နေချိန်တွင် ကက်စတာ အောက်ထပ်သို့ ဆင်းသွားသည်။

“ကော်နယ်လီယာ့ အခန်းနဲ့ မျက်နှာချင်းဆိုင်အခန်းက အားနေတယ်၊ မင်းအတွက် ကိုယ် သွားပြောတာပါ၊ လူနာ မရောက်မချင်း တို့ သုံးနိုင်ပါတယ် တဲ့”

ကက်စတာက ဝင်လာလာချင်း ပြောသည်။

“ကျေးဇူးတင်ပါတယ် မောင်ရယ်”

သည်လို စီစဉ်ရသည်မှာ ဆေးရုံတွင် မလွယ်ကူကြောင်း အယ်လီနာ သိသည်။

“မောင် ဘယ်လိုလုပ်ပြီး အိပ်မလဲဟင်”

“ဧည့်ခန်းထဲကို ခုတင်တလုံး သွင်းပေးမယ်တဲ့၊ အဲဒါ ပြန်ရမယ့် ကြေးနန်းလား”

“အင်း . . . နီးလ်နဲ့ ကလယ်ရာဆီကပါ၊ တခြား သံကြိုးစာတွေနဲ့ အတူတူ ထားလိုက်” လေ

အယ်လီနာ သံကြိုးစာရွက်ကို လှမ်းပေးလိုက်သည်။ အယ်လီနာ ဝမ်းသာနေ၏။ လင်ခန်း မယားခန်းကိစ္စကို ကက်စတာ တိုက်ရိုက်ရည်ညွှန်း ပြောဆိုခြင်း မပြုသော်လည်း တရားဝင် လင်မယားအဖြစ် တည်ရှိနေသေးကြောင်း ပြနေ၍ ဝမ်းသာရခြင်း ဖြစ်သည်။

သူနာပြုအမျိုးသမီးကလေး ဝင်လာပြီး ကော်နယ်လီယာနှင့် တွေ့နိုင်ပြီဖြစ်ကြောင်း ပြောသည်။ နှစ်ယောက်စလုံး လိုက်သွားကြ၏။

တံခါးဖွင့်သံ ကြားလိုက်သည်နှင့် ကော်နယ်လီယာက ဦးခေါင်းကို အခန်းဝဘက်သို့ ငဲ့လိုက်သည်။

"ဖေဖေလား... မေမေလား ဟင်”

“ဖေဖေရော၊ မေမေရောပေါ့ သမီးရဲ့”

အယ်လီနာက ဖြေလိုက်သည်။ ခုတင်၏ တဖက်စီတွင် နှစ်ယောက်သား ထိုင်လိုက် ကြ၏။ ကော်နယ်လီယာက သူ့အဖေနှင့် အမေလက်ကို သူ့လက်တဖက်စီနှင့် လှမ်းဆုပ် လိုက်သည်။

“ဖေဖေ့ကို သမီး မြင်ချင်လိုက်တာ၊ ဘယ်လောက် အကြာကြီး စည်းထားမှာလဲ ဟင်”

“မကြာပါဘူး သမီးရယ်၊ သမီးမျက်လုံး သက်သာလာတာနဲ့ ဖြေပေးမှာပါ”

“ခဏလေး ဖွင့်ပေးလို့ မရဘူးလား ဖေဖေ၊ သမီး ဖေဖေ့ကို ကြည့်ချင်တယ်၊ ဖေဖေ့ကို မတွေ့ရတာ သိပ်ကြာနေပြီ”

“ဖေဖေ အရင်အတိုင်းပါပဲ သမီးရယ်၊ ဘာမှ မပြောင်းလဲပါဘူး”

“ဖေဖေ ဒီမှာ နေ့တိုင်း ရှိမှာလား ဟင်”

နေ့တိုင်း . . . နာရီတိုင်း ရှိမှာပေါ့ သမီးရဲ့”

“ပြီးတော့ ဖေဖေ ဟိုကို ပြန်သွားဦးမှာလား ဟင်”

“မသွားတော့ပါဘူးကွယ်”

ကော်နယ်လီယာ ကျေနပ်စွာ ပြုံးသည်။

“မေမေ၊ မနက်ဖြန်ဆို သမီး စားချင်တာ စားလို့ ရပြီလားဟင်”

“ရပြီပေါ့ သမီးရဲ့”

“ချောကလက် ရေခဲမုန့် စားမယ်နော် မေမေ”

“ရမှာပေါ့ သမီးရယ်၊ ဆရာမတွေဆီမှာ ခွင့်တောင်းပြီး မေမေ ကျွေးမှာပေါ့”

ဆရာမ ဝင်လာသည်။ ကက်စတာ့ပခုံးကို တို့ပြီး နာရီကို လက်ညှိုးထိုးပြသည်။ ကက်စတာ က ခေါင်းညိတ်ပြီး သမီးကို အိပ်ရာနိုးသည့် အချိန်တွင် တခေါက် လာကြည့်ဦးမည့် အကြောင်း ပြောပြီး နှုတ်ဆက်၍ ထွက်လာခဲ့သည်။

ညေ့ခန်းထဲတွင် ထားခဲ့သည့် အယ်လီနာ၏ လက်ဆွဲသေတ္တာကို ကက်စတာ

ယူလာ ပေး၏။

"မနက်ဖြန် ဆရာဝန်ကြီးကို မေးရမယ်၊ သမီးကို ခွတ်စက် ပေးထားလို့ ရမလားလို့၊ ဒါမှ ပျင်းမနေမှာ" ဟု ကက်စတာက အကြံပြုသလိုလို ပြောလိုက်သည်။

"သူတို့ ခွင့်ပြုမှာပါ၊ တံခါးပိတ်ထားရင် အသံလုံနေတာပဲ"

"ကြိုးစားကြည့်မယ်လေ"

ကက်စတာက ပြောပြောဆိုဆို အခန်းတံခါးကို ဖွင့်ပြီး သားရေသေတ္တာကို ချထား လိုက်သည်။ ခဏတွေနေပြီး အယ်လီနာ့နောက်မှ အခန်းတွင်းသို့ ဝင်လိုက်သွားသည်။

"ကိုယ့်အတွက် ဘာမှ မစိုးရိမ်နဲ့ အယ်လီနာ၊ တို့နှစ်ယောက်လုံး သမီးကိစ္စက လွဲပြီး ဘာမှ စိတ်ဝင်စားဖို့ အချိန် မရှိသေးဘူး မဟုတ်လား။ တို့ကိစ္စတွေ နောက်မှ ဆွေးနွေးတာပေါ့"

"အင်း... ကောင်းပါတယ်"

"ကိုယ် အားလုံးကို နားလည်တယ် ဆိုတာတော့ မင်း သိထားစေချင်တယ် အယ်လီနာ၊ ဂွတ်နိုက်"

"ဂွတ်နိုက်"

ကက်စတာ အခန်းထဲမှ ထွက်သွားသည်။ တံခါးပိတ်သွားသည်နှင့် အိပ်ရာပေါ်လို့ ပစ်လှဲ ချလိုက်သည်။ ခေါင်းအုံးတလုံးကို သိုင်းဖက်လိုက်၏။ စိတ်ပျက် ရီဝေခြင်း၊ ရှုံးနိမ့် အားငယ် ခြင်းတို့ဖြင့် တုန်ယင်လျက်ရှိသည်။ သိမ်မွေ့ အေးဆေး လှသော ကက်စတာ့ အပြုအမူတို့၏ နောက်ကွယ်တွင် မိမိနည်းတူ အထီးကျန် အဖော်မဲ့ ခံစားမှုမျိုး ရှိနေပါမည်လား။

※※※

# (၅)

ရက်သတ္တပတ်ပေါင်းများစွာ အတွင်းတွင် ပြန်ပေါင်းထုပ်ရေးကိစ္စကို ကက်စတာ လုံးဝ မကြိုးစား။ အယ်လီနာကို အစစ ကူညီစောင့်ရှောက်သည်၊ ကြင်ကြင်နာနာ ဆက်ဆံသည်။ သို့သော် သည့်ထက် ဘာမျှမပို။ သည့်ထက် ပိုပြီး မင်းဘက်က လိုချင်တယ် ဆိုရင် မင်းက စ၊ ငါကတော့ သည်အတိုင်းပဲ ဟူသည့် အမူအရာမျိုး။

စင်စစ် မိဘနှစ်ပါး၏ ပြုစုယုယမှုတွင် ကြည်နူးပျော်မွေ့နေသည့် ကော်နယ်လီယာ ကလေးကို ကြည့်ပြီး သူတို့နှစ်ဦးစလုံး၏ ပြဿနာတွေ၊ ခံစားမှုတွေ အခိုက်အတန့်အားဖြင့် ပြေငြိမ်းနေဘိသို့ ရှိ၏။

သို့သော် ညအိပ်ချိန်များတွင် အယ်လီနာ တော်တော်နှင့် အိပ်မပျော်နိုင်ဘဲ နဖူးပေါ် လက်တင်ပြီး အချိန်ကြာမြင့်စွာ မျက်စိကြောင်နေတတ်သည်။ အစ်ဇဘယ် ပြောသလောက် မိမိအပေါ်တွင် ကက်စတာ ပစ်ပစ်ခါခါ သဘောထားနေပြီလားဟု သိချင်နေ၏။

အို... မဖြစ်နိုင်ပါဘူး၊ မောင်ဟာ အယ်လီနာကို တကယ်ချစ်တာပဲဟု စိတ်ဖြေ၏။ သမီးကလေးအတွက် စိုးရိမ်စိတ်က လွှမ်းနေလို့ သူ တခြားကိစ္စတွေ အာရုံမစိုက်နိုင်တာပါ။

"သမီးကလေးကိစ္စ ပြီးသွားရင် အားလုံး ပြီးသွားမှာပါ" ဟုလည်း ကိုယ့်ကိုယ်ကိုယ် နှစ်သိမ့်၏။

သည်ကြားထဲတွင် စိုးရိမ်စိတ်တွေ ဝင်လာပြီး အထိတ်တလန့် ဖြစ်ရသည်မှာလည်း အကြိမ်ကြိမ်။ တကယ်ပဲ လမ်းခွဲကြတော့မှာလား၊ မောင့်အမူအရာသည် အနည်းငယ်မျှ တိမ်းညွတ် ၍ မလာပါလား၊ သည်အဖြစ်မျိုးနဲ့တော့ ရင်မဆိုင်ပါရစေနဲ့ မောင်ရယ်။ သည်အခါမျိုးတွင် အားငယ် ကြောက်ရွံ့စိတ်ဖြင့် တဆတ်ဆတ် တုန်ယင်လာတတ်သည်။

ပထမပိုင်းတွင် ဒေါက်တာ ရန်ရှောက ကော်နယ်လီယာ၏ မျက်လုံး အခြေအနေမှာ ကောင်းမွန်နေသည်ဟု ထင်သည်။ ဇန်နဝါရီ (၁) ရက်တွင် အယ်လီနာ့မိဘတွေ အိမ်မှ ဆေးရုံသို့ ပြန်အလာ ကက်စတာ့ကို မတွေ့ရ။ ဆရာဝန်ကြီးက အစည်းအဝေးခန်းထဲသို့ ခေါ်၍ လိုက်သွား ရကြောင်း သိရ၏။

ဒေါက်တာ ဇမီလီကို မေးတော့ ကော်နယ်လီယာနှင့်အတူ ရှိနေကြောင်း၊ ဝင်တွေ့ခွင့်ရ မည် မဟုတ်သေးကြောင်း ပြောပြသည်။

ကက်စတာ ပြန်ရောက်လာတော့ မျက်နှာ ဖြူဖပ်ဖြူရော် ဖြစ်နေသည်။ အယ်လီနာကို ပင် မမြင်သလို ဖြစ်နေ၏။ အလွန်အမင်း တုန်လှုပ်ချောက်ချားလာပုံ။ အယ်လီနာ ပြေးသွား သည်။ သူ့လက်မောင်းကို တအားဆွဲပြီး-

"မောင် . . . မောင် ဘယ်လိုလဲဟင်"

ကက်စတာ အပြောရကျပ်နေသလို မျက်နှာကို လက်နှင့် တချက် သပ်လိုက်၏။

"ခဏနေရင် ဝင်ကြည့်လို့ ရပြီတဲ့"

"ဘာဖြစ်လို့လဲဟင်၊ ပြောပါဦး မောင်ရဲ့"

"ဆရာဝန်တွေက စိုးရိမ်နေကြတယ်၊ သူတို့က.."

"ဩော် . . . ပြောစမ်းပါ မောင်ရဲ့၊ ဘာဖြစ်တာလဲလို့"

"ဆင်ပက်သတစ် အော့သဲလ်မီယား ဆိုတာ မင်း ကြားဖူးလား အယ်လီနာ"

အယ်လီနာ ခေါင်းယမ်းသည်။ ပြီးတော့ အထိတ်တလန့် အော်လိုက်သည်။

"အဲဒါ .. အဲဒါ .. မျက်လုံး... နှစ်ဖက်လုံး"

"ဟုတ်တယ် အယ်လီနာ"

ကက်စတာ စိတ်ထိန်းနိုင်သွားပြီ ဖြစ်၏။ အေးဆေး တည်ငြိမ်သည့် အသံနှင့် ရှင်းပြ၏။

"မျက်လုံးနှစ်ဖက်လုံးဟာ သီးခြားရှိပေမယ့် တခုနဲ့ တခု ဆက်နွှယ်အားပြုနေတယ် တဲ့၊ တဖက်ကို ခိုက်မိရင် ကျန်တဖက်ကိုလည်း ထိခိုက်နိုင်တယ် တဲ့။ ဘယ်အတိုင်းအတာ အထိ ထိခိုက်နိုင်တယ် ဆိုတာတော့ ဒီကမ္ဘာပေါ်မှာ ဘယ်သူမှ မပြောနိုင်ဘူး တဲ့"

အယ်လီနာ့လက်တွေ နံ့ဘေးသို့ ပြုတ်ကျသွားသည်။ နှစ်ယောက်လုံး ဘာမျှ ဆက် မပြောနိုင်ကြ။ နောက်ဆုံး အယ်လီနာ အသံထွက်လာသည်။ တောင်းဆိုသည့် လေသံနှင့်။

“ဒီကမ္ဘာပေါ်မှာ တတ်နိုင်တဲ့ လူတယောက်ယောက်တော့ ရှိရမယ်”

“ဒေါက်တာ ရန်ရှောက အဲဒီမေးခွန်းကို မေးစေချင်တာ၊ ဒေါက်တာ ရန်ရှောဟာ အမေရိကန်မှာတော့ အတော်ဆုံး မျက်စိကုဆရာဝန်ကြီးပဲ။ ဒါပေမဲ့ သူ တိုင်ပင်ချင်တဲ့ ဆရာဝန် တွေ ရှိသေးတယ် တဲ့၊ အရေးကြီးတာက သူတို့ ဒီကို အချိန်မီ ရောက်မှတဲ့”

“ဒါဖြင့် ဘာလို့ မခေါ်သေးတာလဲ၊ ချက်ချင်း ခေါ်ပေါ့၊ ဘာကို စောင့်နေတာလဲ”

“ကိုယ် အဲဒါ ပြောမလို့ပါ အယ်လီနာ၊ ဆရာဝန်ကြီး ခုပဲ အဝေးပြောဖုန်း ခေါ်နေ တယ်။ တယောက်က ဘယ်လတီ မိုးမှာ၊ နောက်တယောက်က ချီကာဂိုမှာ တဲ့။ သူ သိချင် တာက တို့ ကုန်ကျစရိတ် တတ်နိုင်ပါ့မလား တဲ့”

“အို... မောင်က မပြောလိုက်ဘူးလား၊ ဘာလို့ မတတ်နိုင်ရမှာလဲ၊ သမီးအတွက် ဆိုရင် မတတ်နိုင်တာ မရှိစေရဘူး”

“အင်း . . . မောင် ပြောပြီးပါပြီ၊ အဲဒီအတိုင်းပဲ ပြောခဲ့ပါတယ်”

ကက်စတာက အယ်လီနာ့ ပခုံးပေါ်ကို လက်တင်လိုက်၏။ အယ်လီနာ မော်ကြည့် သည်။

“ကိုယ် ဝမ်းနည်းပါတယ် အယ်လီနာ”

ကက်စတာက လှိုက်လှဲစွာ ပြော၏။ မူးနောက် ရီဝေနေသဖြင့် အယ်လီနာ ဘာမျှ မစဉ်းစားတတ်။

“ဝမ်းနည်းတယ်... ဟုတ်လား၊ ဘာကို ဝမ်းနည်းတာလဲ မောင်”

“ဘာကို ဝမ်းနည်းတယ် ဆိုတာ မင်း မသိဘူးလား အယ်လီနာ၊ မင်းကို မှိုချိုးမျှစ်ချိုး ပြောခဲ့မိတဲ့ အတွက်ပေါ့ ၊ နီဂရိုး တယောက်လို ချမ်းသာတာ မလိုချင်ဘူး ပြောခဲ့မိတဲ့အတွက် ပေါ့"

ကက်စတာက ခပ်သွက်သွက် ပြောချနေသည်။ ပြီးတော့ အယ်လီနာ့ ပခုံးပေါ်မှ လက်ကို ရုပ်လိုက်သည်။ အယ်လီနာ ခေါင်းယမ်းသည်။ အံ့ဩလွန်းသဖြင့် ခဏ ကြောင်သွား၏။ သည်မျှ ကြီးမားသည့် အရေးအခင်းထဲတွင် သည်အသေးအဖွဲ ကိစ္စကလေးကို သူ ဘာပြုလို့ လာပြောနေပါလိမ့်။

"ဩော်. . . မောင်ရယ်၊ အဲဒါ အသေးအဖွဲ့ပါ၊ မောင် ပြောတဲ့ အထဲမှာ မှန်တာတွေ အများကြီးပါ"

ကော်နယ်လီယာ၏ သူနာပြုဆရာမကလေး ဝင်လာ၍ စကားပြတ်သွားကြ၏။ ကလေး ကို ကြည့်နိုင်ပြီ ဖြစ်ကြောင်း လာပြောခြင်း ဖြစ်၏။

နှစ်ယောက်သား အပြေး ထွက်သွားကြသည်။

ထိုင်နေကျနေရာတွင် ဝင်ထိုင်ကြသည်။ ကော်နယ်လီယာက အဖေနှင့် အမေ၏ လက် ကို မှန်းပြီး ဆွဲလိုက်၏။ အနာသက်သာနေပုံ ရ၏။ ခေတ်ပြား နားထောင်နေကြောင်း ကော်နယ်လီယာက ပြောပြသည်။ သားအဖနှစ်ယောက် စကားပြောနေသည်ကို အယ်လီနာ နံဘေးမှ ရွှင်ရွှင်ပျပျ ပါဝင်ဖို့ ကြိုးစား၏။ သို့သော် သမီးကလေးကို ကြည့်ပြီး ရင်ထုမနာ ဖြစ်နေ၏။ ကော်နယ်လီယာအတွက် သူတို့နှစ်ယောက် စိတ်ကူးယဉ်ခဲ့သည်များကို သတိရနေ၏။ အကောင်း ဆုံးကျောင်းမှာ ထားမည်၊ အကောင်းဆုံး အဝတ်အစားတွေကို ဝတ်ဆင်စေမည်၊ ပြီးတော့ သတို့သမီးဝတ်ရုံနှင့် ဝက်သစ်ချမြိုင်အိမ်ကြီး၏ လှေကားမှ ဆင်းလာမည့် ပုံ။

"မေမေ... သမီးလက်ကို သိပ်မဖျစ်ပါနဲ့၊ နာတယ် မေမေရဲ့"

"ဩော်... အင်း အင်း၊ မေမေ မေ့သွားလို့ပါကွယ်"

ကော်နယ်လီယာကလေး အိပ်ပျော်သွားသည်အထိ သူတို့နှစ်ယောက် စောင့်နေကြ သည်။ အခန်းထဲမှ ခြေဖျားထောက်ပြီး ထွက်လာကြသည်။ ဝရန်တာတွင် ဒေါက်တာ ဓမီလီက တွေ့ဖို့ စောင့်နေ၏။

"မစ္စတာလန်း အကြံပေးတဲ့အတိုင်း ဒေါက်တာ စတန်လေက လေယာဉ်ပျံတစင်း ငှားပြီး ချီကာဂိုမှာရှိတဲ့ ဆရာဝန်ကြီးကို သွားခေါ်ဖို့ စီစဉ်နေပါပြီ။ မနက်ဖြန်ဆိုရင် နှစ်ယောက် လုံး ရောက်လာကြပါလိမ့်မယ်"

"ကျေးဇူးတင်ပါတယ် ဒေါက်တာ၊ ကျွန်တော်တို့ကို ဒါထက် ပိုပြီး ဘာမှ မပြောနိုင် ဘူးလား ခင်ဗျာ"

"မပြောနိုင်သေးပါဘူး မစ္စတာလန်း"

အယ်လီနာ ဝရန်တာကို ဖြတ်ပြီး သူ့အခန်းဆီသို့ ပြေးသွားသည်။ ကုလားထိုင်တလုံး တွင် ပစ်ထိုင်ပြီး အလန့်တကြား ဟစ်အော်မိတော့မည်လို ပါးစပ်ကို ပိတ်ထားလိုက်သည်။ စိတ်ထိန်းနိုင်လာချိန်တွင် ကက်စတာ့ ရင်ခွင်ထဲသို့

တိုးဝင်မသွားမိသည့်အတွက် ကိုယ့်ကိုယ် ကိုယ် ကျေးဇူးတင်လိုက်၏။ ရင်ထဲက မပါသည့် ထွေးပွေ့ယုယမှုတွေ လုပ်နေရရင် မောင် ပင်ပန်း နေမှာ မဟုတ်လား။

ညဉ့်သန်းခေါင်တိုင် အိပ်မပျော်။ စိတ်ပန်းလူပန်း အိပ်ပျော်မသွားမီ တချိန်လုံး နေ့လယ် က မောင်ပြောသည့် စကားလုံးများကို ပြန်တွေးနေ၏။ ရန်ဖြစ်ခွဲခွာခဲ့သည့် ကိစ္စကို ပထမဆုံး ပြောဖြစ်ခြင်း။ မောင်က သူ မှားပါတယ်တဲ့၊ စိတ်မကောင်းပါဘူး တဲ့၊ သူ့ရဲ့ ကြင်နာတတ်တဲ့ သဘာဝအရ ပြောလိုက်တာများလား မသိ။

နောက်တနေ့တွင် သည်အကြောင်းကို အယ်လီနာ မသိလိုက် မသိဘာသာနေလိုက်၏။ ဆရာဝန်ကြီးများနှင့် တွေ့ရ၏။ နှစ်ယောက်လုံး နှုတ်ဆိတ်နေကြသည်။ ဒေါက်တာ ဇေီလီက အားပေးစကား ပြော၏။

“ကျွန်မဖြင့် ကလေးမိဘတွေ တွေ့ဖူးလှပြီ၊ ရှင်တို့ နှစ်ယောက်လောက် သတ္တိကောင်း တဲ့ မိဘမျိုး မတွေ့ဖူးသေးဘူး”

သည် မျက်နှာသေနှစ်ခု၏ နောက်ကွယ်တွင် သမီးကလေးအတွက် ရောက်နေရသည့် သောကအပြင် တဦးကိုတဦး မနှစ်သိမ့်ရဲလောက်သည့် ခံစားချက်တွေ ကိုယ်စီနှင့်ဖြစ်ကြောင်း သူတစိမ်းတွေ မသိကြပါကလား။

※※※

# (၆)

ဆရာဝန်တွေ ဝင်သွားလိုက်၊ ထွက်လာလိုက်နှင့်။ မျက်နှာထားတင်းတင်း၊ အသံတိုးတိုး နှင့် အထူးကုဆရာဝန်ကြီးများက အချိန်ကြာမြင့်စွာ အစည်းအဝေး ထိုင်ပြီး ထွက်လာကြ သည်။

"ကျွန်တော်တို့ အတတ်နိုင်ဆုံး ကြိုးစားပါ့မယ်" ဟုသာ ပြောကြ၏။ နေ့တွေ ရက်တွေ ဘယ်လို ကုန်သွားမှန်း အယ်လီနာ မသိလိုက်။ ကော်နယ်လီယာ့ အနားတွင် ထိုင်သည်။ ကော်နယ် လီယာအတွက် ကက်စတာ ယူလာသည့် စာအုပ်တွေကို ဖတ်ပြသည်။ ဆေးရုံမှ တက်လာသမျှ ဘီလ်တွေကို တွင်တွင် ချက်လက်မှတ်ရေးပြီး ဆပ်သည်။ ပန်းပို့ပေးသူတွေထံ ကျေးဇူးတင် စာတိုကလေးများ ရေးပြီး တုံ့ပြန်သည်။ သို့သော် စိတ်ပင်ပန်းနွမ်းနယ်မှုသည် တရံတဆစ်မျှ လျော့သွားသည်ဟူ၍ မရှိ။ အိမ်ထောင်သက် ရှစ်နှစ်အတွင်း ကက်စတာ၏ ပင်ကိုအရည်အသွေး နှင့် သတ္တိကို ယခုလို တန်ဖိုးထားခြင်းမျိုး တခါဖူးမျှ မရှိခဲ့ကြောင်းကိုလည်း ကိုယ့်ကိုယ်ကိုယ် နားလည်လိုက်၏။ သည်တော့ ပိုပြီး စိတ်မကောင်း ဖြစ်ရပြန်သည်။

ကက်စတာ၏ တည်ငြိမ်ပုံကို တွေ့ရပြီး အယ်လီနာ လေးစားနေမိ၏။ မကြည့်ဝံ့ မမြင်ဝံ့ စရာ စမ်းသပ်မှုတွေကို ဆရာဝန်တွေ ပြုလုပ်နေချိန်တွင် ကက်စတာသည် သမီးကလေး၏ လက်ကို ကိုင်ပြီး ငြိမ်သက်စွာ စောင့်ကြည့်နေတတ်သည်။ နဖူးတွင်တော့ ချွေးသီးတွေ ဥနေ တတ်သည်။ သို့သော် သုတ်ပစ်ဖို့ သူ ဘယ်တော့မျှ သတိမရ။

ကော်နယ်လီယာကို ရင်ခွင်ထဲတွင် ပွေ့ပြီး သူ့ခြေထောက်တွေ၊ လက်တွေ ထုံကျဉ်ကိုက်ခဲ လာသည်အထိ ထိုင်နေတတ်သည်။ ရံဖန်ရံခါ ကလေးနှင့်အတူ သူပါ အိပ်ပျော်နေတတ်သည်။ အတင်းနှိုးပြီး အနားမခိုင်းမချင်း သူ မထ။ အယ်လီနာ့ အပေါ်တွင်လည်း တိုး၍ ယုယကြင်နာ နေ၏။ အယ်လီနာ မခံမရပ်နိုင်လောက်အောင် သူက ညင်သာနေ၏။ ယဉ်ကျေးနေ၏။ သည်တော့လည်း အယ်လီနာက မရှိသည့် သတ္တိမျိုးကို မွေးပြီး တုံ့ပြန်နေရသည်။

နှစ်ယောက်တည်း လွတ်လွတ်လပ်လပ် တွေ့ချိန်ကလည်း နည်းသည်။ တွေ့သည့်အခိုက် တွင်လည်း ကော်နယ်လီယာ အကြောင်းသာ ပြောဖြစ်ကြသည်။ ကက်စတာ့အပေါ်တွင် ယခုလို အားထားမှီခိုလိုစိတ် အယ်လီနာတွင် တခါမျှ မဖြစ်ပေါ်ဖူးခဲ့။ သူတို့နှစ်ယောက်တွင် ရှိကြ သည့် အရည်အချင်းတွေကို အယ်လီနာ

နှိုင်းယှဉ်ကြည့်မိသည်။ မိမိက ပေါက်ကွဲလွယ်သလောက် ကက်စတာက ခံနိုင်ရည်ရှိ၏။ ထိုးဖောက် တိုက်ခိုက်နိုင်သူသည်သာ အောင်ပွဲရနိုင်သည်ဟူသည့် မိမိ၏ အယူမှားကို တဖြည်းဖြည်း မြင်လာသည်။ ခေတ်ဆိုး ခေတ်ကျပ်ကြီးတွေကို ကျော်ဖြတ်ခဲ့ကြသည့် ကက်စတာတို့ ဘိုးဘွားဘီဘင်များ၏ အရည်အသွေးကိုလည်း ရေးရေး မြင်လာသည်။

သည်လို မြင်နိုင်လာသည်နှင့် ဟိုစဉ်က ဒေါသသည်းထန်လွန်းနေသဖြင့် ခေါင်းထဲ မဝင်ခဲ့သည့် အစ်ဇဘယ်၏ စွပ်စွဲချက်ကိုလည်း ပြန်လည် ကြားယောင်လာသည်။

"မင်းဟာ ကက်စတာ လိုတာကို ဘာမှ မပေးခဲ့ဘူး၊ သူ့အောင်မြင်မှုတွေကို နည်းနည်း ကလေးမှ အသိအမှတ် မပြုဘူး၊ တိုးတိုးကလေးမှ ချီးကျူးဖော် မရဘူး။ လန်းမျိုးဆက်ရဲ့ ယောကျ်ားတွေဟာ ဘာပဲ ဖြစ်နေ ဖြစ်နေ သူတို့မိန်းမတွေက သူတို့ကို သူရဲကောင်းတွေလို ကိုးကွယ်ခဲ့ကြ တာချည်းပဲ"

တအားအော်ပြီး ငိုပစ်လိုက်ချင်သည်။

မောင်ရယ် . . . အယ်လီနာ့ကို ခွင့်လွှတ်ပါကွယ်၊ အယ်လီနာ မောင့်ကို တဖြည်းဖြည်း နားလည်လာပြီဆိုတာ ဘယ်လိုလုပ်ပြီး သက်သေပြခွင့် ရမလဲ မောင်ရယ်။

ဗုန်းဗုန်းမလဲသေးဘဲ ကြံ့ခိုင်နေခြင်းမှာ မိမိ၏ ခံနိုင်ရည်ကြောင့် မဟုတ်ဘဲ ကက်စတာ ၏ သွယ်ဝိုက်အင်အားကြောင့် ဟု အယ်လီနာ သဘောပေါက်လိုက်၏။

ဖေဖော်ဝါရီလထဲသို့ ရောက်လာခဲ့သည်။

တနေ့ နံနက်တွင် ကက်စတာ တံခါးခေါက်ပြီး အတင်း ပြေးဝင်လာ၏။ ဝမ်းသာ အားရနှင့်-

"အယ်လီနာ သူတို့.. သူတို့ ပြောတယ်၊ သမီး မျက်လုံးကောင်းဖို့ သေချာနေပြီ တဲ့"

အယ်လီနာ ဝမ်းသာလွန်း၍ ပါးစပ်အဟောင်းသား ဖြစ်နေသည်။

အတန်ကြာမှ -

"ဘယ်သူတွေက……"

"ဒေါက်တာ ရန်ရှောလေ၊ စိုးရိမ်စရာ မရှိတော့ဘူး တဲ့"

အယ်လီနာ ခုတင်ပေါ်မှ ခုန်ဆင်းပြီး ကော်နယ်လီယာ့ အခန်းဆီသို့ ဦးတည်၍ ပြေးထွက် သွားသည်။ သို့ရာတွင် ဒူးခွေကျသွားပြီး ကုလားထိုင်တလုံးကို လှမ်းဆွဲကာ အားပြုထား လိုက်ရ၏။ သည်တော့မှ တချိန်လုံး တင်းထားခဲ့သည့် ဒဏ်တွေ မည်မျှ ပြင်းထန်ကြောင်းကို အယ်လီနာ နားလည်ရတော့၏။ အားရပါးရ ငိုချလိုက်တော့သည်။

ကက်စတာက အယ်လီနာ စိတ်ထိန်းနိုင်အောင် ဖေးမသည်။

ဒူးထောက်ပြီး အယ်လီနာ့ ဦးခေါင်းကို သိုင်းဖက်ထားသည်။ သည်းထန်သည့် ရှိုက်သံ တွေ ငြိမ်သက်သွားသည်အထိ စိတ်ရှည်လက်ရှည် စောင့်၏။ မျက်ရည်တွေကို လက်ကိုင်ပဝါ ထုတ်ပြီး သုတ်ပေးသည်။

အယ်လီနာ အသက်ကို တဝကြီး ရှူသွင်းလိုက်သည်။ ကက်စတာက ဆွဲထူသည်။ အလိုက်သင့် ပါလာ၏။

"ခုနေ သွားကြည့်လို့ ရပြီလား ဟင်၊ စကားပြောလို့ ရပြီလား"

အယ်လီနာ အလောတကြီး မေးလိုက်၏။ ကက်စတာက ခေါင်းယမ်းပြီး-

"နားထောင်ပါဦး အယ်လီနာရယ်၊ ကိုယ် ရှင်းပြပါ့မယ်။ သူ့မျက်လုံးဟာ လူကောင်းလို တော့ ကြည်ကြည်လင်လင် မြင်မှာ မဟုတ်ပါဘူး၊ ဒါပေမဲ့ မြင်တော့ မြင်မယ်။ သမီးလေးကို သိပ်စိတ်လှုပ်ရှားအောင် လုပ်လို့ မကောင်းဘူးလေ၊ လုံးဝ ကွယ်သွားနိုင်လောက်တဲ့အထိ အန္တရာယ် ရှိတယ် ဆိုတာ ကလေး မသိဘူးလေ"

အယ်လီနာက မကျေမနပ်နှင့် ပြန်ထိုင်လိုက်သည်။

"ဒါထက် ပိုမလုပ်နိုင်ကြဘူးလား၊ မောင့်ကို ဘယ်သူ ပြောတာလဲ"

"ကိုယ်လည်း မင်းလိုပါပဲ၊ ကျေနပ်လှတယ်တော့ မဟုတ်ဘူးလေ၊ သူတို့ ပြောတာ ပြန်ပြောရတာပဲ အယ်လီနာ"

"သမီးကို ဘယ်တော့ ဝင်တွေ့ရမှာလဲ"

"တနာရီလောက်ပဲ ကြာမှာပါ။ အမျိုးမျိုး စမ်းသပ်နေကြတယ်၊ ပြီးရင် ဒေါက်တာ မေလီ လာပြောလိမ့်မယ်။ လာပါကွယ်၊ ခဏ နားနေလိုက်ပါ"

ကက်စတာက ပခုံးကို သိုင်းဖက်ပြီး ခုတင်ဆီသို့ ခေါ်သွားသည်။

နားနေပါမည်ဟု ကက်စတာကို ကတိပေးလိုက်သည်။ ကက်စတာ ထွက်သွားတော့ အနားယူလို့ မရမှန်း သိလိုက် ၏။ သမီးကလေး မျက်စိလုံးလုံးမကွယ်တော့ဘူး ဟူသည့် အသိကြောင့် အားတွေ အင်တွေ ပြည့်လာသလို ဖြစ်သွား၏။ မိဘတွေကို ဖုန်းဆက်ပြီး အကြောင်းကြားသည်။ ဝတ် ဆီသို့လည်း အလုပ်အကိုင်အကြောင်း စာတစောင် ထိုင်ရေးဖြစ်သည်။ မျက်မမြင်ကျောင်းသို့ ရန်ပုံငွေ ချက်လက်မှတ်တစောင် ရေးပို့သည်။ ကော်နယ်လီယာအတွက် သူတို့ကျောင်းမှ ထုတ်သည့် စာအုပ် ဝယ်စရာ မလိုတော့ဘူး မဟုတ်လား။

※※※

# (၇)

ကော်နယ်လီယာ၏ မျက်လုံးအခြေအနေမှာ တနေ့တခြား တိုးတက်လာခဲ့သည်။

“သမီး ဒီမနက် အနီဘောလုံးနဲ့ အစိမ်းဘောလုံးကို ခွဲပြနိုင်တယ်၊ ဆရာဝန်က သိပ် ဟုတ်တာပဲ တဲ့”

ဒေါက်တာ ရန်ရှော့ကို ကျေးဇူးတင်မဆုံး ဖြစ်နေကြသည်။ ကော်နယ်လီယာကလေး ၏ မျက်လုံးများမှာ တဖြည်းဖြည်း အမြင်ကြည်လင်လာသည်။ သို့သော် မူလအခြေအနေကို ပြန်မရောက်သေး။ မျက်မှန်ထူထူတော့ တပ်ရလိမ့်မည် တဲ့။ စာကို ကောင်းစွာ ဖတ်နိုင်မည် ဖြစ်သော်လည်း မျက်လုံးအား မစိုက်ရသည့် ဂီတလို တခြားစိတ်ဝင်စားစရာ ဘာသာရပ်များ ကိုသာ သင်ပေးသင့်ကြောင်းဖြင့် ဆရာဝန်ကြီးများက အကြံပြုသည်။

ဆရာဝန်ကြီး ရန်ရှော့၏ ရှင်းလင်းချက်များကို နားထောင်နေစဉ် အယ်လီနာ၏ မျက်လုံး များသည် ဒေါက်တာဇေလီ၏ ဝတ်ရုံ ဖြူလွလွမှ ကြယ်သီးကလေးတလုံးကို စူးစိုက်ကြည့်နေ ၏။ သူတို့ ပြောနေတာတွေ မကြားတချက် ကြားတချက်။

တို့နှစ်ယောက်ရဲ့ ဒဏ်ကို သမီးလေး ခံရတာ၊ ဒါကို ကက်စတာ သိပါ့မလား၊ မသိမချင်း တို့ဘဝ ပြန်စဖြစ်မည် မဟုတ်။ ဘုရား... ဘုရား၊ ဆရာဝန်ကြီးတွေက သမီးလေးကို ဂီတပဲ သင်ပေးရမယ် ဆိုပါလား၊ သည်လိုဆိုရင် လူတွေအကြောင်း သမီးလေး သိပါတော့မလား။ ကက်စတာ့ အသံကို နားထဲတွင် ကြားလိုက်သည်။

အယ်လီနာ လန့်သွားသည်။

“ကလေးရဲ့ မျက်နှာအလှကိုများ ထိခိုက်သွားနိုင်ပါသလား ဒေါက်တာ ရန်ရှော့”

အယ်လီနာ ဆတ်ခနဲ ခေါင်းထောင်လာသည်။ သည်ကိစ္စကို တခါမျှ မစဉ်းစားမိခဲ့။ မထိခိုက်နိုင်ကြောင်း ဆရာဝန်ကြီး ရှင်းပြမှ ရင်ထဲတွင် ပေါ့သွားသည်။ ဆရာဝန်ကြီးက အမာ ရွတ် သေးသေးမျှင်မျှင်ကလေးသာ ကျန်တော့မည့် အကြောင်း၊ သေသေချာချာ ကပ်ကြည့်မှ မြင်နိုင်မည့် အကြောင်း စိတ်ရှည်လက်ရှည်

ပြောပြသည်။

ဒေါက်တာ ဇေါ်လီ၏ ရယ်သံကြောင့် ကက်စတာရော အယ်လီနာပါ တအံ့တသြ ဖြစ်သွားသည်။

"မစ္စတာလန်း၊ ရှင် သိပ်စိတ်လှုပ်ရှားနေတာကိုး၊ သမီးလေးကို ရှင် သေသေချာချာမှ မကြည့်ခဲ့တာပဲ"

"ဗျာ... ဒေါက်တာ ဘာဆိုလိုတာလဲ"

ဒေါက်တာ ဇေါ်လီက အရယ်မရပ်ဘဲ-

"ဟုတ်ပါတယ်၊ ရှင့်သမီးလေး မျက်လုံးကို သေသေချာချာ မကြည့်ဘဲ မေးခွန်းတွေ ချည်း အရမ်းမေးနေတာကိုး။ ခုတင်က ရှင်တို့အခန်းထဲ ဝင်တော့ ကလေးမျက်လုံးပေါ်က ပတ်တီးရော၊ နေရောင်ကာရော ဖြုတ်ထားတယ်ရှင့်၊ ညနေပိုင်းမှ ပြန်တပ်မှာ။ ကဲ- - ? သွားကြည့် ကြ ပါဦး"

ကက်စတာနှင့် အယ်လီနာ တယောက်မျက်နှာ တယောက် လှမ်းကြည့်ကြသည်။ ပြီးတော့ ကော်နယ်လီယာ့ အခန်းဆီသို့ နှစ်ယောက်သား အပြေးအလွှား သုတ်ခြေတင်ခဲ့ကြ၏။

ကော်နယ်လီယာက ထိုင်ပြီး ဆရာမ ဖတ်ပြသည့် ပုံပြင်ကို နားထောင်နေသည်။

"ဟဲလို... ခဏလေးနော်၊ ဒီတပုဒ်ဆုံးအောင် သမီး နားထောင်လိုက်ဦးမယ်" ကော်နယ်လီယာက အဖေနှင့် အမေကို လှမ်းပြီး နှုတ်ဆက်ရင်း ပြောလိုက်သည်။

သူတို့ ကော်နယ်လီယာနှင့် မျက်နှာချင်းဆိုင် ကုလားထိုင်နှစ်လုံးတွင် ထိုင်လိုက်ကြသည်။ ဆရာမ က ရင်ထိတ်သည်းဖိုဖွယ် ဘုရင်မနှင့် စုန်းတစ္ဆေ ဇာတ်လမ်းကို ဆက်ဖတ်နေ၏။ ကက်စတာနှင့် အယ်လီနာက ကော်နယ်လီယာကို သေသေချာချာ ကြည့်ကြသည်။ ပြီးတော့ ဝမ်းသာအားရ တယောက်မျက်နှာ တယောက် ကြည့်လိုက်ကြသည်။ နောက် သူတို့မျက်လုံးတွေ ကော်နယ် လီယာဆီသို့ ပြန်ရောက်သွားကြပြန်သည်။ အယ်လီနာက ပိုပြီး သေချာအောင် မသိမသာ ရှေ့သို့ ငုံ့ပြီး နီးနီးကပ်ကပ် ကြည့်သည်။

ကော်နယ်လီယာသည် အလွန်လှပ ချောမောသည့် ကလေး ဖြစ်သည်။ သူ့တကိုယ်လုံး တွင် အလှဆုံးမှာ မျက်လုံးများ ဖြစ်၏။ ယခုမှ မျက်တောင်တွေကို အယ်လီနာ သေသေချာချာ ကြည့်မိခြင်း ဖြစ်၏။ ကြည်လဲ့ နက်မှောင်သော

မျက်လုံးအပေါ်မှ မိုးနေသည့် ကော့ရွှန်းရွှန်း မျက်တောင်များမှာ ရှုမငြီးစရာ ဖြစ်နေ၏။ ပန်းချီဆရာတွေ မျက်စိကျမည့် မျက်နှာမျိုးကလေး။

※※※

# အခန်း (၁၄)

## (၁)

ပုံပြင်ဖတ်ပြပြီးတော့ ဆရာမက ကော်နယ်လီယာကို အိပ်ခိုင်း၏။ ကော်နယ်လီယာ တချက်သမ်းပြီး မအိပ်ချင်ဘူး ငြင်းနေသည်။ ဆရာမက ကလေး အိပ်သည်အထိ သူတို့ နှစ်ယောက်ကို နေခွင့်ပြုပြီး ထွက်သွားသည်။ ကော်နယ်လီယာ ဆေးရုံမှ ဆင်းချင်ကြောင်း ပူဆာသည်။ သမီးဆီမှ သည်လို ကြားရတော့ သူတို့နှစ်ယောက်လုံး ဝမ်းသာသွားကြသည်။ ကော်နယ် လီယာကလေးမှာ ဝေဒနာခံစားနေရသည့် တလျှောက်လုံး သူ့ကိုယ်သူ ဘယ်ရောက် နေသည်ကို စဉ်းစားချိန် ရှိခဲ့ဟန် မတူ။

"သမီး ဘယ်တော့ ဆေးရုံဆင်းရမှာလဲ ဟင်"

"အများဆုံးနေရရင် တပတ်ပေါ့ သမီးရယ်"

ကက်စတာ ဖြေသည်။

ကော်နယ်လီယာက သူ့ပြက္ခဒိန်ကလေးကို လှမ်းကြည့်ပြီး စိတ်ပျက်သည့် လေသံနှင့်-

"အိမ်ကို သိပ်အောက်မေ့တာပဲ၊ သူတို့တွေ ဘာလုပ်နေကြမလဲ မသိဘူးနော်"

"သမီး လာခဲ့တုန်းက အတိုင်းပေါ့ကွယ်၊ မမ်မီက မီးဖိုချောင်မှာ အလုပ်ရှုပ်နေမှာပေါ့၊ ဒစ်စီကတော့ သမီးကို ပိုအောက်မေ့နေမှာပေါ့"

ဟု အယ်လီနာက ပြောသည်။

"ဖီးလစ်ကော... ဟင်"

"ဘိုးဘိုး အပွဂျွန်းတို့ ဆီမှာပဲလေ၊ မေမေတို့ ပြန်တော့မှ အတူတူ ခေါ်ပြန်မယ်လေ"

"ပျော်စရာကြီးနော် မေမေ၊ ဟိုတုန်းကလို ပြန်ဖြစ်ပြီနော် ဟုတ်လား။

ဖေဖေရယ်၊ မေမေရယ်၊ ဖီးလစ်ရယ်၊ သမီးရယ်။ ဟား . . . ဘယ်လောက် ပျော်ဖို့ ကောင်းလိုက်မလဲ၊ ဝါတွေ ခူချိန်ဆို ပွင့်ပြီလား ဟင်”

“စိုက်တောင် မစိုက်ရသေးဘူး သမီးရဲ့၊ ထွန်နေတုန်း ရှိသေးတယ်လေ”

“ဝါပွင့်ချိန်ဆိုရင် သမီး သိပ်ပျော်တာပဲ၊ နွေကျမှ ပွင့်တာနော်၊ အခင်းထဲမှာ ဖရဲသီးခူးစားရတာလည်း သိပ်ပျော်တာပဲ။ အဲဒီအချိန်ဆိုရင် ဝါခင်းကြီးက သိပ်ချစ်စရာ ကောင်းတာ ပဲနော် မေမေ၊ အပြင်မှာ ခူချိန်ဆို နွေးပြီလား ဟင် မေမေ"

“နွေးပြီ သမီးရဲ့၊ တနေ့တခြား နွေးလာပြီ”

“သမီး အဝတ်လှလှကလေးတွေ ဝတ်ချင်တယ်၊ ဝယ်ပေးနော် မေမေ

“ဝယ်ပေးမှာပေါ့ သမီးရယ်၊ သမီး နေကောင်းကောင်းချင်း ဈေးဝယ် ထွက်မယ်”

“ဟာ . . ပျော်စရာကြီးပဲ၊ သမီးအင်္ကျီတွေ တိုကုန်ပြီ မေမေရဲ့၊ မေမေဝယ်ရင် အားလုံး ဝယ်ပေးရမှာ”

ကော်နယ်လီယာ စိတ်အားထက်သန်စွာ ပြောနေ၏။

“ကျောင်းပြန်တက်ရင် အသစ်တွေ ဝတ်ပြီး တက်မယ်နော်၊ ဖေဖေ သမီး စာဖတ်တာ မကြားဖူးသေးဘူးနော်”

“ဟင်... သမီး စာဖတ်တတ်ပြီ၊ ဟုတ်လား”

“သူငယ်တန်း ဖတ်စာအုပ် ရှေ့ပိုင်းကို သမီး အားလုံး အလွတ်ရနေပြီ ဖေဖေရဲ့”

“ဟုတ်လား၊ သမီးက သိပ်တော်တာပဲကွယ်၊ သိပ်မြန်တာပဲ”

“အတန်းထဲမှာလည်း သမီးက အတော်ဆုံး၊ မေမေ.. . ဟုတ်တယ်နော်၊ သမီး စာဖတ် နိုင်တယ်နော်”

“ဟုတ်ပါတယ်၊ သမီး ကောင်းကောင်း ဖတ်နိုင်နေပြီလေ”

ကော်နယ်လီယာ ကက်စတာဘက်သို့ လှည့်ပြီး-

“ဖေဖေ့နာမည်ကိုလည်း သမီး ဖတ်တတ်တယ်၊ ခေါင်းပေါ်မှာ ရေးထားတဲ့

နာမည်လေ”

“ဘယ်ခေါးလဲ သမီး”

“သမီး မျက်လုံးကို ခိုက်မိတဲ့ ခေါးလေ။ ဖီးလစ်ကိုတောင် သမီး ဖတ်ပြသေးတယ်၊ ခေါးရိုးပေါ်မှာ ရေးထားတာလေ၊ “ကက်စတာလန်း” တဲ့”

“နေပါဦး သမီးရဲ့၊ ဖေဖေ့ခေါးက…”

“သမီး စာအုပ်ထဲက သင်ခန်းစာတွေ အကြောင်း ဖေဖေ့ကို ပြောပြဦးလေ။ သမီး မှတ်မိလား၊ “တံတား” ကို အတန်းထဲမှာ သမီးတယောက်တည်း စာလုံးပေါင်းတတ်တယ်လေ”

“ဟုတ်တယ် ဖေဖေ၊ သမီးစာအုပ်ထဲမှာ “တံတား”ကို စာလုံးအကြီးတွေနဲ့ချည်း ရေးထားတာ။ ခေါးရိုးပေါ်က ဖေဖေ့ နာမည်လည်း စာလုံးအကြီးတွေနဲ့ပဲနော်”

“ဖေဖေ့ခေါး…. ဟုတ်ရဲ့လား သမီးရယ်၊ ဖေဖေ့ခေါးကို ဖေဖေ ယူသွားတာပဲ”

“ဘယ်ကလာ ဖေဖေကလည်း၊ စားပွဲပေါ်မှာ ဖေဖေ ကျန်ခဲ့တာပါ။ သမီးက ဆင်နွှာ မောင်းကလေး ဖြုတ်ပေးမလို့၊ ကတ်ကြေးက တုံးတော့ ခေါးနဲ့ လှီးပေးမလို့ဟာ၊ ဖီးလစ်က သူ လုပ်ချင်တယ် ဆိုပြီး…”

ကော်နယ်လီယာ တချက် သမ်းလိုက်သည်။

“သမီးလေး အိပ်ပါစေ မောင်ရယ်၊ သွားစို့လား”

“နေပါဦး၊ သမီးမှ အိပ်မပျော်သေးတာပဲ”

ကက်စတာ့ နဖူးကြောတွေ ရှုံ့နေသည်။

“နေပါဦး သမီးရဲ့၊ ဖေဖေ သေချာ…”

“ဒါနဲ့ သမီးက ပြောတယ်၊ နင် ငယ်သေးတယ်၊ မလုပ်တတ်ဘူး လို့။ သူက နေရာ တကာ ပါချင်တာ”

ကော်နယ်လီယာ သမ်းလိုက်ပြန်သည်။

“သူသာ ခေါးကို အတင်းမလုရင် သမီး ဒီလိုဖြစ်မှာ မဟုတ်ဘူး”

ကော်နယ်လီယာ မျက်ခွံတွေ လေးလာပြီး စကားပြောရင်း လျှာတွေ လေးလာသည်။ မကြာမီ အိပ်ပျော်သွားတော့၏။ အယ်လီနာ စောင်ခြုံပေးလိုက်၏။ ကက်စတာက တစုံတရာ ကို နားမလည်သလို မျက်မှောင်ကြုတ်လျက်။ အယ်လီနာ မသိဟန်ဆောင်နေသည်။ သူနာပြု ဆရာမကလေးကို ခေါ်ပြီး ကော်နယ်လီယာ့ အနီးတွင် ထားခဲ့ကာ အပြင်သို့ ထွက်ခဲ့ကြသည်။

"သမီးလေး ကြည့်ရတာ အားတက်စရာပဲနော်"

"အင်း . . . သူ့မျက်လုံးဟာ အရင်အတိုင်း ပြန်မဖြစ်တော့ဘူး ဆိုတာ သူ မသိရှာဘူး။ နေပါဦး အယ်လီနာ၊ သမီး မျက်လုံး ထိခိုက်မိတာ ကိုယ့်ခေးလို့ မင်း မပြောပါဘူး"

"ဟုတ်လား . . . မပြောမိဘူးလား"

"ဘယ်လိုလုပ်ပြီး အဲဒီခေးက အိမ်ပြန်ရောက်သွားပါလိမ့်။ ဒီခေးကလေးကို ကိုယ်ယူ သွားတာ သေချာတယ်၊ ကိုယ့်လက်ထဲမှာ ပျောက်သွားတာလို့ ထင်နေတာ"

"ထားပါတော့ မောင်ရယ်၊ သမီးကလေး ဖြစ်ပုံတွေ ပြန်မပြောကြတာ ကောင်းပါ တယ်"

"မဟုတ်ဘူး၊ ဒီခေး ကိုယ်နဲ့ ပါသွားတာ သေချာတယ်၊ ခဏခဏ သုံးနေတာပဲ။ အိမ်ကို ဘယ်သူ ပြန်ယူလာတာလဲ"

"အို်း . . မောင်ကလည်း ဒီအကြောင်း မပြောပါနဲ့တော့လို့ ပြောနေတာ"

အယ်လီနာက ကက်စတာ အာရုံပြောင်းသွားအောင် အခြား အကြောင်းအရာတခုကို စချင်သည်။ ဘာမျှ စဉ်းစားမရ။

"အယ်လီနာ၊ အဲဒီခေးကို စားပွဲပေါ်မှာ မင်း ထားခဲ့တာဆို၊ ဒါဖြင့် မင်း ဘယ်က ရလဲ"

"အို . . . . တနေရာမှာ တွေ့လို့ပေါ့"

"တနေရာမှာ... ဟုတ်လား"

ကက်စတာက ကုလားထိုင်တွင် အရုပ်ကြိုးပြတ် ထိုင်ချပြီး နဖူးကို လက်နှင့် ထောက်ထား လိုက်သည်။

"ကိုယ့်ကိုယ်က နမော်နမဲ့ နိုင်လွန်းပါတယ်ကွာ၊ ဒီခေးကလေး ပျောက်ပါတယ်

အောက်မေ့နေတာ”

အယ်လီနာက လက်ကိုင်ပဝါ ထိုးနေပြန်သည်။

“ဖြစ်ပြီးတာ ဘာမှ မတတ်နိုင်တော့ဘူး မောင်ရယ်၊ ကိုယ့်ကိုယ်ကိုယ် အပြစ်တင် မနေပါနဲ့တော့ကွယ်”

ကက်စတာကို အာရုံပြောင်းအောင် အယ်လီနာ မလုပ်နိုင်တော့။ အလွန့်အလွန် စိတ် ထိခိုက်သွားပုံရ၏။ “ဟုတ်တယ်၊ မကြာသေးခင်ကမှ ပျောက်သွားတာ၊ ဘာပြုလို့ ဒီဓားကို ကိုယ် မရှာမိဦးခေါင်းကို လက်ဝါးနှစ်ဖက်ပေါ် တင်ပြီး အပြင်းအထန် စဉ်းစားနေသည်။ အဖြစ်မှန် ပါလိမ့် မပေါ်အောင် ဘယ်လိုလုပ်ရပါ့မလဲဟု အယ်လီနာကလည်း အမျိုးမျိုး တွေးနေ၏။ ကက်စတာ ကြမ်းပြင်ကို ငုံ့ကြည့်နေရင်း ဆက်ပြောသည်။

“တနေ့မှာ ဘာဘွန်းဝီစကီပုလင်းကို ကိုယ် ဖွင့်တယ်၊ ဖော့ဆို့မှာ ကပ်နေတဲ့ ချိပ်တွေ ကို အဲဒီဓားနဲ့ ခြစ်တယ်၊ ပြီးတော့ ဓားကို နံဘေးမှာ ချထားတယ်”

စကားကို တပိုင်းတစနှင့် ရပ်လိုက်ပြီး ဝုန်းခနဲ ထရပ်သည်။ ခြေလှမ်းကျဲကြီးနှင့် အယ်လီနာ့ဆီသို့ ချက်ချင်း ရောက်လာသည်။

“အယ်လီနာ၊ မင်း ဒီဓားကို ဘယ်က ရလဲ”

အယ်လီနာ ခေါင်းယမ်းပြသည်။“မပြောပါရစေနဲ့ မောင်ရယ်” ဟု တောင်းပန်သည်။

ဤတွင် ကက်စတာက သူ့ပခုံးကို တင်းတင်းဆုပ်ပြီး-

“ပြောစမ်းပါ အယ်လီနာ”

အယ်လီနာ ပြောရတော့သည်။ ဝါကျတွေ အဆီအငေါ် မတည့်။

“တနေ့ မိုးတွေရွာလို့ အစ်ဇဘယ့် အိမ်မှာ ဝင်ခိုရတယ်၊ သူ့အိပ်ခန်းထဲက တွေ့ ... တွေ့တာနဲ့ ယူလာခဲ့တာ”

အယ်လီနာ ပင်ပန်းကြီးစွာ ပြောလိုက်သည်။ ပြီးတော့ တရှုပ်ရှုပ် ငိုချလိုက်မိတော့၏။ ကက်စတာက အယ်လီနာကို လွှတ်လိုက်ပြီး ပြတင်းပေါက်တွင် သွားရပ်သည်။ လမ်း ပေါ်သို့ ငုံ့ကြည့်နေ၏။ ကုတ် အင်္ကျီအိတ်ထဲသို့ လက်နှစ်ဖက်ကို နှိုက်လျက်၊ လုံးဝ မလှုပ်မယှက်၊ ငြိမ်သက်လျက်။ အယ်လီနာ သူ့ဆီသို့ ထသွားပြီး

နောက်နားမှာ ရပ်သည်။

"မောင် . . . အယ်လီနာကို စကားပြောပါဦး မောင်ရယ်"

ကက်စတာက နောက်လှည့် မကြည့်ဘဲ-

"မင်းကို ကိုယ့်ဘက်က ပြောစရာ ဘာမှ မရှိတော့ပါဘူး အယ်လီနာ၊ ကိုယ်ဆိုတဲ့ ကောင်မျိုးဟာ အရာရာကို ဖျက်ဆီးဖို့ မွေးလာတဲ့ ကောင်မျိုးပါ"

အယ်လီနာ နှုတ်ခမ်းကို လျှာနှင့် လျက်လိုက်ပြီး-

"အယ်လီနာလည်း ကိုယ့်ကိုယ်ကိုယ် အဲဒီအတိုင်း ထင်နေပါတယ် မောင်ရယ်"

ကက်စတာ အပြင်သို့ ငေးနေဆဲမှ ခေါင်းယမ်းလိုက်သည်။ အယ်လီနာက သူ့နောက် တွင် ကပ်လျက် ရပ်မြဲ ဆက်ရပ်နေ၏။ အတန်ကြာမှ ကက်စတာက-

"အားလုံးဟာ ကိုယ့်အပြစ်တွေပါ၊ ကိုယ် သွားရတော့မလား ဟင်"

"မသွားရဘူး၊ မောင် မသွားရဘူး"

အယ်လီနာ အလန့်တကြား အော်လိုက်သည်။ ကျောရိုးထဲ စိမ့်သွား၏။ မောင်က အားလုံး သူ့အပြစ်တွေပါတဲ့၊ ဘယ်သူ့အပြစ်မှ မဟုတ်ပါဘူးကွယ်။

"အယ်လီနာကို ကြည့်ပါဦး မောင်ရယ်"

ကက်စတာ တဖြည်းဖြည်း လှည့်လာသည်။ မျက်လုံးချင်း ဆုံမိကြ၏။

"မောင့်ခြား အကြောင်းကို အယ်လီနာ ထုတ်မပြောဖို့ အတတ်နိုင်ဆုံး ကြိုးစားခဲ့ပါ တယ်၊ မောင် အတင်းမေးလို့ ပြောရတာပါ၊ ခုမှတော့ အယ်လီနာတို့ ပွင့်ပွင့်လင်းလင်းပဲ ပြောကြ ရအောင်နော်။ အဲဒီညမှာ အစ်ဇဘယ်က မေးတယ်၊ မောင့်ကို အယ်လီနာ ကွာပေးမလား တဲ့"

"ဟုတ်လား"

ကက်စတာ့ မျက်နှာတွင် အံ့သြတုန်လှုပ်သည့် အမူအရာတွေ လွှမ်းသွားသည်။

"ဟုတ်တယ်၊ အယ်လီနာ မဖြေခဲ့ပါဘူး၊ မောင်ကိုယ်တိုင် မေးမှ ဖြေမယ်လို့ သူ့ကို ပြောခဲ့တယ်။ သမီးကိစ္စနဲ့ အပူသည် လုံးလုံးဖြစ်နေတဲ့ မောင့်မိန်းမကို

ကြည့်ပြီး မပြောရက်လို့ မောင် မပြောသေးတာ မဟုတ်လားဟင်။ ကော်နယ်လီယာကလေးရဲ့ မျက်လုံးကိစ္စတခုတည်း ကြောင့် အယ်လီနာ ဒါလောက် သောကများနေတယ်လို့ မောင် ထင်လား ဟင်။ သမီးလေး အတွက် ပူပေမယ့် အယ်လီနာ့ ရင်ထဲမှာ မီးတောက်နေတာက မောင့်ကို တွေ့မြင်နေရပြီး မောင် အယ်လီနာ့ကို ဘယ်လို သဘောထားနေတယ် ဆိုတာ မသိရလို့ပဲ”

ကက်စတာ ခပ်ဖြည်းဖြည်း ပြန်ပြောသည်။

“ကိုယ့်သဘောထား ခု ဖွင့်ပြောပြီလေ၊ ကိုယ် ထွက်သွားရတော့မလား လို့”

“မောင်က သွားချင်လို့လား ဟင်”

ကက်စတာ့ နံဘေးသို့ တိုးသွားပြီး ပြတင်းပေါက်ဘောင်ကို တင်းတင်းဆုပ်ပြီး ဆက် ပြောသည်။

“ရင်ထဲမှာ ဒဏ်ရာရနေတာ အယ်လီနာ တယောက်တည်းပါလို့ မပြောချင်တော့ ပါဘူး၊ ခုတော့ တဖြည်းဖြည်း နားလည်လာပြီလေ။ နောက်ဆုံးနေ့မှာ ရန်ဖြစ်ကြပြီး အယ်လီနာ စိတ်လိုက်မာန်ပါ ပြောမိတဲ့ ကိစ္စ တခုတည်းကြောင့် မောင် ဝက်သစ်ချမြိုင်က ထွက်သွားတာမှ မဟုတ်ဘဲ။ အဲဒီလို ပြောမိတာကလည်း ဘဝတဝက်လုံးကို မောင့်အတွက် အလုပ်မှာ မြှုပ်နှံ ပြီး သေလုမြောပါး လုပ်ခဲ့တယ်။ အထွတ်အထိပ် ရောက်တော့မှ နင်းခြေပစ်ခံရလေခြင်းဆိုပြီး စိတ်မထိန်းနိုင်အောင် ဖြစ်သွားလို့ပါ။ ဒါက မောင့်သိက္ခာကို မောက်ကျော် စော်ကား သလို ဖြစ်ခဲ့ရတယ်။ အဖြစ်က ဒါပါပဲ။ ခုတော့ အယ်လီနာ့ ကိုယ်လည်း အယ်လီနာ နားလည် ပါပြီ။ မောင် နားလည်သလောက်ကို နားလည်ပါပြီ။ မောင် ခု ထွက်သွားချင်သေးလား ဟင်”

မျက်လုံးချင်း ဆုံကြပြန်သည်။

“မင်းက နေစေ့ချင်ရင် မောင် ဘယ်သွားပါ့မလဲကွယ်”

အယ်လီနာက လက်တဖက်ကို လှမ်းပေးမည် ပြုပြီးမှ ပြန်ရုပ်လိုက်ပြီး-

“ကော်နယ်လီယာအတွက် မောင် ပြန်လာတာ မဟုတ်စေရဘူးနော်။ အယ်လီနာ တယ်လီဖုန်း မဆက်ခင်က သဘောထားကို ပြော”

“မင်း ကိုယ့်ကို ပြန်လာစေချင်တယ် မဟုတ်လား”

အယ်လီနာ ခေါင်းညိတ်သည်။

"မောင့်ကို ချစ်တာကိုး၊ မောင် ထွက်သွားမှ မောင့်ကို ဘယ်လောက်ချစ်တယ် ဆိုတာ သိတယ်ကွယ်။ ဒါပေမဲ့ ကလေးတွေ သံယောဇဉ်ကြောင့် ပြန်လာတယ် ဆိုတာတော့ မဖြစ်စေ ချင်ဘူးလေ၊ တာဝန်အရ ပြန်လာတာလည်း မဖြစ်စေချင်ဘူး၊ ချစ်လို့ ပြန်လာတာပဲ ဖြစ်စေချင် တယ်၊ အယ်လီနာ့ကို မှန်မှန်ပြောပါ မောင်၊ တယ်လီဖုန်း မဆက်ခင် အယ်လီနာ့ကို ချစ်သေးရဲ့ လားလို့"

"မောင့်မိန်းမကို တယ်လီဖုန်း မဆက်ခင်ကရော၊ ဆက်ပြီးမှရော တချိန်လုံး ချစ်ခဲ့ တာပါ။ ဒါပေမဲ့ မင်းရဲ့ မာနတံခွန်တွေ ချလိုက်ပြီ ဆိုတာတော့ ခုမှ သိရတယ်လေ၊ ကိုယ်ဟာ တော်တော်အရက်စက် ခံခဲ့ရတာပါ အယ်လီနာ"

"မောင့်ကို အယ်လီနာ သိပ်ချစ်ပါတယ် မောင်ရယ်"

"ကိုယ် ဘယ်မှာရှိတယ် ဆိုတာ စာရေးလိုက်သားပဲ"

"ဩော်. . . အလုပ်သဘောဆန်ဆန် ရေးလိုက်တဲ့ စာကလေး လေးကြောင်းကို ထည့် ပြောနေတယ်။ သွားတုန်းကတော့ ရက်ရက်စက်စက် ထားသွားပြီးတော့"

"မင်း အတင်းဆွဲထားရင် ကိုယ် ဘယ်သွားဖြစ်ပါ့မလဲ အယ်လီနာရယ်"

"အယ်လီနာက စိတ်ဆိုးလာရင် ဘာပြောလို့ ဘာလုပ်မိမှန်း မသိအောင် ဒေါသကြီး တတ်တာ မောင် သိသားနဲ့၊ မောင့်လို သွေးအေးအေးနဲ့ မစဉ်းစားတတ်တော့ဘူး၊ အယ်လီနာနဲ့ ကွာဖို့ မောင် သူ့ကို ပြောတယ် ဟုတ်လား"

"မောင် ပြောပါ့မလားကွာ၊ အယ်လီနာ ဆိုတဲ့ နာမည်ကို သူ့ရှေ့မှာ တခါမှ မပြော ဖူးပါဘူး၊ ဘယ်အကြောင်းနဲ့မှ စပ်မပြောဘူး"

"အယ်လီနာတော့ မစဉ်းစားတတ်အောင်ပဲ၊ သူ ဘာပြုလို့ အခိုင်အမာ ပြောသလဲ မသိဘူးနော်"

"အဲဒီလို မပြောမိပါဘူး၊ ဒါပေမဲ့ ကိုယ်ဟာ မင်းလိုချင်တဲ့ ပုံ ဘယ်တော့မှ ဖြစ်မှာ မဟုတ်ဘူး ဆိုတာတော့ မပြောဘဲနဲ့ ရှင်းနေတယ်လေ"

"အယ်လီနာကရော မောင် ဖြစ်စေချင်တဲ့ ပုံစံ မဖြစ်ပါဘူး မဟုတ်လား။ မောင် အယ်လီနာ ကို အရင်လို ချစ်သေးရဲ့လားဟင်"

"ဟောဒီ ကမ္ဘာပေါ်မှာရှိတဲ့ အရာအားလုံးထက် မောင့်မိန်းမကို ပိုချစ်တယ်၊ မချစ်မိအောင် ဘယ်လိုကြိုးစားလို့မှ မရဘူး။ ကိုယ့်ဘာသာကိုယ်လည်း ပြန်လေ့လာကြည့်မိတယ်၊ တကယ်တော့ ကိုယ်ဟာ မင်းကို ဘာမှ မပေးနိုင်ခဲ့ပါဘူး။

မင်း သဘောကျတဲ့ မင်းအဖေရဲ့ ပုံစံမျိုးလို ခွန်စိုက်အားစိုက်သမားလည်း ဖြစ်မလာဘူး၊ တကယ်တော့ မင်းဟာ ကိုယ့်ကို မင်းအဖေနဲ့ နေ့တိုင်း ချိန်ထိုးနှိုင်းယှဉ်ပြီး ကြည့်နေတာကိုး”

“ဟုတ်လား”

အယ်လီနာ တအံ့တသြ ပြန်မေးလိုက်သည်။

“အဲဒါ မင်းကိုယ်မင်း မသိဘူးလား အယ်လီနာ”

“ဟင့်အင်း . . . အဲဒီလို တခါမှ မထင်ခဲ့မိဘူး”

“မင်းဟာ ကိုယ်နဲ့ မတော်တဲ့ ပုံစံခွက်ထဲကို လောင်းထည့်တယ်။ ဒီတော့ ကိုယ်က ဘာလုပ်ဖို့မှ မကြိုးစားဘဲ ထွက်ပြေး လွတ်မြောက်ဖို့လောက်ပဲ ကြိုးစားတော့တယ်။ ဒါပေမဲ့ ကိုယ် မအောင်မြင်ပါဘူး အယ်လီနာ၊ မင်းဆီက ကိုယ် ထွက်ပြေးလို့ မရပါဘူး၊ တချိန်လုံး မင်းကိုပဲ သတိရနေတာပါ၊ မင်းက လွဲပြီး ကိုယ့်အာရုံမှာ...”

“ပြောပါ မောင်ရယ်၊ ဆက်ပြောလေ”

စကားမဆက်ဘဲ ရပ်နေသည့် ကက်စတဲ့ကို အယ်လီနာ ထောက်ပေးလိုက်သည်။

“အယ်လီနာ့ကို မချစ်ရင် မောင် ဘယ်တော့မှ ပြန်လာမှာ မဟုတ်ဘူးနော်”

“ဒါပေမဲ့ မင်း ကိုယ့်ကို ကြည်ဖြူနိုင်ပါဦးမလား အယ်လီနာ၊ နောက်တခုက ကိုယ် မရှိလည်း မင်းဘဝမှာ ဘာ အခက်အခဲမှ မရှိဘူး မဟုတ်လား”

“မောင် အဲဒီလို ထင်အောင် အယ်လီနာ တမင် လုပ်နေရတာပါကွယ်”

“တကယ်လား အယ်လီနာရယ်”

“အယ်လီနာ့ ဘဝမှာ မောင် မရှိလည်း ဖြစ်တယ်၊ ကိုယ့်ဘာသာကိုယ် ပြည့်စုံတယ်၊ ဘယ်သူ့အကူအညီမှ မပါဘဲ ရပ်တည်နိုင်တယ်လို့ ထင်ခဲ့တယ်။ တကယ့် တကယ်ကျတော့ မောင်လည်း ထွက်သွားရော. . . မောင်ရယ် သိပ်အထီးကျန် နိုင်တယ်၊ အကာအကွယ်မဲ့ မိန်းမ သားဘဝကို နားလည်ရတယ်။ စောစောက မောင် အယ်လီနာ့ကို အမြဲသတိရနေတယ်လို့ ပြောတယ်၊ အမြဲပဲလား မောင်ရယ်”

"အမြဲထက် ပိုသေးတယ်၊ မေ့ဖို့ ကြိုးစားလေလေ ပိုပြီး သတိရလေလေပဲ၊ တရံ တဆစ်မှမေ့လို့ မရပါဘူး အယ်လီနာ။ မင်း ရပ်နေပုံ၊ မင်း လမ်းလျှောက်ပုံ၊ လက်နှိပ်စက်ပေါ်မှာ တင်ထားတဲ့ မင်း လက်ချောင်းကလေးတွေက အစ၊ ကိုယ်ကိုယ်တိုင် လုံးဝ မထင်တဲ့ အသေး အဖွဲ့ကလေးတွေက စပြီး သတိရတယ်။ တို့နှစ်ယောက် ဖြစ်ခဲ့သမျှ အားလုံးပဲ ဆိုပါတော့ အယ်လီနာ ရယ်"

"ဖြစ်ခဲ့တာတွေက အများကြီးရယ် . . . နော်"

ကက်စတာ ပြုံးသည်။

"အားလုံးကို တခုမကျန် သတိရတာ"

"ဝါဗျေးတွေ ကျတော့ အယ်လီနာတို့ ညစာစားပွဲ ကျင်းပတာကော အမှတ်မရဘူးလား"

"ရတာပေါ့ ၊ တကမ္ဘာလုံး ဝါအရောင်းပိတ်လိုက်ပြီ ဆိုတဲ့ သံကြိုးရတဲ့ နေ့ကလေ"

"အဲဒီနှစ်က အဝတ်ဆင်းရဲလိုက်ကြတာနော်။ သွားတိုက်ဆေးလည်း ပြတ်၊ အစား အသောက်လည်း ဆင်းရဲ၊ အခင်း ထွက်နဲ့ ခြံထွက်က လွဲပြီး ဘာမှ မစားနိုင်ဘူး"

"အဲဒီမှာ ပရိဘောဂတွေ ရောင်းဖို့ မင်း ဟို . . . ပွဲစားကောင်ကို ခေါ်လာတာလေ"

"အင်း . . . ပန်းချီကားချပ်ကြီးတွေကို ကြည့်ပြီး သွားရည်တမျှားမျှား ဖြစ်နေတဲ့ ပွဲစား မဟုတ်လား။ အယ်လီနာ အဲဒီလို လုပ်မိတဲ့အတွက် စိတ်မကောင်းပါဘူး မောင်ရယ်၊ ဘယ်လိုမှ ထွက်ပေါက် မရှိတော့လို့ပါ"

"လုပ်မနေပါနဲ့၊ အယ်လီနာရယ်၊ မင်း လုပ်သမျှတွေဟာ လက်တွေ့ကျသလောက် မှန်ခဲ့တာချည်းပါပဲ"

ကက်စတာက ပြောပြောဆိုဆို အယ်လီနာ့ကို သိုင်းဖက်လိုက်သည်။ အယ်လီနာ အလိုက်သင့် ပျော့ပါသွားသည်။ သူ့ကို ပြန်ပြီး သိုင်းဖက်မိလျက်သား ဖြစ်သွား၏။ နှစ်ယောက် သား လွတ်ထွက်သွားမည်ကို စိုးရိမ်နေကြသလို တအား ဖက်ထားကြ၏။ ဘယ်တုန်းကမှ မရခဲ့ဖူးသည့် ကြည်နူးမှုမျိုး၊ နောင်ဘယ်တော့မှ ရတော့မည် မဟုတ်သည့် ကြည်နူးမှုမျိုးတွေ ကိုယ်စီဖြင့်။ တဦးကိုတဦး ပြန်လည်ပိုင်ဆိုင်ရတော့မည် ဟူသည့် အသိကြောင့် ရင်မှာ ပီတိသုခ ဝေဒနာတွေ

လှိုင်းထလျက်။

အတန်ကြီးကြာမှ အယ်လီနာ သူ့ကို မော့ကြည့်လိုက်သည်။

“မောင့်ကို အယ်လီနာ သိပ်ချစ်တယ်”

ဟု ရှိုက်မောသံနှင့် ပြော၏။ သည်စကားလုံးကလေးများထက် တန်ဖိုးရှိသည့် စကား လုံးကို စဉ်းစားလို့ မရတော့။

“ကိုယ့်လောက် မိုက်မဲတဲ့ ကောင်ကို မင်း တကယ်ခွင့်လွှတ်နိုင်ပါ့မလား အယ်လီနာ။ မင်း မပါဘဲ ကိုယ့်ဘဝကို ကိုယ် ဖန်တီးဖို့ စိတ်ကူးခဲ့တဲ့ အတွက်လေ”

အယ်လီနာ ခေါင်းညိတ်သည်။

“မောင်ကကော အယ်လီနာ့ကို ခွင့်လွှတ်နိုင်ရဲ့လား”

“တော်ပါတော့ အချစ်ရယ်၊ မင်းကို ကိုယ် ဒီတသက်မှာ မဆုံးတော့ဘူး ဆိုတာ သိပြီး ကတည်းက ကျန်တာတွေ မောင့်အတွက် ဘာမှ အရေးမကြီးတော့ပါဘူး”

အယ်လီနာ အလေးအနက် ပြန်ပြောသည်။

“မဆုံးပါဘူး မောင်ရယ်၊ မောင်နဲ့ အယ်လီနာဟာ တယောက်ကိုတယောက် ချစ်တာ တော့ မှန်တယ်၊ ဒါပေမဲ့ ချစ်တာ တခုတည်းကြောင့် ခိုင်မြဲကြမှာ မဟုတ်ဘူး။ ပဋိပက္ခတွေကို ကျော်လွှားရတာ ဘယ်လောက်ခက်တယ် ဆိုတာ နှစ်ယောက်စလုံး နားလည်လာကြလို့ ပိုပြီး ခိုင်မြဲကြမှာ။ ဘယ်လောက် အနှစ်သာရရှိတဲ့ အဖြစ်လဲကွယ်”

အယ်လီနာက ကက်စတာ့ ပခုံးပေါ်သို့ သူ့ခေါင်းကို မှေးတင်ထားလိုက်သည်။ အကြာကြီး သည်အတိုင်း ငြိမ်ပြီး ရပ်နေကြသည်။ ပြီးမှ အယ်လီနာက-

“မောင့်ကို တခု မေးချင်သေးတယ်”

“မေးပါဗျာ... မေးပါ”

“အစိုးရဝါခင်းမှာ မောင် သွားပြီး အလုပ်လုပ်ဖို့ သူ အကြံပေးတာ မဟုတ်လား ဟင်”

“ဟုတ်တယ်”

“မောင်ဟာ ခေတ်မြေသြဇာနဲ့ သီးနှံဖျက်ပိုး နှိမ်နင်းရေး အကြောင်းကို ကောင်းကောင်း နားလည်တယ်။ ဒီလို အတွေ့အကြုံရှိတဲ့ လူမျိုးကို အစိုးရ သိပ်သဘောကျမှာလို့ သူက မောင့်ကို မပြောဘူးလား”

“မင်း ဘယ်လိုလုပ်ပြီး သိလဲဟင်”

“ဘဝနာတော့လည်း အသိတိုးလာပြီပေါ့ မောင်ရယ်၊ အယ်လီနာ လူတွေအကြောင်း သိပ်တော့ မသိဘူး၊ ဒါပေမဲ့ ငါ မသိတာတွေ အများကြီးပဲ ဆိုတဲ့ အသိမျိုးတော့ ရတတ်လာ ပါပြီ”

ရင်ခွင်ထဲသို့ မျက်နှာအပ်လိုက်သည်။ ကက်စတာက အယ်လီနာ့ ဆံပင်တွေကို နောက်သို့ သပ်တင်ပေးရင်း နမ်းသည်။

“ မောင့်ကို အရမ်းလွမ်းတာပဲကွယ်၊ မောင့်ကို ဘယ်လောက်တမ်းတနေရတယ် ဆိုတာ မောင် မသိဘူးလား ဟင်”

သည်လို ဖွင့်ဟဝန်ခံလိုက်ရသဖြင့် ရင်ထဲတွင် ပေါ့သွားသည်။ ငြိမ်းအေးသွားသည်။ ကက်စတာက တအားဖက်ပြီး နှစ်သိမ့်၏။ ဘယ်ရွေ့ ဘယ်မျှ ခံစားခဲ့ရတယ် ဆိုတာ မောင် စာနာတတ်ပါ့မလားကွယ်။

※※※

# (၂)

ဆရာဝန်ကြီးက ကော်နယ်လီယာကို မျက်မှန် လုပ်ပေးသည်။ မူလအတိုင်း မြင်ကွင်း အားလုံးကို ကော်နယ်လီယာ ကြည်လင်ပြတ်သားစွာ မြင်နိုင်ပြီ ဖြစ်၏။ သို့သော် မျက်စိပင်ပန်း သည့် သာမန်ကျောင်းမျိုးတွင် မထားဘဲ နှုတ်တိုက် အသင်များသည့် ကျောင်းမျိုးကို ထားပေးရန် တိုက်တွန်းသည်။ ကော်နယ်လီယာက မျက်မှန်တပ်ဆင်ရခြင်းကို လုပ်ရိုးလုပ်စဉ် အလုပ်တခု ဟု သဘောထားဟန် တူ၏။ ကန့်ကွက်ပြောဆိုခြင်း မပြု။ သို့သော် မျက်မှန်အိတ် ဆောင်ခိုင်း သည့်အခါ အဘွားကြီးနှင့် တူသည် ဆိုပြီး အကျောက်အကန် ငြင်းတော့၏။

မနည်းချော့မော့ပြောမှ -

"ကောင်းပြီလေ၊ ခဏပဲ မဟုတ်လား၊ သမီးမျက်စိ ပြန်ကောင်းလာရင် ဆက်မတပ် ဘူးနော်" ဟု ပြော၏။ သည်အခါ မိဘနှစ်ပါးလုံး စိတ်မကောင်း ဖြစ်ကြရပြန်သည်။ သမီး ကလေးအား သူ့မျက်လုံး၏ အခြေအနေမှန်ကို ဖွင့်မပြောရက်ကြသေး။ သမီးလေးခမျာ တသက်လုံး မျက်မှန်တပ်သွားရမည်ကို မသိရှာသေးပါကလား။

ဆေးရုံမှ ဆင်းပြီး အိမ်ပြန်ရောက်တော့ ချစ်စရာ သမီးကလေး၏ သနားစဖွယ် အဖြစ် ကို တွေ့ရပြန်သည်။ အနီးကပ် မဟုတ်လျှင် ဒစ်စီနှင့် မမ်မီကို မကွဲပြားတော့။ ဝိုင်အိုလက် ပါစယ် ဝင်လာသည်ကို ပြတင်းပေါက်မှ လှမ်းမြင်ပြီး-

"မေမေရေ. . . အမျိုးသမီးတယောက် လာနေတယ်" ဟု ပြော၏။ ဝိုင်အိုလက်က အိမ်ပေါ် တက်လာပြီး ကော်နယ်လီယာ အနားသို့ ရောက်မှ -

"ဟာ... အန်တီဝိုင်အိုလက် ပါလား" ဟု ဝမ်းသာအားရ နှုတ်ဆက်၏။

သို့သော် ကော်နယ်လီယာ၏ တိုးတက်မှုက သူတို့ မျှော်မှန်းထားသည်ထက် ကောင်းမွန် နေသဖြင့် အယ်လီနာနှင့် ကက်စတာတို့ ဝမ်းသာနေကြရ၏။ ကော်နယ်လီယာသည် စက္ခုအာရုံ အားနည်းသွားသည်နှင့်အမျှ သောတအာရုံ သိသိသာသာ ထက်မြက်လာ၏။ အလွန် အကင်းပါး လာ၏။ မကြားစေချင်သည့် အကြောင်းအရာကို ကော်နယ်လီယာကလေး အနားတွင် တိုးတိုး ပြော၍ မရ။

အယ်လီနာက ကတိပေးထားသည့်အတိုင်း ကော်နယ်လီယာကို မြို့ခေါ်သွားပြီး အဝတ် အစားတွေ စိတ်ကြိုက် ဝယ်စေသည်။ အသိအကျွမ်းများရော

တွေ့သမျှ လူစိမ်းတွေကပါ -

"ဟယ်.. ချစ်စရာလေး" ဟူ၍ လည်းကောင်း၊

"မျက်တောင်ကလေးတွေက ကော့နေတာပဲ၊ လှလိုက်တဲ့ မျက်လုံးကလေးကွယ်" ဟူ၍လည်းကောင်း ချီးမွမ်းကြ၏။ အယ်လီနာက သမီးကလေးကို အလှမက်သည့် မိန်းကလေး ဖြစ်လာမည် စိုး၍ သူ့အလှကို အမွမ်းတင်လွန်းသည့်၊ သူ့ကို ချစ်ကြသည့် လူတွေနှင့် တတ်နိုင် သမျှ ရှောင်သည်။ သို့သော် သည်ကိစ္စမှာ လွယ်ကူသည့် ကိစ္စ မဟုတ်ပေ။ ကော်နယ်လီယာသည် အလွန့်အလွန် ဉာဏ်ထက်သည့် ကလေးတယောက် ဖြစ်နေ၍ တော်သေးသည်ဟု အောက်မေ့ရသည်။

ကော်နယ်လီယာက သူ့ကို အလွန်လှသည် ဟူသည့် ချီးမွမ်း မြှောက်စားခြင်းများကို လက်ခံသော်လည်း ဝက်သစ်ချပင်ကြီးတွေလည်း လှတာပဲ ဟု ပြန်ပြောတတ်လာသည်။

ကော်နယ်လီယာတယောက် အကင်းပါးလွန်းခြင်း၊ ဉာဏ်ထက်လွန်းခြင်းသည် မိဘဖြစ်သူများအတွက် ရုံဖန်ရုံခါ မလိုလားအပ်သလို ဖြစ်သည်များလည်း ရှိလာသည်။ ကျောင်း တက်ဖို့ကိစ္စကို မည်သူကမျှ စကားစပ် မပြောလာသောအခါ ကော်နယ်လီယာက မေးလာ သည်။ မျက်စိကောင်းနေပြီပဲ၊ ဘာပြုလို့ ကျောင်းမသွားရသေးတာလဲ ဟူသည့် မေးခွန်းမျိုး။ ဘယ်တော့ ကျောင်းပြန်တက်ရမလဲ ဟူသည့် မေးခွန်းမျိုး။ သူများတွေက စာတွေ ကျောကုန် တော့မည်ကိုလည်း ကော်နယ်လီယာ ပူပင်နေ၏။ သူ့မျက်လုံး အခြေအနေမှန် ပြောပြဖို့ ကိစ္စမှာ ရင်နာစရာ ကောင်းလွန်း၍ ဘယ်သူမျှ ပြောမထွက်ကြ။ သို့ဖြင့် မပြောဘဲ နှေ့ရှေ့ညှရှေ့ ရွှေ့လာခဲ့ကြခြင်း ဖြစ်သည်။ သို့ရာတွင် မပြော၍ မရတော့လောက်အောင် ကော်နယ်လီယာ ၏ တောင်းဆိုချက်တွေက များပြားလာသောအခါ ကက်စတာ ဖွင့်ပြောရတော့သည်။

နွေနှေ့လယ်ခင်းတခုတွင် ဖြစ်၏။ စာကြည့်ခန်းထဲတွင် ကော်နယ်လီယာ တက်ရမည့် ကျောင်းအကြောင်း ကက်စတာနှင့် အယ်လီနာတို့ ဆွေးနွေးကြစဉ် ကော်နယ်လီယာက ခန်းမ ဆောင်ဆီသို့ ဖြတ်သွားရာမှ "ကျောင်း" ဟူသည့် စကားလုံးကို ကြားသွား၏။

စာကြည့်ခန်းထဲသို့ ဝင်လာပြီး ကျောင်းတက်ဖို့ ကိစ္စ မေးတော့သည်။ ကျောင်းတက်ချင် လှပြီ ဖြစ်ကြောင်း ပြောသည်။

အယ်လီနာက ရယ်စရာ လုပ်ပြီး-

“ခုနေ ကျောင်းတက်လို့ ဘယ်ဖြစ်မလဲ သမီးရဲ့၊ ကျောင်းတွေ ပိတ်ထားတာပဲ၊ နွေရာသီ လေ”

“အို... ဟုတ်သားပဲ”

ကော်နယ်လီယာက ခွေးခြေတလုံး ဆွဲထိုင်သည်။

“ဒါဖြင့် ကျောင်းဖွင့်ရင် တက်မယ်နော်၊ အဲဒီလောက်ဆို သမီး မျက်လုံးတွေလည်း ကောင်းသွားရောပေါ့”

သူ့ခေါင်းပေါ်ကို ကျော်ပြီး အယ်လီနာနှင့် ကက်စတာ တဦးကိုတဦး လှမ်းကြည့် လိုက်ကြသည်။ ကက်စတာက ကုလားထိုင်ပေါ်တွင် ကျောဆန့်လိုက်ကာ လေသံကို ခပ်ပေါ့ပေါ့ ထားပြီး-

“သမီး ဒီနှစ် ကျောင်းဖွင့်ရင် တက်ရမှာပေါ့ သမီးရဲ့၊ ဒါပေမဲ့ ကျောင်းပြောင်းတက်ရ မယ်”

“ဟင် . . . ဘာပြုလို့ ကျောင်းပြောင်းရမှာလဲ ဖေဖေရဲ့”

“ပိုကောင်းတဲ့ ကျောင်းကို ပြောင်းပေးမလို့လေ၊ ပိုပြီး ပျော်စရာကောင်းတဲ့ ကျောင်း”

“ဟာ. သမီးကျောင်းပဲ သမီး ကြိုက်တယ်၊ သူငယ်ချင်းတွေလည်း ရှိတယ်”

ကက်စတာက ကျောင်းသစ်၏ လှပပုံ၊ ပျော်စရာကောင်းပုံကို ရွှန်းရွှန်းဝေ အိုင်ချင်းဖွဲ့ပြ ၏။ ကျောင်းဟောင်းတွင် သူငယ်ချင်းတွေထက် စာတွေ နောက်ကျနေပြီ ဖြစ်၍ ရှက်စရာ ကောင်းကြောင်းလည်း ထည့်ပြော၏။ ပြောလည်း ပြောတတ်သည့် ကက်စတာပါ ပေ။ ကော်နယ် လီယာ တဖြည်းဖြည်း စိတ်ပါလာသည်။ မောင့်အရည်အချင်းကို အယ်လီနာ အသိအမှတ် ပြုရပြန်သည်။

“အဲဒီကျောင်းက အမျိုးစုံ သင်ပေးတယ် သမီးရဲ့၊ လက်နှိပ်စက်ကိုလည်း မကြည့်ဘဲ ရိုက်နိုင်အောင်”

“မေမေ့လိုပေါ့ . . . ဟုတ်လား”

“မေမေထက်တောင် သမီး မြန်အောင် ရိုက်နိုင်ဦးမယ်၊ ပြီးတော့လေ စန္ဒရားလည်း သင်ပေးတယ်”

ကော်နယ်လီယာ ဇဝေဇဝါ ဖြစ်သွားပုံရသည်။

“အဲဒါတွေ သင်ရုံဆိုရင် သူများတွေလို အိမ်မှာပဲ နေပြီး သင်ရင် မရဘူးလား”

အယ်လီနာ နှုတ်ခမ်းကို ယောင်ယမ်းပြီး ကိုက်လိုက်မိသည်။ ကက်စတာက မဆိုင်း မတွ ဖြေသည်။

“သမီးကို အဲဒီကျောင်း တမင် ရွေးထားတာ၊ သမီးမျက်လုံးက သူများတွေရဲ့ မျက်လုံး နဲ့ မတူတော့လို့ပဲ သမီးရဲ့”

“ဟုတ်လား၊ ဒီအတိုင်းပဲ ဆက်မှုန်နေမှာလား”

“ဟုတ်တယ် ကော်နယ်လီယာ”

ကော်နယ်လီယာ သူ့အဖေမျက်နှာကို ဖျတ်ခနဲ လှမ်းကြည့်သည်။ မျက်မှန်ဖြုတ်ထားချိန် ဖြစ်၏။ အင်္ကျီတွင် တွယ်ချိတ်နှင့် ချိတ်ထားသည့် မျက်မှန်အိတ်မှ မျက်မှန်ကို ထုတ်ပြီး တပ်သည်။ ပြီးတော့ ခပ်ဖြည်းဖြည်း ပြန်ချွတ်သည်။ စိတ်ထိခိုက်သွားသည့် လေသံနှင့် ထပ် မေး၏။

“သမီးမျက်လုံးတွေ ဒီ့ထက် ပိုမကောင်းတော့ဘူး… ဟုတ်လား ဖေဖေ၊ ဒီလိုပဲ နေတော့မယ်… ဟုတ်လား”

“ဟုတ်တယ် သမီးရဲ့”

ကက်စတာ့အသံ တစ်ဆို့ဆို့ ဖြစ်နေ၏။

ကော်နယ်လီယာက မျက်လုံးကို ပြူးပြီး အခန်းပတ်ပတ်လည်ကို ကြည့်သည်။ နောက် တခါ မှေးပြီး သူ့မျက်တောင် ကော့ကြီးတွေကြားမှ ကြည့်ပြန်သည်။ မျက်ဝန်းထဲတွင် မျက်ရည် တွေ ပြည့်လျှံလာ၏။ စီးကျမလာအောင် တဖျပ်ဖျပ် ခတ်နေသည်။ မျက်လုံးအိမ်ထောင့်မှ မျက်ရည်ဥတပေါက် လိမ့်ဆင်းလာ၏။ ကပျာကယာ သုတ်ပစ်လိုက်သည်။ မေးစေ့ကို လက် တဖက်နှင့် မ ထားပြီး အကြာကြီး ထိုင်နေသည်။

အယ်လီနာ့ လက်ကို ကက်စတာ လှမ်းဆုပ်လိုက်သည်။ လှုပ်လည်း မလှုပ်ရဲ၊ စကား လည်း မပြောရဲဘဲ သမီးလေးကို အတောင့်သား စောင့်ကြည့်နေကြသည်။ သူတို့နှစ်ယောက် အဖြစ်မှာ တစုံတခုနှင့် ခလုတ်တိုက်မိပြီး ဟန်ပျက်သွားသူနှင့် တူနေ၏။ ဣန္ဒြေမပျက်အောင် မနည်း ပြန်တာစူနေရ၏။ သမီးကလေး၏ ဘဝမှာ နုနုနယ်နယ်ကလေး ဖြစ်သည်။ သူ့အမြင် အာရုံသည် ယခင်နှင့် ယခု မည်မျှ မည်မျှ ခြားနားနေသည်ကို သူတို့ မသိနိုင်ကြ။ သို့သော် အခြားကလေးတွေနှင့် မတူနိုင်တော့ပြီဟူသည့်အသိမှာ ရောမထိုးနှက်ချက်ကြီးတခု ဖြစ်၏။ အဖေနှင့်

အမေ မည်မျှပင် ဖော့၍ ပြောစေကာမူ ချက်ဆိုလျှင် နားခွက်က မီးတောက်သော ကော်နယ်လီယာကလေး သိနေပြီ။ ကက်စတာနှင့် အယ်လီနာက အရွယ်နှင့် မလိုက်အောင် ခံစားနေရရှာသည့် သမီးကလေးကို ကြည့်ပြီး ဆို့နစ်နေကြသည်။ နောက်ဆုံးတွင် ကော်နယ် လီယာ သက်ပြင်းကလေးတချက် ချပြီး အဖေနှင့် အမေဘက်သို့ လှည့်လိုက်သည်။

"ကော်နယ်လီယာ ထင်တယ်"

ကြိုးကြိုးစားစား အားတင်း၍ ထွက်လာသည့် စကားလုံးကလေးများ ထွက်လာပြီး အသံတိမ်ဝင်သွားသည်။ နှုတ်ခမ်း ထောင့်စွန်းကလေးများ ကွေးညွတ်နေ၏။ စိတ်လျှော့လိုက် သည့် အမူအရာနှင့် သူ့အဖေ မျက်နှာဆီသို့ တည့်တည့်ကြည့်လိုက်သည်။

ကက်စတာ ဝုန်းခနဲ ထပြီး ကောက်ချီလိုက်သည်။ ကော်နယ်လီယာက သူ့အဖေ လည်ပင်းကို တအားသိုင်းဖက်ပြီး မျက်နှာကို ပခုံးပေါ်တွင် မှောက်ချလိုက်၏။ ကက်စတာက တယုတယ ကျောကို ပုတ်ပေးသည်။ တိုးတိုးကလေး ချော့သည်။ ကော်နယ်လီယာ ငြိမ်သွား တော့မှ အယ်လီနာက လက်ကိုင်ပဝါ လှမ်းပေးသည်။ ကော်နယ်လီယာ မျက်ရည်တွေကို သုတ်ပြီး သူ့အဖေ ပေါင်ပေါ်တွင် ခွေခွေကလေး ထိုင်သည်။ တခုခုကို စူးစူးစိုက်စိုက် စဉ်းစား နေသလို လက်ကိုင်ပဝါထောင့်စွန်းကလေးကို ချိုးနေ၏။ အတန်ကြာမှ မော်ကြည့်သည်။

"သမီး ကောင်းကောင်း မြင်သားပဲ" ဟု မကျေမနပ်သံဖြင့် ပြောသည်။"

အယ်လီနာက သမီးကလေး၏ ဖြစ်အင်ကို ကြည့်ပြီး ရင်နာလွန်းသဖြင့် စကားတလုံး မျှ ပြောမထွက်တော့။ ကက်စတာပင် ဆက်ပြီး နှစ်သိမ့်ရပြန်သည်။

"ဟုတ်ပါတယ် သမီးရဲ့၊ သမီး အကသင်တန်းတွေ၊ ရေကူးသင်တန်းတွေ၊ ဒိုက်ဗင် သင်တန်းတွေ တက်ပြီးရင် သမီး မျက်လုံး အားနည်းတာကို သတိတောင် ရတော့မှာ မဟုတ်ဘူး"

"သမီး အဲဒါတွေ အကုန်သင်ရမယ် ဟုတ်လား"

ကော်နယ်လီယာ စိတ်လှုပ်ရှားစွာ မေးလိုက်သည်။

"ဒါပေါ့ သမီးရဲ့"

"တခြား ကောင်မကလေးတွေလို ပေါ့နော်.. ဖေဖေ"

“ဒါပေါ့၊ တခြား ကောင်မကလေးတွေလိုပေါ့”

ကော်နယ်လီယာ ခဏတွေသွားသည်။ ပြီးတော့ သူ့အဖေ ပေါင်ပေါ်မှ လျှောဆင်း လိုက်၏။

“ကျောင်း ဘယ်တော့ စတက်ရမလဲဟင် ဖေဖေ”

“နောက်လဆို ဖွင့်ပါပြီ သမီးရယ်”

ကော်နယ်လီယာက ဆံပင်ကို လက်နှင့် တချက် သပ်လိုက်သည်။

“သမီး အားလုံး မြင်ရပါတယ် ဖေဖေရယ်”

သူ တကယ် အားလုံး မြင်ကြောင်း သက်သေပြလိုသည့် ဟန်နှင့် ကော်နယ်လီယာက တံခါးဝသို့ လျှောက်သွားသည်။ တံခါးလက်ကိုင်ဖုကို ကိုင်ပြီး ဖွင့်သည်။

“သမီး ဘယ်သွားမလို့လဲ ဟင်”

အယ်လီနာ အသံတွေ တုန်နေ၏။ မတ်တတ် ရပ်လိုက်သည်။

“ဘယ်မှ မဟုတ်ပါဘူး မေမေ၊ ဖီးလစ်ကို သွားပြီး ကြွားမလို့၊ သမီး အကောင်းစား ကျောင်းကို ပြောင်းမယ့် အကြောင်းလေ”

ကော်နယ်လီယာက သူ့အမေနှင့် အဖေကို သမင်လည်ပြန် ကြည့်ပြီး-

“သမီးမျက်လုံး ကောင်းနေပါပြီ၊ အားလုံး မြင်ရသားပဲ” ဟု ပြောပြောဆိုဆို တံခါး ပိတ်ပြီး ထွက်သွားသည်။

အယ်လီနာ ထလာပြီး ကက်စတာ့ ပေါင်ပေါ်တွင် ထိုင်သည်။ မျက်နှာကို ရင်ခွင်တွင် အပ်လိုက်သည်။ ကက်စတာ အသာအယာ ပွေ့ထားလိုက်၏။ အယ်လီနာက စိတ်သက်သာရာ ရသည်ထိ ခပ်တင်းတင်း ပြန်ဖက်၏။ အတန်ငယ်ကြာမှ ခေါင်းမော်ကြည့်သည်။ ကက်စတာ က ငုံ့ကြည့်ပြီး-

“ကော်နယ်လီယာက မင်းနဲ့ သိပ်တူလာပြီ အယ်လီနာ”

“ဟုတ်တယ်၊ ဘဝကို ရုန်းကန်ချင်နေပြီ၊ အယ်လီနာလည်း အဲဒါကိုပဲ အကဲခတ်နေ တာ။ မောင်နဲ့လည်း တူပါတယ်လေ၊ မောင့်ကို တူလို့ သမီးကလေး ချောတာပေါ့။ သူ နေရမယ့် ကျောင်းအကြောင်း ကြားရရင် ဖီးလစ်ကလည်း

ကျောင်းလိုက်ချင်နေဦးမယ် ထင်တယ်”

“နောက်ကို သူ့မျက်လုံးအကြောင်း မလွှဲသာ မရှောင်သာမှပဲ ပြောနော် အယ်လီနာ၊ သူလည်း မေ့မေ့ပျောက်ပျောက် နေချင်ရှာမှာပါ”

အယ်လီနာ ခေါင်းညိတ်သည်။

“သူ့ဘဝ သူ ပျော်နိုင်ကောင်းပါရဲ့ အောက်မေ့ရတာပဲ မောင်ရယ်။ သမီးကလေးဟာ လှလည်း လှတယ်၊ လိမ်လည်း လိမ္မာတယ်၊ သတ္တိလည်း ကောင်းတယ်နော်”

“မောင် တခုစဉ်းစားနေတယ် အယ်လီနာ၊ သူ့မျက်လုံးတွေ အားနည်းနေရင်လည်း ဘာလို့ စာသင်နေမလဲ၊ တို့တတွေဟာ ကျမ်းတတ် ပုဂ္ဂိုလ်တွေမှ မဟုတ်ကြပဲ။ အကတို့၊ ဂီတတို့ ဆိုရင် သူ မျက်မှန်တပ်ဖို့ မလိုတော့ဘူးပေါ့”

“အယ်လီနာကတော့ သမီးကလေးကို လှလည်း လှနေစေချင်တယ်၊ ပညာတွေလည်း တတ်စေချင်တယ်။ အဲဒီလို ဘက်စုံ မဖြစ်နိုင်တော့ဘူးလား မောင်ရယ်”

“အင်း .... သမီးကလေးအတွက် တို့များလည်း ဗဟုသုတတွေ တော်တော်တိုးလာပြီ။ လေ့လာစရာတွေလည်း အများကြီး ဖြစ်လာပြီနော်”

“ဟုတ်တယ် မောင်”

“တခုတော့ သေချာပါတယ်ကွယ်၊ သမီးကလေးဟာ သူ့အဖေထက်ရော အမေ ထက်ပါ သာမှာ”

အယ်လီနာ ပြုံးလိုက်သည်။

“မောင် တကယ် စဉ်းစားပြီး ပြောတာလား ဟင်။ ဖြစ်နိုင်တာပေါ့၊ ယဉ်ကျေးတဲ့ အတွေးအခေါ်ပိုင်းမှာ အားကောင်းတဲ့ မောင်တို့ဘက်က မျိုးရိုးနဲ့ ရုန်းကန်လှုပ်ရှားတဲ့ နေရာမှာ အားရှိတဲ့ အယ်လီနာတို့အမျိုး ပေါင်းစပ်လိုက်တော့ သမီးကလေးဟာ ဘက်စုံထက်မြက်တဲ့ မိန်းကလေး ဖြစ်လာနိုင်တာပေါ့”

“တခုတော့ ရှိတယ်၊ သူ့ကို မာနစိတ်ခေတ် ပြင်းထန်ဖို့ထက် သည်းခံခွင့်လွှတ်စိတ် ရင့်ကျက်အောင် တို့ သင်ပေးရမှာပေါ့”

အယ်လီနာ ကက်စတာ့ ပေါင်ပေါ်မှ လျှောဆင်းလိုက်သည်။ ပြတင်းပေါက်တွင် ရပ်သည်။ ရာစုနှစ်ပေါင်းများစွာ အစွန့်ရှည်ခဲ့သည့် ဝက်သစ်ချပင်တန်းကြီး နှစ်တန်းကို ငေးနေမိ၏။

"အယ်လီနာနဲ့ မောင်ဟာ တူညီချက် ဆိုလို့ ဘာတခုမှ မရှိဘဲ ချစ်ခဲ့ကြတာပါ မောင်ရယ်။ အဲဒါကို ပေါင်းစပ်ဖို့၊ ညှိနှိုင်းဖို့ ကြိုးစားခဲ့လို့ ပြဿနာတွေ ပေါ်ခဲ့ကြတာ မဟုတ် လား။ ဒါကို တယောက်နဲ့တယောက် နားလည်ပြီး ဆက်စခန်းသွားမှ ဖြစ်မယ် မောင်"

"ဟုတ်ပါတယ်၊ မောင်တို့ ချစ်တဲ့ သူတွေအတွက် ရည်ရွယ်ချက်တွေ မြင့်သည်ထက် မြင့်အောင် ထားပြီး ဖြစ်ချင်တာထက် ဖြစ်သင့်တာကို ဦးစားပေးရမယ်ပေါ့"

အယ်လီနာ ခေါင်းညိတ်လိုက်သည်။

ပြောင်းခင်းဆီမှ လေနွေးနွေးကလေးတချက် ဝေ့ပြီး ဝင်လာသည်။ အစ်ဇဘယ့်အိမ်သို့ ရောက်သွားသည့် ညကို သတိရလိုက်မိ၏။ ဆောက်တည်မရ ဖြစ်ခဲ့သည့် ထိုညနှင့် တည်ငြိမ်အေးချမ်းနေသည့် သည်နေ့ အခြေအနေကို နှိုင်းယှဉ်စဉ်းစားနေပြန်သည်။

"မောင် . . . အစ်ဇဘယ် ဘယ်ရောက်သွားလဲ ဟင်"

"သူ မရှိတော့ဘူးလေ၊ နယူးယောက်ကို ထွက်သွားပြီ ထင်တာပဲ"

"ဘာပြုလို့လဲဟင်"

"ကိုယ် တိုက်တွန်းလို့ ဖြစ်ချင် ဖြစ်မှာပေါ့"

အယ်လီနာ ကက်စတာဘက်သို့ ပြန်လှည့်ပြီး-

"မောင်နဲ့ ဘယ်တုန်းက တွေ့လို့လဲ"

"သမီး ဆေးရုံတက်နေတုန်း သူ့ဆီက စာတွေ ရတယ်၊ ပထမတော့ မောင် စာမပြန်ပါဘူး၊ မောင်တို့နှစ်ယောက် ဆေးရုံမှာ အကျေအလည် ဆွေးနွေးလည်း ပြီးရော သူ့ဆီ စာရှည်ကြီး တစောင် ရေးလိုက်တယ်လေ"

"ဘာတွေ ရေးလိုက်လဲ"

"အချစ်နဲ့ မဆိုင်ပါဘူးကွယ်"

ကက်စတာ ယဲ့ယဲ့ကလေး ပြုံးသည်။

"ဘာလို့ မဆိုင်ရမှာလဲ"

"ဘာပြုလို့လဲ ဆိုတော့ မဆိုင်လို့ပေါ့ကွယ်၊ ဘာပဲဖြစ်ဖြစ် သူ မောင့်ကိုတော့ ချစ်နေပုံရ ပါတယ်"

"မချစ်ပါဘူး"

ကက်စတာ သက်ပြင်းချသည်။ သို့သော် မျက်လုံးတွေက ရယ်နေသည်။

"ဒီကိစ္စက ယောက်ျားနဲ့ မိန်းမ ကမ္ဘာဦးကတည်းက ငြင်းခဲ့ကြတဲ့ ကိစ္စပါကွာ။ သူ သွားလိုက်ပြီ၊ ပြန်လာချင်လာ... မလာချင်နေ၊ မောင်နဲ့ နောက်ထပ် မတွေ့ကြတော့ဘူး ဆိုရင် ပြီးတာပဲ မဟုတ်လား"

အယ်လီနာ ခန်းဆီးကြိုးကို ထုံးနေသည်။ ဘာမျှ ဆက်မပြောမိ။ အစ်ဇာဘယ်နှင့် ဆုံခဲ့ သည့် ညက သူ့ပြောစကားများကို ပြန်လည်ကြားယောင်နေ၏။ သူ့အနေနှင့် သန်းကြွယ်သူဌေး တယောက်ကို အချိန်မရွေး ကောက်ယူနိုင်သည် တဲ့။ အယ်လီနာ တဝက်လောက်တော့ ယုံသည်။ သူ့လို ရုပ်ရည်မျိုးနှင့် သူ့လို သတ္တိမျိုးကို အယ်လီနာ အထင်မသေးဝံ့။ ကက်စတာ ကို မျှော်လင့်ချက် မရှိတော့သည့် အဆုံးတွင်မှ ထွက်သွားသည် မှန်လျှင်တော့ စဉ်းစားစရာ ကောင်းသည်။ ကက်စတာ့ကို လှမ်းကြည့်သည်။ မျက်လုံးချင်း ဆုံမိကြသည်။ အစ်ဇာဘယ် ဘာဖြစ်ဖြစ် ဂရုစိုက်နေဖို့ မလိုတော့။

"ကောင်းပြီလေ၊ သူ့နာမည်ကို အယ်လီနာ အသက်ရှင်နေသရွေ့ မပြောတော့ပါဘူး မောင်"

"ကျေးဇူးတင်ပါတယ် အယ်လီနာရယ်၊ သိပ်ကို ကျေးဇူးတင်ပါတယ်"

ကက်စတာ ထလာပြီး အယ်လီနာ့ကို သိုင်းဖက်သည်။ အယ်လီနာက ချစ်သူ၏ လှပ သော ဘေးတိုက်မျက်နှာပုံကို ကြည့်ပြီး လက်ထပ်ဖို့ လာပြောသည့် နေ့က ပျော်မိပုံကို သတိရလိုက်၏။ တဆက်တည်း ညားခါစတွင် ပျော်ပုံသစ်ခဲ့သည့် အတိတ်၏ အရိပ်များ။

သည်အတိတ်ကဏ္ဍကို ပြန်မြင်ရသည်မှာ ဟိုးအဝေးကြီးမှ ပန်းချီကားတချပ်ကို လှမ်း ကြည့်ရသည်နှင့် တူနေ၏။ နှစ်ယောက်စလုံး အလွန်ငယ်ပြီး အလွန်ပျော်စရာ ကောင်းသည့် ဘဝသို့ ပြန်ရောက်သွားသလို ခံစားလိုက်ရ၏။ လောကအကြောင်း ကောင်းကောင်း နားလည် နေကြပြီဟု

ယုံကြည်စွာဖြင့် အလေ့ာတကြီး လက်ထပ်လိုက်ကြသည်။ စင်စစ်တွင် နှစ်ပေါင်း ၁၅၀ လောက် အခိုင်အမာ တည်ဆောက်ခဲ့သော လူတန်းစား မဟာရံတံတိုင်းကို သူတို့ ကျော်ဖြတ် ခဲ့ခြင်း ဖြစ်၏။ သည်ကွာဟမှု ချောက်ကမ်းပါးကြီး တကယ်ရှိနေကြောင်း လူကြီးသူမများ သတိပေးတော့ သူတို့နှစ်ယောက် ရယ်မောပစ်ခဲ့ကြ၏။ ချောက်ကမ်းပါးထဲသို့ သူတို့ တကယ် ကျရောက်ပြီ ဆိုတော့မှ တယောက်အပေါ် တယောက် အပြစ်ပုံချကြ၏။

တခုတော့ ပြောစရာ ရှိသည်။ တဦးချင်း အခွင့်အရေးများ ညီမျှစွာနှင့် လွတ်လပ်စွာ ဖွံ့စည်း တည်ထောင်ထားပါသည်ဆိုသော သည်လိုနိုင်ငံတွင် သည်အဖြစ်မျိုးတွေ ရှိသင့်ပါသလား ဟူသည့် ပြဿနာ။ သေလွန်ခဲ့ကြပြီးဖြစ်သည့် ဘိုးဘွားတွေနှင့် ရန်ဖြစ်သည့် ကိစ္စမှာ လွယ်ကူ သလောက် မဖြစ်သင့်သည့် ကိစ္စ ဖြစ်ပါ၏။ ကက်စတာက ဘဝအစဉ်အလာများကို မြတ်နိုး သည်။ အယ်လီနာက ဒါကို အပေါ်ယံ ရွှေမှုန်ကြဲဟု မြင်၏။ သည်ကွာဟချက် ချောက်ကမ်းပါး မျိုးကို ဖို့ဖို့ဆိုသည်မှာ အနာတရနှင့် အရှက်တကွဲ အကျိုးနည်း မဖြစ်မချင်း ပြေငြိမ်းနိုင်သည် မဟုတ်။ ကက်စတာနှင့် အယ်လီနာတို့ နှစ်ယောက် သည်မျှ အလေးအနက် မတွေးခဲ့ကြ။ ထို့ကြောင့် ကျေနပ်ခြင်း၊ သည်းခံခြင်းနှင့် အပြန်အလှန် နားလည်ရမည့်အစား မစေ့စပ်စတမ်း ပေါက်ကွဲခဲ့ကြခြင်း ဖြစ်၏။

ယခုတော့ မုန်တိုင်းထန်ခဲ့သည့် ရက်တွေ၊ လတွေအတွက် အစားမရနိုင်တော့ပြီ။

သို့သော် အနာဂတ်လွင်ပြင်သည် သူတို့ရှေ့တွင် တပြန့်တပြောကြီး ရှိနေသေးသည်။ သူတို့နှစ်ယောက်၏ ပဋိပက္ခ သင်ခန်းစာတွေကို သူတို့၏ မျိုးဆက်သွေးကလေးများအား အမွေ ပေးကြလိမ့်မည်။ သူတို့ ကလေးတွေ၏ ခေတ်သည် ငြိမ်းချမ်း စင်ကြယ် နှလုံးမွေ့လျော်ဖွယ် ခေတ် ဖြစ်ရမည်။

အယ်လီနာက ရေညှိ ရေမှော်တွေ တိုးလိုးတွဲလောင်းနှင့် ဝက်သစ်ချပင်များကို လှမ်း ကြည့်လိုက်သည်။ ဝက်သစ်ချပင်တန်းနှစ်တန်း မျက်စိထဲတွင် ဝါးသွားပြီး လန်းမိသားစုက တဖက်၊ အပ္ပလွန်းမိသားစုက တဖက်စီ တန်းစီရပ်နေသည်ဟု မြင်ယောင်လာ၏။ တမြေ တည်းနေ တရေတည်း သောက်ခဲ့ကြသည့် သည်မျိုးဆက် နှစ်ဆက်သည် ခေတ်အဆက်ဆက်တွင် တကြိမ်တခါမျှ ဖြတ်သန်း ရောနှောခဲ့ဖူးခြင်း ရှိပါရဲ့လားဟု အယ်လီနာ တွေးနေ၏။ မိမိနှင့် ကက်စတာကမူ ကွာဟမှုတွေကြောင့် အစိတ်စိတ် အမြွှာမြွှာ ဖြစ်ခဲ့သည့် အချစ်ကို တစချင်းကောက်ပြီး ဆက်စပ်စုစည်း၍ ပြီးခဲ့ပြီ။ အတိုင်းအဆမရှိ ပျော်ခဲ့ကြသည့် ကာလ ဆီသို့ ပြန်သွားဖြစ်ကြတော့မည်။

အယ်လီနာ အတွေးနယ်ချဲ့နေစဉ် ကက်စတာက ခေါင်းငဲ့လာပြီး ပြုံးသည်။ အယ်လီနာ့ ရင်ထဲ နွေးသွား၏။ ဘယ်တုန်းကနှင့်မျှ မတူအောင် မောင်နှင့် ပို၍

နီးစပ်သွားသည်ဟုလည်း ခံစားလိုက်ရသည်။ မကျေလည်မှုများသည် ပိန်းကြာဖက်တွင် ရေမတင်သလို ကင်းစင် ပပျောက်ကုန်မည် မဟုတ်သော်လည်း နောင်လာမည့် ပြဿနာများတွင် မပြေလည်စရာ အကြောင်း မရှိနိုင်တော့ပေ။ အယ်လီနာက ပြန်ပြုံးပြလိုက်၏။ တည်ငြိမ်သော၊ ယုံကြည်ချက် ပြည့်ဝသော အပြုံးမျိုး။ သူတို့ ဘဝသည် ကွဲလွဲမှုပြဿနာပေါင်းများစွာဖြင့် ပဋိပက္ခအထွတ် အထိပ်သို့ ရောက်ခဲ့ကြပြီး ဖြစ်သည်။ ယင်းအထွတ်အထိပ်မှ မတ်စောက်လှသည့် အဆင်းလမ်း သည် သူတို့နှစ်ယောက်အား ဘဝအသိတွေ၊ လောကအမြင်တွေကို သင်ကြားပေးခဲ့လေပြီ ဖြစ်ပါသတည်း။

တင်မောင်မြင့်



※※※

GWEN BRISTOW

DEEP SUMMER; THE HANDSOME ROAD, THIS SIDE OF GLORY

တင်မောင်မြင့်

နွေကန္တာ မြကတ္တီပါလမ်းမှသည်
မဟာရုံတံတိုင်းဆီသို့



GWEN BRISTOW (၁၉၀၃ - ၁၉၈၀)ကို
အမေရိကန်ပြည် ကာရိုလိုင်းနားတောင်ပိုင်း မာရီယံမြို့တွင် မွေးဖွားသည်။
သတင်းထောက်ဘဝမှ စာရေးဆရာမ ဖြစ်လာသည်။
ဝတ္ထုတို၊ ဝတ္ထုရှည်ပေါင်းများစွာ ရေးခဲ့သည်။
ယင်းတို့အနက်မှ
DEEP SUMMER (1937), THE HANDSOME ROAD (1938) နှင့်
THIS SIDE OF GLORY (1940) သုံးအုပ်ကို
ဆရာတင်မောင်မြင့်က နွေကန္တာ၊ မြကတ္တီပါလယ်။ မဟာရုံတံတိုင်းကို ဖြတ်ကျော်ခြင်း
စသည့် အမည်များဖြင့် ပြန်ဆိုထုတ်ဝေခဲ့ပြီး
ယခု သုံးအုပ်ပေါင်းကာ ဒုတိယအကြိမ်အဖြစ် ထုတ်ဝေခြင်း ဖြစ်သည်။




## Notes

[←1]

Appomattox= ဗာဂျီးနီးယားပြည်နယ်မှ မြို့တမြို့။ တောင်ပိုင်း ဗိုလ်ချုပ်ကြီး ရောဘတ်လီးက မြောက်ပိုင်း ဗိုလ်ချုပ် ဂရန့်ကို လက်နက်ချရသည့်မြို့။ တောင်ပိုင်း၏ ကျဆုံးခန်း သင်္ကေတမြို့။

[←2]

ဟော်လီမှာ အမြဲစိမ်းလန်းနေသည့် ထင်းရှူးနွယ်ဝင် အပင်တမျိုး ဖြစ်သည်။ အခမ်းအနား ပြင်ဆင်ရာတွင်၊ အထူးသဖြင့် ခရစ္စမတ်ရာသီတွင် အလွန်အသုံးဝင်သည်။

[←3]

ယခု ယူဂိုဆလားဗီးယားနိုင်ငံ။ (ပြန်ဆိုသူ)

[←4]

၁၉၁၅ ခုနှစ်၊ မေလ ၇ ရက်နေ့တွင် ဂျာမန် ရေငုပ်သင်္ဘောများက အိုင်ယာလန်ကမ်းခြေတွင် လျှပ်တပြက် တိုက်ခိုက်ခြင်း ခံရ၍ နစ်မြုပ်ပျက်စီးသွားသော ဗြိတိသျှလူစီးသင်္ဘောကြီး ခရီးသည် ၁,၀၀၀ သေဆုံးခဲ့ရာတွင် ၁၀၄ ယောက်မှာ အမေရိကန်လူမျိုးများ ဖြစ်၏။ (ဘာသာပြန်ဆိုသူ)